## ပန်းရွှေပြည်စာအုပ်တိုက်ထုတ် ဘာသာရေးစာအုပ်များ




ခွင့်ပြုချက် ၇၂ / ၂၀၀၄ (၁)




ခွင့်ပြုချက် ၃၂၀၁၂၉၁၂၀၇




ခွင့်ပြုချက် ၃၂၀၅၁၆၀၆၀၈




ခွင့်ပြုချက် ၃၂၀၂၄၂၀၅၀၄




ခွင့်ပြုချက် ၃၂၀၁၁၂၀၆၀၂




ခွင့်ပြုချက် ၃၂၀၂၄၃၀၆၀၅

ye
ye
20
08




ပန်းရွှေပြည် ဇာတ်တော်ကြီးဆယ်ဘွဲ့ပေါင်းချုပ်









ပန်းရွှေပြည် ဇာတ်တော်ကြီးဆယ်ဘွဲ့ပေါင်းချုပ်

# ပန်းရွှေပြည်
# ဇာတ်တော်ကြီးဆယ်ဘွဲ့
# ပေါင်းချုပ်





ဦးခင်မောင်ကြီး(ရန်ကုန်တက္ကသိုလ်) စီစဉ်သည်။

၁၂၀၀၀ ကျပ်

ပထမအကြိမ်

၂၀၀၈ ခုနှစ် ဩဂုတ်လ

အုပ်ရေ ၅၀၀

အတွင်းသရုပ်ဖော်ပန်းချီ
တင်လှဝင်းထင်

မျက်နှာဖုံး၊ ရေစံဒီစိုင်း
ရဲရဲ

ထုတ်ဝေသူ
ဦးသိမ်းမင်း (၀၄၂၉၁)
ပန်းရွှေပြည်စာအုပ်တိုက်
အမှတ် ၃၃၄၊ ၈ လမ်း၊ ၁၁ ရပ်ကွက်၊
တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့

ပုံနှိပ်သူ
ဦးလှထူး (၀၇၃၈၂)
ထူးပုံနှိပ်တိုက်
၂၂၅၊ ၁၀ တောင်ရပ်ကွက်၊
အရှေ့မင်းလမ်း၊ သန်လျင်တံတားအိမ်ရာ၊
သာကေတမြို့နယ်၊ ရန်ကုန်မြို့

စာမူခွင့်ပြုချက်
၃၂၀၀၈၅၀၂၀၇
အဖုံးခွင့်ပြုချက်
၃၂၀၁၄၇၀၁၀၈

## ဒို့တာဝန်အရေးသုံးပါး

| | |
|---|---|
| ပြည်ထောင်စု မပြိုကွဲရေး | ဒို့အရေး |
| တိုင်းရင်းသားစည်းလုံးညီညွတ်မှု မပြိုကွဲရေး | ဒို့အရေး |
| အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေး | ဒို့အရေး |

## ပြည်သူ့သဘောထား

* ပြည်ပအားကိုးပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
* နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက်ဖျက်ဆီးသူများအား ဆန့်ကျင်ကြ။
* နိုင်ငံတော်၏ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက်နှောင့်ယှက်သော ပြည်ပနိုင်ငံ များအား ဆန့်ကျင်ကြ။
* ပြည်တွင်း၊ ပြည်ပ အဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ။

## နိုင်ငံရေးဦးတည်ချက်(၄)ရပ်

* နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး။
* အမျိုးသားပြန်လည်စည်းလုံးညီညွတ်ရေး။
* ခိုင်မာသည့် ဖွဲ့စည်းပုံအခြေခံဥပဒေသစ် ဖြစ်ပေါ်လာရေး။
* ဖြစ်ပေါ်လာသည့် ဖွဲ့စည်းပုံအခြေခံဥပဒေသစ်နှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ်တစ်ရပ် တည်ဆောက်ရေး။

## စီးပွားရေးဦးတည်ချက်(၄)ရပ်

* စိုက်ပျိုးရေးကိုအခြေခံ၍ အခြားစီးပွားရေး ကဏ္ဍများကိုလည်း ဘက်စုံဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး။
* ဈေးကွက်စီးပွားရေးစနစ် ပီပြင်စွာဖြစ်ပေါ်လာရေး။
* ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး။
* နိုင်ငံတော်စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှုစွမ်းအားသည် နိုင်ငံတော်နှင့် တိုင်းရင်းသားပြည်သူတို့၏ လက်ဝယ်တွင်ရှိရေး။

## လူမှုရေးဦးတည်ချက်(၄)ရပ်

* တစ်မျိုးသားလုံး၏ စိတ်ဓာတ်နှင့် အကျင့်စာရိတ္တမြင့်မားရေး။
* အမျိုးဂုဏ် ဇာတိဂုဏ်မြင့်မားရေးနှင့် ယဉ်ကျေးမှုအမွေအနှစ်များ၊ အမျိုးသားရေးလက္ခဏာများ မပျောက်ပျက်အောင် ထိန်းသိမ်းစောင့်ရှောက်ရေး။
* မျိုးချစ်စိတ်ဓာတ်ရှင်သန်ထက်မြက်ရေး။
* တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေး။

# ပန်းရွှေပြည်

# ဇာတ်တော်ကြီး ၁၀ ဘွဲ့

# ပေါင်းချုပ်

# ဇာတ်တော်ကြီး ၁၀ဘွဲ့

၁။ တေမိယဇာတ်တော် – ဦးသြဘာသ

၂။ မဟာဇနကဇာတ်တော် – ဦးသြဘာသ

၃။ သုဝဏ္ဏသာမဇာတ်တော် – ဦးပညာတိက္ခ

၄။ နေမိဇာတ်တော် – ဦးသြဘာသ

၅။ မဟောသဓဇာတ်တော် – ဦးသြဘာသ

၆။ ဘူရိဒတ်ဇာတ်တော် – ဦးနန္ဒမေဓာ

၇။ စန္ဒကုမာရဇာတ်တော် – ဦးသြဘာသ

၈။ နာရဒဇာတ်တော် – ဦးသြဘာသ

၉။ ဝိဓုရဇာတ်တော် – ဦးသြဘာသ

၁၀။ ဝေဿန္တရာဇာတ်တော် – ဦးသြဘာသ

| | ဇာတ်တော်အမည် | ကျမ်းပြုပုဂ္ဂိုလ် | ကျမ်းပြီးသက္ကရာဇ် | လျှောက်ထားသူ |
|---|---|---|---|---|
| ၁။ | တေမိ | ဦးသြဘာသဆရာတော် | ၁၁၄၈ ခုနှစ် တပို့တွဲလ | မောင်ဝ |
| ၂။ | ဇနက | ဦးသြဘာသဆရာတော် | ၁၁၄၇ ခုနှစ် နယုန်လ | မောင်ဝ၏သား မောင်ထောက် |
| ၃။ | သုဝဏ္ဏသာမ | အရှင်ပညာတိက္ခဆရာတော် | ၁၁၈၈ ခုနှစ် နယုန်လ | စာရေးတော်ကြီး မောင်သာ |
| ၄။ | နေမိ | ဦးသြဘာသဆရာတော် | ၁၁၄၈ ခုနှစ် ဝါဆိုလ | မောင်ထောက် |
| ၅။ | မဟောသဓ | ဦးသြဘာသဆရာတော် | ၁၁၄၆ ခုနှစ် တန်ဆောင်မုန်းလ | မောင်ထောက် |
| ၆။ | ဘူရိဒတ် | အရှင်နန္ဒမေဓာဆရာတော် | ၁၁၄၈ ခုနှစ် နတ်တော်လ | ဥက္ကံသရှင်သာမဏေ |
| ၇။ | စန္ဒကုမာရ | ဦးသြဘာသဆရာတော် | ၁၁၄၄ ခုနှစ် ပြာသိုလ | မောင်ထောက် |
| ၈။ | နာရဒ | ဦးသြဘာသဆရာတော် | ၁၁၄၄ ခုနှစ် တန်ခူးလ | မောင်ထောက် |
| ၉။ | ဝိဓုရ | ဦးသြဘာသဆရာတော် | ၁၁၄၅ ခုနှစ် ဝါခေါင်လ | မောင်ထောက် |
| ၁၀။ | ဝေဿန္တရာ | ဦးသြဘာသဆရာတော် | ၁၁၄၅ ခုနှစ် တပေါင်းလ | မောင်ထောက် |

**❑ နေမိဇာတ်တော်ကြီး** ၃၀၉

❑ ဝိဓူရ ဇာတ်တော်ကြီးဝတ္ထု

## ❑ ဝေဿန္တရာ ဇာတ်တော်ကြီးဝတ္ထု

# ဇာတ်တော်ကြီး ဆယ်ဘွဲ့ နိဒါန်း

မောင်ခင်မင်(ဓနုဖြူ)

॥ ၁ ॥

ဇာတ်တော်ကြီးဆယ်ဘွဲ့ အပါအဝင် ဗုဒ္ဓစာပေ ဝတ္ထုများနှင့် မြန်မာတို့ မည်မျှ အကျွမ်းတဝင်ရှိကြောင်း အထူးဖော်ပြရမည့် အချက်တစ်ချက် ရှိသည်။ အခြားမဟုတ်ပါ။ မြန်မာစာအရေးအသား ဟူ၍ အထင်အရှား မပေါ်ပေါက်မီ ကတည်းကပင် ဗုဒ္ဓစာပေ ဝတ္ထုများနှင့် မြန်မာတို့ အကျွမ်းတဝင် ရှိနေပြီဟူသော အချက် ဖြစ်သည်။ ပုဂံဘုရားပုထိုးများရှိ မင်စာ, စဥ့်ကွင်းစာများက ထိုအချက်ကို အထင်အရှား သက်သေပြနေပါသည်။

ပုဂံရှိ ဂူဘုရား အတွင်းနံရံများတွင် ရေးဆွဲထားသော ဇာတ်တော်ငါးရာ ငါးဆယ်, ဇာတ်တော်ကြီးဆယ်ဘွဲ့, ဗုဒ္ဓဝင် စသည့် ဗုဒ္ဓစာပေ ဝတ္ထုသရုပ်ဖော် ပန်းချီပုံများ၌ ပါဠိဘာသာ, ရှေးမွန်ဘာသာတို့ဖြင့် ရေးထိုးထားသော ပုံအညွှန်း မင်စာများကို တွေ့နိုင်သကဲ့သို့ စဥ့်ကွင်းခေါ် စဥ့်ရည်သုတ်အုတ်ချပ်များနှင့် စဥ့်ရည်မသုတ်သော အုတ်ချပ်များတွင် ပုံဖော်ထားသော ဗုဒ္ဓစာပေ ဝတ္ထုဇာတ်ကွက် များ၌လည်း ပါဠိဘာသာ, ရှေးမွန်ဘာသာတို့ဖြင့် ရေးထိုးထားသော ပုံအညွှန်း စာများကို တွေ့နိုင်ပါသည်။ အစောပိုင်းပေါ်ပေါက်သော မင်စာ, စဥ့်ကွင်းစာများ သည် ပါဠိစာ, မွန်စာများ ဖြစ်ပါသည်။ ထိုစဉ်က မြန်မာစာအရေးအသားဟူ၍ အထင်အရှား မပေါ်ပေါက်သေးပါ။ ပုဂံ အာနန္ဒာဘုရားရှိ ဇာတ်တော်ကြီးဆယ်ဘွဲ့ စဥ့်ကွင်းစာများသည် ထင်ရှားသော သာဓကတစ်ခု ဖြစ်ပါသည်။ ရှေးမွန်ဘာသာ ဖြင့် ရေးထိုးထားသော စဥ့်ကွင်းစာများ ဖြစ်ပါသည်။

॥ ၂ ॥

မြန်မာစာအရေးအသား ပေါ်ပေါက်ပြီးနောက် မြန်မာဘာသာဖြင့် ရေးထိုး သော မင်စာများ ပေါ်ပေါက်လာသည်။ ပုဂံ လောကထိပ်ပန်ဂူဘုရားအတွင်း နံရံတွင် ဇာတ်တော်ကြီးဆယ်ဘွဲ့သည် သရုပ်ဖော်ပန်းချီပုံများနှင့်အတူ မြန်မာ ဘာသာဖြင့် ရေးထိုးထားသော မင်စာများကို တွေ့ရပါသည်။ ပုံအညွှန်းစာ၏ သဘာဝနှင့်အညီ လိုရင်းကို ကျစ်ကျစ်လျစ်လျစ် ရေးသားထားသော မြန်မာစာ အရေးအသား ဖြစ်သည်။ ယင်း မင်စာများသည် မြန်မာစာပေ ပေါ်ထွန်းလာမှုကို သက်သေပြနေသော တန်ဖိုးမဖြတ်နိုင်သည့် အထောက်အထားများဖြစ်ကြောင်း သမိုင်းပညာရှင် ဗိုလ်မှူးဘရှင်က မိန့်ဆိုထားသည်။ လောကထိပ်ပန်မင်စာသည် မြန်မာစာဖြင့်ရေးသော အစောဆုံး ဇာတ်တော်ကြီးဆယ်ဘွဲ့စကားပြေ ဖြစ်ပါသည်။

'ဇာတ်တော် ငါးရာငါးဆယ်' နှင့် 'ဇာတ်တော်ကြီးဆယ်ဘွဲ့' ကို ခွဲခြား၍ ရည်ညွှန်းလေ့ ရှိသော်လည်း သီးခြားမဟုတ် ပါ။

'ဇာတ်တော် ငါးရာ့ငါးဆယ်'နှင့် 'ဇာတ်တော်ကြီးဆယ်ဘွဲ့'ကို ခွဲခြား၍ ရည်ညွှန်းလေ့ရှိသော်လည်း သီးခြားမဟုတ်ပါ။ ဇာတ်တော်ငါးရာ့ငါးဆယ်မှ နောက်ဆုံးဇာတ်တော် ဆယ်စောင်ကို ဇာတ်တော်ကြီးဆယ်ဘွဲ့ဟု ခွဲခြားရည်ညွှန်းခြင်းဖြစ်သည်။

ပါဠိဘာသာဖြင့် 'ဇာတက'ဟု ခေါ်သည်။ ဂေါတမဘုရားရှင်၏ အတိတ်ဘဝ ဖြစ်တော်စဉ် ဇာတ်ဝတ္ထုများ ဖြစ်သည်။ ဇာတကသည် သုတ္တန္တပိဋက၊ ခုဒ္ဒကနိကာယ် အဝင်အပါ ကျမ်း ၁၅ ကျမ်းအနက် ၁၀ ခုမြောက် ကျမ်းဖြစ်သည်။

ဇာတကတွင် ဇာတ်ဝတ္ထုပေါင်း ၅၄၇ ဇာတ် ပါဝင်သည်။ မှတ်သားရလွယ်အောင် ၃ ဖြည့်ကာ '၅၅၀' ဟု အစဉ်အဆက် ခေါ်ဆိုခဲ့ကြသည်။ ပုဂံခေတ်ကျောက်စာများတွင် 'ဇာတ်ငါးရာ', 'ဇာတ်ငါးရာ့ငါးဆယ်'ဟု ရည်ညွှန်းလေ့ရှိသည်။

ပါဝင်သည့် ဂါထာအရေအတွက်အလိုက် တစ်ဂါထာပါဝင်သော ဇာတ်များကို ဧကနိပါတ်, နှစ်ဂါထာပါဝင်သော ဇာတ်များ ဒုကနိပါတ် စသည်ဖြင့် နိပါတ်(နိပါတ)ခေါ် အစုပေါင်း ၂၂ ခုဖြင့် စုစည်းထားသည့်အတွက် 'ဇာတ်နိပါတ်' ဟုလည်းကောင်း ခေါ်သည်။ ၅၄၇ ဇာတ်မှ နောက်ဆုံး ၁၀ ဇာတ်မှာမူ ဂါထာအရေအတွက် များသည့်အတွက် ထိုဇာတ်များကို မဟာနိပါတ် ဟူ၍ သတ်မှတ် စုစည်းထားသည်။

ဇာတ်တော်စဉ်မပျက် ၅၃၈–တေမိယဇာတ်မှ ၅၄၇–ဝေဿန္တရာဇာတ်အထိဖြစ်သည်။ ဇာတ်တော်ကြီးဆယ်ဘွဲ့ဆိုသည်မှာ ထိုဇာတ် ၁၀ ဇာတ်ပင် ဖြစ်သည်။

။ ၄ ။

ဇာတကသည် မူလက ဂါထာသက်သက်မျှသာ ဖြစ်သည်။ ဂါထာ ၉၀၀၀ ကျော် ပါဝင်သည်။ ဘုရားရှင်၏ ရှေ့ဖြစ်နောက်ကြောင်း ဇာတ်လမ်းများ မပါသေး။ နောက်ပိုင်းတွင် ထိုဂါထာများကို အခြေခံ၍ ဇာတ်ကွက်ဇာတ်လမ်းများဖြင့် ဖွဲ့သော 'ဇာတကအဋ္ဌကထာ'ခေါ် အဖွင့်ကျမ်းများ ပေါ်လာသည်။

ဇာတက အဋ္ဌကထာကျမ်းကို ပြုစုသူမှာ သီဟိုဠ်ကျွန်းမှ အမည်မသိရသော ရဟန်းတော်တစ်ပါး ဖြစ်သည်ဟူ၍လည်းကောင်း၊ ရှင်မဟာဗုဒ္ဓဃောသ ဖြစ်သည်ဟူ၍လည်းကောင်း ပညာရှင်တို့ ဆိုကြသည်။ ရှင်မဟာဗုဒ္ဓဃောသသည် ထိုကျမ်းများကို ခရစ်နှစ် ၅ ရာစုတွင် ပြုစုဖွယ်ရှိသည်ဟု အချို့က ယူဆကြပြီး၊ ရှင်မဟာဗုဒ္ဓဃောသသည် ထိုကျမ်းများကို သီဟိုဠ်ဘာသာမှ ပါဠိဘာသာသို့ ပြန်ဆိုသူသာ ဖြစ်သည်ဟု တချို့က ယူဆကြသည်။

ထပ်မံ၍ဖွင့်ဆိုသော ဋီကာများတွင် ပါဠဇာတ်ဋီကာကို ရှင်ဓမ္မပါလ ပြုစုကြောင်း၊ ၅၅၀ ဋီကာ ဟုလည်းခေါ်ကြောင်း မှတ်သားရှိပါသည်။

**ဇာတကတွင် ဇာတ်ဝတ္ထုပေါင်း ၅၄၇ ဇာတ် ပါဝင်သည်။ မှတ်သားရလွယ်အောင် ၃ ဖြည့်ကာ '၅၅၀' ဟု အစဉ်အဆက် ခေါ်ဆိုခဲ့ကြသည်။**

။ ၅ ။

ဇာတကပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ တို့ကို ပါဠိတစ်ချက်, မြန်မာတစ်ချက်ပြန်ဆိုသော နိဿယကျမ်းများလည်း ပေါ်ပေါက်သည်။

ကုန်းဘောင်ခေတ်တွင် ပေါ်ပေါက်သော ကြံခင်းဆရာတော်၏ ပါဠ္ဌဇာတ်ပါဠိတော် နိဿယဟောင်း၊ ပြည်ဆရာတော်၏ ပါဠ္ဌဇာတ်ပါဠိတော် နိဿယသစ်တို့သည် ဇာတကပါဠိတော် နိဿယများ ဖြစ်သည်။ ဇာတကအဋ္ဌကထာနိဿယများကို ကုန်းဘောင်ခေတ်တွင် ဆရာတော်များက ရေးသားပြုစုကြရာ မဟာနိပါတ် ဇာတ်တော်ကြီးဆယ်ဘွဲ့ အဋ္ဌကထာနိဿယများကို ဝက်ခုတ်ဆရာတော်က ပြုစုပြီး၊ နိဿယသစ်ကို ဒန့်ပေါ်ဆရာတော်က ပြုစုသည်။ ယခုအခါတွင် အဆိုပါ ဒန့်ပေါ်ဆရာတော် ရှင်ဂုဏာရံသာလင်္ကာရ ပြုစုသော 'တေမိယဇာတကအဋ္ဌကထာ နိဿယ'မှ 'ဝေဿန္တရ ဇာတကအဋ္ဌကထာ နိဿယ'အထိ နိဿယ ၁၀ စောင်ကို ပုံနှိပ်မှုဖြင့် လေ့လာနိုင်ကြပါသည်။

။ ၆ ။

မြန်မာစာပေ စတင်ဖွံ့ဖြိုးသော အင်းဝခေတ်တွင် ပျို့စာဆိုတို့သည် ဇာတ်တော်ကြီးဆယ်ဘွဲ့ အပါအဝင် ဗုဒ္ဓစာပေ ဝတ္ထုဇာတ်လမ်းများကို 'ပျို့'ဟုခေါ်သော ကဗျာဝတ္ထုများအဖြစ် ဝေဝေဆာဆာ ရေးဖွဲ့ကြသည်။

ပထမဆုံးပျို့ဟု ဆိုရမည့် ဘူရိဒတ်လင်္ကာကြီးနှင့် ဆက်လက်ရေးဖွဲ့သော ဘူရိဒတ်ဇာတ်ပေါင်းပျို့တို့သည် ဘူရိဒတ်ဇာတ်ကိုပြန်ဖွဲ့သော ရှင်မဟာရဋ္ဌသာရ၏လက်ရာ ဇာတ်တော်ကြီးဆယ်ဘွဲ့ဝင် ပျို့များဖြစ်သည်။ ထိုအစဉ်အလာနှင့် အညီ ရှင်အဂ္ဂသမာဓိက သုဝဏ္ဏသျှံ သစ္စာခန်းပျို့, မြားမှန်ခန်းပျို့, သူဌေးခန်းပျို့ တို့ကို လည်းကောင်း၊ နေမိမင်ဃဖိုးခန်းပျို့, ငရဲခန်းပျို့, ဘုံခန်းပျို့တို့ကို လည်းကောင်း ရေးဖွဲ့ခဲ့သည်။ သုဝဏ္ဏသာမဇာတ်နှင့် နေမိဇာတ်တို့ကို ပြန်ဖွဲ့သော ပျို့များ ဖြစ်သည်။ ဇာတ်တော်ကြီး ဆယ်ဘွဲ့ဝင် ပျို့များ ကုန်းဘောင်ခေတ်အထိ ဆက်လက်ပေါ်ထွန်းခဲ့ရာ တောင်ဘီလာဆရာတော်၏ ဝေဿန္တရာပျို့, တွင်းသင်းမင်းကြီး၏ ဝိဓုရပျို့နှင့် မဟာဇနကပျို့, မုံရွေးဆရာတော်၏ နာရဒပျို့, ရွှေကျောင်းဦးပု၏ စန္ဒကုမာရပျို့, မောင်ဦးကာ၏ တေမိပျို့, ဦးရွှန်း၏ မဟော်ပြဿနာခန်းပျို့, မဟော်ဥမင်ခန်းပျို့တို့သည် ဇာတ်တော်ကြီးဆယ်ဘွဲ့ဝင် ပျို့များအဖြစ် မြန်မာစာပေသမိုင်းတွင် ရပ်တည်လျက် ရှိပါသည်။

အင်းဝခေတ်တွင် ပျို့စာဆိုတို့သည် ဇာတ်တော်ကြီး ဆယ်ဘွဲ့ အပါအဝင် ဗုဒ္ဓစာပေ ဝတ္ထုဇာတ်လမ်းများကို 'ပျို့'ဟုခေါ်သော ကဗျာဝတ္ထုများအဖြစ် ဝေဝေဆာဆာ ရေးဖွဲ့ကြသည်။

ဦးကြင်ဥ၏ မဟော်ပြဇာတ်, ဦးပုည၏ ဝေဿန္တရာပြဇာတ်, ကင်းဝန်မင်းကြီး၏ နေမိရကန် စသည်ဖြင့် စာပေပုံသဏ္ဍာန်အမျိုးမျိုး တွေ့နိုင်ပါသည်။

။ ၇ ။

ဇာတ်တော်ကြီးဆယ်ဘွဲ့ဝတ္ထုများ မြန်မာစကားပြေဖြင့် အပြည့်အစုံ ပေါ်ပေါက်လာခြင်းသည် ကုန်းဘောင်ခေတ် မြန်မာစာပေလမ်းကြောင်းတွင် အရေးပါသော အချက်တစ်ချက် ဖြစ်သည်။

'တေ, ဇ, သု, နေ, မ, ဘူ, စန်, နာ, ဝိ, ဝေ' ဟု အတိုကောက် အမှတ်အသားပြုကြသော ဇာတ်တော်ကြီးဆယ်ဘွဲ့ဝတ္ထုများအနက် တေမိယ, ဇနက, နေမိ, မဟောသဓာ, စန္ဒကုမာရ, နာရဒ, ဝိဓုရ, ဝေဿန္တရာ ဟူသော ဇာတ်တော်ကြီး ၈ စောင်ကို မင်းဘူးဆရာတော် ဦးဩဘာသက ရေးသားပြီး၊ သုဝဏ္ဏသာမ ဇာတ်တော်ကြီးဝတ္ထုကို ရှင်ပညာတိက္ခ ကလည်းကောင်း၊ ဘူရိဒတ် ဇာတ်တော်ကြီးဝတ္ထုကို ရှင်နန္ဒမေဓာ ကလည်းကောင်း ရေးသားသည်။

ဇာတ်တော်ကြီးဆယ်ဘွဲ့ကို ကဗျာစာဆိုများက ကဗျာဖြင့် ပရိသတ်၏ ရင်ထဲသို့ ပို့ပေးနိုင်စွမ်း ရှိသည့်နည်းတူ၊ စကားပြေဆရာများကလည်း စကားပြေဖြင့် ပရိသတ်၏ရင်ထဲသို့ ပို့ပေးနိုင်စွမ်း ရှိပါသည်။ ဇာတ်တော်ကြီးဆယ်ဘွဲ့မှ လူ့စရိုက်, လူ့အမူအရာအမျိုးမျိုးကို 'ရသ'ဟူသော နှစ်သက်မှုနှင့်အတူ ရင်ထဲနှလုံးထဲတွင် ထင်ဟပ်ခံစားရစေပြီး ဘဝအသိအမြင်အမျိုးမျိုး ပေါ်ပေါက်လာစေနိုင်သည့်အတွက် ဇာတ်တော်ကြီးဆယ်ဘွဲ့သည် မြန်မာပရိသတ်နှင့် တစ်သားတည်း ဖြစ်သွားပါသည်။ မည်မျှအထိ တစ်သားတည်း ဖြစ်သွားသနည်းဆိုလျှင် ဇာတ်တော်ကြီးဆယ်ဘွဲ့ထဲမှ ဇာတ်ဆောင်များသည် ဇာတကထဲက မူလအသွင် ပျောက်ပြီး မြန်မာဝတ်စားဆင်ယင်မှုများဖြင့် ဆင်ယင်ထားသော မြန်မာအမျိုးသမီး, အမျိုးသားများအဖြစ် ပြောင်းသွားသည်အထိ ဖြစ်ပါသည်။ ဝေဿန္တရာ ဇာတ်ထဲက မဒ္ဒီဒေဝီသည် မြန်မာမင်းသမီးကလေး 'မယုမဒ္ဒီ'ဖြစ်နေပါပြီ။ ဇာလီနှင့် ကဏှာဇိန်တို့သည်လည်း 'သားမောင်ဇာ'တို့, 'သမီးကဏှာ'တို့ ဖြစ်နေပါပြီ။ ဝေဿန္တရာမင်းကြီးကို 'မင်းဝေသန်'ဟု မြန်မာဆန်ဆန်ခေါ်ညွှန်းပြီး မင်းမြောက်တန်ဆာများ ဆင်ယင်ထားသော မြန်မာဘုရင်ကြီးတစ်ပါးအဖြစ် မြင်ယောင်နေပါပြီ။ သုဝဏ္ဏသာမ ဟုဆိုသည်နှင့် အမိလုပ်ကျွေးသော သားလိမ္မာကလေးအဖြစ် မြင်ယောင်လာသည့်အပြင်၊ မူလဇာတ်တော်တွင် မပါသည့် မြားဆိပ်ပြေပြီး ရွှေအိုးထမ်းလာသည့်အသွင်ကိုပါ ဖြည့်စွက်မြင်ယောင်နေပါပြီ။ ကောဝင့်ပုဏ္ဏားကြီး၏နဖူးကို မြေကြီးနှင့်ဆောင့်ပြီး အနိုင်ယူသော မဟောသဓာသုခမိန်၊ ပုဏ္ဏက၏ မြင်းမြီးမှာချည်ပြီး ဒုန်းစိုင်းသည်ကို ခံရရှာသော ဝိဓုရသုခမိန်၊ စကားမပြောဘဲ အလိုစမ်းသမျှ သည်းခံသော တေမိမင်းသား၊ ပင်လယ်ပြင်မှာ တပြောင်းပြန်ပြန် ကူးခတ်နေသော မဟာဇနကမင်းသား၊ သိကြားမင်းကပင် အလေးအမြတ်ပြုရသော နေမိမင်းကြီး၊ ဥပုသ်ဆောက်တည်ရင်း အလမ္ပာယ်၏လက်တွင်းကျရောက်ကာ ဒုက္ခရောက်ရရှာသော ဘူရိဒတ်နဂါးမင်း စသည်တို့သည် မြန်မာတို့၏ သွေးရင်းသားရင်းများ ဖြစ်နေကြပါပြီ။

> **မူလဇာတ်တော်တွင် မပါသည့် မြားဆိပ်ပြေပြီး ရွှေအိုးထမ်းလာသည့်အသွင်ကိုပါ ဖြည့်စွက် မြင်ယောင်နေပါပြီ။**

။ ၈ ။

ဇာတ်တော်ကြီးဆယ်ဘွဲ့၏ နှစ်သက်ဖွယ် ဇာတ်လမ်းဇာတ်ကွက်များ၊ လူ့အမှုအရာများ၊ သဘာဝပတ်ဝန်းကျင် နောက်ခံများ၏ နောက်ကွယ်တွင် သိမ်မွေ့လေးနက်သော သဘောတရားများ ကိန်းအောင်းလျက် ရှိပါသည်။ အထူးပြုရာပါရမီအရ အလောင်းတော်တို့ ပါရမီရှင် အရှင့်အမာပုဂ္ဂိုလ်များအဖြစ် ပြုမူပြောဆို ကျင့်ကြံပုံများသည် လေးစားဖွယ်ဂုဏ်ရည်များကို အလေးအနက် ဖော်ညွှန်းလျက် ရှိပါသည်။ မဟောသဓာနှင့် ဝိဓုရသုခမိန်တို့၏ပညာ၊ ဇနက မင်းသား၏ ဝီရိယ၊ တေမိမင်းသား၏ အဓိဋ္ဌာန်၊ ဘူရိဒတ်နဂါးမင်း၏ သီလ၊ ဝေဿန္တရာမင်းကြီး၏ အလှူဒါန၊ သုဝဏ္ဏသာမက၏ မေတ္တာ စသည်ဖြင့် လေးစားစံပြုဖွယ် ဂုဏ်ရည်များကို ထိုဇာတ်တော်များက အထင်အရှား ညွှန်ပြ လျက်ရှိပါသည်။ ထိုဂုဏ်ရည်များသည်လည်း မြန်မာပရိသတ်၏ရင်ထဲတွင် သိမ်မွေ့စွာ နေရာယူလျက် ရှိပါသည်။

။ ၉ ။

ဇာတ်တော်ကြီးဆယ်ဘွဲ့ စာပေအလျဉ်သည် ဆရာတော်ဦးဩဘာသတို့၏ နောက်ပိုင်းခေတ်တွင်လည်း ဆက်လက် စီးဆင်းလျက် ရှိပါသည်။ ကိုလိုနီခေတ်ဦး ပိုင်းက အင်နှင့်အားနှင့်ပေါ်ပေါက်လာသော ပြဇာတ်များတွင် ဇာတ်တော်ကြီး ဆယ်ဘွဲ့ဝင် ပြဇာတ်များကို ဆက်လက် တွေ့မြင်နေရသည်။ ဇာတ်ဝင်သီချင်းများ၊ ကဗျာများကလည်း ဝိုင်းဝန်း ပံ့ပိုးပေးကြသည်။

ကုန်းဘောင်ခေတ်ပေါ် ဝေဿန္တရာ ဇာတ်ထွက် 'ပန်းမှုန်ကြွယ်' ယိုးဒယား မှသည် ခေတ်အဆက်ဆက် ပေါ်ပေါက်သော ဇာတ်တော်ကြီးဆယ်ဘွဲ့ဝင် သီချင်း များ၊ ကဗျာများကို တွေ့နိုင်ပါသည်။ ပန်းချီဘက်တွင်လည်း ဘုရားစောင်းတန်း များမှ ဇာတ်တော်ကြီးဆယ်ဘွဲ့ သရုပ်ဖော် ပန်းချီများကို ယခုအထိ တွေ့မြင် နိုင်ပါသည်။ စာပေဘက်ဆိုလျှင်လည်း ဇာတ်တော်ကြီးဆယ်ဘွဲ့ကို လွယ်လွယ် ကူကူ ဖတ်နိုင်ရန် ရေးသားထားသော ဆရာလှသမိန်၊ ဆရာဦးမြင့်ဆွေ စသည့်ပညာရှင်များ၏ လက်ရာများနှင့် ပန်းချီဆရာကြီး ဦးဘကြည်၏ ဇာတ်ကြီးဆယ်ဘွဲ့ ရုပ်ပြဇာတ်လမ်းအထိ တွေ့နိုင်ပါသည်။

စကားနည်းသူကို 'တေမိ'၊ အလှူရက်ရောသူကို 'ဝေဿန္တရာ'၊ ပညာ ကြီးသူကို 'မဟောသဓာ'၊ အစားကြီးသူကို 'ဇူဇကာ'စသည်ဖြင့် တင်စားကြသည်။ 'တော်လေးဝ'ဟု ဝိသေသပြုရသော သစ္စာရှိသည့် ဇနီးများတွင် ဇာတ်တော်ကြီး ဆယ်ဘွဲ့ဝင် အမရာနှင့် မဒ္ဒီတို့ ပါဝင်သည်။ 'ရှေ့ပတ္တမြား ရှေ့နဂါး'ဟူသော စကားပုံသည် ဘူရိဒတ်ဇာတ်ဝင်စကားပုံ ဖြစ်သည်။ 'နဖူးက အမာရွတ်မြင်လေ မဟော်သတိရလေ'ဟူသော စကားပုံသည် မဟောသဓာ ဇာတ်ဝင်စကားပုံ ဖြစ် သည်။ ဇာတ်တော်ကြီးဆယ်ဘွဲ့သည် မြန်မာ့လူနေမှုဘဝတွင် မည်မျှအရေးပါ ကြောင်း ဖော်ပြနေသော သာဓကများ ဖြစ်သည်။

လေးစားစံပြုဖွယ် ဂုဏ်ရည် များကို ထိုဇာတ်တော်များက အထင်အရှား ညွှန်ပြလျက်ရှိ ပါသည်။ ထိုဂုဏ်ရည်များ သည်လည်း မြန်မာပရိသတ်၏ ရင်ထဲတွင် သိမ်မွေ့စွာ နေရာ ယူလျက် ရှိပါသည်။

။ ၁၀ ။

ဇာတ်တော်ကြီးဆယ်ဘွဲ့မှ အချို့ဇာတ်တော်များတွင် အမည်ကွဲများရှိသည်။ ပုဂံလောကထိပ်ပန်မင်စာတွင် ထိုအမည်ကွဲများကို တွေ့ရသည်။

ကုန်းဘောင် ခေတ်တွင် ပိဋကတ်တော်အုပ် ဦးယံပြုစုသော ပိဋကတ်တော်သမိုင်း၌ "ဇာတ်ကြီးဆယ်စောင်တွင် တေမိဇာတ်ကို 'မူဂပက္ခ'ဇာတ်လည်း ဟူ၏။ သုဝဏ္ဏသာမ ဇာတ်ကို 'သုဝဏ္ဏသျှံ' ဇာတ်လည်း ဟူ၏။ မဟော်ဇာတ်ကို 'ဥမင်'ဇာတ်လည်း ဟူ၏။ ယင်း ဥမင်ကား ပညာပရိယာယ်တည်း။ ဤအကြောင်းကို သဘောမမိ သတိမမူသောသူတို့သည် ဇာတ်၌ ဥမင်ကိုစွဲ၍ သုတိတူသဖြင့် ဥမင်ဇာတ် ဟူကုန်၏။ စန္ဒကုမာရဇာတ်ကို ခဏ္ဍဟာလဇာတ်လည်း ဟူ၏။ ဝိဓူရဇာတ်ကို 'ပုဏ္ဏက'ဇာတ်လည်း ဟူ၏။ ဝေဿန္တရာဇာတ်ကား ဂါထာတစ်ထောင် ရှိ၏။ ထို့ကြောင့် 'သဟဿဝတ္ထု' ဟူသတည်း"ဟု ရှင်းပြထားပါသည်။

။ ၁၁ ။

ဇာတ်တော်ဆယ်ဘွဲ့သည် ခေတ်အဆက်ဆက်တွင် စာပေပုံသဏ္ဌာန်အမျိုးမျိုးဖြင့် ပေါ်ထွက်ခဲ့သော်လည်း ဦးသြဘာသ, ရှင်ပညာတိက္ခ, ရှင်နန္ဒမေဓာတို့ မြန်မာစကားပြေဖြင့် ပြည့်ပြည့်စုံစုံရေးသားပြုစုသော ဇာတ်တော်ကြီးဆယ်ဘွဲ့ဝတ္ထုများကား မတိမ်ကောပါ။ ထင်ရှားနေဆဲ ဖြစ်သည်။ ဇာတ်တော်ကြီးတစ်စောင်ချင်း ပုံနှိပ်ထားသော ဝတ္ထုများ, ဇာတ်တော် ၅စောင်စီ ၂တွဲခွဲကာ ပုံနှိပ်ထားသော ဝတ္ထုများကို ကျောင်းသားများ, မြန်မာစာပေလေ့လာသူများ အသုံးပြုနေကြဆဲ ဖြစ်သည်။

ယခု ဇာတ်တော်ကြီးဆယ်ဘွဲ့ကို ဝါပေါင်းတစည်းတည်း ပုံနှိပ်ထုတ်ဝေလိုက်သည့်အတွက် ပို၍ စုစုစည်းစည်းဖြစ်သွားပြီး၊ လေ့လာသူ, ကိုးကားသူများအတွက် ပို၍ အဆင်ပြေပါသည်။

ခေတ်အဆက်ဆက် မြန်မာ့နှလုံးသားထဲတွင် ကိန်းအောင်းခဲ့သော ဇာတ်တော်ကြီးဆယ်ဘွဲ့သည် မျိုးဆက်သစ်တို့၏ နှလုံးသားထဲတွင်လည်း ဆက်လက်ကိန်းအောင်းကာ စိတ်စေတနာကောင်းများ နိုးကြားရေးအတွက် သိမ်မွေ့စွာ အထောက်အပံ့ ပြုနေပါလိမ့်ဦးမည်။

မောင်ခင်မင်(ဓနုဖြူ)

ဇာတ်တော်ကြီး ဆယ်ဘွဲ့မှ အချို့ ဇာတ်တော်များတွင် အမည်ကွဲများ ရှိသည်။ ပုဂံလောကထိပ်ပန် မင်စာတွင် ထိုအမည်ကွဲများကို တွေ့ရသည်။

အကြင်သူသည် အဆွေခင်ပွန်းတို့အား ပြစ်မှားခြင်းကို ပြုအံ့။ ထို ခင်ပွန်းပြစ်မှားသောသူသည် သူတစ်ပါးအား
ပစ္စည်းဖြင့် ဝန်တိုခြင်း, နှုတ်ဖြင့် စဉ်းလဲခြင်း, နှလုံးဖြင့် စောင်းမြောင်းခြင်းတို့ကိုပြု၍ ရှုတ်ချတတ်သဖြင့်၊
မိမိသည်လည်း သူခပ်သိမ်းတို့၏ အရှုတ်အချကို ခံရရာ၏။
သူတစ်ပါးတို့ကို ဂုဏ်ရှိ, ဂုဏ်မဲ့မရွေး မလေးမလောက် ပြုတတ်သဖြင့်
မိမိကိုလည်း သူတစ်ပါးတို့ မလေးမလောက် မထီမဲ့မြင် ပြုရာ၏။
မိမိ၌ ကြီးကြီးငယ်ငယ် တွယ်ကပ်သမျှ အပြစ်ကိုလည်း စစ်၍ထုတ်သကဲ့သို့
ဥက္ကောဋ္ဋန (ကြွေးကြော်ဆူညံ) ပြုလျက် သူတစ်ပါးတို့၏အစွပ်အစွဲကိုလည်း ခံရရာ၏။
သူတစ်ပါးတို့အား မြတ်နိုးတနာ ပူဇော်သက္ကာ မပြုခြင်းကြောင့်
မိမိကိုလည်း သူတစ်ပါးတို့ မြတ်နိုးတနာ ပူဇော်သက္ကာ မပြုရာ။
ကြီးမြတ်သောတို့အား မကျိုးမနွံ စောင်းမာန်မချိုး ရိုခိုးဝတ်ကျင့် အခွင့်မသိ ပြုခြင်းကြောင့်
မိမိကိုလည်း သူတစ်ပါးတို့ ကျိုးကျိုးနွံနွံ စောင်းမာန်နိမ့်ချိုး ရိုခိုးဝတ်ကျင့် အခွင့်သိတိုင်း မပြုလေရာ။
ထိုသို့ ပူဇော်ခြင်း, ရိုခိုးခြင်းမရှိသော အဆွေခင်ပွန်းသည်
အခြံအရံမှ ကင်းခြင်း, ကျေးရှူးသတင်း ယုတ်ခြင်းသို့ ရောက်ရာ၏။

သူ့အခြွေအရံမှုသာဖြစ်၍ စိတ်ပိုင်ကိုယ်နိုးမရှိ၊ သတိမဲ့မှု ဒဏ်လွတ်ရုံမျှရှိလျက်
အသက်မွေး ငြိမ်းငြိမ်းလှစွာသော ငါသည် သူ့ကျွန်ခံ၍ အဘယ် အကျိုး ရှိတော့အံ့နည်း။

ပင့်သနေ့ကပင် ပျက်စီးရသောသတ္တဝါ, ဖွားစကပင် ပျက်စီးရသောသတ္တဝါ, အရွယ်ရောက်စကပင်
ပျက်စီးရသော သတ္တဝါ စသည်ဖြင့် အခါအရွယ်ကို ငဲ့ဖွယ်မရှိ။ ဗျာဓိ, ဇရာ, မရဏ မပြတ်နှိပ်စက်သဖြင့်
'ငါ့အသက်, ငါ့ကိုယ်' ဟု ပြောဆို၍ ကောင်းရာ တစ်ခုမျှ မထင်ဘဲလျက်၊ အသက်ကို မိဘပိုင်သကဲ့သို့
အဘယ့်ကြောင့် 'အိုမှ ရဟန်းပြု၊ ယခု ထိန်နန်းစံဦး' ဆိုထိုက်ပါအံ့နည်း။

လောကကို မပြုတ်နှိပ်စက်သည်ကား သေခြင်းတည်း။ လောကကို မပြုတ်ခြံရံသည်ကား အိုခြင်းတည်း။
အချည်းနှီးမဟုတ်မူ၍ လွန်တတ်, သွားတတ်သည်ကား ညဉ့်တည်း။ သတ္တဝါတို့အသက်သည် ရက်ကန်းချည်နှင့် တူ၏။
ညဉ့်, နေ့တို့သည် ချည်ချောင်း အစဉ်ရက်သည်နှင့် တူ၏။ ရက်ပန်များသဖြင့် ရက်ကန်းစာကုန်သည်နှင့်ကား
ညဉ့်, နေ့ ကုန်ပန်များသဖြင့် အသက်ကုန်ခြင်းနှင့် တူ၏။

ဥစ္စာစည်းစိမ်ဟူသည်ကား ရန်သူ ၅ ပါး ဖျက်စီး၍ ပျက်ပြုန်းသဖြင့်လည်း ဥစ္စာရှင်ကို စွန့်တတ်၏။
ရန်သူ ၅ ပါး မဖျက်ဆီး၍ မိမိဖြစ်ဆဲ, ဖွားဆဲသော်လည်း ဥစ္စာရှင်သေသဖြင့် ဥစ္စာရှင်သည် စွန့်အပ်၏။
ထိုသို့ စွန့်တတ်, စွန့်အပ်သောအခြင်းအရာဖြင့် ပျောက်ခြင်း, ကုန်ခြင်းသဘောသာလျှင်
စင်စစ်ဖြစ်သော ပြည်စည်းစိမ်ဖြင့် အဘယ့်ကြောင့် ခမည်းတော် ဖိတ်မန်ခြင်းကို ပြုပြန်ရအံ့နည်း။



ငါသည် အခါမြင့်မြဲ ဆင်းရဲကြီးသော ငရဲမီး၌ ကြမ်းကြုတ်စွာ ကြမ္မာစီရင်တိုင်းခံလျက် သေရသောထက်၊
ဤဆင်ကြမ်းလက်တွင် တစ်ခဏတွက်ရုံမျှ နိုပ်စက်လတ္တံ့သော ဒဏ်ကိုခံလျက် သေရသော်
အဆအသိန်းအသန်းမက မြတ်သေး၏။

## ထေမိသောက်

အကြင်သူသည် အဆွေခင်ပွန်းတို့အား ပြစ်မှားခြင်းကို ပြုအံ့၊ ထို ခင်ပွန်းပြစ်မှားသောသူသည် သူတစ်ပါးအား
ပစ္စည်းဖြင့် ဝန်တိုခြင်း, နှုတ်ဖြင့် စဉ်းလဲခြင်း, နှလုံးဖြင့် စောင်းမြှောင်းခြင်းတို့ကိုပြု၍ ရှုတ်ချတတ်သဖြင့်
မိမိသည်လည်း သူခပ်သိမ်းတို့၏ အရှုတ်အချကို ခံရရာ၏။
သူတစ်ပါးတို့ကို ဂုဏ်ရှိ, ဂုဏ်မဲ့မရွေး မလေးမလောက် ပြုတတ်သဖြင့်
မိမိကိုလည်း သူတစ်ပါးတို့ မလေးမလောက် မထီမဲ့မြင် ပြုရာ၏။
မိမိ၌ ကြီးကြီးငယ်ငယ် တွယ်ကပ်သမျှ အပြစ်ကိုလည်း စစ်၍ထုတ်သကဲ့သို့
ဥက္ကောဋနှ (ကြွေးကြော်ဆူညံ) ပြုလျက် သူတစ်ပါးတို့၏အစွပ်အစွဲကိုလည်း ခံရရာ၏။
သူတစ်ပါးတို့အား မြတ်နိုးတနာ ပူဇော်သက္ကာ မပြုခြင်းကြောင့်
မိမိကိုလည်း သူတစ်ပါးတို့ မြတ်နိုးတနာ ပူဇော်သက္ကာ မပြုရာ။
ကြီးမြတ်သောတို့အား မကျိုးမနွံ စောင်းမာန်မချိုး ရှိခိုးဝတ်ကျင့် အခွင့်မသိ ပြုခြင်းကြောင့်
မိမိကိုလည်း သူတစ်ပါးတို့ ကျိုးကျိုးနွံနွံ စောင်းမာန်နှိမ့်ချိုး ရှိခိုးဝတ်ကျင့် အခွင့်သိတိုင်း မပြုလေရာ။
ထိုသို့ ပူဇော်ခြင်း, ရှိခိုးခြင်းမရှိသော အဆွေခင်ပွန်းသည်
အခြံအရံမှ ကင်းခြင်း, ကျေးငှက်သတင်း ယုတ်ခြင်းသို့ ရောက်ရာ၏။

သူ့အခြေအရံမှသာဖြစ်၍ စိတ်ပိုင်ကိုယ်နိုင်မရှိ၊ သတိမမြဲမှု ဒဏ်လွတ်ရုံမျှရှိလျက်
အသက်မွေး ငြိမ်ငြိမ်လှပွာသော ငါသည် သူ့ကျွန်ခံ၍ အဘယ် အကျိုး ရှိတော့အံ့နည်း။

ပဋိသန္ဓေကပင် ပျက်စီးရသောသတ္တဝါ, ဖွားစကပင် ပျက်စီးရသောသတ္တဝါ, အရွယ်ရောက်စကပင်
ပျက်စီးရသော သတ္တဝါ စသည်ဖြင့် အခါအရွယ်ကို ငဲ့ပွယ်မရှိ၊ ဗျာဓိ, ဇရာ, မရဏ မပြတ်နှိပ်စက်သဖြင့်
'ငါ့အသက်, ငါ့ကိုယ်' ဟု ပြောဆို၍ ကောင်းရာ တစ်ခုမျှ မထင်ဘဲလျက်၊ အသက်ကို မိဘပိုင်သကဲ့သို့
အဘယ့်ကြောင့် 'အိုမှ ရဟန်းပြု၊ ယခု ထီးနန်းစံဦး' ဆိုထိုက်ပါအံ့နည်း။

လောကကို မပြတ်နှိပ်စက်သည်ကား သေခြင်းတည်း။ လောကကို မပြတ်ခြံရံသည်ကား အိုခြင်းတည်း။
အချည်းနှီးမဟုတ်မူ၍ လွန်တတ်, သွားတတ်သည်ကား ညဉ့်တည်း။ သတ္တဝါတို့အသက်သည် ရက်ကန်းချည်နှင့် တူ၏။
ညဉ့်, နေ့တို့သည် ချည်ချောင်း အစဉ်ရက်သည်နှင့် တူ၏။ ရက်ပန်မှားသဖြင့် ရက်ကန်းစာကုန်သည်နှင့်ကား
ညဉ့်, နေ့ ကုန်ပန်မှားသဖြင့် အသက်ကုန်ခြင်းနှင့် တူ၏။

ဥစ္စာစည်းစိမ်ဟူသည်ကား ရန်သူ ၅ ပါး ဖျက်စီး၍ ပျက်ပြုန်းသဖြင့်လည်း ဥစ္စာရှင်ကို စွန့်တတ်၏။
ရန်သူ ၅ ပါး မဖျက်ဆီး၍ မိမိဖြစ်ဆဲ, ဖွားဆဲသော်လည်း ဥစ္စာရှင်သေသဖြင့် ဥစ္စာရှင်သည် စွန့်အပ်၏။
ထိုသို့ စွန့်တတ်, စွန့်အပ်သောအခြင်းအရာဖြင့် ပျောက်ခြင်း, ကုန်ခြင်းသဘောသာလျှင်
စင်စစ်ဖြစ်သော ပြည်စည်းစိမ်ဖြင့် အဘယ့်ကြောင့် ခမည်းတော် ဖိတ်မန္တခြင်းကို ပြုပြန်ရသနည်း။



ငါသည် အစါမြင့်မြ ဆင်းရဲကြီးသော ငရဲမီး၌ ကြမ်းကြုတ်စွာ ကြမ္မာစီရင်တိုင်းခံလျက် သေရသောထက်၊ ဤဆင်ကြမ်းလက်တွင် တစ်ခဏတွက်ရုံမျှ နိုပ်စက်လတ္တံ့သော ဒဏ်ကိုခံလျက် သေရသော် အဆအသိန်းအသန်းမက မြတ်သေး၏။

# ဓေမိယဇာတ်တော်ကြီး

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

## ပဏာမ

'သာရဋ္ဌဓမ္မ မဓုရောဒက တေမိယေဇံ၊ ဝေရောစနံ ဝိယ ဝိရောစန မာဝိရောစံ။
ဗုဒ္ဓါမလင်္ဂဏ မနင်္ဂဏ မင်္ဂလဂ္ဂံ၊ နတွာ ဂရုံ သုတဗလေန ဗလဿိတောသိံ။
ပဏိမိ ပုညကာရိဟိ၊ သုပဏိဓာနရူပတော၊ ပဏိဓာယ ပကာသိဿံ၊ ပဏိမိ တေမိဂဗ္ဘဇံ။ ။'
(ပထမဂါထာ ၁၄ လုံးဖွဲ့ ဝသန္တတိလကဂါထာ, ဒုတိယဂါထာ ၈ လုံးဖွဲ့ ပထျာဝတ္တဂါထာ)

အဟံ၊ ငါသည်။ ဇေ၊အဝိဇ္ဇာ[၁], တဏှာ[၂], ကိလေသာ[၃]အညစ်အကြေးတို့ဖြင့် မွေးယှက်သမ်းညှိုးခြင်းရှိသော သတ္တဝါအပေါင်းကို။ သာရဋ္ဌ ဓမ္မ မဓုရောဒက တေမိယံ၊ အကျိုး၏မြတ်ခြင်း, အကြောင်း၏မြတ်ခြင်းနှင့် ပြည့်စုံသည်ဖြစ်၍ ချိုမြိန်စွာသော တရားရေအေးဖြင့် မြူကြေးလျှော်ချွတ် ဖျန်းဆွတ်တော်မူတတ်ထသော၊ဝါ–ဒေသနာ[၄],အနက်, ပါဠိ, အသိဉာဏ် ၄ တန်သော နက်နဲခြင်းရှိသည်ဖြစ်၍ ချိုမြိန်စွာသော တရားတော်အဖျော် ပျားသကာဖြင့် ပညာလျှာကြော တက်ပြောဆွတ်စိမ့် နှစ်သိမ့်ရစ်ထုံး နှလုံးပူနောက် ပျောက်စေတော်မူတတ်ထသော။ ဝါ–အကာအမြေး ညစ်ကြေးမရှုပ် ဝိမုတ်[၅]စင်စစ် အနှစ်သက်သက် အနက်မြတ်နှင့်ပြည့်စုံသော တရားချိုအေး ကြိုင်မွှေးနံ့သာ ရေသီတာဖြင့် အခါမလပ် ဖျန်းဆွတ်တော်မူတတ်ထသော။ ဗုဒ္ဓံ၊ မြတ်စွာဘုရားကို လည်းကောင်း။ ဝိရောစနံ၊ တရားရောင်ခြည် မတည်မထွန်း ရှုန်းရှုန်းမပွင့် မတင့်တယ်သေးသောသူကို။ ဝါ–အဆင်းသဏ္ဌာန်[၆] ခြွေရုံစည်းစိမ် ညှံ့တိမ်တန်ခိုး အမျိုးငယ်သူကို။ ဝေရောစနံဝိယ၊ အရောင်အဆင်း တင့်တယ်ခြင်းကျက်သရေကို ဆောင်တတ်သော ဝေရောစန ပတ္တမြားကဲ့သို့။ ဝိရောစနံ၊ တင့်တယ်ရွှင်ဖြိုး မြတ်နိုးစေတတ်ထသော။ ဝိရောစနံ၊ ပညာရောင်ခြည် တည်သည့်ဖြစ်၍ သစ်သစ်[၇] ဝေရှန်း[၈] ထွန်းလင်းတင့်တယ်လေပြီးသောသူကို။ ဝါ၊ အဆင်းသဏ္ဌာန် ခြွေရုံစည်းစိမ် မတိမ်မညှိုး အမျိုးကြီးမြင့် တန်ခိုးပွင့်ပြီးသောသူကို။ အာဝိရောစံ၊ အတိုင်းထက်အလွန် ကျော်ဝှန်[၉]လျှံတက် တုဖက်မဲ့အောင် ဘုန်းရောင်တန်ခိုးဖြင့် အစိုးတရ တင့်တယ်တော် မူထသော။ အမလံ၊ ကိလေသာမြူညစ် မမြေးရစ်သော တရားတော်မြတ် ၁၀ ပါး[၁၀]ကို လည်းကောင်း။ အနင်္ဂဏံ၊ ဒိဋ္ဌိ[၁၁], ဝိစိကိစ္ဆာ[၁၂] အစရှိသော ကိလေသာမရှိထသော။ မင်္ဂလဂ္ဂံ၊ မကောင်းမှုကို ရိတ်ဖြတ်ခြင်းအဖို့လည်း ရှိတော်မူထသော။ ဝါ–ပဏ္ဍိတ ပူဇနီယအစရှိသောဂုဏ်နှင့်ပြည့်စုံသည်ဖြစ်၍ သူခပ်သိမ်းတို့၏ ကုသိုလ် မင်္ဂလာပြုရာ အဖို့လည်း ဖြစ်တော်မူထသော၊ ဝါ–သစ္စာ ၄ ပါး[၁၃]ကို မျက်မှောက်ပြုအပ်ပြီးသည်ဖြစ်၍ မင်္ဂလာအထွတ်နှင့်လည်း ပြည့်စုံတော်မူထသော။ ဂဏံ၊ ၈ ပါး အပြားရှိသော အရိယာသံဃာတော်မြတ်အပေါင်းကို လည်းကောင်း။ သုတဗလေန၊ ပါဠိ, အဋ္ဌကထာ, ဋီကာ[၁၄]တို့၌ သဒ္ဒါအနက် ခက်ဆစ်ပြည့်ဝန် လွန်စွာခံသော သုတမယ[၁၅]ဉာဏ်အစွမ်းဖြင့်။ ဗလဿိတောသိံ၊ အသင်,အကြံ, ဉာဏ်အစွမ်းရှိသော တပည့်အပေါင်းကို နှစ်သက်စေတော်မူတတ်ထသော။ ဝါ၊ သင်အားကြားအားကိုမှီ၍ ဖြစ်သော စာသင်သားတို့၏ ပြဿနာ[၁၆]လှိုင်းကို

ပိုင်းခြားဖျောက်ချေ ဖြေစွမ်းနိုင်သော အသိဉာဏ်ကမ်းဆိပ်အဆုံးလည်း ရှိထသော။ ဂရုံ၊ မတွန့်မလိပ် စိတ်တမျှင်းကြိုး ကိုးကွယ်ထိပ်ထက် တင်ရွက်ကြည်ညို အရိုအသေပြုရာ ဆရာကျေးဇူးရှင်ကို လည်းကောင်း။ နတွာနမာမိ၊ ရှိခိုးပါ၏။ နတွာ၊ ရှိခိုးပြီး၍။

ပဏိဓိပုညကာရီဟိ၊ ဆောက်တည်ရာဆောက်တည်ကြောင်းဖြစ်သော ကောင်းမြတ်ကြည်ညို ကုသိုလ်တရား၌ အားထုတ်မမေ့ ပြုလေ့ရှိကုန်သော အမျိုးသားတို့သည်။ သုပဏိဓာနုရူပတော၊ အကျိုးစီးပွား များပြားစေလို ရှိသေကောင်းမြတ် တောင်းပန်အပ်သည်အားလျော်စွာ။ ပဏိဓာယ-ဉာဏ်လက်လွှယ်ကူ လှမ်းယူ ဆွတ်သုံး နှလုံးထားစေခြင်းအကျိုးငှာ။ ပဏိမိတေမိဂမ္ဘဲ၊ ကောင်းစွာသိုမှီးအပ်သော ပိဋကတ်တော်[၁၇]ရွှေတိုက်မှ ဖြစ်၍ မြတ်သော တေမိယဇာတ်တော်[၁၈]ရတနာကို။ အဟံ၊ ငါသည်။ ပကာသိဿံ၊ ဖွင့်လှစ်ထုတ်ဖော် နာပျော်စဖွယ် မကျယ်မကျဉ်း အလျဉ်းသင့်ရာ ထောမနာ[၁၉]အစုံစုံ ကုန်စင်ထင်ရှား စကားပြေစီကုံးပေအံ့။

ထို ဂါထာပုဒ်အပေါင်းတို့တွင် 'သာရတ္ထ ဓမ္မမဓုရောဒကတေမိယံ'ဟူသောပါဌ်ကိုကား ကျမ်းမပြုမီ ရှေးအဖို့၌ အန္တရာယ်[၂၀]ပျောက်ခြင်း, ကျမ်းပြီးခြင်း အကျိုးရှိသော မြတ်စွာဘုရားကို ရှိခိုးခြင်းအလို့ငှာ ဆိုသတည်း။ ကျမ်းမပြုမီ ရှေးအဖို့၌ ဘုရားကိုရှိခိုးခြင်းအလို့ငှာ ထိုပါဌ်ကိုဆိုသော ဟူ၍ ဆို၏။ အကယ်၍ ထိုသို့ဆိုချေသော် 'ဗုဒ္ဓံ နတွာ'ဟု ဆိုကာမျှဖြင့် ဘုရားကိုရှိခိုးခြင်း ဟူသောကိစ္စ မပြီးကောင်းသေး ဟူသောအနက်သည် ရောက်၏။ ထိုသို့တစ်မူကား'ဗုဒ္ဓံနတွာ'ဟု ဆိုကလျှင် ဘုရားကိုရှိခိုးခြင်းကိစ္စ ပြီးကောင်းပြီ။ ထိုသို့ ပြီးကောင်းပြီဖြစ်သောကြောင့် 'သာရတ္ထ ဓမ္မ မဓုရောဒက တေမိယံ' ဟူသောပုဒ်ကို မဆိုတန်။ ဆိုချေသော် ဂန္ထဂရု[၂၁] ပုနရုတ္တိဒေါသ[၂၂]ရောက်၏ဟု စောဒက[၂၃]ဆရာ အပြစ်တင်သော်

'ဗုဒ္ဓံ နတွာ'ဟုဆိုက ဘုရားကိုရှိခိုးခြင်းကိစ္စ ပြီးကောင်းပြီဖြစ်လျက်'သာရတ္ထဓမ္မမဓုရောဒကတေမိယံ' ဟူသော ပါဌ်ကို ဆိုခြင်းသည်ကား ဂုဏ်ရှိသောသူသာလျှင် ရှိခိုးခြင်းကို ခံခြင်းငှာ ထိုက်၏။ဂုဏ်မရှိသောသူသည် ရှိခိုးခြင်းကို မခံထိုက်။ ဂုဏ်ရှိသောသူသာလျှင် တောင့်တအပ်သော အကျိုးကို ပြီးစေနိုင်၏။ ဂုဏ်မရှိသောသူသည် မပြီးစေနိုင်။ ငါရှိခိုးအပ်သော မြတ်စွာဘုရားသည်ကား စန္ဒီ, ပရမိဿွာ အစရှိသောသူတို့ကဲ့သို့ ဂုဏ်မရှိသောသူ မဟုတ်။ ရှိခိုးခြင်းငှာထိုက်သော, တောင့်တအပ်သောအကျိုးကို ပြီးစေတတ်သော ဂုဏ်နှင့် ပြည့်စုံတော်မူ၏ ဟုမြတ်စွာဘုရား၏ ပဏာမာရဟာသဘောဂုဏ်ကို ပြအံ့သောငှာဆိုသတည်း။ 'ဗုဒ္ဓံ နတွာ'ဟု ဆိုကာမျှဖြင့် ရှိခိုးခြင်းကိစ္စ မပြီးကောင်းသေးသောကြောင့် ဆိုသည်မဟုတ်။ ထိုသို့ဖြစ်သောကြောင့် ဂန္ထဂရု ပုနရုတ္တိဒေါသ မရောက်။ ဆိုတန်၏ဟု ပရိဟာရ[၂၄]ဆရာ ဖြေအပ်၏ဟူလို။

ရှိခိုးအပ်သော မြတ်စွာဘုရား၏ဂုဏ်ကို ပြအံ့သောငှာ ထို 'သာရတ္ထဓမ္မမဓုရောဒကတေမိယံ' အစရှိသော ပါဌ်ကို ဆိုသောဟူ၍ ဆို၏။ အကယ်၍ ထိုသို့ဆိုချေသော် မြတ်စွာဘုရား၏ ပဏာမရဟာသောဂုဏ်[၂၅]ကို ပြလိုက ဤ'သာရတ္ထ'အစရှိသောပါဌ်ကိုသာ ဆိုကောင်း၏။'အနန္တဉာဏံ[၂၆],အစိန္တေယျံ[၂၇]' အစရှိသည်ဖြင့် ပြားသော တစ်ပါးဂုဏ်ကို မဆိုကောင်း ဟူသောအနက်သည် ရောက်၏။ ထိုသို့တစ်မူကား တစ်ပါးသောဂုဏ်တော် တို့ကိုလည်း ဆိုကောင်း၏။ ထိုသို့ဆိုကောင်းသည်ဖြစ်သောကြောင့် ဤ 'သာရတ္ထဓမ္မမဓုရောဒက တေမိယံ'ဟူသောပါဌ်ကိုသာ မဆိုတန်၊ ဆိုချေသော် အဗျာပိတဒေါသ[၂၈] ရောက်၏ဟု အပြစ်တင်ငြားအံ့။

အရာအခွင့် သင့်တင့်လျော်စွာ ထောမနာခြင်းသည် ပညာရှိတို့အမှု ကျမ်းပြုဆရာတို့အလေ့သဘောဖြစ်၍ ဤသို့ဆိုလတ္တံ့သောဝတ္ထု၌ တေမိမင်းသားသည်လည်း ကာသိလရာဇ်တိုင်းအလုံးကို နှလုံးချမ်းမြေ့ကြောင်း

မိုးကောင်းရွာခြင်းနှင့်ယှဉ်လျက် ဖွားတော်မူ၏။ မြတ်စွာဘုရားသည်လည်း လောကအလုံးကို နှလုံးချမ်းမြေ့ကြောင်း တရားမိုးကောင်း သဲသြောင်းရင့်ရှူ[၃၉]ရွာတော်မူခြင်းနှင့်ယှဉ်လျက် ပွင့်တော်မူ၏။ဤသို့ ထောမနာအရာ သင့်သည်ဖြစ်၍ ဤ 'သာရဏ္ဍဓမ္မမဝုရောဒကတေမိယံ'ဟူသောပါဠ်ကို ဆိုသတည်း။ တစ်ပါးသော ဂုဏ်တော်တို့ဖြင့်လည်း မချီးမွမ်းကောင်းသောကြောင့် ဆိုသည်မဟုတ်။ ထို့ကြောင့် အဗျာပိတဒေါသ မရောက် ဆိုတန်၏ဟု ပရိဟာရ ပြုအပ်သည် ဟူလို။

အရာအခွင့် သင့်တင့်လျော်စွာ ထောမနာခြင်းသည် ပညာရှိအမှူ, ကျမ်းပြုဆရာတို့အလေ့ ဟူရာ၌ နေမိဘုံခန်းကို စီရင်တော်မူသော အရှင်အဂ္ဂသမာဓိ[၄၀]သည် 'အမှာကံ ဝံသော ပဗ္ဗဇ္ဇဝံသော[၄၁]'ဟုရှုဆင်ခြင်သော မဃဒေဝဗြဟ္မာ[၄၂] မင်း၏ အကြံအားလျော်စွာ လည်းကောင်း၊မဃဒေဝ[၄၃]မင်းမှစ၍ ၈သောင်း ၄ ထောင်တိုင်တိုင် ပဗ္ဗဇ္ဇဝင်[၄၄]မပျက် ဆင်းသက်၍ဆက်ဆံသော မင်းတို့တွင် အဆုံးဖြစ်သော နေမိမင်းကို ဆိုအပ်သည့်အားလျော်စွာ လည်းကောင်း အနန္တဂုဏ်နှင့်ပြည့်စုံတော်မူသော မြတ်စွာဘုရား၏အလောင်းတော် နေမိမင်း ဟု ထောမနာခြင်းကို မပြုမူ၍ 'သကျာဝတဘောကုမာရာ[၄၅]'ဟု ၃ကြိမ် တိုင်အောင်ဆိုအပ်သော ဥက္ကာကရာဇ်မင်း[၄၆]၏ နှုတ်မွှန်ရည် အစွမ်းဖြင့် 'သာကီနွယ် [၄၇]' ဟု တွင်ကျယ်စွာလျက် ဥက္ကာမုခမင်းမှစ၍ ၈ သောင်း ၂ ထောင်တိုင်တိုင် သာကီနွယ်မပျက် ဆင်းသက်၍ဆက်ဆံသော မင်းအပေါင်းတို့တွင် အဆုံး၌ သိဒ္ဓတ်မင်း[၄၈]ဖြစ်၍ နန်း ၃ ဆောင်ဝယ် စံပယ်[၄၉]တော်မူပြီးမှ ဘုရားအဖြစ်သို့ရောက်တော်မူသော ငါတို့မြတ်စွာဘုရား၏ ရှေးသံသရာ[၅၀]၌ ဖြစ်တော်မူဖူးသော အလောင်းတော်နေမိမင်းကြီး ဟု အရာသင့်အောင် ထောမနာလို၍ 'သကျာဝတကုမာရ'ဟု စသည်ဖြင့် ချီလေသည်။

သေကာရီ[၅၁]မင်းကြီး သားပြုသော ဟတ္ထိပါလ[၅၂]မင်းသား, သံဝရ[၅၃]မင်းသားတို့ကို ဆိုလိုသော အရှင်ရဋ္ဌသာရ[၅၄]ထေရ်သည် မင်းတို့၏ ဂုဏ်နှင့်လျော်စွာ 'ဇာတိပုည ဂုဏ်မာနဖြင့်' စသည်ဖြင့်လည်းကောင်း၊ 'ဇာတိဉာဏ်ခိုင် တစ်ပင်တိုင်ဖြင့်'အစရှိဖြင့် လည်းကောင်း အရာသင့်လျော်စွာ ဘုရားဂုဏ်ကို ချီလေသည်။

ဗျာဒိတ်[၅၅]ရစ, ပါရမီ ၁၀ တန်ကိုအကြံဖြစ်စ ဖြစ်သော ဗျာဒိတ်ခန်း, ပါရမီခန်းတို့ကို စီရင်တော်မူလိုသော အရှင်သီလဝံသ[၅၆]သည် အစအရင်းကို ဆိုအပ်သည်နှင့်လျော်စွာ အရာသင့်အောင် ဘုရားဖြစ်တော်မူသည်ကစ၍ မြတ်စွာဘုရားအား ထောမနာလိုသဖြင့် 'ဗောဓိမဏ္ဍိုင်[၅၇] ခန်းဝါပိုင်က'စသည်ဖြင့် ချီလေသည်။

အဋ္ဌကထာ[၅၈]ဆရာတို့သည်လည်း သမန္တပါသာဒိက[၅၉]အဋ္ဌကထာ၌ ဒုတိယပါရာဇိကကို ဖွင့်တော် မူလိုသောအခါ 'ဒုတိယံ အဒုတိယေန'စသည်ဖြင့် လည်းကောင်း၊ တတိယပါရာဇိကကို ဖွင့်တော်မူလိုသောအခါ 'တတိယံ တီဟိသုဒ္ဓေန'အစရှိသည်ဖြင့် လည်းကောင်း အရာသင့်လျော်စွာ မြတ်စွာဘုရား၏ဂုဏ်ကို ထောမ နာတော်မူသည်။ ထိုသို့ အခွင့်နှင့်လျော်စွာ ချီးမွမ်းကျိုးကား'ကြာသွတ်အိုးမှာ ကြာမျိုးပွင့်သည်'ဟူသကဲ့သို့ အရာသင့်သဖြင့် တင့်တယ်လိုက်လျော ပြေချောခြင်းဖြစ်သည်သာလျှင် အကျိုးတည်းဟု သိအပ်၏။ [ဤကား စောဒနာ ပရိဟာရ သံဝဏ္ဏနာ[၆၀]မျိုးရိုးသဘောတည်း။]

'ကျွန်းထင်းကျူဖြော့၊ ဝဲကတော့ပတ်၊ ဇလပ်ပွင့်စည်း၊ ဖြစ်နည်းတူဟန်၊ နန္ဒိယာဝဋ္ဋနည်း' အလိုဆိုသော် ကား 'လာဘသက္ကာရာဒိ နိရပေက္ခစိတ္တဿ ယာနတ္တယမုခေနသဗ္ဗဒုက္ခနိယျာနိကဓမ္မဒေသနာ ပယော ဂေါနာမ' ဟူသော ဋီကာပါဠ်နှင့်အညီ လာဘ် [၆၁] ပူဇော်[၆၂] သက္ကာရ[၆၃] စသည်ကို ငဲ့ကွက်ခြင်းမှကင်းမဲ့သော စိတ်ရှိတော်မူသော မြတ်စွာဘုရား၏ ယာဉ်[၆၄] ၃ပါးကို တံခါးပြုသဖြင့် ခပ်သိမ်းသောဝဋ်[၆၅]ဆင်းရဲမှ ထွက်မြောက်စေခြင်းငှာ

ဟောတော်မူ အပ်သော ဒေသနာတော်သည် ပယောဂ မည်၏။ ထို ပယောဂ၏ပြည့်စုံတော်မူခြင်းကို 'သာရတ္ထဓမ္မမဇုရောဒကတေမိယ်'ဟူသော ဤပါဠ်ဖြင့် ပြ၏။ ပယောဂသမ္ပဒါ[၅၆] ရှိသဖြင့်လည်း ထိုသတ္တဝါတို့၏ အလိုစရိုက်[၅၇]ဟောထိုက်သောအခါကို မသိခြင်း, အကျိုးစီးပွားကို အလိုမရှိခြင်းတို့သည် လွင့်စဉ်လေကုန်၏။ ထိုသို့လွင့်စဉ်သဖြင့် ဒေဝဒတ်[၅၈],စိဉ္စမာဏဝိကာ[၅၉]အစရှိသော ရန်သူတို့အားသော်လည်း အစီးအပွားကိုသာ အလိုရှိခြင်း၊ သဒ္ဓါအစရှိသော ဣန္ဒြေ[၆၀] မရင့်ကျက်သေးသောသတ္တဝါတို့အား ဣန္ဒြေရင့်သောအခါကို ငံ့တော်မူခြင်းတည်း ဟူသော အာသယသမ္ပဒါ[၆၁]ရှိတော်မူ၏။ ထိုသမ္ပဒါကို တေမိယ်၌ တိမ–ဓာတ်ဖြင့် ပြ၏။

ဤ အာသယပယောဂဟု ဆိုအပ်သော သတ္တူပကာရသမ္ပဒါ[၆၂]နှင့် ပြည့်စုံခြင်းသည် အရဟတ္တမဂ်[၆၃]ဉာဏ်, သဗ္ဗညုတ[၆၄]ဉာဏ်, အာသယာနုသယဉာဏ် စသောဉာဏ်တော်တို့နှင့် ကင်း၍မဖြစ်နိုင်သောကြောင့် သတ္တူပကာရ ရှိသဖြင့် ဉာဏသမ္ပဒါ[၆၅]လည်း ရှိတော်မူ၏။ ဉာဏသမ္ပဒါ ရှိတော်မူသဖြင့်လည်း ထိုဉာဏ်တို့၏ ရန်သူဖြစ်သော ဝါသနာ[၆၆]နှင့်တကွ ကိလေသာအလုံးစုံတို့ကို အကြွင်းမဲ့ ပယ်စွန့်တော်မူနိုင်ခြင်းကြောင့် ပဟာနသမ္ပဒါ[၆၇]လည်း ရှိတော်မူ၏။ ဉာဏပဟာနသမ္ပဒါရှိသဖြင့် အလိုရှိတိုင်းသောအကျိုးကို ပြီးစေနိုင်ခြင်း တည်းဟူသော အာနုဘာဝသမ္ပဒါ[၆၈]လည်း ရှိတော်မူ၏။ ၃၂ ပါးသော ယောကျ်ားမြတ်တို့၏ လက္ခဏာတော်ကြီး, ၈၀ သော လက္ခဏာတော်ငယ်တို့ဖြင့် တန်ဆာဆင်အပ်သော ကိုယ်တော်အဖြစ်မှလည်း ထို ဉာဏ, ပဟာန, အာနုဘာဝတို့ကို ရစွမ်းနိုင်သောကြောင့် သူခပ်သိမ်းတို့၏မျက်စိ၌ သွန်းဘိသကဲ့သို့ တင့်တယ်သော ရူပကာယ[၆၉]လည်း ရှိတော်မူ၏။ ထို ဉာဏ,ပဟာန,အာနုဘာဝ,ရူပကာယ တည်းဟူသော ဖလသမ္ပဒါ[၇၀] ၄ ပါးကိုလည်း အကြောင်းရှိမှသာ ရအပ်သောကြောင့် ဖလသမ္ပဒါ ရှိတော်မူသဖြင့် မဟာကရုဏာ[၇၁]နှင့်ယှဉ်တော်မူခြင်း၊ သဗ္ဗညုတဉာဏ်၏ အဆောက်အဦဖြစ်သော ပါရမီ ၃၀ ကို ဖြည့်တော်မူခြင်းတည်းဟူသော ဟေတုသမ္ပဒါ[၇၂]လည်း ရှိတော်မူ၏။ဤ ဟေတုသမ္ပဒါ, ဖလသမ္ပဒါ ၂ ပါးကို 'သာရတ္ထဓမ္မ မဇုရောဒက တေမိယ်'ဟူသောပါဠ်၏ အစွမ်းဖြင့်ပြ၏။ ထိုသို့ ဟေတုသမ္ပဒါ, ဖလသမ္ပဒါ, သတ္တူပကာရသမ္ပဒါ တည်းဟူသော သမ္ပဒါ ၃ ပါးကို ရသည်ရှိသော် မရေမတွက်နိုင်သော ဘုရားကျေးဇူးတော်အလုံးစုံကိုလည်း ပြစွမ်းနိုင်သောကြောင့် ဤတေမိယဝတ္ထုအစ၌ ဗုဒ္ဓပ္ပဏာမ[၇၃]ကို ပြုအံ့သောငှာ 'သာရတ္ထဓမ္မ မဇုရောဒက တေမိယ်'ဟူသော ပဏာမဟေတု, ပဏာမာရဟဘော ဂုဏ်ကို ဆိုသတည်း။

[ဝဲဆင်းဝဲရိုက် လှည့်ဝိုက်ရစ်လည်သကဲ့သို့ အစိတ်အပေါင်း အကြောင်းအကျိုး အဆိုက်အခိုက် ရထိုက်ရာ ယူအပ်သောကြောင့်လည်း အာဝဋ္ဋနည်း[၇၄]ဟူ၍ ဆိုအပ်၏။ ဝဲမရေယဉ်သည် တည်ရာတွင်မနား ရွေ့ရှားလျှော လိမ့်သကဲ့သို့ အကျိုးအစိတ်ဖြစ်သော ပယောဂသမ္ပဒါကိုရသဖြင့် အကြောင်းအပေါင်းဖြစ်သော အာသယ ဟေတုသမ္ပဒါ တို့ကိုလည်း ယူအပ်သောကြောင့် တိပုက္ခလ[၇၅]နည်း ဟူ၍လည်း ဆိုအပ်၏။ ဤကား နေတ္တိနည်းယူပုံ အမြွက်စကားတည်း။ နောက်နောက်နည်းတို့၌လည်း ဤနည်းကိုမှီ၍ ကျမ်းရိုးစသည်ကို ဆိုအပ်သည်ချည်းပင်။]

တရားတော်သည် ဝေနေယျတို့၏ပါရမီဉာဏ်, ဝိပဿနာ[၇၆]ဉာဏ်စသည်တို့၌ ချမ်းမြေ့မွေးကြိုင်စွာ စွတ်ခြင်းနှင့် ရေချို, ရေအေး, ရေမွှေး, ရေချမ်းတို့၏စွတ်ခြင်းသတ္တိ သဒိသသော[၇၇] ဖြစ်သောကြောင့် 'မဇုရောဒကတေမိယ်' ဟူသောပုဒ်သည် ဥပမာ မည်၏။ ထိုဥပမာသည် ဣဝ, ဝိယ, သမာန,သဒိသ သဒ္ဒါစသည် မပါ။ ထိုသဒ္ဒါတို့၏အနက်ဖြစ်သော ကဲ့သို့,တူစွာ,တူ၏ စသည်လည်း မပါသောကြောင့် သဒ္ဒူပမာ[၇၈], အတ္ထူပမာ[၇၉], ဝါကျတ္ထူပမာ[၈၀]အားဖြင့် ဥပမာ ၃ ပါးတို့တွင် အတ္ထူပမာ မည်၏။ ထို အတ္ထူပမာ သည်လည်း

သရူပေါပမာ,ပရိကပ္ပေါပမာ,သံသယောပမာ, ပဋိဝတ္ထုပမာဟူ၍ ၄ ပါး အပြား ရှိ၏။ ထို ၄ ပါးတို့တွင် တောင်ငူဘုရင်စာ၌–

'ဇမ္ဗူရည်ပွင့်[၈၁] မိုးလုံးတင့်သား ရှင်ပင့်စတေ[၈၂] ခုနစ်နေတည့်'ဟူ၍ မထင်ရှားသောစေတီ၏ ရောင်ခြည်ကိုထင်ရှားသောနေ၏ရောင်ခြည်နှင့် တင့်တယ်ခြင်းတူရာ အစွဲပြု၍ ဆံတော်ရှင်စေတီ ၇ ဆူကို နေ ၇ စင်းဆိုသကဲ့သို့ လည်းကောင်း၊ 'ဘိင်္ဂါနေမာနိ စက္ခူနိ၊ နမ္ဗုဇံမုခမေဝိဒံ'ဟူသည်၌ ထင်ရှားသောပိတုန်းရောင်အဆင်းနှင့် မထင်ရှားသော မျက်ဝန်းအဆင်းကို ရွှင်လန်းတင့်တယ်ခြင်း၏ ထင်ရှားသောကြာပွင့်နှင့် မထင်ရှားသော မျက်နှာအလှကို အမှုပြု၍၊ 'ဤအာရုံကား ပိတုန်းမဟုတ်၊ မျက်စိတည်း။ ဤအာရုံကား ကြာပွင့်မဟုတ်၊ မျက်နှာ တည်း'ဟု ဆိုအပ်သောစကားကဲ့သို့ လည်းကောင်း 'သုဗျတ္တသဒိသတ္တေန၊ သာ သရူပေါပမာမတာ' ဟူသည်နှင့်အညီ ထင်ရှားသော သဒိသ[၈၃]အနက်ဖြင့် မထင်ရှားသောသဒိသီ[၈၄]ကို အမှုပြု၍ဆိုခြင်းသည် သရူပေါပမာ မည်၏။

ပရိကပ္ပေါပမာကား ပါရမီခန်း၌ 'ငါ့ကိုမြော်လျက် ရှင်တော်မေတ္တာ သက်လတည်း' ဟူသော စကားကိုဆိုပြီးမှ ငါနှင့် ငါ့ဆရာမှာသာ ဤကဲ့သို့ ဖြစ်သည်မဟုတ်။ ဝေနေယျ[၈၅]နှင့် ဝိနာယက[၈၆]တွေကြိမ်တော်မူကြိုက်လျှင် ဤသို့ချည်း အတူတူပင်တည်းဟု ထက်ဝန်းကျင်အကုန်လုံး ကျုံးစပ်အပ်သည်ကို သိစေလို၍ 'ဘုရားဟူသည်' ချီသောပိုဒ်၌ 'ဝေးမြောက်စကြဝဠာ ခြားရာမှာလည်း မကြာမားမား ကိုယ်တိုင်သွား၍ တရားညွှတ်နူး ချွတ်ဖူးသည်ချည်း သချေပြည်း[၈၇]၏'ဟု ဆိုသောစကားကဲ့သို့ လည်းကောင်း၊

'မယေဝ မုခသော ဘာသော၊ တလမိန္ဒု ဝိကတ္ထနာ။ ယတောမ္ဗုဇေ ပိသာတ္တိတိ၊ ပရိကပ္ပေါပမာ အယံ။ ။' ဟူသည်၌ မိမိမျက်နှာ၌ လရောင်၏တင့်တယ်ခြင်းနှင့် ကြာ၌ လရောင်၏တင့်တယ်ခြင်း သဒိသဘောကို စွဲ၍ 'ဤလမင်းသည် ငါ၏မျက်နှာတင့်တယ်ခြင်းကိုသာ ပြုလေ့ရှိသည် မဟုတ်။ ကြာ၌လည်း တင့်တယ်ခြင်း ရှိ၏'ဟု ဆိုသော စကားကဲ့သို့လည်းကောင်း မကြုံးမပ မကြံစည်သော်လည်း ကြုံးပ[၈၈] ကြံစည်ရာ ထိုက်သဖြင့် တူရာဆိုသော စကားသည် ပရိကပ္ပေါပမာ မည်၏။

သံသယောပမာကား ဘုံခန်း၌ ဇီရဏီနတ်သမီး၏ စည်းစိမ်ကြီးသည်ကိုကြံခိုက်လည်း အသိမ်းအပိုက်ရှိပြီလိုအမှတ် နတ်သားတစ်ယောက်မျှ မထင်မမြင် ငယ်သွင်ငယ်သွေးကိုတွေးလျှင်လည်း အလွတ်ပင်ဖြစ်လေကောင်း အကြောင်း ၂ပါး သဘောတူ အယူအကြံ ယုံမှားနေမိခြင်းရှိဖွယ်ကို ဆိုလို၍ –

'အသူ့ဆွေဇနီးတို့နည်း။ အသူ့ ချစ်မငြီးတို့နည်း'ဟု ဆိုသောစကားကဲ့သို့ လည်းကောင်း၊

'ကိံ ဝါမ္ဗုဇန္တော ဘန္တာဠိ၊ ကိံ လောဠနယနံ မုခံ။ မမ ဒါဠာယတေ စိတ္တံ၊ မိစ္စယံ သံသယော ပမာ။ ။' ဟူသည်၌ မျက်နှာအလှ ပြုံးရွှင်ရွှင်မှာ ကြည်လင်သောအငင်အသိမ်းနှင့် ညိုစိမ်းစိမ်းလဲ့ရွှန်းသော မျက်နှာဝန်း တင့်တယ်ဟန်ကို သဏ္ဌာန်တူဥပမာ ကြာတိုက်မုံအာ ပွင့်ချပ်ဖုံးမှာ ပိတုန်းကို လုံးလုံးလည်းမထင်, မမြင်ဘဲလည်း မရှိသည်နှင့် သဒိသဂုဏ်မှီ၍၊ 'ဤအာရုံကား အသို့နည်း။ အတွင်း၌ ပိတုန်းလှုပ်ခြင်းရှိသော ကြာပွင့်လော။ စိန်းစိန်းမကြည့် တည့်တည့်မရှုယ် အသွယ်သွယ်နှင့် ပရိယာယ်[၈၉] လော်လက်[၉၀]သော မျက်လုံးရှင်၏ မျက်နှာလော။ ငါ့နှလုံးယုံမှား စိတ်များလောက်လက်ခတ်[၉၁]ဘိ၏'ဟုဆိုအပ်သော စကားကဲ့သို့လည်းကောင်း သဒိသဂုဏ်ဖြင့် တွေးမှားဖွယ်ရှိသည်ကို ဆိုသောဥပမာသည် သံသယောပမာ မည်၏။

ပဋိဝတ္ထုပမာကား ပါရမီခန်းတွင်'ပမာသွေးသီ စာမရီ[၉၂]ဟု' စသည်ဖြင့် အတူဖြစ်သောဝတ္ထုကို တစ်ပိုဒ်တစ်ဝါကျဆိုပြီးမှ၊ 'မြီးဆံချစ်တပ် အသေဝပ်သား' စသည်ဖြင့် ဥပမေယျဖြစ်သော သီလဝန္တ ရဟန်းဂုဏ်ကို

တစ်ပိုဒ် တစ်ဝါကျဆို၍ ဥပမေယျဖြစ်သော စတုပါရိသုဒ္ဓိဇ္ဇ၌ အလေးအမြတ်ပြုအပ်သည်ကို ဥပမာဖြစ်သော စာမရီ၏မြီးဆံသေးမျှင် တစ်ပင်တစ်ချောင်းကိုလျက် အပျက်အပြုန်းမခံ အသက်ဆုံးခံကြောင်းဝတ္ထုဖြင့် ထင်စေသောစကားကဲ့သို့ လည်းကောင်း၊

'ဇနေသု ဇာယမာနေသု၊ နေကောပိ ဗိနသာဒိသော၊ဒုတိယော နန နတ္ထေဝ၊ ပါရိစ္ဆတ္တကပါဒပေါ'ဟူသည်၌ မြတ်စွာဘုရား၏အကြောင်းကိုဆိုသဖြင့် ပင်လယ်ကသစ်ပင်၏အကြောင်းကို၊ ပင်လယ်ကသစ်ပင်၏အကြောင်း ဆိုသဖြင့် မြတ်စွာဘုရား၏ အကြောင်းကို အတူပြု၍ သိအပ်သောကြောင့် လူတို့၌ မြတ်စွာဘုရားမည်သည် ၂ဆူမဖြစ်, ပင်လယ် ကသစ်ပင်လည်း ၂ပင်မရှိ ဆိုသောစကားကဲ့သို့ လည်းကောင်း၊ မြတ်စွာဘုရားမှ အတု အစားပြု၍ ဝါတွင်း ၃ လပတ်လုံး အရှင်သာရိပုတ္တရာ[၆] တရားဟောတော်မူသည်ဟူသော စကားကဲ့သို့လည်းကောင်း အတူဖြစ်သော ဝတ္ထုတစ်ပါးဖြင့် အတူဖြစ်သောဝတ္ထုတစ်ပါးကို ထင်စေခြင်းသည် ပဋိဝတ္ထုပမာမည်၏။

ထိုအတ္ထုပမာ ၄ပါးတို့တွင် ဤပဏ္ဏာမဂါထာ၌ 'မဓုရောဒက တေမိယံ'ဟူသော ဥပမာသည် တရားအချိုအအေးနှင့် ရေချိုရေအေးစွတ်ခြင်းသတ္တိကို သရုပ်တူပြု၍ 'တရားတည်းဟူသော ရေအေး'ဟု ဆိုသောကြောင့် သရူပေါပမာ မည်၏။

'ဝေရောစနံ ဝိယ ဝိရောစနံ' ဟူသောပုဒ်၌ ဝေရောစန ပတ္တမြားကား ဥပမာ, တရားတော်ကား ဥပမေယျ, ထို ပတ္တမြား, တရားတော်၏ ဆောင်ကုန်သောသူတို့အား အရောင်အသရေ တင့်တယ်စေခြင်းသတ္တိ သဒိသသော ဖြစ်သည်ကား ဥပမာန, ဝိယပုဒ်၏ ပညတ်အနက်ဖြစ်သော 'ကဲ့သို့'ဟူသောစကားကား ထိုဥပမာ အနက်ကို ထွန်းပြတတ်သော နိပါတ်တည်း။ ဤ ဝေရောစနံဝိယ-ဟူသောဥပမာသည် ဆိုခဲ့ပြီးသော ဥပမာ ၃ပါးတွင် ဝိယသဒ္ဒါနှင့်ယှဉ်သောကြောင့် သဒ္ဒူပမာ မည်၏။

ဤသဒ္ဒူပမာသည်လည်း ဓမ္မောပမာ,ဓမ္မဟီနောပမာ, အညမညောပမာ, ဝိပရီတောပမာ, အဗ္ဘုတောပမာ, သိလေသောပမာ, သန္တောနောပမာ, နိန္ဒောပမာ, အသာဓာရဏောပမာ, ပဋိသေဓောပမာ, အဘူတောပမာဟူ၍ ၁၁ ပါး အပြားရှိ၏။

ထိုတွင် 'ဝိကာသိ ပဒုမံဝါတိ, သုန္ဒရံသုဂတာနနံ' ဟူသောဥဒါဟရဏ်၌ အလွန်ကောင်းသော မြတ်စွာဘုရား၏မျက်နှာတော်သည် အလွန်ကောင်းသောကြာကဲ့သို့ တင့်တယ်၏ ဟူ၍ ဥပမာ, ဥပမေယျတို့၏ ကောင်းသောဂုဏ်ကို အတူပြု၍ပြသောကြောင့် ဓမ္မောပမာ မည်၏။

'ဓမ္မဟီနာမုခမ္ဘောဇ-သဒိသံ မုနိနောဏ္ဏတိ'ဟူသည်၌' မြတ်စွာဘုရား၏မျက်နှာတော်သည် ကြာနှင့်တူ၏' သာဆို၍၊ သုန္ဒရ စသောဂုဏ်ကိုမဆိုဘဲ ဥပမာမျှဖြင့်ပြခြင်းကြောင့် ဓမ္မဟီနောပမာ မည်၏။

'တဝါနနမိဝမ္ဘောဇမိဝတေမုခံ'ဟူသည်၌ 'အရှင်ဘုရား၏မျက်နှာတော်သည် ကြာနှင့်တူ၏။ ကြာပဒုမ္မာ သည်လည်း အရှင်ဘုရား၏မျက်နှာတော်နှင့် တူ၏'ဟု အချင်းချင်း ဥပမာပြုသောကြောင့် အညမညောပမာ မည်၏။

'ဝိပရီတောပမာတုလျ-မာနနေနမ္ဗုဇံ တဝ' ဟူသည်၌ 'ကြာသည် အရှင်ဘုရားမျက်နှာတော်နှင့် တူ၏'ဟု ဥပမာဖြစ်သော ကြာကို ဥပမေယျ, ဥပမေယျဖြစ်သောမျက်နှာတော်ကို ဥပမာ-ဤ ဥပမာ, ဥပမေယျ ပြန်သောအားဖြင့် ဥပမာပြုခြင်းကြောင့် ဝိပရီတောပမာ မည်၏။

အဗ္ဘုတောပမာကား'ကျောက်ဖျာရေထဲ၊ ပေါ်နိုင်ခဲ့သို့' ဆိုသောစကား၊ 'တင့်တယ်သော ကြာပဒုမ္မာသည် လူတို့၏မျက်စိ,နားကို အကယ်၍ဖြစ်စေကာမူ အရှင်ဘုရား၏မျက်နှာတော်ကား တင့်တယ်ခြင်းဖြစ်၏'ဟုဆိုသော စကားတို့၌ သဘောပြကတော့ မဖြစ်ဘူးမြဲသောစကားကို ဥပမာပြုသောကြောင့် အဗ္ဘုတောပမာ မည်၏။

'သုဂန္ဓိ သောဘာ သမ္ဗုန္ဓိ, သိသိရဲသု ဝိရောဓိခံ တဝမ္မုဖံ ဝေတိ, သာ သိလေသောပမာ မတာ' ဟူသည်၌ 'ကောင်းသောအနံ့ရှိလျက် တင့်တယ်ခြင်းနှင့်စပ်၍ လရောင်၌ဆန့်ကျင်ဘက် တက်နေအရုဏ်[ဏ]တွင် ပွင့်သောကြာကဲ့သို့ အရှင်ဘုရားမျက်နှာတော်သည် ကောင်းသောအနံ့ ရှိတော်မူ၏။ တင့်တယ်ခြင်းနှင့်လည်း စပ်တော်မူ၏။ လရောင်၏ဆန့်ကျင်ဘက်ဖြစ်သော ရွှေအဆင်းအရောင်, တရားအရောင်တို့နှင့်လည်း ပြည့်စုံတော်မူ၏'ဟု 'သုဂန္ဓိ' စသောပုဒ်ကို ဥပမာ,ဥပမေယျ ၂ပါးလုံးမှာယှဉ်လျက် ထပ်၍အနက် ပေးအပ်သောကြောင့် သိလေသောပမာ မည်၏။ လင်္ကာ၌လည်း ရသင့်၏။ 'ဇာတိဉာဏ်ခိုင်၊ တပင်တိုင်ဖြင့်၊ မယိုင်မညွတ်၊ ခေါင်တမွတ်သို့၊ လွတ်လွတ်ဘုန်းရင့်၊ မတ်မတ်တင့်သား'ဟု ဂုဏ်ဝိသေနတို့ကို ဥပမာ, ဥပမေယျ ၂ပါး အနက်၌ထပ်၍ယူအပ်သောကြောင့် သိလေသောပမာ မည်၏။

သန္တေ၁နောပမာကား 'ဗာလာဝုယျာန မာလာယံ, သာလကာနနသောဘိနီ' ဟူသောဥဒါဟရဏ်၌ 'ဆံထုံး, မျက်နှာတို့ဖြင့် တင့်တယ်သောသတို့သမီးငယ်ကဲ့သို့ ဤ ဥယျာဉ်, ပန်းစဉ်သည် အင်ကြင်းတောတို့ဖြင့် တင့်တယ်၏' ဟူ၍'သာလကာနနသောဘိနီ'ဟူသောပုဒ်၌ သဒ္ဒသုတိ[၆]မပျက်စေဘဲ ဥပမေယျကိုငဲ့သောအခါ 'သာလကာနန'သဒ္ဒါသည် အင်ကြင်းတော ဟူသောအနက်၊ ဥပမာကိုငဲ့သောအခါ သာလက–အာနနဟု ပဒစ္ဆေဒပြု၍ ဆံထုံး, မျက်နှာ ဟူသောအနက်။ ဤသို့ အနက် ၂ပါး ရကောင်းသောသဒ္ဒါဖြင့် ဥပမာပြုသောကြောင့် သန္တာ၁နောပမာ မည်၏။ [ဤ သန္တာ၁နောပမာကို 'မတိတ်အားနည်း၊ မုန်တိုင်းသည်းလည်း၊ ယမ်းပည်းထွေငေါ်၊ ကျွန်နှင့်တော်သို့၊ထိုရော်အခါ၊ ချောင်းလျှက်လာ၏"ဟူသော လင်္ကာစသည်တို့၌လည်း ရသင့်၏။]

ဤလင်္ကာ၌ 'ယမ်းပည်းထွေငေါ်'ဟူသောစကားသည်။ 'ကျွန်နှင့် တော်သို့' ဟူသောဥပမာကိုငဲ့သောအခါ အရှင်တို့ ခြိမ်းမောင်းဆုံးမသံ အနက်ကို ဟော၏။ 'ချောင်းလျှက် လာ၏'ဟူသောဥပမေယျကို ငဲ့သောအခါ အမို့အယမ်းမရှိ သာယာဖြည်းညှင်းစွာ အနက်ကို ဟော၏။ ဤသို့'ယမ်းပည်းထွေငေါ်'ဟူသောဂုဏ်သည် ဥပမာ, ဥပမေယျ ၂ပါးယှဉ်၍ ပုဒ်ရင်းမပျက် အနက်တခြားစီ ဟောတတ်သောကြောင့် သန္တာ၁နောပမာ မည်၏။

'ကျေးကျွန် တို့သည် အရှင်ခြိမ်းမောင်းသံနှင့် တော်ကြိုက်သကဲ့သို့ မုန်တိုင်းလေတို့သည်လည်း ပါရမီ ၁၀ပါးကို ဘုရားလောင်းကြံစည်သောအခါ တော်ကြိုက်သည်ဖြစ်၍ မို့ယမ်းထန်ပြင်းခြင်း မရှိ။ သာယာဖြည်းညင်းစွာ ချောင်းလျှက် တည့်ညွှံ့လာ၏'ဟူလို။

နိန္ဒောပမာကား ဥပမေယျဂုဏ်ကို ဥပမာဂုဏ်မမီသဖြင့် ကဲ့ရဲ့၍ပြုအပ်သော ဥပမာသည် နိန္ဒောပမာ မည်၏။ 'ဤတည်းအစ၊ တွင်မှအဆုံး၊ ဂဏန်းကျုံးလည်း၊ မြေလုံးတောင်စုန့်၊ အမုန့်မလောက်၊ ကြားသော်ကြောက်အံ့'ဟူသောစကား၌ကဲ့သို့ နိန္ဒောပမာကို ယူအပ်၏။

အသာဓာရဏောပမာကား 'တစ္ဆံစန္ဒာ ရဝိန္ဒာန–မတိက္ကမ္မ မုခံ တဝ၊အတ္တနာဝ သမံ ဇာတ–မိတျသာဓာရဏောပမာ'ဟူသည်၌ 'နတ်လူတို့၏မျက်နှာကိုလွန်၍ အရှင်ဘုရား၏မျက်နှာတော်သည် အရှင်ဘုရားနှင့်သာ တူတော်မူ၏'ဟု သူတစ်ပါးနှင့် ဆက်ဆံခြင်းမရှိမူ၍ ဥပမာပြုခြင်းသည် အသာဓာရဏောပမာ မည်၏။ 'ငါနှင့်ငါသာ၊ နှိုင်းစရာဟု၊ ပညာမုန်ယို၊ ငယ်ရွယ်ပျိုက'စသည်ဖြင့်ဆိုသော စကားကိုလည်းယူ။

ပဋိသေဓောပမာကား ဥပမာကိုမြစ်၍ ဥပမေယျကို ချီးမြှောက်ခြင်းသည် ပဋိသေဓောပမာ မည်၏။ 'လောင်ထိန်တောက်ညီး၊ တန်ဆောင်မီးလည်း၊ စနီးစပ်ကာ၊ မန္တန်းသာသား၊ နာဂတံသ၊ ဉာဏကျော်ခေါင်၊ ပညာရောင်ဖြင့်'ဆိုသောလင်္ကာ စသည်မှာယူ။

အဘူတောပမာကား'ဘေရိ ကတွာ စက္ကဝါဠံ, သိနေရုံ ဒဏ္ဍေနဝိဟနံ။ တဝ သဒ္ဒေါ ဝိဘာဝတိ။' ဟူသော ဥဒါဟရုဏ်၌ 'စကြဝဠာအဝန်းကို စည်ကြီးဗဟို, မြင်းမိုရ်တောင်ကို စည်လက်ခတ်ပြုပြီး၍ ခတ်တီးသကဲ့သို့ အရှင်ဘုရား၏အသံတော်သည် အလွန်ထင်ရှား၏'ဟုဆိုသောစကားကဲ့သို့ အံ့ဖွယ်သရဲ ဥပမာပြုခြင်းသည် အဘူတောပမာ မည်၏။ 'ဝေးမင်းလုစ္စာ၊ ဗြဟ္မာ့ရွာကို၊ လက်သာဆန့်ယမ်း၊ မှီစိမ့်လှမ်းသို့၊ ကိုယ်စွမ်းကိုယ်ကိုး' စသည်ဖြင့်ဆိုသော စကားလည်း ၎င်းဥပမာပင်တည်း။

ဤသို့အားဖြင့် ပြားသော သဒ္ဒူပမာ ၁၁ ပါးတို့တွင် ဤပဏ္ဏာမဂါထာ၌ 'ဝေရောစနံဝိယ' ဟူသော ဥပမာသည် တရားတော်နှင့် ပတ္တမြားအရောင်ကို အတူပြု၍ဆိုသောကြောင့် ဓမ္မောပမာ မည်၏။ ဥပမာ[၉၇], ဥပမေယျ[၉၈] ၂ပါးစုံ၌ ပုလ္လိင်အဖြစ်ဖြင့် တူသောလိင် ရှိခြင်းကြောင့် 'သတို့သမီးငယ်ကား ယောကျ်ားနှင့်တူ၏' ဟုဆိုသော စကားကဲ့သို့ လိင်ခြားခြင်းဖြင့် မသင့်သော ဘိန္န လိင်္ဂူပမာ ဒေါသမှလည်း လွတ်၏။ ဤ ဥပမာ, ဥပမေယျ ၂ ပါးစုံ၌ ဧကဝုစ်ချည်းဆိုသောကြောင့် 'ကောင်းကင်သည် အင်း,အိုင်အပေါင်းတို့ကဲ့သို့ တင့်တယ်၏'ဟု ဆိုသောစကားကဲ့သို့ ဝုစ်မတူခြင်းဖြင့် မသင့်သော ဘိန္နဝစနူပမာ ဒေါသမှလည်း လွတ်၏။

မြတ်သောပတ္တမြား ဥပမာဖြင့် ဥပမေယျကို ချီးမြှောက်စား၍ဆိုခြင်းကြောင့် 'မင်းခယောကျ်ားသည် မင်း၌ခစားသောအခါ ခွေးကဲ့သို့ ကျင့်ရာ၏'ဟုဆိုသော စကား၊ 'သင့်စကားကို မြက်လောက်မျှ မမှတ်'ဆိုသော စကားကဲ့သို့ ဥပမာယုတ်သဖြင့် မသင့်သော ဟီနူပမာဒေါသမှလည်း လွတ်၏။ ဥပမေယျထက် လွန်သောဥပမာကို ဆိုခြင်းကြောင့် 'ပိုးစုန်းကြူးသည် နေကဲ့သို့ တောက်ပခြင်း ရှိ၏'ဟုဆိုသော စကားကဲ့သို့ ဥပမေယျနှင့်မတန်၊ အလွန်ကဲသောဂုဏ်ကို ဆိုခြင်းကြောင့် မသင့်သော အဓိကူပမာဒေါသမှလည်း လွတ်၏။ ဥပမာ, ဥပမေယျတို့၏ နှောင့်ယှက်ခြင်းမရှိ သိသာသည်၏အဖြစ်ကြောင့် 'သမုဒ္ဒရာတည်းဟူသော စစ်သည်ဗိုလ်ပါများစွာသည် ကြောက်မက်ဖွယ်ကြွေးကြော်ခြင်း အသံတည်းဟူသော သမုဒ္ဒရာချောက်ချား၏'ဟု ဆိုသောစကားကဲ့သို့ ဥပမာမှထောက်၍, ဥပမေယျကို ဥပမေယျမှထောက်၍ ဥပမာကို မတွေကောင်းအောင် တည်ရာမကျဆိုခြင်းဖြင့် မသင့်သော အဖောဋ္ဌဗ္ဗူပမာ ဒေါသမှလည်း လွတ်၏။

'ဝိရောစန မာဝိရောစ'ဟူသောပုဒ်ကို ဥပမာ, ဥပမေယျ ၂ပုဒ်လုံး၌ ကာရိုက်ကံအဖြစ်ဖြင့် ယှဉ်အပ်သောကြောင့် 'လဝန်း၌ ယုန်ရေးသည် ပိတုန်းကဲ့သို့ ထင်ရှား၏' ဟူသောစကားကဲ့သို့ 'လဝန်း၌' ဟူသောအာဓာရသည် 'ယုန်ရေး'၏တည်ရာ ဖြစ်၍၊ 'ပိတုန်း'၏တည်ရာ မဟုတ်ဘဲလျက် တစ်ချက်တည်းသော အာဓာရ ကိုသာဆိုသဖြင့် လဝန်း၌ ပိတုန်းကဲ့သို့ဟု စကားငဲ့ခြင်းရှိသည်ဖြစ်၍ မသင့်သော အပေက္ခနူပမာ ဒေါသမှလည်း လွတ်၏။ ဥပမာ, ဥပမေယျတို့ကို ဂုဏ်[၉၉]ဂုဏော[၁၀၀]အစုံဆိုခြင်းကြောင့် 'ယုန်ရေးနှင့်တကွသော လသည် ကြာတိုက်ကဲ့သို့ တင့်တယ်၏'ဟု ဆိုသောစကားကဲ့သို့ ဥပမေယျဂုဏ်ကိုသာဆို၍ ဥပမာဖြစ်သော ကြာတိုက်၏ဂုဏ်, ပိတုန်းနှင့်တကွ ဟူသောစကားကို မဆိုသည်ဖြစ်၍ ဥပမာ၏ဂုဏ်ပြတ်သဖြင့် မသင့်သော ခဏ္ဍိတူပမာဒေါသမှ လည်းလွတ်၏။

ဤသို့ ဥပမာဒေါသ ၇ ပါးတို့မှ လွတ်သည်ဖြစ်၍ ဤပဏ္ဏာမဂါထာ၌ 'ဝေရောစနံဝိယ'ဟူသော ဥပမာသည် ပညာရှိတို့၏နှလုံးကို ဝမ်းမြောက်စေတတ်သော ဥပမာ မည်၏။ ထိုသို့ပြခဲ့သော ဥပမာဒေါသ ၇ပါး တို့ကို ဒေါသမှလွတ်ကင်းအောင်ပြုခြင်းကား နယကောဝိဒ[၁၀၁]ဖြစ်သော ပညာရှိတို့အရာသာတည်း။

ဘိန္နလိင်္ဂူပမာဒေါသ၌ 'ဤသတို့သမီးငယ်ကား ယောကျ်ားနှင့်တူ၏'ဟုဆိုသော် ထိုဒေါသမှ လွတ်၏။ အဘယ့်ကြောင့်နည်းဟူမူ ပါဠိဘာသာ၌ 'အယံ', မြန်မာဘာသာ၌ 'ဤ' ဟူသောသဒ္ဒါတို့သည် လိင် ၂ပါး–

ဥပါးတို့နှင့်ပင် ဆက်ဆံလေသောကြောင့် ဥပမာနဒ္ဒ လိင်ပြားသော်လည်း ဘိန္နလိင်္ဂုပမာဒေါသ မရောက်ပြီ။ ထို့ကြောင့် အခွင့်ဒွိလိမ္မာသော ပညာရှိတို့ပြုလျှင် တစ်ခုတည်း, အနည်းငယ်မျှသာ ဖြစ်သည်ဟူ၍ မမှတ်သာ။ အရာကျသဖြင့် ဒေါသမမီ[၃၀၂]။ 'ဤသတို့သမီးငယ်ကား ဤယောက်ျားနှင့်တူ၏'ဟူသော အနက်ရောစွက်သော'ဤ' ဟူသောတစ်လုံးကြောင့် အသုံးပြုရပြန်လေသည်။ [ကြွင်းသောဒေါသူပမာတို့ကိုလည်း အပြစ်ကင်းအောင် ကြံရမည်ချည်းပင်။ များလွန်းအံ့စိုး၍ လိုရင်းသို့ရောက်ခဲ့သဖြင့် နိရုတ္တက[၃၀၃]ထင်သောကြောင့် မဆိုလိုက်သည်။]

ဤသို့ အတွင်း,အပ အန္တရာယ်ပျောက်ငြိမ်းခြင်း၊ ကျမ်းပြီးခြင်း၊ တောင့်တအပ်သောအလို ကုသိုလ်[၃၀၄] မင်္ဂလာ[၃၀၅] အဇ္ဈာသယ[၃၀၆] သုခသိဒ္ဓိ[၃၀၇] ပီတိ[၃၀၈]ရွှန်းဝေ ကျက်သရေတိုးပွားများစေခြင်း အကျိုးရှိသော ဆရာကျေးဇူးရှင်နှင့်တကွ ရတနာ ဥပါးတို့အား ညွတ်တွားထိပ်ထက် တင်ရွက်ရှိပန် ဗိတာန်[၃၀၉]အောင်ထီးကို ချီးမြှောက်မိုးကာ၍ မေတ္တာတော်အာနုဘော် ဘုန်းတော်ရိပ်အစွမ်းကို ချမ်းမြေ့စွာခိုလှုံလျက် အဓိပ္ပာယ်အနက် ဝှက်ကွယ်ခြင်းရှိသော ပါဠိတော်ရွှေတိုက် အမြိုက်ရည်လျှင်အဆီရှိသော တေမိယ ဇာတ်တော်ရတနာကို အခါခါတောင်းပန်အပ်သောသူတို့၏ အလိုနှင့်လျော်စွာ သဒ္ဓါ, သီလ, သုတ, ပညာ ပွားရာသောအကြောင်း သူတော်ကောင်း သူမြတ်တို့ မှတ်သားနာပျော်ဖွယ် မကျယ်မကျဉ်း အလျဉ်းသင့်ရာ ဥဒါဟရဏ်[၃၁၀]စုံလင်ပြကြား၍ စကားကျစ်လစ် ပြေပြစ်သန့်ရှင်းစွာ အစွမ်းအလျောက် ထုတ်စီပေအံ့။

ဤတွင်ရွေ့ကား ပဏာမ[၃၁၁], ထောမနာ[၃၁၂], သံဝဏ္ဏနာကာရ[၃၁၃], ဥယျောဇဉ်[၃၁၄], ပဋိညာဉ်[၃၁၅]တို့ကို ပြဆိုသော ဂန္ထာရမ္ဘပုဗ္ဗက[၃၁၆]စကားရပ် အပြီးသတ်တည်း။

## နိဒါန်း

မဟာကရုဏာ[၁၁၇]တော်တည်းဟူသော မိုးတိမ်တိုက်ကို တစ်ခဲနက်စကြဝဠာ[၁၁၈]ကုဋေတစ်သိန်းလုံး ဖုံးအုပ်သွန်းဖျန်း ရွှင်လန်းငြိမ်းဆေး ပေးတော်မူလျက် ဇမ္ဗူကျွန်း[၁၁၉]သူ လူရှင်အပေါင်း သောင်းတိုက်[၁၂၀] နတ်ဗြဟ္မာတို့၌ မြိုက်ရည်ချိုအေး တိုက်ကျွေးနှစ်လို့ အောင်မျို့[၁၂၁]ငြိမ်းရာ ပြည်သာနိဗ္ဗူ[၁၂၂]တင်ယူပို့ဆောင် အောင်သူများသခင်ဖြစ်တော်မူသော တရားမင်းဘုရားသည် ၈ ပါးပရိသတ်[၁၂၃]ကျင့်ဝတ်ယူရာ သာဝတ္ထိပြည်[၁၂၄]ကြီး၏ အနောက်တောင်ဝယ် ရန်အောင်ခိုက်ဖွားသော ဇေတမင်းသား၏ဥယျာဉ်ကို ရန်စင်ကင်းဝေးသော သူဌေးကြီး အနာထပိဏ်[၁၂၅]သည် ရွှေအချိန် ၁၈ ဖြင့်ဝယ်၍ ရန်စွယ်အဆိပ်အတောက် ဖျောက်ချေပယ်နုတ် ဝိမုတ်[၁၂၆]ငြိမ်းအေး ရှေးရှေးသောဘုရားအဆူဆူ အောင်သူတကာတို့ အောင်ရာဘိသိက်[၁၂၇] ဗျာဒိတ်အောင်ပွဲခံရာ မြေအချက်[၁၂၈]တွင် နှစ်သက်ဝမ်းမြောက် ဆောက်လုပ်အပ်သော နှံ့စပ်ကျော်ဝုန် ဇေတဝန်အောင်ထီး ရွှေကျောင်းကြီး၌ နေတော်မူသောအခါ မဟာဘိနိက္ခမ[၁၂၉] ပါရမီတော်ကိုအကြောင်းပြု၍ 'မာပဏ္ဍိစ္စံ ဝိဘာဝယ' အစရှိသော ဂါထာတို့ဖြင့် တန်းဆာခြယ်စီလျက် ဤ 'တေမိယ'ဇာတ်တော်ကို ဟောတော်မူ၏။

အဘယ်သို့ အကြောင်းဖြစ်သနည်းမူဟူကား တစ်နေ့သ၌ တပည့်သံဃာ ရဟန်းအပေါင်းတို့သည် အစည်းအဝေးပြုရာ တရားသဘင်၌ ဤသို့ နိက္ခမပါရမီတော်ကို ချီးမွမ်းကြကုန်၏။

"အရှင်တို့။လာခြင်းကောင်းသော မြတ်စွာဘုရားသည် ဖွားတော်မူဦးကပင် လူမှုနတ်မှုလက္ခဏာ ပါရှိကြောင်းအတ္တုပ္ပတ်[၁၃၀]ကို နိမိတ်ဖတ် [၁၃၁]ပုရောဟိတ်[၁၃၂]တို့ ကြားလျှောက်၍ ဝမ်းမြောက်ခြင်းသည်း သဖြင့် ခမည်းတော်မင်းတရားသည် ဖွားဖက်တော် မင်းသမီး, မင်းသား, အမတ်သားတို့နှင့်တကွ များစွာအခြံအရံ စံပျော်ဖွယ်အလုံးစုံ ဘုံနန်း ၃ဆောင် အထွတ်အမြတ်နတ်စည်းစိမ်သဖွယ်ကို အရွယ်တော်ရောက်ဦးစကပင် အပ်နှင်းသဖြင့် မင်းဖြစ်မြောက်၍ ဘယ်လောက်မျှကာလ မမြင့်မီလျှင် မအီမရောင့်ရဲ မခွဲရက်နိုင်အောင်သော ဘုံနန်းနေမင်းသမီးအပေါင်း ပျော်ကြောင်းပျော်ရာရှိ၍ ပျော်စရာအစုစု ပျော်မှုအမျိုးမျိုးယှဉ်သော်လည်း ဥယျာဉ်[၁၃၃]တော်က သံဝေဂနိမိတ်မှာ စိတ်တော်အလုံးဝင်သည်မှ နန်းရင်ပြင်ရှေ့တော်တွင် သဘင်ပျော်ရွှင်မှု သူ့အလိုရ ငါ့အလိုပါ မာယာအလှယ်လှယ် ကိုယ်အရွယ်တော်လည်း ပျိုနုတုန်း, နှလုံးတော်လည်း ရွှင်ချိန်, စည်းစိမ်တော်လည်း လက်ရှိ ညွှတ်မိသောရွှေဟင်္သာကဲ့သို့ ချွတ်ခွာရေးအခဲအကတ်မှ ဖြတ်တွန်း ပယ်ပစ်တော်မူလျက် နန်းသူနန်းသားအများအိပ်ပျော်စဉ် မြင်းယာဉ်တော်အထူးကို မြင်းမှူးအမတ်စီမံ၍၊ သန်းခေါင်ယံအချိန်တွင် မင်းစည်းစိမ်တော်ကြီးကို ဆီးဖြူတစ်လုံးခန့်မျှ မရေမတွက်ဘဲ ထွက်ကြွရွှင်လန်း ရဟန်းပြုတော်မူလျက် ဇမ္ဗူကျွန်းအလယ်ချက် ဖွားဖက်တော် ညောင်ဗုဒ္ဓဟေ[၁၃၄]ပင်ရင်း၌ မာရ်နတ်[၁၃၅]မင်းဗိုလ်ပါထုနှင့် စစ်ပြု၍မနိုင်လျှင် နှလုံးမခိုင်သူ ယိုင်လွယ်ရာကြံပြီးမှ သမီးနှင့်ဖြားယောင်းသည်တစ်လီ၊ လောကီကွန်ရက် နှောင့်ယှက်သည့် သံသရာဆူးငြောင့်ကို ကြောင့်ကြတော်မမူ နိဗ္ဗူအောင်ခန်း[၁၃၆]သို့ ဖြောင့်တန်းထုတ်ချောက် ထွက်မြောက်နိုင်သဖြင့်

ဦးကိုင်သရဖူ[၁၃၇] မှန်ကူသင်းကျစ်[၁၃၈]နတ်, လူ, ဗြဟ္မာတို့အထွတ် ဖြစ်လေသည်ကား အလွန်အံ့ဩဖွယ်ရှိပေစွ"ဟု အသီးအသီး ချီးမွမ်းမြှောက်စား စကားဖြစ်ကြကုန်၏။

ထိုအခါ မြတ်စွာဘုရားသည် အကျိုး ၂ ပါးပွားများရာအခွင့် ဟောသင့်သောအခါ ကြိမ်သည်ဖြစ်၍၊ ထွက်သစ်သောလပြည့်ဝန်းကဲ့သို့ ထွန်းလင်းရှင်ပျလျက် ဂန္ဓကုဋီ[၁၃၉]တိုက်မှ ထွက်ကြွတော်မူလာလတ်သဖြင့် ပရိသတ် တရားသဘင် သံဃာတော်အလယ် ကြီးကျယ်သောနေရာမြတ်၌ ဖွဲ့ခွေထက်ဝယ် စံပယ်တော်မူပြီးလျှင် "ငါ၏ တပည့်သားတော်အပေါင်းတို့။ ယခု ငါမရောက်မီ သင်တို့အစည်းအဝေးပရိသတ်၌ အဘယ်စကား ဖြစ်ကြသနည်း" ဟု မေးတော်မူသော်၊ တပည့်တော်အပေါင်းတို့သည်"ကိုယ်တော်မြတ်၏ မဟာဘိနိက္ခမ ပါရမီတော်ကို အလီလီချီးမွမ်း၍ ဆုံးခန်းသို့မရောက်နိုင်အောင် ရှိကြပါသည်"ဟု လျှောက်ထားကြလေကုန်၏။

ထိုအခါ မြတ်စွာဘုရားသည် တပည့်သံဃာတော်တို့၏ စကားကိုကြားတော်မူလျှင် တပည့်သားတော်တို့အား စကားဖြစ်သည်နှင့်လျော်စွာ ပါရမီဖြည့်သော ဇာတ်တော်အတ္ထုပ္ပတ်ကို ပညတ်တင်၍[၁၄၀] ကုန်စင်စွာ ဟောတော်မူလို သောကြောင့် "ငါ၏ တပည့်သားတော်အပေါင်းတို့။ ကောင်းစွာမဖောက်မပြန် လာခြင်းရှိသော ငါဘုရား၏ ၄ပါးသော နိမိတ်[၁၄၁] လန့်ထိတ်သောသံဝေဂအကြောင်းဖြင့် အပေါင်းပါရမီ[၁၄၂] စုံညီရင့်ဖြိုးတိုးပွားပြည့်ကြွယ် အောင်ဖွယ်မျိုး အပြီးရောက်သော မျက်မှောက်ကိုယ်တော် ယခုလူ့စည်းစိမ်ကိုစွန့်ပယ်လျက် ၅ သွယ်သောတရား[၁၄၃]ကို ထင်ရှားသိချင်သောစိတ် ကြီးပမ်း၍ ရဟန်းပြုခြင်း၊ အထွတ်အမြတ်ဆည်းပူးအပ်သော ပါရမီအပြည့် မှည့်ပြီးရင့်ပြီး၍ အသီးချိုသည်ကို ကြည်ညိုရွှင်လန်း ချီးမွမ်းသောထက် ဝင်းဝင်းစက်စက် မထွက်လောက်သော ပါရမီ အဆီရောင်သွေး ငယ်နုသေးသော ရှေးသံသရာ[၁၄၄]ကလည်း ပြည်မသနင်း[၁၄၅]မင်း၏ သားဖြစ်လတ်၍ နိမိတ်ဖတ် ပုဏ္ဏားတို့ ဖွားစကပင် ၄ကျွန်းရှင်လက္ခဏာ ပါရှိကြောင်းကို ဖတ်ကြားကြလျှင် အားရအင်တက် ဖွားဖက်ရွှေဖော်နှင့် ခမည်းတော်မြှောက်စားပြုစုသော် မတော်မတန် အပြစ်ဒဏ်အလျောက် ၄ယောက်သောသူခိုး နိမိတ်ဆိုး ၄ရပ်ကို အတပ်မြင်၍ ဆင်ခြင်သောဉာဏ်ဖြင့် သံဝေဂ[၁၄၆]ဖြစ်ကြောင်း ဘဝဟောင်းကဆင်းရဲလည်း ဖြစ်ဆဲကဲ့သို့ ထင်သည်နှင့်မယွင်း လန့်ထိတ်ခြင်းဖြစ်သည်မှ မိဘဆွေမျိုး မှူးရိုးမတ်သား အများရွှေဖော် ပျော်ကြောင်းအထူး တစ်ဦးမလိုက် တစ်ဦးကြိုက်လိုက်၍ အလိုစမ်း ရွှင်လန်းပျော်ပါးစေမှု ပြုကြမူလည်း စွဲယူစိတ်ဟောင်း မစောင်းမဖယ် အရွယ်ရောက်ပြီးလျှင်လည်း လက္ခဏာအင်ခွင်စုံလင်သော မင်းသမီးတို့ မင်းကြီးဝယ်အာမခံ၍ ဈာန်[၁၄၇]ရ လောကီ အဆီအဘိညာဉ်[၁၄၈]ကိုယှဉ်မိလျှင် မရွှင်မလန်း ခန်းလောက်အောင် စီမံလျက် အတန်တန်ဖျောင်းဖျသော်လည်း နိရောဓသမာပတ်သို့ ဆည်းကပ်သောရဟန္တာအသွင် တဒင်္ဂဉာဏ်စိတ်ကို မလိပ်မလည်းချုပ်တည်း ဆောက်တည်သဖြင့် ပြည်ကြီးစည်းစိမ် ထီးဖြူရိပ်ကို အဆိပ်သဖွယ်မှတ်လျက် အဇ္ဈတ္တသန္တာန်[၁၄၉]၌ ဉာဏ်လက်နက်ဝဇီရစိန်[၁၅၀]ကို အချိန်အခါမတော်၍ မဖော်မထုတ် အင်မယုတ်သောကိုယ်ကို သူမလိုအောင်ပြု၍ အမှုအမျိုးမျိုးစူးစမ်းရိုးဆုံးခန်းသဖြင့်၊ အမတ်ရထားမှူးကို မြင်းထူးမြင်းမြတ် ကအပ်သောရထားထက်တင်လျက် တိုင်းခွင်ပြည်ကြီး လူမနီးသောတောသို့ ပို့စေ၍ မြို့သို့ပြန်လည်သည့်နောက် ဝမ်းမြောက်စွာရဟန်းအဖြစ်ဖြင့် ပွင့်လင့်လုကြာပဒုံကို နေအရှဏ်းကွ့သကဲ့သို့ ၇ နေ့ရက်အတွင်း ဖန်ဆင်းခြင်းအဘိညာဉ် ဈာန်ယာဉ်တရား ကားကားပွင့်ပြီးမှ မင်းကြီးအား ရထားမှူးလျှောက်၍ ဘုန်းတောက်သောလက္ခဏာရှင် စစ်စစ်ဖြစ်ကြောင်းကို ကြားပြန်လျှင် မင်းမာန်ရော အချစ်သန် မပြန်ဘဲ ပြည်သို့နေရမည်မဟုတ်ဟု အားထုတ်၍ ဗိုလ်ထုဗိုလ်လုံး မင်းဘုန်းကျက်သရေဖြင့် နေရာသင်္ချိုင်း[၁၅၁]သို့

လာလတ်လျက် နေ့ရက်အရှည်အကြန့် ငုံ့လင့်သွေးငင် အခင်အမွတ် စိတ်ညွတ်ဖွယ်ရာ ကာမဂုဏ်[၁၅၄]အာရုံ အလော်အလက် နှောင့်ယှက်ခြင်းအတန်တန် တောင်းပန်သည်ကိုလည်း ပျို့သက်ရွယ်နု ပျော်မှုအာရုံ ကာမဂုဏ်ကျေးဇူးနှင့် မူးယစ်ချိန်ဖြစ်လျက် အမြစ်ကြိုင်မွေး မသေဆေး[၁၅၅]ကိုသာ ရှာလိုသောစိတ် မလိပ်မလည်း ချုပ်တည်းတည်ကြည်၍ ပြည်ကြီးစည်းစိမ်ကို စွန့်ပစ်နိုင်ဖူးလေသော နိက္ခမပါရမီ[၁၅၆]ကိုလည်း အလွန်အံ့ဩဖွယ် ရှိတုံ့သေး၏”ဟု တရားပွဲကြီး ထွက်ပြတော်မူလို၍ စကားဝှံချီး[၁၅၇] မြွက်ဟတော်မူပြီးလျှင် အရဟတ္တဖိုလ်ဝင်စားလျက် ဉာဏ်တံခါးပိတ်၍ ဆိတ်ဆိတ်နေတော်မူ၏။

ထိုအခါ တပည့်သားတော်အပေါင်းတို့သည်“အရှင်ဘုရား။ ယခု ကိုယ်တော်အဖြစ်၌ နှစ်သက်အံ့ဩဖွယ် ကိုကား မကွယ်မဖုံး လောကလုံးထင်ရှားသည်ဖြစ်၍ နှစ်သက်ပီတိ သိကြရပါပြီ။ ဤ အမြွက်ဖော်သော ဇာတ်တော်အတ္ထုပ္ပတ္တိကို စေ့စပ်ကုန်စင် ထင်ရှားသိသာအောင် ဟောတော်မူပါမှ တပည့်တော်အပေါင်းတို့ အကျိုးစီးပွား များပါမည်”ဟု တောင်းပန်လျှောက်ထားကြလတ်သော်၊ မြတ်စွာဘုရားသည် သတ္တဝါတို့အား သနားခြင်းမဟာကရုဏာ ပြင်းသန်းသော မဟာကြိယာ ဉာဏသမ္ပယုတ်[၁၅၈]စိတ္တုပ္ပါဒ်[၁၅၉]ဇော[၁၆၀]အခါခါ အာဝဇ္ဇန်း[၁၆၁] လျှင်တော်မူလျက် မဇ္ဈ[၁၆၂]သဝဏီယ[၁၆၃] စသော ဂုဏ် ၈ အင်[၁၆၄]အစုံအလင်ဖြင့် ကောင်းကင်တောင်ထိပ်ကရေတံခွန် တသွန်တည်းဆင်းသကဲ့သို့ အတွင်းတွင်ထောက်၍ လျှောက်ခွင့်မရ အစ, အလယ်,အဆုံး ရွဲလုံးစီပုလဲသီ တညီတည်းနာမငြီး အပြီးတိုင်အောင် ဤ တေမိယဇာတ် အတ္ထုပ္ပတ္တိတော်အလုံးစုံကို အကုန်အစင် သိမြင်မှတ်သား တရားရစေကြောင်း ကောင်းစွာ ဟောတော်မူပေ၏။

# တေမိယဇာတ်တော်ကြီး

## ၁။ သားဆုတောင်းခန်း

လွန်လေပြီးသောအခါ ဗာရာဏသီ[၁၆၅]ပြည် ကာသိတိုင်းကိုအစိုးရသောကြောင့် 'ကာသိကရာဇ်' အမည်ရှိသောမင်းသည် မင်းပြု၏။ ထိုမင်းကား –

အလှူပေးခြင်း၊ သီလဆောက်တည်ခြင်း၊ စွန့်ကြဲပေးကမ်းချီးမြှောက်ခြင်း၊ ဖြိုးဖြောင့်စွာကျင့်ခြင်း၊ ဆွေမျိုးခြွေရံ, မှူးမတ်, ပြည်သူတို့နှင့် မဆန့်ကျင်ခြင်း၊ သည်းခံခြင်း၊ အမျက်စောင်းမာန် မထန်ပြင်းခြင်း၊ ပြည်သူတိုင်းသားတို့အား ညှဉ်းဆဲကလူ အပူမတိုက်ခြင်း၊ နူးညံ့သောကရုဏာ, မေတ္တာကိုသာ အခါမပြတ် ရှေးရှုခြင်း၊ တရားလမ်းရှိတိုင်း ဖြောင့်မှန်ရာသဘောကိုသာ အလိုရှိခြင်း တည်းဟူသော မင်းကျင့်တရား ၁၀ပါးနှင့်လည်းကောင်း၊ သင်္ဂဟတရား ၄ပါး[၁၆၆], နာယကဂုဏ် ၆ပါး[၁၆၇]စသော မင်း၏ကျေးဇူးတို့နှင့် လည်းကောင်း ပြည့်စုံ၏။ ကိုယ်လုပ်[၁၆၈]မောင်းမ[၁၆၉]တို့ကား ၁ သောင်း ၆ ထောင် အရေအတွက် ရှိကုန်၏။

အဆင်းအင်္ဂါ လက္ခဏာနှင့်ပြည့်စုံသော မိန်းမကောင်းပေါ်ထွန်းရာ မဒ္ဒရာဇ်[၁၇၀]တိုင်း သာဂလပြည်၌ မဒ္ဒရာဇ်မင်း၏သမီးတော် စန္ဒာဒေဝီ[၁၇၁]မည်သောမိဖုရားကား ထို ၁ သောင်း ၆ ထောင်သော မင်းမောင်းမတို့၏ အထွတ်အချာ တောင်ညာနန်းမ အဂ္ဂမဟေသီ [၁၇၂]အရာထားသော မိဖုရားကြီးတည်း။ ထို စန္ဒာဒေဝီမိဖုရားကြီးကား လင်၏ အလိုသို့လည်း လိုက်၍ကျင့်တတ်၏။ အလှူ, သီလ အစရှိသော ကုသိုလ်တရား၌လည်း မွေ့လျော်၏။ ဥပုသ်နေ့ တို့၌လည်း မပြတ်လျှင် အင်္ဂါ ၈ပါးနှင့်ပြည့်စုံစွာ ဥပုသ်[၁၇၃]သုံး၏။ [မိန်းမကောင်းပေါ်ထွန်းရာ မဒ္ဒရာဇ်တိုင်း ဟူရာ၌ 'မဒ္ဒရဋ္ဌံကိရ အဘိရူပါနံ ဣတ္ထီနံ ဥပ္ပတ္တိဋ္ဌာနံ'ဟူသော ဥပရိပဏ္ဏာသ အဋ္ဌကထာနှင့် အညီတည်း။]

ထိုမိဖုရားကြီးမှစ၍ မင်းမောင်းမအပေါင်းတို့တွင် တစ်ယောက်သော မိဖုရား, မင်းမောင်းမတို့မျှလည်း သားသမီးကား တစ်ယောက်မျှ မရှိကြကုန်။ထိုသို့ မရှိကုန်သောကြောင့် ဗာရာဏသီပြည်သူပြည်သားအပေါင်းတို့ သည် "ငါတို့အရှင်မင်းကြီး၌ ထီးရိုးနန်းနွယ်ကို စောင့်ရှောက်အံ့သော သားတော် တစ်ယောက်မျှ မရှိ။ ကိုးကွယ်ဟောင်း, အနွယ်ဟောင်းပျက်၍ အနွယ်သစ်ဆက်ပြန်အံ့သော အမျိုးဟူသည်၌ ဆိုး,ကောင်း,ယုတ်,မြတ်ကို အတပ်မည်သူမျှ မသိနိုင်ရာ။ ငါတို့ မင်းရင်ပြင်[၁၇၄]၌ အညီအညွတ်စည်းဝေး၍ အရှင်မင်းကြီးအား သားဆုတောင်း မည့်အကြောင်းကို လျှောက်ထားရသော် ကောင်း၏"ဟု တိုင်ပင်ကြပြီးလျှင်၊ နန်းတော်ပြင် တံခါးဝ၌ အညီအညွတ် စည်းဝေးလာကြလတ်၍

"တရား ၁၀ပါး စောင့်တော်မူသည်နှင့်အညီ ပြည်သူတိုင်းသားတို့အား သနားမေတ္တာ ချမ်းသာပေးတော် မူခြင်းဖြင့် ဘုန်းတော်အလွန်ကြီးမြတ်တော်မူလှသော အရှင်မင်းမြတ်။ အရှေ့ရပ်ကျွန်းမှ တက်ထွန်းသော နေမင်းသည် ရန်လင်းမှောင်ဖြို နေ့ပဟိုရ်[၁၇၅]နာရီပတ်လုံးထွန်း၍ မြောက်ကျွန်းသို့ ပြောင်းကြွသဖြင့် ညဥ့်အချိန်သို့ ရောက်ခဲ့သော် နှုန်းလျော်နေမင်းအသွင် လျှံထင်လပြည့်ဝန်း ထွန်းပါလတ္တံ့သော လပြည့်နေ့နှင့်အတူ ဤပုရနဂရ[၁၇၆] ဗာရာဏသီ မင်းနေပြည်တော်ကြီးဝယ် နေစွယ်မကသော အရှင့်သားဘုန်းရောင်ခြည် လှည့်လည်ပြောင်းကြွခဲ့လျှင် ရင်နှစ်သားတော် ထင်ပေါ်လပြည့်ဝန်း ထွန်းပရာမမြင်။ ဆင်ခြင်မြော်ဆတိုင်း သောက[၁၇၇]ဖြစ်ကြပါသောကြောင့်

ဘုန်းနွယ်တော်နေမျိုး ထီးရိုးနန်းညွန့် အစွန့်ရှည်ဆက် မပျက်ပါကြောင်း ကောင်းစွာ သားဆုတောင်းတော်မူပါ”ဟု ထိပ်ဦးလက်ချီ အညီကျူးအေး[၁၇၈] မြည်ကြွေးလျှောက်ထားကြကုန်၏။

ထိုပြည်သူပြည်သားတို့၏ ကြွေးကြော်လျှောက်ထားသံကို ကာသိကရာဇ်မင်းကြီး ကြားတော်မူလေသော် ပြကတော့[၁၇၉] ကာလ၌ ပြည်သူတို့အား ‘လ’ကဲ့သို့ ကျင့်လေ့ရှိသည်နှင့်အညီ “ယခု ပြည်သူတို့ကြွေးကြော်ကြသော အသံကား အဘယ်အကြောင်းနည်း”ဟု နူးညံ့သောနှလုံးဖြင့် မေးတော်မူ၍ မှူးတော်မတ်တော်တို့က အကြောင်း ပြန်ကြားလျှောက်ထားကြလျှင်

“အချင်းပြည်သူပြည်သားတို့။ ကောင်းပြီ။ သင်တို့လျှောက်ထားတိုင်း ငါ၏မိဖုရားတို့ကို သားဆုတောင်းစိမ့်မည်။ မစိုးရိမ်ကြလင့်။ ဘုန်းပွင့်သော သားကောင်းရတနာဖြင့် ချမ်းသာနောင်ဖို့ သင်တို့ ပြည်သူပြည်သား စီးပွားပြန့်ကြွယ်လတ္တံ့”ဟု နှစ်သိမ့်စေ၍ လွှတ်လိုက်ပြီးသော်၊ စန္ဒာဒေဝီ မိဖုရားကြီးမှတစ်ပါးသော ကိုယ်လုပ်မင်းမောင်းမအပေါင်းကိုခေါ်၍

“အဘယ်[၁၈၀]မိဖုရားတို့။ ယခု ပြည်သူတို့က အိမ်ရှေ့နန်းလျာ တောင်းချေသည်။ ငါ၌ ပေးစရာ မရှိသေး။ အလေးအမြတ် သင်တို့ကိုးကွယ်ရိုး ရှိသည့်အတိုင်း ကိုးကွယ်ကျိုးနွံ[၁၈၁]ခြင်းဖြင့် နန်းညွန့်နန်းလျာအလို့ငှာ သားဆု တောင်းကြလေ”ဟု ခန့်ထားအာဏာ[၁၈၂]ရာဇသံ[၁၈၃]ပေးတော်မူ၏။

[ဤသို့သောအရာ စသည်တို့၌ ဓမ္မရာဇ်မင်းတို့မည်သည် နေကဲ့သို့ ကျင့်သောအရာတည်း။]

ထိုသို့ မင်းကြီးအမိန့်ကို ရွက်ဆင်ကြရပြီးသော် ၁ သောင်း ၆ ထောင်သော မောင်းမအပေါင်းတို့သည် မိမိတို့ ကိုးရိုးကွယ်ရိုးရှိသည့်အတိုင်း အသီးအသီး စန္ဒီ, ပရမိသွာ, မဟာပိန္နဲ, ဗိဿနိုး, ပရမေသွာရ အစရှိသော နတ်တို့ကို ပူဇော်တင်ကိုး၍ သားဆုတောင်းကြကုန်၏။ ထိုသို့တောင်းကြသော်လည်း သူတော်ကောင်း အလောင်းအလျာ သန္ဓေနေရာတိုက်ဖြစ်ကြောင်း ကောင်းစွာကိုယ်ကိုကား ရှိသေစွာစောင့်ထိန်းမည့်အကြံ မရှိ။ တော်မိတော်ဘြား ကံတရားအားကြီးစွာ စေခိုင်းလှမှ မ,စဖော်အချို့ရသော နတ်ကိုသာအမြတ်ပြု၍ ကိုးကွယ်ကြသော ကြောင့် နောင့်ယှက်သောသန္ဓေ၏အန္တရာယ်ကို မကွယ်မဆီးနိုင်သဖြင့် တစ်ယောက်သော မင်းမောင်းမမျှ သားကိုလည်းကောင်း, သမီးကို လည်းကောင်း မရရှိနိုင်ကြလျှင် မင်းကြီးအား အကြောင်းကို လျှောက်ထားကြကုန်၏။

ကာသိကရာဇ်မင်းကြီးလည်း မင်းမောင်းမတို့က သားမရနိုင်ကြောင်း စကားကိုလျှောက်ထားကြ၍ ကြားရပြီးလျှင် စန္ဒာဒေဝီ မိဖုရားကြီးကိုခေါ်၍ “အဘယ်။ သင်လည်း သားဆုကို တောင်းပါ”ဟု တိုက်တွန်းလတ်သော် စန္ဒာဒေဝီမိဖုရားကြီးသည် “နေရာမသန့်စင်လျှင် ဘယ်ဘုန်းကံရှင် ဝင်နားအံ့နည်း။ ကိုယ်အကျင့် မမြတ်လျှင် နတ်ကောင်းလည်း မ,မချင်၊ ဘယ်ဘုန်းကံရှင်လည်း မစွဲနေ၊ ကျက်သရေ မဝင်ရာ”ဟု ကုသိုလ်ရင်းပါရမီ အလီလီဝါသနာ ထုံကပ်လျက်ပါသောကြောင့် ဖြောင့်မှန်ရာအယူ၌တည်သဖြင့် လင်၏အလိုသို့လိုက်ခြင်း, ပဥ္စင်္ဂသီလ၌မြဲခြင်း စသော အလေ့အကျင့်ကောင်း ပြည့်စုံဟောင်းတွင် မင်းကြီးတိုက်တွန်း၍ “ကောင်းပါပြီ” ဝန်ခံသည်မှ လပြည့်နေ့ကြိမ်သောအခါ အင်္ဂါ ၈ ပါးနှင့်ပြည့်စုံသော ဥပုသ်သီလကို မကျိုးမပေါက် မပြောက်မကြား[၁၈၄]ရအောင် တစ်နေ့ပတ်လုံး ကောင်းစွာဆောက်တည်လျက်၊ ညဦးအခါ၌လည်း မင်းသုံးစိုးသင့် နေရာမြင့်နေရာမြတ်ကို အလပ်ထား၍ တစ်ပါးသော နေရာနိမ့်နေရာညံ့ အခန့်တန်ရုံသော စက်မွေ့ရာထက်လျှောင်းလျက် စင်ကြယ်စွာဆောက်တည်အပ်သော သီလကိုဆင်ခြင်ခြင်းနှင့် လင်းအားကြီးညဦ့ပဟိုရ် ရောက်လတ်သော် မိမိသီလကို အာရုံပြု၍ ရွှင်လန်းဝမ်းမြောက်ခြင်း မဟာကုသိုလ်ဇောဖြင့်

‘သစာဟံ အက္ခဏ္ဍာသီလံ ရက္ခာမိ

ဣမိနာ မေသစ္စေန ပုတ္တောဥပ္ပဇ္ဇတု။ ။’

"အကယ်၍ ငါသည်မကျိုးမပျက် သီလကိုစောင့်ရှောက်သည်ဖြစ်အံ့။ ဤသို့ မကျိုးမပျက် စောင့်၏ဟု ထင်တိုင်းအမှန်ဆိုသော သစ္စာစကားကြောင့် ငါ့အား သားဆု ပြည့်စေသတည်း"ဟူ၍ သစ္စာပြုလေ၏။

ထိုအခါမိဖုရားကြီး၏ သီလတန်ခိုးဖြင့် သိကြားမင်း၏နေရာ ပဏ္ဍုကမ္ဗလာကျောက်ဖျာ[၁၈၅]သည် သိကြားမင်းအား ပူပြင်းတင်းမာသောအခြင်းအရာကို ပြပေ၏။ သိကြားမင်းလည်း 'အဘယ်အကြောင်း ကြောင့်နည်း'ဟု ကြည့်ရှုဆင်ခြင်လတ်သော် စန္ဒာဒေဝီမိဖုရားကြီးသည် သားဆုကိုအလိုရှိ၍ သစ္စာပြုကြောင်း အလုံးစုံကိုသိမြင်သဖြင့် 'ငါကား မျက်စိ ၁၀၀၀ အမြင်ဆောင်သော နတ်မင်းဖြစ်လျက် မဆင်ခြင်မိ၍မသိ။ အသက်မရှိသောကျောက်ဖျာကား စန္ဒာဒေဝီမိဖုရား၏ဂုဏ်ထူးကို ရှေးဦးစွာသိသကဲ့သို့ ဖြစ်လေ၏။ ယခုပင် မိဖုရားကြီးအား ထိုက်တန်သောသားဆုကို ပေးအံ့'ဟုကြံပြီးမှ မိဖုရားကြီးအား လျောက်ပတ်သောသားကို တာဝတိံသာ[၁၈၆]နတ်ပြည်၌ ရှိ၏လော, မရှိလောဟု စူးစမ်းကြည့်ရှုလတ်လျှင် ဘုရားလောင်းနတ်သားကို မြင်လေ၏။ ဘုရားလောင်းနတ်သားသည်လည်း တာဝတိံသာ၌ နတ်သားမဖြစ်မီ တတိယဘဝက ဗာရာဏသီပြည်ဝယ် အနှစ် ၂၀ ပတ်လုံး မင်းပြု၍ သုစရိုက်[၁၈၇]တရား အားလျှော့ချေသောကြောင့် နှောင့်ယှက်သောအကုသိုလ်ဖြင့် ထိုမင်းအဖြစ်မှ စုတေလျှင်[၁၈၈]ဥဿဒရက်ငရဲငယ်၌ လူတို့အရေအတွက်အားဖြင့် အနှစ် ၈ သောင်းပတ်လုံး ကျက်၍၊ ထို ဥဿဒရက်ငရဲမှ စုတေလတ်သော် တာဝတိံသာနတ်ပြည်၌ နတ်သားဖြစ်တော်မူ၏။

ထိုသို့ သိကြားမင်းဆင်ခြင်သောအခါ ဘုရားလောင်းနတ်သားသည် တာဝတိံသာနတ်ပြည်၌ နတ်သက်တမ်းရှိတိုင်း လူတို့အရေအတွက်အားဖြင့် အနှစ် ၃ ကုဋေ ၆သန်းတိုင်တိုင် စံစားပြီး၍ နတ်သက်တမ်း ကုန်သော်လည်း ကုသိုလ်တော်အာနုဘော် မကုန်နိုင်သေးသောကြောင့် 'အထက်ယာမာ[၁၈၉]နတ်ပြည်သို့ ပြောင်းလဲစံအံ့'ဟု နှလုံးတော်ညွတ်လျက် နေလေ၏။

သိကြားမင်းသည်လည်း 'စန္ဒာဒေဝီမိဖုရား၏ သားဖြစ်မည့်အကြောင်းကို တောင်းပန်အံ့'ဟုကြံ၍ ဘုရားလောင်းနတ်သား၏ဗိမာန်[၁၉၀]သို့သွားပြီးလျှင်

"ငါနှင့်တူသော အချင်းနတ်သား။ သင် ယခု အထက်နတ်ပြည်သို့ ပြောင်းလဲစံမည့်အကြံသည်ကား စီးပွား မရှိလွန်း။ လူ့ပြည်၌ဖြစ်ပါသော်ကား သင်အားလည်း များစွာပါရမီကို ဖြည့်ရလတ္တံ့။ သူခပ်သိမ်းတို့အားလည်း များစွာသောအကျိုးစီးပွား ဖြစ်လတ္တံ့။ ယခု ကာသိကရာဇ်တိုင်း ဗာရာဏသီပြည်၌ ကာသိကရာဇ်မင်းကြီး၏ မိဖုရားကြီး စန္ဒာဒေဝီသည် မြတ်သောသီလအကျင့်နှင့် ပြည့်စုံစွာသော သားကောင်းသားမြတ်ဆုကို တောင်း၏။ ထိုမိဖုရားကြီးဝမ်း၌ ပဋိသန္ဓေ[၁၉၁]ယူစေချင်ပါသည်"ဟုဆို၍ ဘုရားလောင်းမှတစ်ပါး စုတေခါနီးဖြစ်ကုန်သော နတ်သား ၅၀၀ တို့ကိုလည်း အခြံအရံဖြစ်စေခြင်းငှာ ထို ကာသိကရာဇ်မင်း၏ အမှူးအမတ်သား ဖြစ်ကြပါမည့် အကြောင်းကို တိုက်တွန်းသဖြင့် ဝန်ခံစေ၏။

ဤအရာ၌ သိကြားမင်း[၁၉၂]သည် မိမိနှင့် စည်းစိမ်အခြံအရံ သမ္ပတ္တိ[၁၉၃]ချင်းမတူဘဲလျက် ဘုရားလောင်း နတ်သားကို 'သမ္မာရိသ'(ငါကဲ့သို့သော နတ်သား)ဟု အဘယ်ကြောင့် ဆိုသနည်း။ အဓိက္ကူပမာ ဒေါသ[၁၉၄]မရောက် ကောင်းပြီလော ဟူမူ မြောက်စားအပ်သောအခါ၌ မြောက်စားလိုသည်ဖြစ်၍ အစိုးရချင်းမတူသော်လည်း သူ့စီးပွားကို သိကြားမင်းလည်း ဆောင်၏။ ဘုရားလောင်းလည်း ဆောင်၏။ ဤသို့ ပရဟိတ[၁၉၅]ကို ဆောင်ရွက်ချင်း ဂုဏ်တူသည်ဖြစ်၍ လည်းကောင်း, တစ်စိတ်အားဖြင့် နတ်စည်းစိမ်ကို စိုးစံချင်းတူသည်ဖြစ်၍ လည်းကောင်း ကေဒေသူပစာရ[၁၉၆]အားဖြင့် သိကြားမင်းဆိုခြင်းကြောင့် အဓိက္ကူပမာဒေါသ မရောက်။ ဆိုထိုက်၏။ ဤသို့ချည်း ချစ်၍လည်းကောင်း, ချီးမြှောက်၍လည်းကောင်း ဆိုရာဥပမာစကားတို့၌ နည်းတူမှတ်အပ်၏။

## ၂။ ပဋိသန္ဓေနေစဉ်

ဤသို့ ဘုရားလောင်းနတ်သားသည် သိကြားမင်းအား"ကောင်းပါပြီ"ဟုဝန်ခံ၍ တာဝတိံသာမှ စုတေသည်၏အခြားမဲ့၌လျှင် စန္ဒာဒေဝီမိဖုရားကြီးဝမ်း၌ ပဋိသန္ဓေစွဲယူတော်မူလေ၏။ ဘုရားလောင်းပဋိသန္ဓေယူသောခဏ၌ပင်လျှင် စန္ဒာဒေဝီမိဖုရားကြီးဝမ်း၌ ဝဇိရစိန်ရွဲ ပြည့်သကဲ့သို့ ပျိုးပျိုးရွှန်းရွှန်း ထွန်းလင်းတောက်ထိန်အရှိန်အလျှံ ခိုက်လာသောအသွင် ထင်သည်ဖြစ်၍၊ မိမိအား သားဆုပြည့်ကြောင်းကို သိလတ်သဖြင့် နံနက်မိုးသောက်ရောက်သောအခါ မင်းကြီးအား ကြားလျှောက်လေသော် ကာသိကရာဇ်မင်းကြီးလည်း အလွန်နှစ်သက် ဝမ်းမြောက်ခြင်းရှိသည်ဖြစ်၍ ပဋိသန္ဓေ၏အန္တရာယ် မရှိစေခြင်းငှာ အပ,အတွင်း မင်းတို့အကွယ် အကာပြုရိုးတို့ဖြင့် ကောင်းစွာအစောင့်အရှောက်ထားပေ၏။ နတ်သား ၅၀၀ တို့သည်လည်း ဘုရားလောင်းနှင့်မရှေးမနှောင်းပင်လျှင် တာဝတိံသာမှ စုတေခဲ့ကြ၍ ကာသိကရာဇ်မင်း၏ မှူးတော် မတ်တော်တို့အိမ်၌ အသီးအသီး ပဋိသန္ဓေစွဲယူကြလေ၏။

[‘ဝဇိရစိန်ရွဲ ပြည့်သကဲ့သို့’ ဟူသောစကား၌ ဝဇိရစိန်သဘောကား ပိတ်ဆို့ဆီးကာခြင်းကို ဖောက်ထွင်း၍ဖြစ်တတ်, သွားတတ်သောကြောင့် ဝဇိရစိန် မည်သည်။ ထူထပ်စွာအကာရှိသော တိုက်ဖြစ်စေကာမူ ဝဇိရစိန်ဖြင့် ပြည့်သည်ရှိသော် ဖန်ခွက်ထဲ၌ ရဲရဲတောက်သောပတ္တမြားနီကို ထားသကဲ့သို့ ဆီးတားခြင်း မထင်။ ပြင်သို့ အရောင်အဝါထွက်၏။ ဘုန်းရှိသောသူ ပဋိသန္ဓေစွဲယူသည်ရှိသော် ထိုဝဇိရစိန်ဖြင့် ပြည့်သကဲ့သို့ ဘုန်းရောင်အရှိန်အဝါ ဝင်းဝင်းညီးမျှ အမိနှလုံး၌ ထင်လာသည်ကိုရည်၍ ‘ဝဇိရပုဏ္ဏာဝိယ’ဟုဆိုသည်။ ပဋိသန္ဓေယူစ သိမ်မွေ့လှစွာသော ကလလရေကြည် ရုပ်ပါရုံကိုကား တိုက်ပြင်က မဆိုနှင့်ဦး။ အနီးကပ်ကြီးကြပ်၍ပင် မျက်စိကောင်းလှသူ ကြည့်သော်လည်း လူ၏မျက်စိဖြင့် မမြင်စကောင်း။ အဘိညာဉ်မျက်စိ, နတ်မျက်စိတို့၏ အရာသာဖြစ်သည်။ ထို့ကြောင့် ဘုန်းရှိသောသားဖြစ်မှု အိပ်မက်, နိမိတ်, အရောင်အဝါတို့ဖြင့် ပြ၍ဖြစ်ခြင်းဖြင့် ပဋိသန္ဓေစွဲယူစကပင် အမိတို့သာ သိကြ၏။ သာမညသားဖြစ်မှုကား မိမိတို့မှတ်မြဲတိုင်း သဘောထူးမှသာ သိရသည်ဟု မှတ်အပ်၏။

[စန္ဒာဒေဝီမိဖုရားကြီး၏ သီလအာနုဘော်ကြောင့် သိကြားမင်းထောက်ပံ့၍ သားရသည်ဟူသော် အထက်အထက်က ကျင့်ဆောက်တည်သမျှသော သီလတို့ကား သားရခြင်းကို အဘယ့်ကြောင့် မဖြစ်စေနိုင်သနည်းဟူမူ သားရလို၏ ဟူသော ဆုတောင်းခြင်းပတ္ထနာ မရှိသေးသောကြောင့် မရသတည်း။ ထို့ကြောင့် ကုသိုလ်ကို ပြုသည်ရှိသော် မိမိလိုတိုင်းသောဆုကိုလည်း တောင်းအပ်သည်ဟု မှတ်အပ်၏။ ထိုမိဖုရားကြီးသည် အထက်က သားဆုတောင်းခြင်းနှင့်တကွသော ကုသိုလ်ကိုမပြုသောကြောင့် စင်စစ်အားဖြင့် မိန်းမတို့အရွယ်ရောက်၍ ရာသီပန်းပွင့်မြဲပွင့်လျှင် အကြောင်း ၃ပါးညီက သန္ဓေယူမြဲဟူသော်လည်း အာဂန္တုက[၁၇]သူဌေး ဗောဓိမင်းသား တို့ကဲ့သို့ ရှေးရှေးသောဘဝက သူတစ်ပါး၏သားကို ဖျက်ဆီးဖူးသော အကုသိုလ်ကံကြောင့်လည်းကောင်း၊ သွေး, လေ,ပိုးအစရှိသော ဥတုဇ[၁၈]အန္တရာယ်ကြောင့် လည်းကောင်း ပျက်စီးလျှောကျလေသည်ဖြစ်၍သာ ဝဇ္ဈာ[၁၉]ဆိုရသည်။ မိဖုရားကြီး၌ကား ပဋိသန္ဓေကိုဖျက်ဆီးတတ်သော အကုသိုလ်ကံ မရှိ။ ဥတုဇအန္တရာယ် မငြိမ်းသဖြင့် ကိုယ်ဝန်မတည်။ ဆုပတ္ထနာခြင်းနှင့်တကွ သီလ ကုသိုလ်ကို ပြုသောအခါ၌မူ ထိုကုသိုလ်အစွမ်းဖြင့် ဥတုဇအန္တရာယ် ငြိမ်းသည်ဖြစ်၍ အကြောင်း၃ပါး စုံညီခိုက်လည်း ကြိုက်သည်အားလျော်စွာ သန္ဓေစွဲတိုင်း မပျက်မစီးတည်လေ သတည်း။

[‘ကုသဇာတကေ အာဂတနယေနေ၀’ ဟူရာ၌ ပြည်သူတို့စည်းဝေး၍ မင်းကြီးအား သားဆုတောင်းမည့်အကြောင်းကို ကြွေးကြော်ခြင်းဟု ကုသဇာတ်နှင့်တူကြောင်းကို ပြသည်။ သားဆုတောင်းခြင်းကား တခြားစီပင်ဖြစ်သည်ဟု မှတ်အပ်၏။]

## ၃။ ဖွားတော်မူခန်း

ဤသို့ စန္ဒာဒေဝီမိဖုရားကြီးသည် ပြည့်စုံသောကိုယ်ဝန် ရှိသည်ဖြစ်၍ ၁၀ လစေ့လတ်သော် ဘုန်းပညာ လက္ခဏာနှင့်ပြည့်စုံသော သားတော်ဘုရားလောင်းကို ဖွားမြင်လေ၏။ ထိုနေ့၌ပင်လျှင် ၅၀၀ သော အမှူးအမတ်တို့ အိမ်ဝယ်လည်း သတို့သား ၅၀၀ တို့ကို ဖွားမြင်လေကုန်၏။

[ဤ ဖွားဖက် ၅၀၀ တို့ကား ဘုရားလောင်းနှင့် လဂ်စီးနာရီ နက္ခတ်တူ တစ်ချိန်တည်းဖြစ်သည် မဆို။ 'တံ ဒိဝသမေဝ'ဟုဆိုသောကြောင့် တစ်နေ့တည်းဖွားကြ၍ ဖွားဖက် ဆိုသည်။]

ထို ဘုရားလောင်းမင်းသား ဖွားတော်မူသောနေ့၌ပင်လျှင် အဝန်း ယူဇနာ ၁၀၀၀ ရှိသော ကာသိကရာဇ်တိုင်းအလုံး အုပ်ဖုံးတိမ်လိပ် စိတ်ချမ်းမြေ့ကြောင်း မိုးကောင်းထန်[၂၀၀]ရွာ၏။

ကာသိကရာဇ်မင်းကြီးသည်လည်း ညီလာခံရာ နန်းရင်ပြင်စမုတ်ဦး[၂၀၁]၌ မှူးမတ်အပေါင်းခြံရံလျက် မင်း၏ကျက်သရေဖြင့်စံနေစဉ် မိဖုရားကြီး၌ အန္တရာယ်ဥပဒ်[၂၀၂]ကင်းလွတ်ချမ်းမြေ့စွာ လက္ခဏာစုံလင် ဘုန်းတန်းရှင် သားကောင်းဖွားမြင်ကြောင်းကို မင်းကြီးအား လျှောက်ထားလာကြကုန်၏။ ထို သားတော် ဖွားမြင်ကြောင်းစကားကို မင်းကြီးကြားလျှင် သား မရစဘူး ရှေးဦးစွာဖြစ်၍ ချစ်ခြင်း ဂေဟသိတပေမတ္တာ[၂၀၃]ရေသီဒါ ကိုယ်လုံး[၂၀၄] လွှမ်းဖုံးခြင်းကြောင့် အချမ်းဖြင့်တုန်လှုပ်လျက် နှစ်သက်ခြင်းအဆီပီတိ စိမ့်အိန့်ဝေ၍ အပေါ်ရေကိုချင်းနင်း အတွင်းရေကိုဖြတ်ချိုး အရိုးကိုဖောက်သီ ခြင်ဆီသို့သွင်းလျက် ကိုယ်တွင်းပီတိ ဖြန့်ချိရစ်ထုံးသဖြင့် နှလုံးချမ်းမြေ့ခြင်း ဖြစ်လေ၏။

ဤသို့ သား၌ချစ်ခြင်း ပီတိအဟုန်သည် အလုံးစုံကိုယ်တွင်းတွင်နှံ့စေ၍ မဆံ့ယိုဖိတ် မပိတ်မဆီးနိုင်လတ် သဖြင့် မှူးမတ်အပေါင်းတို့အား "ငါ့သားတော် ယခု ဖွားမြင်လေပြီ။ သင်တို့ နှစ်သက်ကြပါ၏လော"ဟု ဝမ်းမြှောက်စကားကိုဆိုလျှင် မင်းလိုလိုက်သာလျှောက်ထိုက်၍ မြှောက်လိုက်သည်မဟုတ်လတ်။ အမတ် အပေါင်းတို့လည်း နှစ်မြို့ခြင်းပီတိ အရှိညီကြလျှင်

"အရှင်မင်းကြီး။ အသို့ ကိုယ်တော် အမိန့်ရှိရလေသည် မသိ။ မျိုးမရှိသော လယ်လုပ်သမားသည် စပါးအသက်သခင် နောင်အင်ချို့မည်ကို ကြို၍လန့်သကဲ့သို့ အခန့်မတန် နန်းရံတော်ပျိုးညွှန့် မဖွံ့မရှင်လျှင် အသက်သခင်စပါးမျိုး ကိုးကွယ်ရာအရှင် နောင်တင်ဖို့မရ၍ သောကကြီးစွာရှိကာ တောင့်တလျက် နေကြပါသည်။ နေပြည်တော်မှစ၍ တိုင်းမအလုံး မိုးချုန်းသောနိမိတ်ဖြင့် ဘုန်းရိပ်ရေချမ်း ဖျန်းဆွတ်မိုးကာ ကိုးကွယ်ရာနန်းညွှန့် ဖွံ့သန်သောကုသိုလ်တော်ရှင် သခင်ကောင်းကိုရ၍ တောင့်တတိုင်းပြည့်ကြွယ်လျက် အဘယ်သူ ဝမ်းမမြှောက်ဘဲ ရှိနိုင်ပါအံ့နည်းဘုရား"ဟု လျှောက်ထားကြကုန်၏။

[ဤသို့သောအရာ၌ သတ္တဝါတို့အား သုခတွေ့ဦး, ဒုက္ခတွေ့ဦး ဟူသည်ကို တည်ကြည်စောင့်ချုပ် စိတ်တုန်လှုပ်ခြင်း အလျဉ်းကွာသည်မှာ ရဟန္တာ[၂၀၅]တစ်ပါးတည်းသာ ရှိချေသည်။တည်ကြည်ကြောင်း ဉာဏ်ဝီရိယ ပိတ်ဖုံး၍ နှလုံး၌ အချမ်း,အပူကို သူတစ်ပါး ထင်ရှားမသိစေခြင်း သမာဓိရှိသူ လျစ်လျူရှုပုထုဇဉ်[၂၀၆]ပင် ဖြစ်သော်လည်း အလွန်ဖြစ်ခဲ၏ဟု သိအပ်၏။]

## ၄။ နို့ထိန်းရွေးခန်း

ဤသို့ ကာသိကရာဇ်မင်းကြီးသည် မှူးတော်မတ်တော်တို့နှင့် ဝမ်းမြောက်စကားပြောဆိုပြီးလျှင် ဝန့်ရှင်တော် မဟာသေနာပတိ[၂၇]အမတ်ကြီးကိုခေါ်၍"အမတ်ကြီး။ ယခု ငါ့သားတော် ဖွားမြင်လေသည်မှာ စကြာရှင်တို့အား ပတ္တမြားရတနာရောက်လျှင် အခြံအရံမြတ်ပေါင်း ၈ သောင်း ၄ ထောင်မပါဘဲ ရှိမည်မဟုတ်။ ငါ့သားတော်အခြံအရံ ဖွားဖက်သူငယ်တော်လည်း ပါလာရမည်။ သားတော်၏ ရွှေဖော် သူငယ်တော်များအလို့ငှာ အမှူးအမတ်အိမ်တိုင်း မေးမြန်းကြည့်ရှုစေ။ ယနေ့ဖွားသည့် မှူးမတ်သားတို့ကိုတွေ့လျှင် ရေတွက်မှတ်သား၍ ငါ့ထံ စာရင်းတင်စေ"ဟု ခန့်ထားလေ၏။ အမတ်ကြီးလည်း"ကောင်းပါပြီ"ဟု ဝန်ခံ၍ အမှူးအမတ်အိမ်တို့၌ ကြည့်စေသော် ဘုရားလောင်းနှင့် တစ်နေ့တည်းဖွားဖက်ဖြစ်သော မှူးသားမတ်သား ၅၀၀ အရေအတွက်စာရင်းရေး၍ မင်းကြီးအား လျှောက်တင်လေ၏။

ထိုအခါ ကာသိကရာဇ်မင်းကြီးသည် သတို့သား ၅၀၀ တို့အားဆင်ရန် တန်ဆာအစုံတို့နှင့်တကွ နို့ထိန်းတစ်ယောက်စီ ပေး၍ ကျွေးမွေးပြုစုစေ၏။

သားတော် ဘုရားလောင်းအားကား နို့ထိန်းထားလိုသောကြောင့် အလွန်မြင့်ခြင်း အစရှိသဖြင့် ဒေါသ[၂၈] မလွတ်သော နို့ထိန်းသည်တို့ကိုနုတ်ကြဉ်၍ ယဉ်ကျေးလိမ္မာ ရောင်ဝါအဆင်း အမျိုးအရိုးနှင့် ပြည့်စုံစွာ'အာလမ္ဗ'[၂၉] သဒ္ဒါ၏အရ .တွဲလျားမကျ လုပရှင်ပျို နှစ်လိုဖွယ် 'ထနာ'[၃၀] လက္ခဏာရှိလျက် မြိန်ဆိမ့်ချိုအေးစွာ နို့ရည်နှင့် ပြည့်စုံသော နို့ထိန်းမိန်းမအရွယ်ရှိ အရေအတွက် ၂ ရာ ၄ကျိပ်တို့ကို ရွေးချယ်စေပြီးလျှင် တစ်နေ့နှင့်တစ်ညဉ့်တွက် တစ်ရက်လျှင် နာရီပေါင်း ၆၀မှာ တစ်နာရီလျှင် ၄ ယောက်စီခန့်ထား၍၊ တစ်ယောက်ကား မင်းသားငယ်ကို ချီပိုးခြင်း, တစ်ယောက်ကား ရေချိုးခြင်း, တစ်ယောက်ကား တန်ဆာဆင်ခြင်း, တစ်ယောက်ကား မင်းသားငယ်ကို ရွှင်စေခြင်း, ယပ်လေခတ်ခြင်း ကိစ္စ ၄ပါးတို့ဖြင့် အလှည့်လှည့် ထိန်းယပြုစုစေ၏။

[ဤသို့ဆိုခြင်းကား'ဓာရကာ, နဟာပက, မဏ္ဍက, ဓိဇနကိစ္စာဟိ စတူဟိ ဓာတီဟိ ဝိယ ခတ္တိယ ကုမာရာ'အစရှိသည်ဖြင့် ပသာဒရုပ် အဖွင့်ဥပမာအရာ၌လာသော ဋီကာပါဠ်နှင့် အညီတည်း။]

ဒေါသမလွတ်သော နို့ထိန်းကား

- အလွန်မြင့်သော မိန်းမ၏ရင်ခွင်၌နေ၍ နို့စို့သောသူငယ်သည် ရင်ခွင်နှင့် စို့ရာအရပ် ကွာလွန်းသဖြင့် လည်တငင်ငင် လှမ်းယူစို့သောက်ရခြင်းများသောကြောင့် သတို့သားငယ်၏လည် ရှည်တတ်၏။ ထိုသို့ဖြစ်၍ မြင့်လွန်းလျှင်လည်း ဒေါသမလွတ်။
- အလုံးနှင့် အရပ် မတန် အလွန်နိမ့်လွန်းသောမိန်းမသည်လည်း ရင်ခွင်နှင့် စို့ရာအရပ် နီးကပ်လွန်းသဖြင့် လူငယ်၏မျက်နှာကို ရင်သားအဖိအထိ များခြင်းကြောင့် သူငယ်၏လည်ကုပ် တိုတတ်သည်ဖြစ်၍ ဒေါသမလွတ်။
- အလွန်ကြုံသော မိန်းမသည်လည်း သူငယ်နေရာ ရင်ခွင်သားမဖြိုး အရိုးသာခုံသောကြောင့် နို့စို့သူငယ်၏ ပေါင်,တင်ပါး နာကျင်တတ်သည်ဖြစ်၍ ဒေါသမလွတ်။

– ဆူဖြိုးလွန်းသော မိန်းမသည်လည်း အသားတုန်လှုပ်ခြင်းများသောကြောင့် နို့စို့သူငယ်၏ခြေဆွံ့တတ်သည်ဖြစ်၍ ဒေါသမလွတ်။
– ရင်သားရှည်လွန်းသော မိန်းမသည်လည်း နို့စို့သူငယ်၏နှာတံပေါ်၌ အဖိအထိ များခြင်းကြောင့် နှာတံပိစပ် ရှိတတ်သည်ဖြစ်၍ ဒေါသမလွတ်။
– ညိုမည်းလွန်းသော မိန်းမသည်လည်း နို့ရည်အေးလွန်းသောကြောင့် ဒေါသမလွတ်။
– ဖြူလွန်းသောမိန်းမသည်လည်း နို့ရည်ပူလွန်းသောကြောင့် ဒေါသမလွတ်။
– ချောင်းဆိုးနာစွဲသော မိန်းမသည်လည်း ချဉ်စူးသောနို့ရည် ရှိခြင်းကြောင့် ဒေါသမလွတ်။
– ကုတ်ဟီးနာ[၂၁၁]စွဲသောမိန်းမသည်လည်း ခါးခြင်း,စပ်ခြင်း စသည်တို့ဖြင့် များသောနို့ရည်၏အပြစ်များစွာရှိခြင်းကြောင့် ဒေါသမလွတ်။

ဤ ဒေါသ ၉ ပါး မလွတ်သောမိန်းမတို့ကိုကြဉ်၍ ရင်သား၏လှခြင်း, နို့ရည်၏မြိန်ရှက်ခြင်း ဤလက္ခဏာ ၂ ပါးနှင့်ပြည့်စုံသော မျိုးရိုးသမီး ၂ ရာ့ ၄ ကျိပ်တို့အား များစွာဆုလာဘ်ပေး၍ ထိန်းယစောင့်ရှောက်မွေးမြူစေသတည်း။

ခမည်းတော်မင်းကြီးသည် ဘုရားလောင်းမင်းသားအားလည်း များစွာဆင်ရန် သုံးရန် အလှယ်လှယ်ကြီးကျယ်သောအရာဖြင့် ပြုစုချီးမြှောက်၏။ စန္ဒာဒေဝီမိဖုရားကြီးအားလည်း သားတော်အား ပေးလတ္တံ့သော အိမ်ရှေ့အရာနှင့်တကွ ကြီးစွာသောဆုဖြင့် မိဖုရားတို့၏အထွတ်ဖြစ်ဟောင်းတွင် ထပ်လောင်း၍ ချီးမြှောက်ပြန်လေ၏။ မိဖုရားကြီးသည်လည်း ကိုယ်နှင့်တန်သည့် ဆုများကိုသာခံယူ၍၊ မတန်သမျှသောဆုတို့ကို "အရှင်မင်းကြီး လက်တော်တွင်ပင် ရှိပါစေ"ဟု အပ်ထား ဆက်ကပ်ပြန်လေ၏။

ဘုရားလောင်းအား အမည်မှည့်အံ့သောနေ့ ရောက်လတ်သော် လက္ခဏာဖတ်ပုဏ္ဏားတို့အား မင်းရင်ပြင်သဘင်အခင်း၌ နေစေလျက် များစွာ ကျွေးမွေးချီးမြှောက်ခြင်း ပူဇော်[၂၁၂]သက္ကာရ[၂၁၃]ကိုပြုပြီးလျှင် "ဆရာပုရောဟိတ်[၂၁၄]တို့။ ငါ၏သားတော်၌ လက္ခဏာပါရှိသည်ကိုဆင်ခြင်၍ ထင်မြင်တိုင်းမချွတ် ဥပဒ်အန္တရာယ် မရှင်းမည်, လွတ်ကင်းမည်ကို ဖတ်ကြားလျှောက်ထားကြလော့"ဟုဆိုတော်မူ၏။

ထိုအခါ လက္ခဏာဖတ်ပုရောဟိတ်တို့သည် မင်းသား၏လက္ခဏာအလုံးစုံကို ကြည့်ရှုဆင်ခြင်၍ ဘုန်းတန်းရှင်လက္ခဏာ ပြည့်စုံကြောင်း အခြင်းအရာကိုမြင်လျှင်"အရှင်မင်းကြီး။ သားတော်ကား ပုဏ္ဏားပုရောဟိတ်နိမိတ်ဖတ်လက္ခဏာတက်တို့ အတပ်ထင်ထင် မြင်ရတွေ့ရခဲသော ဘုန်းတန်းရှင်လက္ခဏာနှင့် ပြည့်စုံ၏။ တစ်စုံတစ်ခုသောအန္တရာယ် အနှောင့်အယှက်လည်း မထင်။ ဤဇမ္ဗူဒိပ်[၂၁၅]တစ်ကျွန်းလုံးကို ထားဘိဦး။ ဘုန်းအထူးဆင့်ပြိုးတိုင်း မြင့်မိုး၍စံပယ်လိုလျှင် ကျွန်းငယ် ၅၀၀ စီ အညီရံဝန်းသော ၄ ကျွန်းလုံးသခင် စကြာရှင်ပင်သော်လည်း ဖြစ်ထိုက်၏"ဟု ဖတ်ကြားလျှောက်ထားကြကုန်၏။

## ၅။ အမည်မှည့်ခန်း

ထို ပုရောဟိတ်တို့စကားကို ကာသိကရာဇ်မင်းကြီး ကြားတော်မူလျှင် ဆင့်ကဲထပ်လောက် ဝမ်းမြောက် နှစ်သက်ခြင်း အလွန်ရှိသည်ဖြစ်၍ ပုရောဟိတ်တို့အား လာဘ်,ပူဇော်,သက္ကာရ စသည်ဖြင့် ပြုရာသည်များကို ပြုစုချီးမြှောက်ပြီးလျှင်“အချင်းတို့။ ငါ့သားတော်အား ငါပင် အမည် ပေးတော်မူမည်။ ငါ့သားဖွားမြင်စ အခါမင်္ဂလာ[၂၁၇]နေ့၌ အရှေ့ညီညာ သတ္တဝါအပေါင်း ချမ်းသာကြောင်းနိမိတ်၏အဖြစ် ကာသိကရာဇ်တိုင်းအလုံး အုပ်ဖုံးတိမ်လွှာ ထန်စွာမိုးရည်ချမ်းဖြင့် ဖျန်းဆွတ်ရွာသွန်းခြင်းလည်း ဖြစ်၏။ ငါကိုယ်တော်မှစ၍ မှူးတော် မတ်တော်တို့နှလုံးလည်း ရွှင်ပြုံးချမ်းမြ အေးလှသောပီတိရည်ဖြင့် ဖျန်းဆွတ်၏။ ထိုသို့ ကာသိကရာဇ်တိုင်းအလုံး မိုးရေချမ်းဖျန်းဆွတ်တုန်း ငါတို့သူတို့နှလုံးတွင်လည်း ရွှင်လန်းချမ်းမြ သောမနဿ[၂၁၈]ပီတိ[၂၁၉]ရည်ဖျန်းဆွတ်၍ စွတ်စိုခြင်းစုံညီစွာ အခါကောင်းခိုက် ဖွားမြင်သောကြောင့် တစ်ပါးမင်းသားများမှာကဲ့သို့ အဘိုးအမည်စသည် ဖွဲ့ချည်ရန် မရှိ။ ‘တေမိယကုမာရ’ ဟူသောအမည်သာတွင်စေဟု ဘုရားလောင်းအား အမည်မှည့်လေ၏။

[တေမိယကုမာရကိုဝိဂြိုဟ်ပြုသော်ကား။ တေမေတိ ဗွောတိ တေမော။ ။ အခါရစေ။

[တေမေ ဇာတော တေမိယော၊ တေမိတဗ္ဗံ အနေနာတိ ဝါ တေမိယော၊ ကုစ္ဆိတံ မာရေတီတိ ကုမာရော၊ တေမိယောစ သော ကုမာရော စာတိ တေမိယကုမာရော။ ။ မင်းသားရစေ။

[ဗွေသမယေ၊ ဤအခါ၌။ တေမေတိ၊ မိုးချမ်းရည်, ပီတိရည်ဖြင့် စွတ်စိုစေတတ်၏။ ဣတိတသ္မာ၊ ထိုသို့ မိုးချမ်းရည်, ပီတိရည်ဖြင့် ဆွတ်ဖျန်းရာဖြစ်သောသတ္တိကြောင့်။ သောသမယော၊ ထိုအခါသည်။ တေမော၊ တေမမည်၏။ ။ ကိတ်ဝိဂြိုဟ်အဓိကရဏသာဓနေ၊ တိမ–ဓာတ်, ဏ–ပစ္စည်း။

[ယောရာဇပုတ္တော၊ အကြင်မင်းသားသည်။ တေမေ၊ တစ်တိုင်းလုံးကို မိုးချုန်း၍ရွာခိုက်, မင်း အမတ်တို့ နှလုံးချမ်းမြခိုက်၌။ ဇာတော၊ ဖွားသည်တည်း။ ဣတိတသ္မာ၊ ထိုသို့တစ်တိုင်းလုံးကို မိုးချုန်း၍ရွာခိုက်, မင်းအမတ်တို့ နှလုံးချမ်မြခိုက်၌ဖွားသည်၏ သတ္တိကြောင့်။ သောရာဇပုတ္တော။ ထိုမင်းသားသည်။တေမိယော၊ တေမိယမည်၏။ ဇာတတဒ္ဓိတ်၊ ဣယ–ပစ္စည်း။ ကာသိကရာဇ်တိုင်းလုံး မိုးရွာခိုက်, မင်းအမတ်တို့ နှစ်သက်ရွှင်လန်းခိုက်တွင် ဖွားမြင်သောကြောင့် တေမိယ မည်သည်ဟူလို။

[ဝါ၊ တစ်နည်းကား။ အနေန၊ ဤမင်းသားသည်။ တေမိတဗ္ဗံ၊ မိုးချမ်းရည်, ပီတိရည်တို့ဖြင့် စွတ်စေအပ်၏။ ဣတိတသ္မာ၊ ထိုသို့စွတ်စေတတ်သောသတ္တိကြောင့်။ သောရာဇပုတ္တော၊ ထိုမင်းသားသည်။ တေမိယော၊ တေမိယမည်၏။ တိမ–ဓာတ်, ဏျ–ပစ္စည်း၊ အဝုတ္တကတ္တုသာဓနေ။ မိုးရွာခြင်း မင်းအမတ်တို့ ရွှင်လန်းခြင်းကို ဖြစ်စေလျက် ဖွားတော်မူသောကြောင့် တေမိယမည်သည် ဟူလို။

[ယော ဒဟရော၊ အကြင်သူငယ်သည်။ ကုစ္ဆိတံ၊ မတင့်မတယ် စက်ဆုပ်ဖွယ်ကို။ မာရေတိ နိဝါရေတိ၊ မြစ်တတ်၏။ ဣတိတသ္မာ၊ ထိုသို့ မတင့်တယ်ခြင်းကို မြစ်တတ်သောသတ္တိကြောင့်။ သောဒဟရော၊ ထိုသူငယ်သည်။ ကုမာရော၊ ကုမာရ မည်၏။ ။ ၁၄ နှစ်, ၁၅နှစ်အရွယ် ရောက်ပြီးသောသူငယ်တို့ကား မိမိလည်း စက်ဆုပ်ဖွယ် မတင့်တယ်သည်ကို အလိုမရှိ။ သူတစ်ပါးမြင်၍သော်လည်း မချစ်မနှစ်လိုဖွယ်မည်သည် မရှိ၊ ထို့ကြောင့် ကုမာရ မည်၏။ အပြစ်အားကြီး၍ အရွယ်မရောက်သေးသောသူငယ်တို့ကား သူတစ်ပါးတို့မြင်၍ မနှစ်လိုဖွယ် အရွယ်မဟုတ်သောကြောင့်သာ ‘ကုမာရ’မည်၏ ဟူလိုသည်။

[တေမိယောစ၊ ချမ်းမြသောအခါ၌ ချမ်းသာစွာ ဆွတ်ဖျန်း ရွှင်လန်းစေလျက် ဖွားမြင်သည်လည်း။ ဟောတိ၊ ဖြစ်၏။ သော၊ ထို ချမ်းသာရွှင်လန်း ဖျန်းဆွတ်လျက်ဖွားသောမင်းသားသည်။ ကုမာရောစ၊ နှစ်လိုဖွယ်အရွယ်၏ ပြည့်စုံခြင်းရှိသည်လည်း။ ဟောတိ၊ ဖြစ်၏။ ဣတိတသ္မာ၊ ထို ၂ ပါးသောသတ္တိကြောင့်။ တေမိယကုမာရော၊ တေမိယကုမာရ မည်၏။]

## ၆။ ခိုးသူတို့စီရင်ခန်း

ဤသို့ အမည်မှည့်ပြီး၍ တေမိယမင်းသားသည် ဘုံနန်းတောင်ညာ ထီးဖြူရိပ်၌သာလျှင် ထိန်းယစောင့်ရှောက်ရခြင်းဖြင့် စံပယ်[၂၀]လျက် ဖွားသည်မှ တစ်လမြောက်လတ်သော် အထိန်းတော်တို့သည် မင်းသားငယ်ကို မွေးကြိုင်လှပစွာတန်ဆာဆင်၍ မင်းကြီးထံဆောင်လတ်သဖြင့် ကာသိကရာဇ်မင်းကြီးသည် သားတော်ကို လှမ်းယူပိုက်ချီကာ ရင်ခွင်၌ထား၍ အားရရွှင်လန်း ပန်းနံ့သာအမွှေးထက် အလေးအရာသာသော သား၏ချစ်ခြင်းမေတ္တာအဟုန်ဖြင့် စုံစုံမက်မက် နှစ်သက်နမ်းရှူ ရွှင်မြူးပျော်ပါးလျက် မုခ် [၂၁]တံခါး နန်းရင်ပြင် သဘင်တော် ထီးဖြူရိပ်မှာ စိတ်နှလုံးချမ်းမြေ့စွာ နေလေ၏။

ထိုအခါ ခိုးသူ ၄ယောက်တို့ကို ဖမ်းယူချည်နှောင်၍ မင်းကြီးအား ဆက်လာလတ်၏။ ကာသိကရာဇ်မင်းကြီးသည်လည်း ထို ခိုးသူ ၄ယောက်တို့အား အပြစ်အလျောက် နောက်နောင်၌ ရန်မီးမကြီးမပွားစေခြင်းငှာ ခြိမ်းမောင်းလိုသောကြောင့် "အချင်းတို့။ သင်းတို့ပြည်ကြီး ဆူးငြောင့်ပြုသူ လူပျက်လူဆိုး သူခိုး ၄ယောက်တို့ကို တစ်ယောက်အား လိပ်ကျောက်မြီး, ငါးမန်းစွယ် စသည် အဆူးရှိသော အာဏာတော်သိုင်းကြိမ်လုံးဖြင့် ဒဏ်အချက် ၁၀၀၀ ခတ်။ တစ်ယောက်အား သံခြေချင်းခတ်၍ နှောင်အိမ်သွင်း။ တစ်ယောက်အား ထက်လှစွာသော လှံမသွား အဖျားဖြင့် အသားကို အဆွအဆွအဆိတ်ဆိတ်ထိုး။ တစ်ယောက်အားတံကျင်လျှို။ သင်းတို့ကို အများကြောက်ရွံ့ ထိတ်လန့်အောင် ထင်ရှားစွာစီရင်လေ"ဟု ရာဇမာန်[၂၂] အာဏာသံ[၂၃]ဖြင့် ထိတ်ရွံ့ကြောက်မက်ဖွယ် ဆိုတော်မူ၏။

ထိုသို့ ကြောက်မက်ဖွယ်ဆိုသော မင်းကြီးစကားကို ဘုရားလောင်းမင်းသားငယ် အရွယ်တော် တစ်လတည်းနှင့် ခမည်းတော်ရင်ခွင်၌ ရွှင်မြူးလျက်နေစဉ် ကြားသိလေသော် ပါရမီတော် ဝါသနာပါသော နှလုံးသည်လည်း ဤစီရင်ထုံးကို အသုံးအလေ့ မရှိ။ တတိယဘဝ ရေးကဆင်းရဲမြိတ်လည်း အရိပ်အငွေ့မကင်းလွတ် နုထွတ်သော နှလုံးသွေးမှာ တစ်ထွေးတည်းဆုံခိုက်၍ တုန်ရိုက်ထိတ်လန့် မခန့်နိုင်ရှိသော်လည်း ဉာဏ်,သတိတော် စောင်မသဖြင့် 'ခမည်းတော်မင်းကြီးသည် အကြောင်းရင်းကုသိုလ်ကံ စီမံချပေးသော ပြည်မစည်းစိမ်ကိုမှီ၍ ဤသို့ ငရဲလားကြောင်း မကောင်းမှုကိုပြုပြန်လေသည်ကား အံ့ဖွယ်သရဲ အလွန်ဝန်လေးစွ'ဟု အကြံဖြစ်တော်မူလေ၏။

ဤအရာ၌ ကာသိကရာဇ်မင်းကြီးသည် ခိုးသူ ၄ယောက်တို့ကို ကြမ်းကြုတ်စွာ'ကမ္မကရဏ'. အမှုပြုစီရင်ခြင်းသည် အပါယ်လားကြောင်း မကောင်းမှုဖြစ်ခဲ့၏။ 'ဓမ္မေနသမေနရဇ္ဇံကာရေသိ'ဟု တရားနှင့်အညီ

မင်းပြုကြောင်းကိုလည်း အောက်ကဆိုခဲ့၏။ တရားနှင့်ညီလျှင်လည်း အပါယ်ဘေး မရှိ၊ သုဂတိအဖို့သာဖြစ်၍ ဤခိုးသူတို့ကို စီရင်သောအမှု ဒုစရိုက်မလွဲ ငရဲအဖို့ ဖြစ်ခဲ့သော်'ဓမ္မေန သမေန'ဟူသောရှေးစကားနှင့် မဆန့်ကျင်ပြီလော ဟူမူ၊ သူမြတ်ကို သူယုတ်, သူယုတ်ကို သူကောင်း လမ်းကြောင်းမဟုတ်ရာ ၄ ဖြာသောအဂတိဖြင့် မစီရင်။ ချစ်ခင်မုန်းငြိုးမရွေး, နီးဝေးမငဲ့ခြင်း, ယမမင်း[၂၂၄]ကဲ့သို့ ဖြောင့်မှန်ရာ ဆုံးဖြတ်စီရင်လေ့ရှိသောကြောင့် 'ဓမ္မေန သမေန'ဟု ဆိုသည်။ ခိုးသူ ၄ယောက်တို့ကို စီရင်သည်မှာလည်း မာဝ်ာင်းကြမ်းကြုတ်သော သံပြုတ်, သံရိုင်း အခဲကို ရေထဲမှာနှူးသော်လည်း အထူးမယဉ် အယဉ်သင့်မီးအပူခိုက်မှ လိုက်လျောယဉ်ကျေးသည်နှင့် နှုန်းတမ်းအကြမ်းကို အကြမ်းပြု၍ အနုကိုလည်းအနုအလျောက် ခြောက်ခြိမ်းဖျောင်းဖျ၍ ဆုံးမစီရင်ရခြင်းလည်း မင်းကောင်းတို့ သတိ, ပညာရှိတို့ ထုံးပင်ဖြစ်၍၊ အပြစ်အလျောက် ၄ ယောက်သောခိုးသူတို့ကို ကိုယ်စီဒဏ်နှင့် အာဏာသံထားကြောင်းကိုသာ ဆိုသည်။ ထိုမင်းအာဏာအတိုင်း ပြုသည်, မပြုသည်ဟု မလာ။

[ခြိမ်းခြောက်ကာမျှသာဖြစ်လျှင် ကာသိကရာဇ်မင်းကြီး၌ အပြစ်မရှိပင် ယူသင့်သည်။ ဤသို့ ကြမ်းတမ်းသောသူကို ဆုံးမသောအရာများမှာ မဟောသဓေသုခမိန်သည် သိန်းအစရှိသော အမတ် ၄ယောက်တို့ကို သေလုနီးအောင် ရာဇဒဏ်ပေးစေသဖြင့်နှိပ်နှံခြင်း၊ အာဒါသမုခမင်းသည် နွားတရား, သားဆုံးတရား စသည်တို့၌ အလိုက်သင့်ရန်ငြိမ်းစလွယ် တကယ်ပြုယောင်စီရင်ခြင်း ပညာပါရမီတော်ကိုလည်း မြတ်စွာဘုရားပင် ချီးမွမ်းတော်မူသည်။ နန္ဒောပနန္ဒ နဂါးကိုယ်အခွေကိုချေ၍ အမှုန့်ဖြစ်မတတ် ထေရ်မြတ်ရှင်မောဂ္ဂလာန်ပင်လည်း အမှုအင်နှင့်ခန့်၍ နူးညံ့အောင်စီရင်တော်မူသည်။ အာဏာထားတိုင်း အဆုံးအခန်းစီရင်ချေမူကား ကာသိကရာဇ်မင်းကြီး၌ အပြစ်မလွတ်။ ထိုသို့ပင်ဖြစ်သော်လည်း ယေဘုယျနည်း[၂၂၅], တဗ္ဗဟုလနည်း[၂၂၆]ကို အစွဲပြုသဖြင့် 'ဓမ္မေန သမေန'ဟူသော ရှေးစကားနှင့် မဆန့်ကျင်ဟု မှတ်အပ်၏။]

ထို ခိုးသူ ၄ယောက်တို့ကို စီရင်သည်၏နောက်တစ်နေ့၌ တေမိမင်းသားကို တန်ဆာဆင်အပ်သော ထီးဖြူရိပ်ဝယ် သိပ်ထားလေ၏။ ထိုအခါ တေမိမင်းသားသည် အတန်ငယ်အိပ်စက်ပြီး၍ နိုးလတ်သဖြင့် အထက်သို့ မျက်စိလှည့်လည် မျှော်ကြည့်လျှင်ပင် မင်းစည်းစိမ်ကြီး ထီးဖြူ၏ကျက်သရေကို မြင်လေ၏။ ထိုအခါ မိမိ မင်းပြုမိ၍ ငရဲခံရလေသည်ဟူသော သဘောဝါသနာ ပါသည်ဖြစ်၍ ပြကတေ့ထိတ်လန့်ဟောင်းမှာ ထပ်လောင်း၍တစ်ဖန် ယမန်နေ့က ခိုးသူ ၄ ယောက်တို့အား စီရင်သံ ကြားပြန်ခြင်းဖြင့် မင်းပြုရမည့်စိတ်ကြောင့် ထိတ်လန့်ကြောက်ရွံ့စွာရှိသော နှလုံးအယူမှာ ထီးဖြူရိပ်မင်းတန်ဆာ မလိုရာနှင့်တို့မိ၍ ဆို့မြို့နှလုံး ယူကျုံးမရ ဒေါမနဿ[၂၂၇]နှိပ်စက်လျက် အတိုင်းထက်အလွန် မွန်ထိတ်သောကြောက်ခြင်း ဖြစ်သဖြင့် ဤသို့ ကြံတော်မူ၏။

'ငါသည် ဤ ကြမ်းကြုတ်စွာသော ခိုးသူသတ်အိမ်မှာ အဘယ်ဘဝက လာ၍ ဖြစ်လာလေသည်မသိ'ဟု ဇာတိဿရဉာဏ်[၂၂၈]ဖြင့် နောက်ပြန်ဘဝကို သုတ်သင်မြော်ရှုလတ်သော် တာဝတိံသာနတ်ပြည်မှလာသော အဖြစ်ကို သိမြင်သဖြင့်၊ ဆင့်၍တစ်လီ 'ထိုနတ်ပြည်ကိုကား အဘယ်ဘဝက လာသနည်း'ဟု ရှုမြော်ပြန်သည်တွင် ငရဲပြည်ဥဿဒရက်၌[၂၂၉]ကျက်ခဲ့ကြောင်းကိုမြင်ရ၍၊ ထိုငရဲမှတစ်ဖန် ဆင်ခြင်ပြန်သောအခါ ဤဗာရာဏသီပြည်၌ အနှစ် ၂၀ တိုင်တိုင် မင်းပြုလျက် အစုစုအမှုမျိုး ဆိုး,ကောင်း,ယုတ်,မြတ်ကို အတပ်ထင်ထင် မြင်လေလျှင်၊ လူတို့တွင်ဖြစ်မြဲမှု ထိုဝတ္ထုကြောင့် အန္တရာယ်တစ်ကြိမ်ရောက်ဖူးလျှင် နောက်နောင်အစဉ် ကြဉ်ရှောင်လိုသကဲ့သို့သာ စာနာထောက်ထားမဲ့ဘဲ စိတ်ကွဲတော်မူသည် မဟုတ်။ မင်းလုပ်ရမည့် ခေတ်ကာလဖြစ် အမူအပြု အမှုဟူသမျှကို ချင့်မြော်တွေးဆလျက် ရှေးအသက်တမ်းရှည်စဉ်ပင်မှ ဘေးကင်းအောင် ကိုယ်ကိုမပြုနိုင်၍ စိုးပိုင်ရာမင်းစည်းစိမ် အနှစ်၂၀ မျှဖြင့် အဆ ၆၀၀၀ မြားမြောင်နှစ်ပေါင်း ၈သောင်းမုန်မှန် ငါ ခံရလေသည်တကား'ဟု တရားကိုရှု၍

'မင်းပြုမည်ဆိုသော်လည်း ရန်ပိုသောအခါ သူ့ချမ်းသာ ကိုယ့်စည်းစိမ်ကို မငြိမ်အောင်လုပ်ချောက်သော ရန်ကြောင့်ရန်စွယ်ကို အပယ်အနုတ် ကြမ်းကြုတ်စွာလုံ့ဓားဖြင့် နှိမ်နိုင်မှငြိမ်ဝပ်နိုင်သော မင်းအဖြစ်ဖြင့် အပြစ်မည်း ကိုယ်ကိုဖြူစင်အောင် အဘယ်သို့ ဖွပ်ဆေးနိုင်ပါအံ့နည်း။ ထန်သည်းပြင်းပြ ရာဇမာန်အခါခါနှင့် အာဏာယူသော ဤခိုးသူသတ် မင်းအိမ်မှာ ကြိမ်ရလေသောငါ ယခု ရှယ်နုငယ်သက် ရက် ၃၀မပြု လူဖြစ်စရွေ့ပင် ယမန်နေ့က တွေ့ကြုံရသည်မှာ နှလုံးသားကြေဖွယ်လောက် ၄ယောက်သောခိုးသူတို့ကို ဆိုးကြမ်းသောအမူအင်နှင့်တိုင်း၍ ဆူးရိုင်းဖျဉ်ဖျဉ်လှည်းသော ခမည်းတော်အာဏာစွဲ ငရဲလားကြောင်း မကောင်းစကားကို နားနှင့်မတန်မရာ ငါကြားရပြီ။

'ဤ ခမည်းတော်အမွေအနှစ် မာန်ယစ်သောမင်းစည်းစိမ်ကို ငါ မြိန်ယှက်မြတ်နိုးခြင်းဖြင့် မင်းပြုပြန်လျှင် တစ်ဖန်ခမည်းတော်အတူ ရန်သူဆူးခလုတ်ကို မနုတ်ဘဲမနေသာသော် တစ်ခါ ထိုငရဲသို့ ဝဲကတော့အတွင်းမှာ ထင်းကျွန်းသဏ္ဌာန် ပြန်လည်လေရအံ့တကား'ဟု များစွာအဖန်ဖန် ကြံဆင်ခြင်တော်မူသော ဘုရားလောင်းအား ငရဲမီးလျှံနားမှာ ထားလေသောအသွင် အလွန်လျှင်ကြောက်လန့်ခြင်း ဖြစ်သဖြင့် ဦးသစ်သော ရွှေစင်အဆင်းကဲ့သို့ ဝင်းဝင်းပျို့ပျို့ နှစ်လို့ဖွယ်အဆင်းရှိသော ကိုယ်တော်စင်လျက် လက်ဖြင့် ဆုပ်နယ်အပ်သော ကုမုဒြာ[၂၀] ပဒုမ္မာ[၂၁]ပန်းကဲ့သို့ နွမ်းလျသမ်းညှိုးခြင်း အဆင်းပျက် တော်မူအောင် ပူပြင်းထပ်ဖို့ မနှစ်လို့ခြင်း ဝေဒနာနှင့် 'ငါ အသို့လျှင် ဤမနှစ်မြို့သော ခိုးသူသတ်မင်းအိမ်မှ လွတ်မြောက်နိုင်ပါအံ့နည်း'ဟု ကြံစည်လျက် မျက်လွှာတော်ချ၍ ဖြဖြညှိုးဖိန်း မှိန်းစက်တော်မူ၏။

[ဤအရာ၌ မင်းစည်းစိမ်သမ္ပတ္တိဝယ် ကာယိကသုခကိုရသော်လည်း စိတ်တော်ကမနှစ်မြို့ သမ်းညှိုးသော ဒေါမနဿဝေဒနာကြောင့် မီးရာရုပ်ကလာပ် ၆ ရပ်သောသွေးမကြည်၍ ဖြတည်သောဣန္ဒြေ မရွှင်လန်း စိတ်ချမ်းမြေ့သောအလို ကိုယ်ဆန္ဒနှင့်မျှသော ကာယိကဒုက္ခ ကြိမ်ရစေကာ-

['စိတ္တေ ပသန္နေ လောဟိတံ ပသီဒတိ၊ လောဟိတေ ပသန္နေ
မနုဿာနိဣန္ဒြိယာနိ၊ အတိဝိယ ဝိရောစန္တိ။ ။'ဟူသော သုတ်မဟာဝါ အဋ္ဌကထာပါဠိနှင့်အညီ 'ပီတိဆီဆို့ပိတ်သော စိတ်ကြည်လင် ချမ်းအေးလျှင် သွေးရွှင်လန်းသည်။ သွေးကြည်လင်ကလည်း နှလုံးလျှင် ဆဋ္ဌမမြောက် ၆ပါးသောဣန္ဒြေ တင့်တယ်လေသည်'ဟုမှတ်အပ်၏။]

ဘုရားလောင်းသည် ဤသို့သောမင်းစည်းစိမ်ကို တာဝတိံသာ၌ ပျော်စံစဉ်ကပင် အလိုမယှဉ် ကြဉ်ရှောင်ဝေးဝေး သူဌေး, ပုဏ္ဏား တစ်ပါးမျိုးနွယ်ထံ သန္ဓေမှီလျက် ပါရမီဖြည့်ရရာအရပ်သို့ ဆည်းကပ် သင့်ပါသည်။ 'ဝင်လာလျှင် ချည်နှောင်မည်' ထောင်သည့်ကျော့ညွှတ်ကောင်း ဆုတောင်း၍သားကို လိုချင်လုံးပမ်း ပိုက်တန်းကိုမြင်လျက် တိုးဝင်မိသည်မှာ သိလျက်အမှား အဘယ်ကြောင့် ခံတော်မူလေသနည်း ဟူမူ၊ လူတို့ဓမ္မတာ ဥစ္စာစည်းစိမ်ကိုလိုလျှင် ကိုယ်ဆင်းရဲခံမှ အကြံရှိတိုင်း ပြီးမြောက်လွယ်သည်။ ဤဝယ်လည်း ဘုရားလောင်း နတ်သားသည် တစ်ပါးအမျိုး၌ ဖြစ်ရသောထက် မင်းကြီးသားဖြစ်ရသော် သူတော်တကာ ဖြည့်ကျင့်ရိုးတွင် မိုးကဲထူးမြတ်သော ပရမတ္ထပါရမီ[၂၂] စုံညီဖြည့်ခွင့် အလှည့်သင့်တော်ငြား၍ သူတစ်ပါးပြုနိုင်ခဲသော ဆင်းရဲကို ခံလျက် နိဗ္ဗာန်ဆိပ်ကမ်းသို့ နစ်မွန်းတတ်သော ဩဃဝဲစွယ် ပင်လယ်သံသရာမှ သတ္တဝါအများ မျောပါးနစ်မွန်းသူကို ဆယ်ယူပို့တင် မဂ္ဂင်[၂၃]ဖောင်မှူး ပြုလိုသောသဘောစရိုက် ရှိသည်နှင့်အညီ ဗာရာဏသီပြည် စည်းစိမ်ညွှတ်ကွင်းကို နင်းဖြတ်၍ထွက်ပြီးလျှင် မင်းကြီးမကြွင်း ညွှတ်ကွင်းရှင်အလုံးကို ယူကျုံးပိုက်ချီလျက် ငါ့ဆီသို့ပါစေအံ့ဟု ခန့်ရှယ်ရည်မှန်း အစွမ်းတော်ကိုတိုး၍ အကျိုးထူးရှိသဖြင့် သိလျက်လည်း အမှား မသိဘဲလည်း မသွား သူတစ်ပါးအား စီးပွားအထူး ကျေးဇူးကိုသိသောကြောင့် ကိုယ်တော် အပင်ပန်းခံလေသတည်း ဟု သိအပ်၏။

## ၇။ ထီးချက်စောင့်နတ်သမီး မ ခန်း

ဤသို့ တေမိမင်းသားသည် နှလုံးအကြံဖြင့်ပူပန်လျက် မှိန်းစက်မျှဉ်းခွေနေလတ်သော် ထီးဖြူတော်စောင့် နတ်သမီးသည် လွန်လေပြီးသော ရှေးသံသရာက အမိဖြစ်ခဲ့သော မေတ္တာဟောင်းတွင် ဘုရားလောင်းအား သနားဖွယ်ကိုမြင်၍ အလွန်လျှင်စုံမက် ချစ်ခင်ကြင်နာခြင်းရှိသဖြင့် အမိသဖွယ်ဖန်ဆင်း၍ တေမိမင်းသားအား "မောင်ငယ်။အဘယ်ကိုကြံ၍ ပူပန်ခြင်း ဖြစ်ရသနည်း။ ကြောက်ခြင်း, စိုးရိမ်ခြင်း အထွေထွေအပြားပြားကြံ၍ ပူပန်ခြင်း မရှိနှင့်။ မိခင် အထင်အရှားစောင့်ကြားလျက် သားအလိုကို အဘယ့်ကြောင့် မပြည့်စေနိုင်ပါအံ့နည်း။ သူ မလိုသည်ကို လိုအောင်ပြုခြင်းသာ ခက်သည်။ သူလိုသည်ကို မလိုအောင်ပြုခြင်းကား ခက်သည်မရှိ။ မိခင် အကြံပေးအံ့"ဟု နှစ်သိမ့်စေလျက်၊ "ချစ်သား။ အကယ်၍ ပြည်စည်းစိမ်မှလွတ်မြောက်လိုလျှင် ကိုယ်ကိုအစွမ်းမပြ အနွမ်းအလျှခံလျက် မဆွံ့သော်လည်း ဆွံ့သောအလား, နား မထိုင်းသော်လည်း ထိုင်းရုပ်, နှုတ် မအသော်လည်း အသောအသွင်၊ ဤ အင်္ဂါ၃ရပ်ကို ဆုံးဖြတ်၍ ထုံးမှတ်လောက်အောင် ကြပ်ကြပ်အမြဲ စွဲယူဆောက်တည်ရမည်"ဟု အကြံပေးပြီးလျှင် ဤတေမိယ ဇာတ်တော်ပါဠိ၌ ရှေးဦးစွာ-

'မာ ပဏ္ဍိစ္စံ ဝိဘာဝယ၊ ဗာလမတော ဘဝ သဗ္ဗပါဏိနံ။

သဗ္ဗော တံ ဇနော ဩစိနာယတု၊ ဧဝံ တဝ

အတ္ထော ဘဝိဿတိ။ ။'ဟူသော ဂါထာဖြင့် ဆို၏။ အဓိပ္ပာယ်ကား-

"ချစ်သား တေမိယကုမာရ။ တောက်ပလျှံထိန် ဝဇီရစိန်တူ သူခပ်သိမ်းတို့ နှစ်လိုခံ့ညားဖွယ် တင့်တယ်စွာ ရောင်ခြည်ငြိုသော ပညာရှိတန်ခိုး မျက်မျိုးရတနာ ပညာအနှစ်ကို လှစ်ဖွင့်ပြဖော် အရာလျော်သော်လည်း အခါမတော်လျှင် မဖော်မပြလင့်။ မဖွင့်မလှစ် ကျစ်လစ်စွာဝှက်ဖုံး၍ အသုံးမဝင်ယောင် မြဲနှောင်သိုထားလျက် သူတစ်ပါးမြင်လျှင် ချို့အင်္ဂါယုတ် လူတိမ်ပုပ်[၁၂၆]ဟု သမုတ်[၁၂၇]ပစေ၊ အတွင်းနေ ပြင်သားအများလူဗိုလ် မောင့်ကိုချစ်ခင် မြင်သိသမျှ ဆွံ့အနားပင်း လူချင်းမတူ ဤသူကားကာလကဏ္ဏီ[၁၂၈]ဟု အညီအညာ သူတကာမထိမဲ့မြင် မကြားချင်အောင်မုန်းမှ မောင့်နှလုံး အလိုပြည့်မည်။ ဤသည့်မိခင် ဆိုအင်စကားကို စိတ်ထားအမြဲ စွဲယူဆောက်တည်ပါလျှင် မုန်စွာအလို ပြည့်လတ္တံ့.ဟုဆို၏။

ထီးချက်စောင့်နတ်သမီးကားကိုကြားလျှင် တေမိမင်းသားသည် အားရအင်တက် စိတ်သက်သာရာ ရသည်ဖြစ်၍ နတ်သမီး၏ဥယျောဇဉ်ကို ပဋိညာဉ်ပြုလျက် သာဓုကောင်းချီး ပေးလိုသောကြောင့်-

'ကရောမိ တေ တံ ဝစနံ၊ ယံမံ ဘဏသိ ဒေဝတေ။

အတ္ထကာမာသိ မေအမ္မ၊ ဟိတကာ မာသိ ဒေဝတေ။ ။'ဟူသော ဂါထာဖြင့်ဆို၏။ အဓိပ္ပာယ်ကား-

"နတ်မိခင်။ မချွတ်ပင်လျှင် မိခင်ဆိုတိုင်း ထိုစကားကို ကျွန်ုပ် လိုက်နာပါမည်။ ပြည်စည်းစိမ်ဘုန်းတန်းဖြင့် ပွင့်လန်းသည်ကို မြင်လိုရှုလိုခြင်းရှိသော ကျွန်ုပ်ခမည်းတော်, မယ်တော်တို့ကား မိမိတို့ကိုယ်ဖို့ နှစ်လို့ရာသာ ကြည်ညို၍ ကျွန်ုပ်အလိုသို့မလိုက်။ နှစ်ခြိုက်ရာအကျိုးကို မပျိုးမပြုဖြစ်ရသောကြောင့် ကျွန်ုပ်အား စီးပွားမတွင် ချစ်ခင်ရာမမည်။ နတ်မိခင်သည်သာ ၂ ဖြာသော့ဘဝ၌ တောင့်တအပ်သောစီးပွားများမယုတ် အကျွန်ုပ်အလိုသို့ လိုက်၍ နှစ်ခြိုက်ရာပြည့်စုံကြောင်း လမ်းဟောင်းပြညွှန်ပေသောကြောင့် အလွန် ကျွန်ုပ်အား စီးပွားတွင်တွင် ချစ်ခင်ရာရောက်ပေ၏ "ဟုဆို၏။

ထိုသို့စကားပြောဆိုကြပြီးလျှင် ထီးဖြူစောင့် နတ်သမီး ကွယ်လေ၏။

[ဤအရာ၌ ဘုရားလောင်းမင်းသားငယ်နှင့် ထီးဖြူစောင့်နတ်သမီး ကိုယ်ထင်ပြ၍ စကားပြောသည်မှာ အိပ်မက်ဟူ၍လည်း မဆို။ ထိုနတ်သမီးကိုမူကား တန်ခိုးရှင်ဖြစ်သောကြောင့် အဆင်းအသံကို သူတစ်ပါးမမြင် မကြားရရှိသော် ရှိတန်ပါစေ။ 'ကရောမိ တေ တံ၀စနံ'အစရှိသည်ဖြင့် ဘုရားလောင်း ကောင်းချီးပေးသောစကားကို အနီးအပါးတွင် စောင့်ထိန်းပြုစုရသူ အထိန်းအကြီးတို့ မကြားပြီလော ဟူမူ ဘုရားလောင်းသည် ရန်သူ့လက်မှာ နေရသကဲ့သို့ သူတစ်ပါးတို့ ကြားသိလောက်အောင် အသံထွက်ထွက် မပြော၊ နတ်သမီး သိကြားတန်ရုံ နှလုံးဖြင့်သာ စကားဖြစ်စေ၍ပြောသောကြောင့် ထိုအနီးအပါးရှိသော အထိန်းအကြီးတို့ မကြားမသိ ရသတည်း။

[နှလုံးဖြင့်ပြောသောစကားကို နတ်သမီး အသို့ သိနိုင်ပါအံ့နည်းဟူမူ 'ဒေ၀တာနာမ မဟာပညာ တိဟေတုက ပဋိသန္ဓိကာ အတိခိပ္ပံ ဇာနန္တိ'အစရှိသည်ဖြင့်လာသော ပါရာဇိကဏ် အဋ္ဌကထာနှင့်အညီ 'နတ်တို့မည်သည်ကား တိဟိတ်ပဋိသန္ဓေနေသူသာလျှင် များသည်ဖြစ်၍ အလွန် ပညာကြီးသဖြင့် လူတို့ နှုတ်မမြွက်မီ ပြောအံ့ဟု ရွယ်ကာမျှနှင့်ပင် လျင်စွာ သိစွမ်းနိုင်သောကြောင့်' ဘုရားလောင်းစကားကို အနီးအပါးရှိသူ လူမကြားသော်လည်း နတ်သမီး သိကြားလေသည်ဖြစ်၍၊ အိပ်မက်မဟုတ်ဘဲ အိပ်မက်သောအခါကဲ့သို့ ဘုရားလောင်းမင်းသား မျက်လွှာတော်ကိုချလျက် စက်မှိန်းစဉ် နတ်သမီး သတိပေးလာသည်ဟု မှတ်အပ်၏။]

ထိုသို့ ထီးဖြူစောင့်နတ်သမီး၏ ဥပဒေစကား ၃ ပါးသောအင်္ဂါကို မြဲစွာဆောက်တည်ပြီးသည့်နောက်၌ ဘုရားလောင်းမင်းသားငယ်၏အထံ၀ယ် အခြံအရံဖြစ်စေခြင်းငှာ ၅၀၀ သောအမတ်သား ဖွားဖက်တော် သူငယ်တို့ကို နို့ထိန်းတစ်ယောက်စီနှင့်တကွ ထားစေ၏။

ထိုအခါ အမတ်သားသူငယ်တို့သည် နို့ရည်သောက်စို့ လိုလတ်သော် ဟစ်အော်ငိုကြွေးကြကုန်၏။ ဘုရားလောင်းမင်းသားငယ်မူကား စွဲမြဲအယူ ငရဲဘေးဖြင့် လန့်သည်ဖြစ်၍ စိတ်မပျံ့မကြည် 'နို့ရည်ငတ်သဖြင့် ခြောက်ကပ်၍လျင်မြန်စွာ ဤနေရာထက်တွင် ငါ့အသက်ဆုံးသော်လည်း မီးလျှံလုံးထက်၌ ကျက်ရသော ၀ေဒနာထက် အဆအရာ သာ၍မြတ်သေး၏'ဟု မင်းဖြစ်အံ့အရေးကို ဘေးကြီးလုပ်၍ စက်ဆုပ်တော် မူသဖြင့်'သူငယ်တို့ သတ္တိ မချိလျှင်ငိုမြဲ'အားအစွမ်းကို တမ်းပျက်အောင်ပြုသကဲ့သို့ အမှုမလေး ငိုကြွေးမဲ့လတ် နို့ငတ်သော၀ေဒနာကို သည်းခံကာပြကတေ့ နေတော်မူ၏။

ထိုသို့မင်းသားငယ် မငိုကြွေးနေလေသော် အထိန်းတော်တို့သည် ရှေးနှင့်မတူ အမူတခြား အမတ် သားငယ်များကဲ့သို့ နို့စို့သောက်ချိန် တန်၍မျှလည်း အသံမပေး ဆေးမန္တရား[၂၃၇] အကုအကာပြုရသောအနာ တစိုးတစိ[၂၃၈]ရှိမည့်အခြင်းအရာလည်း မထင်။ ဆင်ခြင်တွေးဆ၍ မရနိုင်ကြ ဖြစ်လေသော် မယ်တော်မိဖုရားကြီးအား သားတော်၏အခြင်းအရာအလုံးစုံကို အကုန်အစင် ပြန်ကြား လျှောက်ထားကြကုန်၏။

စန္ဒာဒေဝီမိဖုရားကြီးလည်း နို့ရည်မွတ်သိပ်လျက် မလှုပ်မယှက် တလက်လက်တကြောင်ကြောင်နေသော မင်းသားငယ်ကိုမြင်လျှင် ရွှင်မြူးပျော်ပါးဖွယ်ပြုသော်လည်း အတုမလိုက် စိုက်မိရာကြည့်၍ မလှည့်မတိမ်း တစိမ်းစိမ်းသာနေသောကြောင့် အထွေထွေမကြံနိုင်သဖြင့် မင်းကြီးအား ပြန်ကြား လျှောက်ထားပြန်လေ၏။

ထိုစကားကို ကာသိကရာဇ်မင်းကြီးကြားလေသော် 'သားတော်၏အကြောင်းအခွင့်ကို အတွေးဉာဏ်ဖြင့် မသိနိုင်ရာ။ ဆရာပုရောဟိတ်တို့သာ နိမိတ်ကိုမြင်သဖြင့် ဆင်ခြင်ဖတ်ကြားနိုင်ရာ၏'ဟု ကြံမိ၍၊ နိမိတ်ဖတ်ပုဏ္ဏား တို့ကိုခေါ်စေပြီးလျှင် သားတော်အား ကြည့်ရှုစေ၍ အခြင်းအရာကိုမေး၏။ ဆရာပုရောဟိတ်တို့လည်း စိတ်အစွဲအလမ်းကို နိမိတ်ကျမ်း, မင်္ဂလာကျမ်းတို့၌ပါရှိတိုင်း ညှိနှိုင်းဆင်ခြင်သော်လည်း အတွင်းအပြင် အန္တရာယ် ရှိဖွယ်လက္ခဏာမမြင်၊ ထင်ရှားတပ်အပ် မဖတ်ကြားနိုင်သောကြောင့် တွေးဆသောဉာဏ်ဖြင့်သာလျှင်

"အရှင်မင်းကြီး။ သားတော်၏အခြင်းအရာလက္ခဏာကို ကျမ်းလာတိုင်းထောက်ရှုသော် ယခုမတုန်မလှုပ် နေခြင်း၌ အတွင်းအပအဇ္ဈတ္တရာယ် တစ်စွယ်တစ်စွန်းမျှ မငြိမရိပ် စိတ်စွဲတစ်ခုရှုမိရာ သူငယ်လေ့ ပျော်မွေ့သော အာရုံ၌ခုံမင်လတ်၍ ငေါ်မွတ်ရေသိပ်ခြင်းကို အခင်းမပြုသဖြင့် ယခု မငိုနေသည် ဖြစ်ပါမည်။ အရှည်အကြာ အခါငံ့ဆွဲ၍ တိုက်မြဲအချိန် လွန်အောင်ထားရလျှင် ကိုယ်တွင်အာဟာရမလုံက တစ်ပါးအာရုံအစွဲအလမ်းမှာ စိတ်တင်းနိုင်မည် မဟုတ်။ တုန်လှုပ်သောကိုယ်ဖြင့် ငိုကြွေးခြင်းကို ပြုပါလိမ့်မည်။ ထိုသည့်ကာလ စို့စေရလျှင် ခင်ခင်မင်မင် ရှင်ပျူနှစ်လို့ စို့အံ့ရာသည်ကား မချွတ်ရာပြီ"ဟုလျှောက်ထားကြကုန်၏။

ပုရောဟိတ်ပုဏ္ဏားတို့ စကားကြားလျှင် ခမည်းတော်မင်းကြီးသည်"ကောင်းပြီ။ ဆရာတို့ဆိုတိုင်း ပြုစေ ရတော့မည်"ဟုဆို၍ ထိုနေ့မှအစပြုပြီးလျှင် ၄ ယောက်စုအလှည့် ၆၀ နို့ထိန်းပေါင်း မောင်းသံ[၁၃]တစ်ချက်ချီ တစ်နာရီပြည့်အချိန်တိုင်း တစ်ကြိမ်တစ်ကြိမ် တိုက်မြဲကိုငံ့ဆွဲ၍ တစ်မောင်းခြား နို့အငေါ်ထားသော်လည်း မင်းသား၏ အမူအရာ မထူးခြားသဖြင့်၊ ဆင့်၍ ၂မောင်းခြား, ၃မောင်းခြားစသည်၊ ရံခါ ၁ ပဟိုရ်, ၂ပဟိုရ်၊ ရံခါ တစ်နေ့ပတ်လုံး မတိုက်မပေး အရေးစမ်းကာ ထားကြကုန်၏။ ထိုသို့ထားသော်လည်း ဘုရားလောင်း မင်းသားငယ် သည် ကြောက်မက်ဖွယ်သောငရဲမီးဖြင့် အနီးရောက်သကဲ့သို့ ခြိမ်းခြောက်ခြင်းရှိသည်ဖြစ်၍ နှစ်သက်ချိုမြိန်စွာ နို့အရသာမြတ် ငေါ်မွတ်ခြင်းနှင့်ညှိုးသော်လည်း တစိုးတစိမျှ ငိုကြွေးခြင်းကို ပြုတော်မမူ။ ယူမိရာစိတ်စွဲကို မြဲစွာချည်၍ တည်ကြည်ခြင်းမပျက်နေလေလျှင် အလွန်ကြင်နာခြင်းဖြင့် မယ်တော်မိဖုရားကြီးသည် "ငါ့သား နို့ငေါ်လှပြီ။ မိခင်နို့ကို စို့သောက်ပါ"ဟုတိုက်ပေ၏။ ရံခါရံခါလည်း နို့ထိန်းတို့ကို တိုက်စေ၏။ ထိုသို့ နို့ အာခံတွင်းသို့ ရောက်မှသာလျှင် စို့သောက်တော်မူ၏။ တစ်ပါးသောသူငယ်များကဲ့သို့မငို အလိုအလျောက် လက်,ခြေတို့ကိုလည်း မယူမသိမ်း မှိန်းမှိန်းယှက်ယှက် အိပ်စက်မွေ့ခြင်းလည်း မရှိ။ နား,မျက်စိတူရှု အမြူအဖျော် မေးခေါ်ကြသော်လည်း မကြားယောင်သဖွယ် တိမ်းဖယ်လှည့်လည်၍ မကြည့်ရှု။ ပြုစုထိန်းယသူတို့ ထားတိုင်းသော ခြေ, လက်, မျက်နှာ, ဣရိယာပုထ်[၁၄]ဖြင့်သာထားလျက် အင်္ဂါ ၃ တန်ကို အဓိဋ္ဌာန်[၁၅]မြဲစွာနှင့် ပါရမီဖြည့်တော်မူ၏။

[ဤတွင်ရွေ့ကား ဘုရားလောင်း တေမိမင်းသား၏ ပရမတ္ထဖြစ်သော အဓိဋ္ဌာန်ပါရမီ, နိက္ခမပါရမီတို့ကို ဖြည့်တော်မူခြင်း အခင်းအကျင်း အရင်းအစကို ပြကြောင်းစကား ပြီး၏။]

ထိုသို့မင်းသား၏ မတုန်မလှုပ်နေကြောင်း အခြင်းအရာကို မသိနိုင်ကြလေသော အထိန်းတော်တို့သည် ဤသို့ ကြံကြကုန်၏။

'ငါတို့သခင့်သားသည် ဆွံ့အ,နားပင်းသကဲ့သို့ ယခု မတုန်မလှုပ်နေသည်မှာ ဆွံ့အသောသူတို့၏ လက်,ခြေနှင့်လည်း မတူ။ အ သောသူတို့၏ မေးနှင့်လည်း အသွင်တခြား၊ နားထိုင်းသော သူတို့၏ နားအုံ, နားရင်းနှင့်လည်း အဆင်းတစ်သွယ်။ ဆွံ့အ,နားထိုင်းဖွယ် လက္ခဏာတစ်စုံတစ်ရာမျှ မထင်။ သို့စင်လျက် ယခုသခင့်သား ရှေးများနှင့်မတူ အမူထူးပြုသည်မှာ တစ်ခုခု အကြောင်းရှိသည် ဖြစ်ရာမည်။ ထိုသို့ အကြောင်း တစ်ခုခု ရှိ၍နေသည် စင်စစ်မှန်လျှင် ထိုအကြံကို ဉာဏ်ကြီးပညာကြီး အသီးသီး တတ်သိကျွမ်းကျင်သော သုခမိန်[၁၆]တို့ဖြင့် ပြွမ်းလျက် ဤနန်းပွဲသဘင်အလယ်တွင် အဘယ်ကြောင့် မသိရှိရအံ့နည်း။ တစ်ခုမတော် တစ်ခုတော် လျော်ရာချင့်ရွယ်၍ အလှယ်လှယ်အပြောင်းပြောင်း ကောင်းမြတ်,ယုတ်ဆိုး စမ်းရိုးသပ်ရိုး အမျိုးမျိုးစီရင်လျက် သခင့်အလိုကိုစမ်းရသော် ကောင်း၏'ဟု ကြံစည်တိုင်ပင်ကြပြီးလျှင် ထိုအကြောင်းကို မင်းကြီးအား လျှောက်ထားကြကုန်၏။

## ၈။ အလိုစမ်းခန်း

ထိုသို့ မင်းကြီးအားလျှောက်၍ ညီညွတ်ကြပြီးသော် "ယခု သားတော်သည် ၁လကျော် အရွယ်ခန့်သာ ရှိသေးသည်။ တစ်ပါးသောအလိုဖြင့် မစမ်းသင့်သေး။ ရှေးဦးစွာ နို့ရည်ဖြင့်ပင် အခါလည် ၁ နှစ်အရွယ်တိုင်အောင် စမ်းဦး။ မထူးမခြားမှ တစ်ပါးကို ပြောင်းရမည်"ဟု တစ်နေ့လုံး တစ်နေ့လုံး နို့ငတ်ထား၍ အလိုကို စမ်းကြကုန်၏။

ထိုသို့ အလိုစမ်းသောအခါ ဘုရားလောင်းမင်းသားသည် ရေဆာမွတ်သိပ်[၂၇]သည်ဖြစ်၍ ပြင်းစွာဆာလောင် ခြောက်ကပ်သော်လည်း နို့စို့အံ့သောငှာ အသံပေးခြင်း, ငိုကြွေးခြင်းကိုမပြုဘဲ ငရဲဘေးကိုရှုသဖြင့် သည်းခံ တော်မူ၏။ ထိုသို့ တစ်နေ့လုံးလုံး နို့မတိုက်လတ်၍ မွတ်သိပ်လျက် မလှုပ်မယှက်နေသောသားတော်ကိုမြင်လျှင် မယ်တော်မိဖုရားကြီးသည် အလွန် သား၏ချစ်ခြင်းဖြင့် သည်းမခံနိုင်သည်ဖြစ်၍ "ငါ့သား နို့ငတ်လှပြီ။ မိခင်တိုက်မည်"ဟူ၍ ရံခါ ကိုယ်တိုင်ပင်တိုက်ပေ၏။ ရံခါရံခါလည်း နို့ထိန်းတို့ကို တိုက်စေ၏။

ဤသို့သောနည်းဖြင့် ၁ နှစ်ပတ်လုံး လစဉ်မပြတ် ရံဖန် တစ်နေ့တိုင်တိုင် နို့ငတ်ထားခြင်း အလိုစမ်းကြီး တို့ဖြင့် လည်းကောင်း၊ အမေးအခေါ် အဖျော်အဖြူ သူငယ်တို့ရွှင်ကြောင်း ဖြားယောင်းမျိုးအသွယ်သွယ် အလိုစမ်းငယ်တို့ဖြင့် လည်းကောင်း စမ်းကြကုန်၏။

ထိုသို့ အလိုစမ်းကြီး,အလိုစမ်းငယ်တို့ဖြင့် ၁နှစ်ပတ်လုံး စမ်းကြသော်လည်း ဘုရားလောင်း၏အလိုတော်နှင့် အလျော်မသင့်၍ အခွင့်မရရှိလတ်လျှင် အမတ်အပေါင်းတို့သည် ကာသိကရာဇ်မင်းကြီးအား "အရှင်မင်းကြီး။ သားတော်၏အလိုကို နို့ရည်ဖြင့်စမ်း၍ ယခု ၁နှစ်သာ လည်တော့သည်။ မည်သည့်ရက်တွင်မျှ အချက်မသင့် အခွင့်မရနိုင်ပါ။ အရွယ်အခါနှင့်လျော်အောင် တစ်သွယ်တရာရှာ၍ အလိုစမ်း စီရင်ဦးပါမှ သင့်ပါမည်"ဟု လျှောက်ထားကြကုန်၏။

ကာသိကရာဇ်မင်းကြီးလည်း "ကောင်းပြီ။ အလိုစမ်းမျိုး တစ်နည်းကြံ၍ စမ်းစေဦးမည်"ဟု ဆိုလျက်၊ အလိုစမ်းဖွယ်ကို တိုင်ပင်ကြံဆောင်ကြပြန်လေ၏။

[ဤကား ရှေးဦးစွာ ဘုရားလောင်းအား အရွယ်တော် ၁ နှစ်ပြည့်အောင် နို့ရည်ဖြင့် အလိုစမ်းခြင်းတည်း။]

ထိုအခါ "၁နှစ် အခါလည်ကျော်ပြီးသော သူငယ်တို့မလေ့ကား တွေ့မြင်ရာအရာမျိုးကို ဆိုးကောင်းမရွေး ဆုပ်လွေး[၂၈] ကိုက်ခဲချင်မြဲဖြစ်သဖြင့် အရှင့်သားတော်လည်း သူငယ်ဖော်တကာတို့ ဓမ္မတာပြုချင်မြဲကို လမ်းမလွဲနိုင်ရာ။ ခံတွင်း,လျှာ အနုအဲထွား သွားပေါ်စသာဖြစ်၍ မသိမ်မွေ့သောအစာလည်း မလျောက်ပတ်။ သိမ်မွေ့ကောင်းမြတ်စွာ ရသာရွှင်ရွှင် သုံးချင်မရောင့်ရဲအောင် မုန့်ခဲဖွယ်စီရင်၍ ယခင်ထုံးကဲ့သို့ပင် ၁နှစ်လုံးလုံး တစ်ခါမသုံး တစ်ခါသုံး နှလုံးအလိုတော်,မတော်ကို အလျော်သင့်စမ်းရသော် ကောင်း၏"ဟု မင်းအမတ်အပေါင်း အညီအညွတ်တိုင်ပင်ကြပြီးသော်၊ ဖွားဖက်ရွှေဖော် အမတ်သား ၅၀၀ အခြံအရံတို့နှင့်တကွ ဘုရားလောင်း တေမိမင်းသားကို နန်းရင်ပြင်၌ထား၍ အထူးထူးအပြားပြား များစွာသကာ, သကြား, ပျား, တင်လဲ ရောနှော၍ လုပ်အပ်သော အဆုပ်အခဲ အဆိမ့်အချို အမျိုးမျိုးမြိန်နိုးဖွယ် အသွယ်သွယ်မုန့်တို့ကို မင်းသား၏မနီးမဝေး၌ ခင်းကျင်းပြီးလျှင် "သခင်အလိုရှိတိုင်း သုံးတော်မူပါ"ဟု အမြူအချူ သူငယ်တို့အလိုလိုက် နှစ်ခြိုက်ရာချော့မော့ ပြောဆို၍ ဖွားဖက်သတို့သား ၅၀၀ မှတစ်ပါး တစ်ယောက်မျှ မနေမချဉ်းစေဘဲ လွှဲဖယ်ပုန်းကွယ်ကာ တင့်တယ်ရာ

အရပ်က နန်းသူနန်းသားအများ မင်းသား၏အခွင့်အကြောင်းကို ချောင်းမြောင်းကြည့်ရှုကာနေ၍၊ တစ်နေ့လုံး တစ်နေ့လုံး ရံဖန်ရံဖန် အခါသင့်မပြတ်မလပ် ၁နှစ်စပ်အောင် အလိုစမ်းကြကုန်၏။

ထိုသို့ အလိုစမ်းသောအခါ ဖွားဖက်ရွှေဖော် အမတ်သား ၅၀၀တို့သည် နှစ်လိုဖွယ်သော မုန့်အထူးထူးကိုမြင်လျှင် သူ့အရင်ငါ ဝမ်းသာရွှင်လန်း ယူလှမ်းငင်ဆုပ် နှုတ်တစ်ဘက်လက် ၂ စ ရသမျှစွဲကိုင် နိုင်ရာအချင်းချင်း ငြင်းခုံတွန်းလှုပ် ခတ်ပုတ်လုယက် မာန်ခက်နှလုံးပြို ငိုသူရွှင်သူ အူအူတက်မျှ[၅၅] အားရအင်ရှဲ ခဲကိုက်လျက်စားကြကုန်၏။

ဘုရားလောင်းတေမိမင်းသားမူကား ဤသို့ မိမိကိုယ်ကို ဆုံးမတော်မူ၏။ 'သတို့သား တေမိမင်းသား။ သင်သည် အစမထင် သံသရာက ဤ မုန့်အရသာကဲ့သို့သော အရသာကို အခါမရေမတွက်နိုင်အောင် စားခဲ့ရလှလေပြီ။ နောင်သံသရာလည်း အဘယ်အခါမျှ ဆုံးမည်မသိ။ ဤထက်မကသော အရသာကိုပင်လည်း အခါမရေမတွက်နိုင်အောင် သင် စားရမည်ကားမချွတ်။ သံသရာဝဋ်မလွတ်မီ အထဲတွင်ငရဲမီးအရှိန်ကို စည်းစိမ်မှတ်ထင်၍ သင်ခံစားလိုလျှင် ထိုမုန့်ခဲဖွယ် အပါယ်တံခါး၀ လမ်းစအကြောင်းရင်း မင်းဖြစ်ဖို့အမြစ်ကို ချစ်ခင်နှစ်သက် မြိန်ရှက်စွာ ဆုပ်ကိုင်၍စားလော့။ နှလုံးထားအမြဲ ငရဲကိုမလိုလျှင် ထိုမုန့်၌အခင်အမင်ကို သင် မလိုက်နှင့်"ဟု ငရဲဘေးဖြင့် ခြိမ်း၍ဆုံးမတော်မူလျက် မျက်စိနှင့် ရူပါရုံဆိုင်လျှင် အနိုင်နိုပ်တတ်သော ရသတဏှာ[၅၆]ပေါ်လာခြင်းရှိ၍ သမာဓိအငြိမ်အသက် ပျက်အံ့သည်မှစိုးသောကြောင့် မြတ်နိုးခြင်းရှင်းရှင်းသန့်သန့် ကွာစေလိုသဖြင့် ထိုမုန့်ခဲဖွယ်တို့ကို မော်၍မျှမကြည့်ရှု၊ ပြုမိရာမျက်နှာထားပြကတေ့ဖြင့် သိမ်မွေ့တည်ကြည်စွာ နေတော်မူ၏။

မယ်တော်, အထိန်းတော်တို့သည် မုန့်တချို့ကို ဘုရားလောင်း၏လက်၌ထား၍ တချို့မုန့်ကိုလည်း မိမိတို့ဖွဲ့ခြွေကာ မြိန်ရေရှက်ရေ 'ဤမုန့်မျိုးကား ချို၏ ဤမုန့်ကား ဆိမ့်၏'ဟုဆို၍ သူငယ်တို့အလိုပါ ချော့ရာသမျှ အလိုစမ်းငယ်တို့ဖြင့် ချော့မော့ဖြားယောင်းပြောသော်လည်း လှုပ်ရှားရုံမျှမရ လက်ဆွံ့နှုတ်အ အယောင်ဆောင်၍ နေတော်မူ၏။ ထိုမုန့်ခဲဖွယ်တို့ကို ခံတွင်းသို့ခွံမှသာလျှင် သုံးဆောင်တော်မူ၏။

ဤသို့ ၁ နှစ်တိုင်တိုင် အခါသင့် ရံဖန်ရံဖန် တစ်နေ့ပတ်လုံး, တစ်နေ့ပတ်လုံး မုန့်ခဲဖွယ်ဖြင့် အလိုစမ်းကြကုန်၏။ ထိုမုန့်ခဲဖွယ်ဖြင့် အလိုစမ်းလျက် ၂ ခါလည်တိုင်အောင် ဘုရားလောင်းမင်းသား၌ တစ်စုံတစ်ခုသောအခွင့်ကိုမျှ မရလတ်သော် မှူးတော် မတ်တော်တို့သည် ရှေးနည်းအတူ မင်းကြီးအား လျှောက်ထား၍ အလိုစမ်းမျိုးတစ်နည်း တိုင်ပင်ကြံဆောင်ကြပြန်လေ၏။

[ဤကား ဘုရားလောင်းမင်းသား အရွယ်တော် ၂ နှစ်ရှိ၍ ၂ ကြိမ်မြောက်သော မုန့်ခဲဖွယ်ဖြင့် အလိုစမ်းခြင်းတည်း။]

ထိုအခါ "၂ နှစ်ကျော်ပြီးသော သူငယ်တို့လေ့ကား သွားခံ့ကျန်းပြီဖြစ်၍ သစ်သီးခဲဖွယ်တို့ကို အငယ် အကြီးမဟူ လှမ်းယူကိုက်ခဲ ပြုမြဲဓမ္မတာ ဖြစ်တော့သည်။ မည်သည့်အသီးမဆို အချိုအချဉ် စားကောင်းသမျှ ကြီးငယ်မရွေး ရှေးနည်းအတူ အလိုစမ်းရသော်ကောင်း၏"ဟု မင်းအမတ်တို့ အညီအညွတ်တိုင်ပင်ကြံပြီးလျှင် ရာသီလိုက် အခါသင့်ပေါ်သော သရက်, ပိန္နဲ, နွဲ, သစ်မည်, စည်, တည်, လွှန်, သစ်ကြား စားကောင်းသမျှသော သစ်သီးမျိုးတို့ဖြင့် အလှည့်လှည့်အပြောင်းပြောင်း ဘုရားလောင်းမင်းသား အမတ်သားရွှေဖော်အစည်းအဝေး၌

ရှေးမုန့်ခဲဖွယ်မှာကဲ့သို့ နှစ်လိုစေကြောင်း ဖြားယောင်းပေးကမ်းလျက် မပြတ်လျှင် အလိုစမ်းကြကုန်၏။ အမတ်သား ၅၀၀တို့သည်လည်း မုန့်ခဲဖွယ်မှာကဲ့သို့ပင်လျှင် အချင်းချင်း ငြင်းခုံပုတ်ခတ်ခြင်းကိုပြု၍ လုယူမြိန်ရှက်နှစ်သက်ရွှင်လန်းစွာ စားကြကုန်၏။

ဘုရားလောင်းမင်းသားမူကား ရှေးနည်းအတူလျှင် ငရဲဘေးဖြင့်ခြိမ်း၍ မိမိကိုယ်ကိုဆုံးမလျက် ငုံ့ကွက်မယိမ်း မတိမ်းမလှည့် ရှုကြည့်မမူ အယူမယိုင် ခိုင်မတ်စွာနေတော်မူ၏။ ဤသို့ သစ်သီးကြီးငယ်ဖြင့် ၁နှစ်ပတ်လုံး ရံဖန်ရံဖန် အလိုစမ်းကြသော်လည်း ဘုရားလောင်းအား တစ်စုံတစ်ခု ပြုမြဲသောအမူအရာမှ ထူးသောအခွင့်ကို မမြင်နိုင်ကြလတ်လျှင် အမတ်တို့သည် ရှေးနည်းအတူ မင်းကြီးအားလျှောက်ထား၍ မင်းသား၏ အရွယ်နှင့်ချင့်လျက် အလျော်သင့်တစ်နည်း အလိုစမ်းရန် တိုင်ပင်ကြံဆောင်ကြပြန်လေ၏။

[ဤကား ဘုရားလောင်း အရွယ်တော် ၃ နှစ်ရှိ၍ ၃ကြိမ်မြောက်သော သစ်သီးကြီးငယ်ဖြင့် အလိုစမ်းခြင်းတည်း။]

ထိုအခါ "၃ လလည်ကျော်ပြီးသော သူငယ်တို့မည်သည်ကား ယောကျ်ားဖြစ်သော် ယောကျ်ားအလိုက်, မိန်းမဖြစ်သော် မိန်းမအလိုက် အမျိုးတို့စရိုက်[၂၇]အားလျော်စွာလျှင် ဆင်ရုပ်, မြင်းရုပ်, ဆိတ်ရုပ်, ကြက်ရုပ်စသည်တိုက်၍ကစားခြင်း၊ ထွန်ငယ်, လှည်းငယ်, လှေငယ် စသည်ဖြင့်ကစားခြင်း၊ အိုးပုတ်ငယ်, ဇန်းငယ်, ဆန်ကောငယ်စသည်ဖြင့် ကစားခြင်း၊ ယဉ်မင်းငယ်[၂၈]စသည်ဖြင့် ကစားခြင်း မိဘတို့အလေ့နှင့်လျော်စွာ ထိုသို့များစွာသောသူငယ်တို့ ကစားဖွယ်မှုကို အလိုရှိချင်မြဲ ဖြစ်သည်။ ဤ သခင့်သားတော်အားလည်း အရွယ်နှင့်လျော်စွာ ဆင်ရုပ်, မြင်းရုပ်, နွားရုပ်, လားရုပ်, ဆိတ်ရုပ်, ကြက်ရုပ် စသော မင်းသားငယ်တို့ ကစားဖွယ်အရုပ်ဖြင့် အလိုစမ်းရသော်ကောင်း၏"ဟု အညီအညွတ်တိုင်ပင်ကြပြီးလျှင်၊ အထူးထူးအပြားပြား ရှုချင်ဖွယ်အဆင်းရှိသော ရွှေစင်ငွေစင် စသည်ဖြင့်ပြီးသည်ဖြစ်၍ ဆန်းကြယ်လှစွာ ပြုလုပ်စီရင်အပ်သော ဆင်ရုပ်, မြင်းရုပ်, နွားလားရုပ်, ဆိတ်ရုပ်, ကြက်ရုပ် စသည်များစွာ ကစားဖွယ်အရုပ်တို့ကို နန်းရင်ပြင်၌ အမတ်သား ၅၀၀ ခြံရံလျက်နေစေအပ်သော တေမိမင်းသား၏ရှေ့တူရူ မနီးမဝေးတွင် ခင်းကျင်းကာထား၍၊ "ဤအရုပ်ငယ်များကား ကစားချင်စဖွယ် အလွန်လှ၏။ ဆင်တိုက်ခြင်း, မြင်းတိုက်ခြင်း, နွားလားတိုက်ခြင်း, ဆိတ်တိုက်ခြင်း, ကြက်တိုက်ခြင်း စသည်ဖြင့် အလိုရှိရာ ကစားကြလော့"ဟု သူငယ်တို့အကြိုက် အလိုလိုက်ချော့မော့မြူးရွှင်မျိုးအလုံးစုံကိုပြု၍ ရှေးနည်းအတူပင် အလိုစမ်းကြပြန်လေ၏။ ဖွားဖက်တော် ရွှေဖော် ၅၀၀ တို့သည် ထိုဆင်ရုပ်,မြင်းရုပ်စသည်တို့ကိုမြင်လျှင် သူငယ်မေ့တော တန်ရာတွင်မရပ် လတ်လတ်ရွှင်ရွှင် မြင်တိုင်းလိုချင်ခြင်းဖြင့် အချင်းချင်း ငြင်းခုံခတ်နှက် လုယက်ဆိုယူ ကလူပျော်ပါး ကစားကြကုန်၏။

ဘုရားလောင်းတေမိမင်းသားမူကား ငရဲမီးတောက် အနီးရောက်သကဲ့သို့ ကြောက်လန့်ခြင်းဘေးဖြင့် ခြိမ်းသည်ဖြစ်၍ မတိမ်းမလှည့် ကြည့်ရှုမမူ ရှေးနည်းအတူ မိမိကိုယ်ကိုဆုံးမလျက် ငြိမ်သက်တည်ကြည်စွာ နေတော်မူ၏။ ဤသို့ သူငယ်တို့ ကစားဖွယ်ဖြစ်သော ဆင်ရုပ်, မြင်းရုပ်စသည်တို့ဖြင့် တစ်ကြိမ်မပါ တစ်ကြိမ်ပါ အခါသင့်ရံဖန်မပြတ် ၁ နှစ်ပတ်လုံး အလိုစမ်းကြကုန်၏။ ညဉ့်, နေ့ အခါမပြတ်လည်း အရွယ်နှင့်လျော်စွာ လိုရာချော့မော့ ဖြားယောင်းခြင်း အလိုစမ်းငယ်တို့ဖြင့်လည်း စမ်းကြကုန်၏။

ထိုသို့ အလိုစမ်းကြသော်လည်း ဘုရားလောင်းအား ထူးခြားသောအခွင့်ကို မမြင်နိုင်ကြလတ်လျှင် အမတ်တို့သည် မင်းကြီးအား အကြောင်းကို လျှောက်ထား၍ မင်းသားအရွယ်နှင့်ချင့်လျက် အလျော်သင့်တစ်နည်း အလိုစမ်းရန် တိုင်ပင်ကြဆောင်ကြပြန်လေ၏။

[ဤကား ဘုရားလောင်း အရွယ်တော် ၄နှစ်ရှိ၍ ၄ကြိမ်မြောက်သော သူငယ်တို့ကစားဖွယ်ဖြင့် အလိုစမ်းခြင်းတည်း။]

ထိုအခါ "၄ ခါလည်ကျော်ပြီးသော သူငယ်မည်သည်ကား စားဖွယ်ခဲဖွယ်ကို ခင်မင်တတ်၏။ စားဖွယ်ခဲဖွယ် အထူးထူးစီရင်၍ အလိုစမ်းသော် ကောင်း၏"ဟု မင်းအမတ်တို့ အညီအညွတ်တိုင်ပင်ကြပြီးလျှင် အထူးအမြတ် ကောင်းမွန်မြိန်နိုးရာ စီရင်အပ်ပြီးသော ထမင်းဟင်းလျာ ဘောဇဉ်[၂၆]တို့ကို ရှေးနည်းအတူ မင်းသားအထံ၌ ကပ်ပေကုန်၏။ သူငယ်ရွှေဖော် ၅၀၀ တို့သည် ထိုဘောဇဉ်မြိန်ရှက်ဖွယ်တို့ကိုမြင်လျှင် ခင်မင်စုံမက် နှစ်သက်ရွှင်လန်းစွာကိုင်ဆုပ်၍ အလုပ်အလွေ့ မြိန်ရေရှက်ရေ စားကြကုန်၏။

ဘုရားလောင်း တေမိမင်းသားမူကား ငရဲဘေးဖြင့် ခြိမ်းသည်ဖြစ်၍ မိမိကိုယ်ကို ဤသို့ ဆုံးမတော်မူ၏။ "ချစ်သား တေမိယကုမာရ၊ အစမထင် ကျင်လည်ခဲ့ရသော သံသရာအယဉ်တွင် ဤဘောဇဉ်ကဲ့သို့ သုံးချင်မရက် နှစ်သက်ဖွယ်ရှိသောဘောဇဉ်ကို ကြဉ်ရှောင်သဖြင့် မစားရသောဘဝ, ဒုဗ္ဘိက္ခ[၂၇]ထိ၍ မရှိသဖြင့် မစားရသောဘဝ, နွမ်းနယ်ဆင်းရဲ ဇာတ်ကွဲ၍မထိုက်သဖြင့် မစားရသောဘဝတို့ကို ဂဏန်းသင်္ချာချ၍ ရေတွက်သော်လည်း မရေတွက်နိုင်၊ များစွာ ကြိမ်ခဲ့ရလှလေပြီ။ မြင့်မြတ်ချမ်းသာ ကောင်းစွာအမျိုးအလိုက် ထိုက်တန်သဖြင့် စားရသောဘဝ, သုဘိက္ခ[၂၈] သမ္ပတ္တိ ဝပြောခြင်းရှိ၍ ပြည့်စုံသဖြင့် စားရသောဘဝ တို့ကိုလည်း ဂဏန်းသင်္ချာချ၍ မရေတွက်နိုင်။ များလှစွာလေပြီ။ ယခုလည်း ငရဲဘေးကိုကြောက်သော သင်သည် အမျိုးအလိုက် ထိုက်တန် ကောင်းမြတ်စွာ ရှေ့သို့ရောက်လာသော ဤဘောဇဉ်ကို အဓိဋ္ဌာန်ခြင်း အင်္ဂါမပျက်အောင် ကြဉ်ရှောင်သဖြင့် အခွင့်လိုရာ အပြီးရောက်ကြောင်း မစောင်းမတိမ်း ဆောက်တည်လော့။ ငုံ့ကွက်ခြင်း သင်မရှိနှင့်"ဟုမိမိကိုယ်ကို ဆုံးမတော်မူ၍ ပြကတေ့ဣန္ဒြေမပျက် ငုံ့ကွက်မကြည့် မလှည့်မလည် တည်ကြည်စွာနေတော်မူ၏။

ထိုသို့ မလှုပ်မယှက် ငြိမ်သက်တည်ကြည်စွာနေသည်ကို မယ်တော်မိဖုရား တစ်ပါးကွယ်ရာက အခါလေးမြင့် စောင့်စားလျက် မခြားမထူးမြင်လျှင် လိုအင်မရ၍ ထတုံထိုင်ထုံ အာရုံမရောင့်ရဲ စိတ်ထဲအပူအပန်ကို သည်းမခံနိုင်သောနလုံးဖြင့် ပုန်းကွယ်ရာကထွက်၍ စုံမက်သနားဖွယ် အသွယ်သွယ်ဖြားယောင်းလျက် ကောင်းစွာကျွေးမွေးပေ၏။ ဘုရားလောင်းမင်းသားသည်လည်း ထို ထမင်းဟင်းလျာ ဘောဇဉ်တို့ကို ခံတွင်းသို့ ရောက်မှသာလျှင် သုံးဆောင်တော်မူ၏။ ဤသို့ မြိန်ရှက်ဖွယ်သော ဘောဇဉ်တို့ဖြင့် အခွင့်တစ်ခါမရ တစ်ခါရ ကောင်းလှစွာစီမံ၍ ကြိမ်ဖန်များစွာ အခါမပြတ် ၁နှစ်ပတ်လုံး အလိုစမ်းကြကုန်၏။ အရွယ်နှင့် ထိုက်တန်ရာယှဉ်၍ အစဉ်မပြတ်သော အလိုစမ်းငယ်တို့ဖြင့်လည်း စမ်းကြကုန်၏။ ထိုသို့ အလိုစမ်းကြသော်လည်း ဘုရားလောင်းမင်းသားအား ထူး၍သော အခွင့်ကိုမမြင်နိုင်ကြလတ်လျှင် အမတ်တို့သည် ရှေးနည်းအတူ အကြောင်းကို မင်းကြီးအားလျှောက် အရွယ်နှင့်လျော်က်၍ အရွယ်နှင့်လျော်ကပ်သော အလိုစမ်းဖွယ်တစ်နည်း တိုင်ပင် ကြံစည်ကြပြန်လေ၏။

[ဤကား ဘုရားလောင်း အရွယ်တော် ၅နှစ်ရှိ၍၊ ၅ကြိမ်မြောက်သော ထမင်း, ဟင်းလျာ, ဘောဇဉ်ဖြင့် အလိုစမ်းခြင်းတည်း။]

ထိုအခါ ၅နှစ်အရွယ် ရှိပြီးသော သူငယ်မည်သည်ကား ထွားနေသော ကိုယ်ဣန္ဒြေသည်းခြေနှလုံးလည်း မငြိမ်သက်တုန်းအချိန် မီးအရှိန်အလျှံကို မခံစားဝံ့။ ထိတ်လန့်ကြောက်ရွံ့ခြင်း ပြင်းပြစွာရှိတတ်သည်ဖြစ်၍ 'မနှစ်လိုဖွယ် အရှိန်ကြီးသောမီးဖြင့် အလိုစမ်းရသော်ကောင်း၏'ဟု မင်းအမတ်တို့ အညီအညွတ်တိုင်ပင်ကြပြီးလျှင် မင်းရင်ပြင် မုခ်နန်းတော်ရှေ့တလင်းတွင် အလျင်အမြန်ထွက်ပြေးသာအောင် များစွာထွက်ပေါက် တံခါးအဝထား၍ မင်းသားငယ်ကစားရာ ကြီးစွာတဲအိမ်ဖြေနန်း ဆောက်လုပ်စေလျက် ထန်းလက်ခက် ရွက်ခြောက်မိုးစေပြီးသော် ရွှေဖော်အမတ်သား ၅၀၀ အခြံအရံနှင့်တကွ ဘုရားလောင်းမင်းသားငယ်ကို ထိုတဲအိမ်တွင်း မြေတလင်းပြင်၌ ကစားစေလိုသောအဖြစ်ဖြင့် အမှတ်မဲ့နေစေ၍ အလန့်တကြား တစ်ပါးမျက်နှာလွဲကာ တဲအမိုးထန်းရွက်ခြောက်ကို မီးတောက်ဖြင့်ရှို့မြှိုက်လေလျှင် လျှင်စွာတဲမိုးအလုံး ဟုန်းဟုန်းတောက်မျှ လောင်လေ၏။ ထိုအခါ အမတ်သား ၅၀၀ တို့သည် မီးလျှံစွဲကူးသည်ကို ရှေးဦးစွာ မြင်စဥ်ကလျှင် နီးရာတံခါးဖြင့် ထွက်သွားဟာစ်အော် ကြွေးကြော်မြည်တမ်းလျက် ပရမ်းပတာ[၂၁]ပြေးကြလေ၏။

ဘုရားလောင်း တေမိမင်းသားမူကား ဤသို့ ကြံတော်မူ၏။ 'ဤထန်းရွက်ခြောက်မီးသည် ပူသော်လည်း ငါ့ကို လောင်ရုံမြိုက်ရုံမျှသာ ရှိမည်။ အရိုးအသား ကျွမ်းလောင်အောင်မျှ အပူမကြီးရာ။ ငရဲအဝီစိမီးမူကား အနီးမတွေ့ အဝေးအခိုးနှင့်ပင် အရိုးအသား ကြေကျွမ်းဘနန်း[၂၃]လျှမ်းလျှမ်းတက်မျှ ဤမီးထက် အဆအရာ၊ အဆအထောင်၊ အဆအသိန်းမက အရှိန်အပူ ကြီးစွာတုံသေး၏'ဟုကြံလျက်၊ "ချစ်သား တေမိယကုမာရ။ ဤထန်းရွက်ခြောက်မီးကိုမျှ သည်းမခံနိုင်ထွက်ပြေးခဲ့လျှင် ငရဲမီးမှာ အသို့လျှင် သင် ခံနိုင်ပါအံ့နည်း။ ငရဲမီးကိုကြောက်၍ မင်းမပြုလိုလျှင် ဤမီးပူကို အဓိဋ္ဌာန်မပျက်အောင် သင်သည်းခံလော့"ဟုမိမိကိုယ်ကို ဆုံးမတော်မူ၍ ပူပြင်းကြောက်လန့်ဖွယ်သော အနိဋ္ဌာရုံ၌[၂၄]တုန်လှုပ်ကြောက်လန့်တတ်သော'ဒေါသမူ ဗျာပါဒ'စိတ်ကို နင်းနှိပ်အောင်မြင်ပြီး မထေရ်ကြီးအဝါ ဖဝါ ကျော်ရှိ နိရောဓသမာပက်သို့ ဆည်းကပ်သောအခိုက်အခါ အနာဂါမ်ရဟန္တာအရှင်မြတ်တို့ကဲ့သို့ နှစ်လို၍လည်းမဟုတ်၊ စက်ဆုပ်၍လည်း စိတ်မညစ်၊ လျစ်လျူသော လိုအပ်သောအမူရင်း၌သာလျှင် နှလုံးသွင်းစွဲချည်လျက် တည်ကြည်စွာ မတုန်မလှုပ်နေတော်မူ၏။

ထိုသို့ မီးလျှံအရှိန်အဝါ ထလျက်လည်း မတုန်မလှုပ်နေသော မင်းသားကိုမြင်လျှင် အထိန်းတော်တို့သည် မင်းသား၏အနီးသို့ မီးရောက်လတ်သောအခါ မီးပွားမီးပေါက် ကျရောက်အံ့သည်မှစိုးသောကြောင့် ဘုရားလောင်း မင်းသားကို ပိုက်ချီသိမ်းယူကြကုန်၏။ ထိုသို့ မီးဖြင့် ရံဖန်ရံဖန် အခါမပြတ် ၁နှစ်ပတ်လုံး တစ်ကြိမ်မကြောက် တစ်ကြိမ်ကြောက်အောင် ခြောက်ခြိမ်း၍ အလိုစမ်းကြကုန်၏။ အရွယ်နှင့်လျော်စွာ တစ်နေ့မပြတ်လည်း အလန့်တကြား ယောင်မှား၍စကားပြောအောင်၊ လက်,ခြေလှုပ်ရှားအောင်၊ နားလှည့်၍ ထောင်အောင် ကြံဆောင်လျက် ထိုထိုတော်သင့်ရာ အလိုစမ်းငယ်တို့ဖြင့်လည်း စမ်းကြကုန်၏။

ထိုသို့လူတွင် ဆေးစီရင်နည်းကျမ်း၌ 'ပူချမ်းဥတု၊ အိမ်မှုမိုကြူး၊ လန့်မူးကြောက်ထိတ်၊ စိတ်အကြံများ၊ အစားမတော်၊ အိပ်မပျော်နိုး၊ ရေချိုးမသင့်'ဤသို့အားဖြင့် ၇ ပါးသော အနာရောက်ကြောင်းတွင် ဘုရားလောင်းမင်းသားကိုယ်တော် ဖျော့တော့[၂၅]ညှိုးကြုံ မတုန်မလှုပ်နေသောအနာကို ပညာရှိအများ တွေးဆ၍ စိတ္တဇသော[၂၆]ဖြစ်သည်ဟု စင်စစ် သိသဖြင့် အသင့်တော်ရာရှာ၍ ထိုသို့အလိုစမ်းဆေး ပေးကုစီရင်ကြသော်လည်း စိတ်တော်အကြိုက်နှင့် အလိုက်မသင့်၍ အခွင့်မရကြလတ်လျှင် အမတ်တို့သည် ရှေးနည်းအတူအကြောင်းကို

"ချစ်သားသည်။ ယခု ပထမအရွယ်သာဖြစ်၍ ကာမဂုဏ်စည်းစိမ်ဖြင့် ပျော်မွေ့ခြင်းသည်သာလျှင် အရွယ်နှင့် လိုက်လျောာ၏။ ငြီးငွေ့လောက်သော အရွယ်ရောက်သော်တစ်မူကား ယခုကဲ့သို့ပင် ရဟန်းပြုလိုလည်း ပြုရပါ၏။ ယခုကား အရွယ်နှင့် မတန်သေး။ ပြည်သို့ပြန်၍ မင်းပြုသောအခါ ချစ်သား၏ဘုန်းအာနုဘော်ဖြင့် ထီးဖြူးဆောင်းချင်း မင်းတစ်ပါးတို့ခံညားခြင်း ရှိသည်ဖြစ်၍၊ နစ္စဂီတ[၅၀၀]အမှု၌ လိမ္မာစွာ မင်းသမီး ကညာတစ်ယောက်စီ အသီးသီးဆက်ကပ်လာသဖြင့် ထိုမင်းသမီးတို့၏အလယ်၌ ချစ်သား၏နှလုံးသည် အလွန်မွေ့လျော်ခြင်း ဖြစ်လတ္တံ့။ ဤတောအရပ်၌ နေ၍ အဘယ်ပြုအံ့နည်း။

"အရွယ်နှင့် မတန်သေး။ ငယ်ရွယ်သောအခါက ကာမဂုဏ်ချမ်းသာကို ခံစား၍ နောင် အရွယ်လွန်သော အခါမှ ရဟန်းပြုရသော်သာ တော်လျော်တင့်အပ်၏။ 'ကြီးမှ ရဟန်းပြုသော် မအပ်'ဟူ၍ ရှိတော့သည် မဟုတ်ပြီ။ ထို့ကြောင့် ယခု ပြည်သို့ပြန်၍ အရွယ်ရှိသည့်ကာလပတ်လုံး အဘိုး၏အမွေဖြစ်သော ထီးနန်းစည်းစိမ်ကိုစိုးစံပါဦး။

"ချစ်သား။ ယခု အမိနို့ရည် စင်ရုံမျှအရွယ်သာရှိသေး၏။ အလွန် ထွားနုလှသေး၏တကား"ဟုဆို၍ တောင်းပန်ဖိတ်ကြား၏။

ခမည်းတော်စကားကိုကြားလျှင် ဘုရားလောင်းသည် 'ယခုတစ်မူကား စကားစရာ၍ပင် ငါ ဆုံးမအပ်သည် ဖြစ်ပေလျက် ခမည်းတော် စကားစထွင်၍ ရှိပြီးဖြစ်သောကြောင့် ခမည်းတော်တို့အား ဝဋ်တရား၏ ဆင်းရဲစင်စစ်ဖြစ်သည်ကို ထင်စွာပြလျက် နိစ္စ, သုခ, အတ္တ, သုဘ ဟု အမှတ်မှားလေသည်ကို အမှန်ဖြစ်စေကြောင်း ကောင်းစွာ တရားဟောအံ့'ဟု ကြံ၍-

'ယုဝါ စရေ ဗြဟ္မစရိယံ၊ ဗြဟ္မစာရီ ယုဝါ သိယာ။
ဒဟရဿ ဟိ ပဗ္ဗဇ္ဇာ၊ ဧတံ ဣသိဘိ ဝဏ္ဏိတံ။ ။
'ယုဝါ စရေ ယုဝါ သိယာ၊ဗြဟ္မစာရီ ယုဝါ သိယာ။
ဗြဟ္မစရိယံ စရိဿာမိ၊ နာဟံ ရဇ္ဇေန မတ္ထိကော။ ။
'ပဿာမိ ဝေါဟံ ဒဟရံ၊ အမ္မတာတာ ဝဒန္တ ရံ။
ကိစ္ဆလဒ္ဓံ ပိယံ ပုတ္တံ၊ အပတွာဝ ဇရံ မတံ။ ။
'ပဿာမိ ဝေါဟံ ဒဟရိံ၊ ကုမာရိံ စာရုဒဿနိံ။
နဝ ဝံသကဠီရံဝ၊ ပလုဂ္ဂံ ဇီဝိတက္ခယံ။ ။
'ဒဟရာ ပိ စ မိယျန္တိ၊ နရာ စ အထ နာရိယော။
တတ္ထ ကော ဝိဿသေ ပေါသော၊ ဒဟရော မှီတိ ဇီဝိတေ။ ။
'ယဿ ရတျာ ဝိဝသာနေ၊ အာယု အပ္ပတရံ သိယာ။
အပ္ပေါဒကေဝ မစ္ဆာနံ၊ ကိံ နု ကောမာရကံ တဟိံ။ ။
'နိစ္စ မဗ္ဘာဟတော လောကော၊ နိစ္စံဝ ပရိဝါရိတော။
အမောဃာသု ဝဇန္တီသု၊ ကိံမံ ရဇ္ဇေန သိဉ္စသိ။ ။'ဟူသော ၇ ဂါထာဖြင့် တရားဟောတော်မူ၏။

အဓိပ္ပာယ်ကား-

"ခမည်းတော်။ ငယ်ရွယ်ပျိုနုသောအခါက မြတ်သောအကျင့်ကို ကျင့်လေ့ရှိသော သူအားသာလျှင် 'ကာမဂုဏ်စိတ်၏ အလိုသို့ ကိုယ်မလိုက်နိုင်သောအရွယ်မှ မြတ်သော အကျင့်ကို ကျင့်သော သူတို့ထက်' အဆအရာ, အဆအထောင်အားဖြင့် ဘုရားအစရှိသော ရသေ့, ရဟန်း, သူတော်ကောင်းတို့သည် ချီးမွမ်းအပ်၏။

"အတွေ့စည်းစိမ်ကိုရှောင်ကြဉ်၍ ငယ်ရွယ်ပျိုနုသောအခါက ရဟန်းပြုရခြင်းသည် မြတ်၏။ ထို့ကြောင့် ငါလည်း လက်သို့ ရောက်ပြီးသော စည်းစိမ်ကိုပယ်၍ မြတ်သောအကျင့်ကိုသာလျှင် ကျင့်အံ့။ ပြည်စည်းစိမ်ဖြင့် အလိုမရှိပြီ။

"ယခုဆိုလတ္တံ့သော စကားကို မယ်တော်,ခမည်းတော်တို့ အသင့်နှလုံးသွင်း၍ မှတ်နာကြကုန်။ ဤလောက၌ အရွယ်ရောက်စသာဖြစ်ကုန်သော လုလင်ပျိုတို့သည် လည်းကောင်း၊ ယောကျ်ားတို့၏ နှလုံးကို ရွှင်စေတတ်သောအဆင်းကို ဆောင်ကုန်သော သမီးလုလင်တို့သည် လည်းကောင်း အိမ်ရာမကျမီ, သားကြီး မြေးပွားမရှိမီ, အဆင်း၏ပျက်ခြင်း, အိုခြင်း, သေခြင်းမည်သည် မဖြစ်နိုင်ရာ ဟူ၍ရှိသော်ကား 'အငယ်က ရဟန်းမပြုလင့်'ဆိုသော် အလျော်သင့်သေး၏။

"ယင်းသို့ကား မဟုတ်။ ပဋိသန္ဓေကပင် ပျက်စီးရသောသတ္တဝါ, ဖွားစကပင် ပျက်စီးရသော သတ္တဝါ, အရွယ်ရောက်စကပင် ပျက်စီးရသောသတ္တဝါ စသည့်ဖြင့် အခါအရွယ်ကို ငံ့တွယ်ခြင်း မရှိ၊ ဗျာဓိ, ဇရာ, မရဏ မပြတ်နှိပ်စက်သဖြင့် 'ငါ့အသက်, ငါ့ကိုယ်'ဟုပြောဆို၍ ကောင်းရာတစ်ခုမျှ မထင်ဘဲလျက် အသက်ကို မိဘ ပိုင်သကဲ့သို့ အဘယ့်ကြောင့် 'အိုမှ ရဟန်းပြု, ယခု ထီးနန်းစံဦး'ဟုဆိုထိုက်ပါအံ့နည်း။

"တရွေ့တရွေ့ ခန်းခြောက်သဖြင့် ရေနည်းခြင်းသို့ရောက်သောအိုင်၌ ငါးကဲ့သို့ သတ္တဝါအပေါင်းတို့ အားလည်း တစ်ညဉ့်တစ်ညဉ့် ကုန်သဖြင့် အသက်၏နည်းခြင်းသို့ ရောက်မြဲကား ဓမ္မတာတည်း။ ထို့ကြောင့် မအို, မသေ မနေရဘဲလျက် ယခု ပျိုနုသောအရွယ် ဖြစ်သည်ဟူ၍ ထိုခဏဖြစ်သော အရွယ်အဆင်း၌တပ်သဖြင့် အဘယ်အကျိုး ရှိအံ့နည်း။

"ခမည်းတော်, မယ်တော်တို့။ လောကကို မပြတ်လည်း နှိပ်စက်၏။ မပြတ်လည်း ခြံရံ၏။ အချည်းနှီး မဟုတ်မူ၍လည်း လွန်၏။ ထိုသို့ဖြစ်လျက် မင်း၏အဘိသိက်ဖြင့် ငါ၌ အဘယ်ပြုအံ့နည်း။ မြတ်သောအကျင့်ကို ကျင့်ရခြင်းသည်သာလျှင် အကျိုးရှိ၏"ဟု သံဝေဂနှင့်စပ်ယှဉ်သော တရားစကားကို ကောင်းစွာဟောတော်မူ၏။

ထိုအခါ ခမည်းတော် ကာသိကရာဇ်မင်းကြီးသည် 'လောကကို မပြတ်နှိပ်စက်၏'ဟု စသည်ဖြင့် ဟောသော ဘုရားလောင်းတရားတော်၏ အနက်ကို ဥဒ္ဒေသမျှဖြစ်၍ မသိနိုင်ခြင်းကြောင့် နှစ်သက်သည် အားလျော်စွာ ထိုတရား၏အနက်ကို သိလိုသည်ဖြစ်၍–

'ကေန မဗ္ဘာဟတော လောကော၊ ကေန စ ပရိဝါရိတော။

ကာယော အမောဃာ ဂစ္ဆန္တိ၊ တံ မေ အက္ခာဟိ ပုစ္ဆိတော။ ။'ဟူသော ဂါထာဖြင့်မေး၏။အဓိပ္ပာယ်ကား–

"ချစ်သား။ လောကကို နှိပ်စက်တတ်သောရန်သူကား အဘယ်နည်း။ ခြံရံတတ်သော ရန်သူကား အဘယ်နည်း။ အချည်းနှီး မဟုတ်မူ၍ သွားတတ်ကုန်သည်ကား အဘယ်သည်တို့နည်း။ ထိုအကြောင်းကို သ်မြင်တိုင်း သိသာအောင် ချစ်သား ကြားဦးလော့"ဟု မေး၏။

ခမည်းတော်စကားကိုကြားလျှင် ဘုရားလောင်းသည် ထိုအကြောင်း ပြန်ကြားလို၍–

'မစ္စုနာ ဗ္ဘာဟတော လောကော၊ ဇရာယ ပရိဝါရိတော။

ရတျော အမောဃာ ဂစ္ဆန္တိ၊ ဧဝံ ဇာနာဟိ ခတ္တိယ။ ။

'ယထာပိ တန္တေ ဝိတန္တေ၊ ယံ ယံ ဒေဝူပဝိယျတိ။

အပ္ပကံ ဟောတိ ဝေတဗ္ဗံ၊ ဧဝံ မစ္စာနဇီဝိတံ။ ။

'ယထာ ဝါရိဝဟော ပူရော၊ ဂစ္ဆံ နုပရိဝတ္တတိ။

ဧဝ မာ ယု မနုဿနံ၊ ဂစ္ဆံ နုပရိ ဝတ္တတိ။ ။

'ယထာ ဝါရိဝဟော ပူရော၊ ဝဟေ ရုက္ခေ ပကူလဇေ။

ဧဝံ ဇရာ မရဏေန၊ ဝုယှန္တေ သဗ္ဗပါဏိနော။ ။'ဟူသော ၄ ဂါထာတို့ဖြင့် ဥပမာနှင့်တကွ အကျယ်ဝေဖန်၍ ဟောကြားတော်မူ၏။ အဓိပ္ပာယ်ကား-

"ခမည်းတော်ကြီး။ လောကကို မပြတ်နှိပ်စက်သည်ကား သေခြင်းတည်း။ လောကကို မပြတ်ခြံရံသည်ကား အိုခြင်းတည်း။ အချည်းနှီး မဟုတ်မူ၍ လွန်တတ်, သွားတတ်သည်ကား ညဥ့်,နေ့ တို့တည်း။

"ခမည်းတော်မင်းကြီး။ ထို ဇရာ,မရဏတို့ကို ဥပမာဆိုသော်ကား သတ္တဝါတို့အသက်သည် ရက်ကန်း ချည်နှင့်တူ၏။ ညဥ့်, နေ့ တို့သည် ချည်ချောင်း အစဥ်ရက်သည်နှင့် တူ၏။ ရက်ဖန်များသဖြင့် ရက်ကန်းစာကုန်သည်နှင့်ကား ညဥ့်ကုန်ဖန်များသဖြင့် အသက်ကုန်ခြင်းနှင့် တူ၏။

"တစ်နည်းလည်း သတ္တဝါတို့၏ကိုယ်ကာယသည် မြစ်ကမ်းထိပ်၌ရောက်သော သစ်ပင်တို့နှင့် တူ၏။ အိုခြင်း, သေခြင်းသည် ထိုသစ်ပင်ကို တစ်နေ့မပြတ် ပြင်းစွာတိုးဇော့တတ်သော ရေနှင့် တူ၏။ ထိုရေအယဥ်သည် အချည်းနှီး မဟုတ်မူ၍ ကမ်းကို တရွေ့တရွေ့ပြုန်းစေ, ပြိုစေသည်နှင့်ကား အချည်းနှီးမလွန်မူ၍ သတ္တဝါတို့၏ အရွယ်ကို ကြီးစေခြင်း, အဆင်းကို ပျက်စေခြင်း, အားကို ယုတ်စေခြင်းကိစ္စကို ပြီးစေလျက် လွန်တတ်သော ညဥ့်,နေ့နှင့် တူ၏။

"ထို့ကြောင့် ပြည်စည်းစိမ်ဖြင့်နေ၍ ငါ့၌ အကျိုးမရှိ။ ဝဋ်တရား၏ နှိပ်စက်ခြင်းကိုသာ ခံရတော့မည်။ ဇရာ, မရဏ အစရှိသော ဝဋ်တရား၏နှိပ်စက်ခြင်းကိုသာ ခံရသေးသော်လည်း မြတ်သောတရားကိုကျင့်၍ အကျိုးရှိသောနေခြင်းဖြင့် နေရသော်သာ မြတ်လှတော့သည်"ဟု ခမည်းတော်,မယ်တော်တို့အား တရားဟောတော်မူ၏ ဟူလိုသည်။

ဤသို့ ဘုရားလောင်း၏တရားစကားကို ကြားနာရလျှင် ခမည်းတော် ကာသိကရာဇ်မင်းကြီးသည် ကာမဂုဏ်၌ ရွံရှာခြင်းဖြစ်၍၊ ရဟန်းပြုလိုသောနှလုံး ရှိသဖြင့် ဤသို့ ကြံ၏။

'ယခု ငါ့သားတော်ဟောအပ်သော တရားကိုနာရသဖြင့် ငါ၏နှလုံးသည် အလွန်နူးညံ့ခြင်းသို့ ရောက်၏။ ပြည်စည်းစိမ်ဖြင့် ငါ အလိုမရှိပြီ။ ငါ့သားတော်မူကား အရွယ်ရှိပေသေးသောကြောင့် ပြည်စည်းစိမ် ကာမဂုဏ်ဖြင့် စံလိုလည်းစံပါစေဦး။ ပြည်စည်းစိမ်ကို ထပ်၍တစ်ဖန် ငါ အပ်နှင်းခြင်းဖြင့် စုံစမ်းအံ့'ဟု ကြံပြီးလျှင်-

'ဟတ္ထာနီကံ ရထာနီကံ၊ အဿေ ပတ္တီ စ ဝမ္မိနော။
နိဝေသနာနိ ရမ္မာနိ၊ အဟံ ပုတ္တ ဒဒါမိ တေ။ ။

'ဣတ္ထာဂါရံ ပိ တေ ဒမ္မိ၊ သဗ္ဗာလင်္ကာရ ဘူသိတံ။
တာသု ပုတ္တေ ပဋိပဇ္ဇ၊ တွံ နော ရာဇာ ဘဝိဿသိ။ ။

'ကုသလာ နစ္စဂီတဿ၊ သိက္ခိတာ စာတုရိတ္ထိယော။
ကာမေတံ ရမယိဿန္တိ၊ ကိံ အရညေ ကရိဿသိ။ ။

'ပဋိရာဇူဟိ တေ ကညာ၊ အာနယိဿံ အလင်္ကတာ။
တာသု ပုတ္တေ ဇနေတွာန၊ အထ ပစ္ဆာ ပဗ္ဗဇိဿသိ။ ။

'ယုဝါ စ ဒဟရော စာပိ၊ ပဌမုပ္ပတ္တိတော သုသု။
ရဇ္ဇံ ကာရေဟိ ဘဒ္ဒန္တေ၊ ကိံ အရညေ ကရိဿသိ။ ။

'ကောဋ္ဌာဂါရဉ္စ ကောသဉ္စ၊ ဝါဟနာနိ ဗလာနိ စ။
နိဝေသနာနိ ရမ္မာနိ၊ အဟံ ပုတ္တ ဒဒါမိတေ။ ။
'ဂေါမဏ္ဍလ ပရိဗျူဠှော၊ ဒါသိသံဃပုရက္ခတော။
ရဇ္ဇံ ကာရေဟိ ဘဒ္ဒန္တေ၊ ကိံ အရညေ ကရိဿသိ။ ။'ဟူသော ၇ ဂါထာတို့ဖြင့်အပ်နှင်း တောင်းပန်ပြန်၏။ အဓိပ္ပာယ်ကား-

"ချစ်သား။ ခမည်းတော်အား သံသရာစီးပွားအလို့ငှာ ဟောကြားပေသောကြောင့် ကာမဂုဏ်၌ ကြံခြင်းစသော စိတ်၏တုန်လှုပ်ခြင်း ကင်းငြိမ်းသဖြင့် ကောင်းသောသမာဓိကိုရသည်ဖြစ်၍၊ အရွယ်၏ ဖောက်ပြန်ခြင်းစသော အခြင်းအရာ ထင်ရှားစွာ နှလုံး၌ဝင်လာပေသောကြောင့် အရွယ်အားဖြင့်လည်း ကာမဂုဏ် ကိုငြီးငွေ့ချိန် အရွယ်ရောက်ပြီးဖြစ်၍ ထီးနန်းကို အလိုမရှိပြီ။ ဤတောအရပ်၌ပင်လျှင် တစ်ယောက်ထီးတည်း ဖြစ်သော်လည်း ရဟန်းတရားဖြင့် ကာလကို လွန်စေတော့မည်။ ယခု ခမည်းတော်အကြံရှိ၏။

"ထို့ကြောင့် ချစ်သားမူကား အရွယ်အားဖြင့် စည်းစိမ်စံချိန်သာလည်း ဖြစ်သေး၏။ ဝဋ်တရား၌ အပြစ်ကိုမြင်သော ချစ်သားသည် ပြည်စည်းစိမ်၌ စိုးစံသော်လည်း ဝဋ်တရားကင်းကြောင်းဖြစ်သော တရားတို့ကို မဖြည့်ကျင့်နိုင်ဘဲ ရှိတော့မည်မဟုတ်။ မင်းကျင့်တရား ၁၀ ပါးနှင့်အညီ မင်းပြုလျှင်လည်း အကျိုးမဲ့ကာလကို လွန်စေသည် မမည်ရာ။ နောင် အရွယ်ကြီးသောအခါမှ ရဟန်းပြုပါလော့။

"ယခု ခမည်းတော် ဤတောအရပ်၌ ရဟန်းပြုရစ်လျှင် ဤ ဗိုလ်ထုအလုံးအရင်းနှင့် ပြည်သို့ပြန်၍ ချစ်သား မင်းပြုပါသော် ခမည်းတော်၏နှလုံးအလိုကို ဆောင်သည်လည်း မည်ပါ၏။

"ထို့ကြောင့် ပြည်သို့ပြန်၍ မင်းတစ်ပါးတို့မှ ဆင်းသက်လာအပ်သော မင်းသမီးတို့၏အလယ်၌ တင့်တယ်စွာ ကာမဂုဏ်ချမ်းသာကို အရွယ်နှင့် ပြည့်စုံသည့် ကာလပတ်လုံး စိုးစံပါချေဦး"ဟုထပ်၍ တစ်ဖန် ပြည်စည်းစိမ်ကို အပ်နှင်းပြန်၏ ဟူလိုသည်။

ခမည်းတော်စကားကို ကြားလျှင် ဘုရားလောင်းသည် ပြုအပ်သောကုသိုလ်ကောင်းမှု၌ အခါရွေး၍ အလေးအနွဲ့ မပြုအပ်ကြောင်း၊ ဇရာ,ဗျာဓိ အစရှိသော ဝဋ်တရားတို့ကို အစိုးမရကြောင်း၊ မိမိ၏ကာမဂုဏ် အနှောင်အဖွဲ့မှ 'ဝိက္ခမ္ဘန'သတ္တိ'ဖြင့် ကင်းလွတ်လေပြီးကြောင်းကို ပြလို၍-

'ကိံ မံ ဓနေန ခီယေထ၊ ကိံ ဘရိယာယ မရိဿတိ။
ကိံ ယောဗ္ဗနေန ဝဏ္ဏေန၊ ယံ ဇရာယာ ဘိဘုယျတိ။ ။
'တတ္ထ ကာ နန္ဒိကာ ခိဍ္ဍာ၊ ကာ ရတိ ကာ ဓနေသနာ။
ကိံ မေ ပုတ္တေဟိ ဒါရေဟိ၊ ရာဇ မုတ္တောသ္မိ ဗန္ဓနာ။ ။
'ယော ဟံ ဧဝံ ပဇာနာမိ ၊ မစ္စု မေ နပ္ပမဇ္ဇတိ။
အန္တကေနာ ဓိပန္နဿ၊ ကာ ရတိ ကာ ဓနေသနာ။ ။
'ဖလာန မိဝ ပက္ကာနံ၊ နိစ္စံ ပတနတော ဘယံ။
ဧဝံ ဇာတာန မစ္စာနံ၊ နိစ္စံ မရဏတော ဘယံ။ ။
'သာယ မေကေ န ဒိဿန္တိ၊ ပါတော ဒိဋ္ဌာ ဗဟူ ဇနာ။
ပါတော ဧကေ န ဒိဿန္တိ၊ သာယံ ဒိဋ္ဌာ ဗဟူ ဇနာ။ ။
'အဇ္ဇေဝ ကိစ္စံ အာတပ်၊ ကော ဇညာ မရဏံ သုဝေ။
န ဟိ နော သင်္ကရံ တေန၊ မဟာသေနေန မစ္စုနာ။ ။

'ဇောရာ ဓနသာ ပတ္တေန္တိ၊ ရာဇ မုတ္တောသ္မိ ဗန္ဓနာ။
ပေဟိ ရာဇ နိဝတ္တေဿသု၊ နာဟံ ရဇ္ဇေန မတ္ထိကော။ ။'ဟူသော ၇ ဂါထာတို့ဖြင့် တရားဟောတော်မူ၏။ အဓိပ္ပာယ်ကား-

"ခမည်းတော်မင်းကြီး။ ဥစ္စာစည်းစိမ်ဟူသည်ကား ရန်သူ ၅ ပါး[၆၂]ဖျက်ဆီး၍ ပျက်ပြုန်းသဖြင့်လည်း ဥစ္စာရှင်ကို စွန့်တတ်၏။ ရန်သူ ၅ပါး မဖျက်ဆီးမူ၍ မိမိဖြစ်ဆဲ, ပွားဆဲသော်လည်း ဥစ္စာရှင်သေသဖြင့် ဥစ္စာရှင်သည် စွန့်အပ်၏။ ထိုသို့ စွန့်တတ်,စွန့်အပ်သော အခြင်းအရာဖြင့် ပျောက်ခြင်း, ကုန်ခြင်း သဘောသာလျှင် စင်စစ်ဖြစ်သော ပြည်စည်းစိမ်ဖြင့် အဘယ့်ကြောင့် ခမည်းတော် ဖိတ်မန်ခြင်းကို ပြုပြန်ရသနည်း။

"သမီးကညာ, မိဖုရား, မောင်းမ, ခြေရင်းအလုပ်အကျွေး ဟူသည်တို့လည်း ထိုပြည်စည်းစိမ်ကဲ့သို့ပင် စွန့်တတ်စွန့်အပ်သောအခြင်းအရာဖြင့် ကုန်ခြင်း,ကင်းခြင်းသဘောသာလျှင် စင်စစ်ဖြစ်လျက် အဘယ့်ကြောင့် မိန်းမမြတ်ရတနာတို့ဖြင့် ဖိတ်မန်ခြင်းကို ခမည်းတော် ပြုရသနည်း။ ယမန်နေ့ကဖြစ်သော အရွယ်အဆင်းကို ယနေ့ မမီနိုင်အောင် အိုခြင်း, ရင့်ခြင်းဖြင့် နှိပ်စက်အပ်သည်စင်စစ်ဖြစ်လျက် အဘယ့်ကြောင့် အရွယ်အဆင်း၏ ဂုဏ်ကို ချီးမွမ်းရသနည်း။

"မိန်းမမြတ်တို့၏ လက်, ခြေ, မျက်နှာ စသည်ကိုတွေ့မြင်၍ နှစ်သက်ခြင်း,တပ်ခြင်း၊ မြင်ဖူး, တွေ့ဖူး, ကြားဖူးသည်ကိုနှလုံးဖြင့် အကောင်းအမြတ်ကြံ၍ နှစ်သက်ခြင်း, တပ်ခြင်း၊ အစရှိသော ဆန္ဒရာဂ[၆၃], ကာမရာဂ[၆၄],သက်ပွရာဂ[၆၅]တို့ကို လည်းကောင်း, ကိုယ်စိတ်၏ ကစားမြူးထူးခြင်း, ကာမဂုဏ် ၅ ပါး၌ မွေ့လျော်ခြင်း ကာမရာဂကိုလည်းကောင်း၊ ညွန်ပျောင်း ကျော့ညွှတ်ကွင်းတို့မှ ရှင်းရှင်းဝေးဝေး ဆေးပွတ်ချွတ်ရန်း၍ ကုန်းထက်သန့်ပြန့်ရာ ရောက်ပြီးသောသူကဲ့သို့ မငြိမစွန်း မသမ်းမမွေး ဝေးစွာကွာစေ အပ်လေပြီးသည်ဖြစ်၍ ဥစ္စာ, သား, မယားတို့ဖြင့် ငါ၌ အဘယ်မူ စ,အံ့နည်း။

"ခမည်းတော်မင်းကြီး။ ဖြစ်တတ်သောတရား၏ ပျက်ခြင်းသာလျှင် အဆုံးရှိသည်၏အဖြစ်ကို အဖန်တလဲလဲ ငါအောက်မေ့မိ၏။ အဘယ်အခါမျှ ဖမ့်လျော့ခြင်းမည်သည် ငါ၌ မဖြစ်။ ထိုသို့ 'မရဏာနုဿတိ[၆၆]'ကို အဖန်တလဲလဲ အောက်မေ့မိသောငါ့အား ကာမဂုဏ်ဖြင့်မွေ့လျော်ခြင်း, ဥစ္စာပစ္စည်းကို ဆည်းပူးခြင်းတို့ဖြင့် အဘယ် ပြုတော့မည်နည်း။

"မှည့်ခြင်းဖြင့်နှိပ်စက်အပ်သော သစ်သီးအား အညှာမှ ကြွေကျပျက်စီးခြင်း မြဲသကဲ့သို့ ပင်္ဂိုသန္ဓေနေခြင်း ရှိကုန်သော သတ္တဝါအပေါင်းတို့အား ရုပ်,နာမ်တို့၏ ရင့်ခြင်း,အိုခြင်းဖြင့် တစ်နေ့မပြတ် နှိပ်စက်အပ်သော ဘေးရန်တို့၏ထူပြောခြင်းကြောင့် ယခု ငါတို့မျက်မှောက်တွင်ပင် အချို့သောသတ္တဝါတို့ကို နံနက်အခါက ပြကတေ့မြင်လျက် ညဉ့်အခါ မမြင်ရ၊ ညဉ့်အခါ ပြကတေ့မြင်လျက်လည်း နံနက်အခါ မမြင်ရ ဖြစ်၏။

"ထို့ကြောင့် အပါယ် ၄ ရပ်[၆၇], ကပ် ၃ တန် ၄၀၈,ရန်သူ ၅ စု, ဥပဒ်အန္တရာယ် အစရှိသည်တို့မှ လွတ်ကြောင်း၊ ဇရာ, မရဏ အစရှိသော ဝဋ်ဆင်းရဲတို့မှ လွတ်ကြောင်း၊ ကောင်းမှုဖြစ်သော ဒါန,သီလ, ဘာဝနာ စသည်တို့ကို ပြုလိုသောနှလုံးရှိလျှင် ထို နှလုံးဝင်သောခဏချင်း ကြံမိသောကုသိုလ်ကို ပြီးမြောက်စေကြောင်း ကောင်းစွာလုံ့လဖြင့် ပြုအပ်လှတော့သည်။ ယနေ့ မကောင်း, နက်ဖြန် ကောင်း ဟူ၍ ပြောင်းလင့်ဖင့်နွှဲလျက် အတွက်မရ ကာလကိုမကုန်စေသင့်။ အဘယ့်ကြောင့်နည်းဟူမူ မည်သူတစ်ယောက်မျှ မရဏမင်းနှင့် မိတ်ကျွမ်းဝင်ပြု၍ နေ့ရက်အချက်အချိန်းကို ရသည် မရှိချေ။ ယခု စကားပြောဆဲခဏမှ ယနေ့လည်းကောင်း, နက်ဖြန်လည်းကောင်း မည်သည့်ကာလမဆို ထိုသို့သော အနာဂတ်တို့၌ သေအံ့, ရှင်အံ့သည်ကို မည်သူတစ်ယောက်မျှ မသိနိုင်ချေ။

"ဘေး[၁၀၉]၂၅ ပါး၊ ကြမ္မာ[၁၁၀] ၃၂ ပါး၊ အနာ ၉၆ ပါး၊ အိုခြင်းရင့်ခြင်း အစရှိသော စစ်သည်လက်သား အခြံအရံများလှစွာသော သေခြင်းဟုဆိုအပ်သော ခိုးသူကြီးသည် သတ္တဝါတို့၏ ပဋိသန္ဓေ နေခြင်းဖြစ်ခြင်းတည်း ဟူသော ဥစ္စာထုပ်ကို 'ကုသိုလ်အစောင့်အရှောက်လစ်လျှင် ခိုးယူအံ့'ဟု တောင့်တခြင်းဖြင့် လက်သား အစေအပါးဖြစ်သော ဇရာ၊ ဗျာဓိတို့ မပြတ်ခြံရံစေလျက် အခွင့်ရှာကာ နေဘိ၏။

"ခမည်းတော်မင်းကြီး။ ထိုသို့သောဘေးကို မြင်လေပြီးသော ငါ့အား အဘယ့်ကြောင့် 'ဤအရွယ်ကား စည်းစိမ်စံချိန်၊ ဤအရွယ်ကား ရဟန်းပြုချိန် ဟူ၍ ဆိုရသနည်း။ ထိုသို့သောဘေးတို့ကြောင့် ဝေးစွာ ရှောင်လေပြီးသော ငါသည် အညှာမှလွတ်သော သစ်သီးကဲ့သို့ တစ်ဖန်ပြန်၍ ဆက်စပ်ငြိတွယ် လိုခြင်းသဘောမှ ကင်းကွာလေပြီ။ ထို့ကြောင့် ငါ့အား မည်သို့မျှ ခမည်းတော် မတောင်းပန်လင့်။ ခမည်းတော်သာ ငါကဲ့သို့ ဝဋ်တရားကို ငြီးငွေ့သည်မှန်လျှင် မကြာမြင့်စေလင့်။ ယခုပင် လာလှည့်။ ငါကဲ့သို့ ရဟန်းပြုလျက် ဘာဝနာဖြင့်သာ ကာလကို လွန်စေတော့"ဟု ဆိုတော်မူ၏ဟူလိုသည်။

ဘုရားလောင်း၏တရားကို နာရသောအခါ ခမည်းတော်မင်းကြီးသည် ရဟန်း၏အဖြစ်၌ အလွန် သဒ္ဓါခြင်း ရှိသည်ဖြစ်၍

"ချစ်သား။ ခမည်းတော် ယခုတောင်းပန်သည်မှာ ဝဋ်ဆင်းရဲ၌ အပြစ်ကို မမြင်ခြင်းကြောင့်လည်း မဟုတ်ပြီ။ မြတ်သောစည်းစိမ်ကြီးဖြစ်၍ အမွေခံသားရှိပေလျက် မြက်၊ သစ်ရွက်ကိုကဲ့သို့ ဆင်ခြင်မဲ့ မပြုသာသေးသောကြောင့်သာ ချစ်သားအား တောင်းပန်ခြင်းကို ပြုပေသည်။ ယခုကား ထပ်၍တစ်ဖန် ချစ်သား၏ တရားစကားကို ကြားရသဖြင့် ထိုပြည်စည်းစိမ်ကို ခမည်းတော်၏နှလုံးမှာ မြက်၊သစ်ရွက်လောက်မျှ အလေးမပြုလိုပြီ။ ခမည်းတော်အား ရဟန်းပြုခြင်း၌ ကိုးကွယ်လဲလျောင်းရာကို ချစ်သားသည်သာလျှင် ပြု၍ ရဟန်းအသွင်၊ ရဟန်းတရားတို့ကို ပေးတော်မူလော့"ဟုဆို၏။

မယ်တော် စန္ဒာဒေဝီ မိဖုရားကြီးသည်လည်း ထိုသို့သော ဘုရားလောင်း၏တရားကို နာရသောအခါ ရဟန်းအဖြစ်ကို မင်းကြီးတောင်းပန်သောစကား၏နောက်၌

"ချစ်သား။ မိခင်အားလည်း ရဟန်းပြုပါလော့။ ပြည်သို့ မိခင် မပြန်လိုပြီ"ဟု ဆို၏။

မယ်တော်၊ ခမည်းတော်တို့ ရဟန်းအဖြစ်ကို တောင်းပန်ပြီးသော် ၁ သောင်း ၆ထောင်သော ကိုယ်လုပ်အပျိုတော် နန်းသူအပေါင်းတို့သည် လည်းကောင်း၊ ဘုရားလောင်း၏ဖွားဖက်ရွှေဖော် အမတ်သား ၅၀၀ တို့သည် လည်းကောင်း၊ ဆင်သင်းမြင်းစိုး အစရှိသော သူရဲအမှူးအကဲတို့နှင့်တကွ အလုံးစုံ ၁၈ ခေါဘိဏီ ရှိသော ဗိုလ်ခြေ မင်းပရိသတ်အပေါင်းတို့သည် လည်းကောင်း အချင်းချင်း အယူ တညီတည်းဖြစ်ကြ၍ 'အရှင် ၃ ပါးတို့နှင့် ငါတို့လည်း မခွဲပြီ။ ရဟန်းတရားဖြင့်သာလျှင် ဤတောအရပ်၌ ကာလကို ကုန်စေအပ် လှတော့သည်ဖြစ်၍ ရဟန်းပြုကြအံ့'ဟု ကြံကြကုန်၏။

ထိုသို့ မင်းပရိသတ်အပေါင်း အကြံတစ်ခုတည်း ညီညွတ်ကြသောအခါ ကာသိကရာဇ်မင်းကြီးသည် မြို့စိုးမြို့ဝန်ကို ခေါ်တော်မူပြီးလျှင်

"ယခု မြို့သို့သွား၍ မြို့ပတ်လည်ဝန်းကျင် ဤသို့သောအမိန့်တော်နှင့် အောင်စည်တီးချေ။ 'ရန်သူတကာ တို့ကို အောင်တော်မူပြီးသော ကာသိကရာဇ် တိုင်းကြီးသခင် အမိန့်တော်ရှိသည်။ ဗာရာဏသီပြည်တော် မြို့ပြင်မြို့တွင်းနေ ပြည်သူပြည်သားအပေါင်းတို့။ ယခု သားတော် တေမိမင်းသားအထံတော်၌ ရဟန်းတရား တည်းဟူသော ရန်အောင်ကြောင်းအမြိုက်ရည်ကို ငါ သောက်တော်မူရ၍ အရသာပေါ်ပြက် စပ်ခါးခြင်းရှိသော

ပြည်ကြီးစည်းစိမ် ကာမဂုဏ်ကို ခံတွင်းမှလွတ်သော တံတွေးသဖွယ် ငါ မှတ်တော်မူပြီ။ သင် ပြည်သူ ပြည်သားအပေါင်းတို့သည်လည်း ငါတို့ကဲ့သို့ ရဟန်းတရားတည်းဟူသော အမြိုက်ရည်ကို သောက်လိုကြလျှင် အိမ်ထောင်ပစ္စည်းကို လွတ်လွတ်စွန့်ပစ်ခဲ့၍ ငါ့သားတော်ထံ ရဟန်းပြုလာကြစေ' ဤသို့ စည်လည်ချေ"ဟု စေခန့်လိုက်သဖြင့် ထိုမြို့စိုးအမတ် ပြည်သို့ပြန်၍ စည်လည်လေ၏။

## ၂၁။ တစ်ပြည်လုံး တောထွက်ခန်း

ထိုအခါ ဗာရာဏသီ ပြည်သူပြည်သားအပေါင်းတို့သည် လွန်စွာသော နှစ်သက်ဝမ်းမြောက်ခြင်းဖြင့် အကြံတညီတညွတ်တည်း ဖြစ်ကြ၍၊ ပြည်တံခါး, နန်းတော်တံခါး, ရွှေတိုက် ငွေတိုက် ရတနာတိုက် တံခါး စသော အလုံးစုံတံခါးတို့ကို အပိတ်အဆို့မရှိ သိသာမြင်လွယ် လိုဖွယ်ရှိသူ ယူလွယ်အောင်ဖွင့်လှစ်၍၊ မြေထဲ၌ မြှုပ်ထားအပ်သော ရွှေအိုးတို့ကိုလည်း အလိုရှိသူ ဖော်ထုတ်လွယ်စေခြင်းငှာ 'ဤမည်သောအရပ်၌ ဤမည်သော ရွှေအိုး ရှိ၏။ အလိုရှိသူ ထုတ်ယူသုံးဆောင်ပါလော့'ဟု ရှိန်းခိုပင်မှဖြစ်သော အစေးအရည်တို့ဖြင့် တိုက်နံရံ စသည်တို့၌ ကမ္ပည်းအက္ခရာ ထင်မြင်သာအောင်ရေးထား၍၊ အလုံးစုံသော စည်းစိမ်ဥစ္စာတို့ကို ဖြန့်၍ကျင်းသကဲ့သို့ ကပ်ငြိခြင်းမှ မြက်,ဝါးခြမ်းစိတ်လောက်မျှ မမှတ်သောနှလုံး ရှိကြပြီးလျှင် ထိုအလုံးစုံ မြို့တွင်းမြို့ပ၌နေသော ဗာရာဏသီပြည်သူပြည်သားအပေါင်းတို့သည် အိမ်ထောင်ပစ္စည်းတို့ကိုစွန့်ခဲ့၍ ကာသိကရာဇ်မင်းကြီးရှိရာ ထွက်လာကြလေကုန်၏။

မြို့၌ကား သေအရက်ကြူး၍ ရဟန်းမပြုနိုင်သော သေသောက်ကြူးတို့သည်သာလျှင် အနည်းငယ်မျှ ကျန်ရစ်သည်ဖြစ်၍၊ လူရှိ၏ဟု မရေတွက်လောက်။ လူမရှိသဖြင့် ဆိတ်ငြိမ်သုန်ဖျင်းခြင်းသို့ ရောက်လေ၏။ ကာသိကရာဇ်မင်းကြီးထံ၌ ပြည်သူပြည်သားအပေါင်းတို့ အညီအညွတ်ရောက်ကြပြီးသော် ကာသိကရာဇ်မင်းကြီး သည် မိဖုရား,ပရိသတ်,မှူးမတ်ဗိုလ်ခြေပရိသတ်,ပြည်သူပြည်သားပရိသတ်တို့နှင့်တကွ ဘုရားလောင်း၏ အဆုံးအမကိုခံ၍ ရဟန်းပြုလေ၏။

ဘုရားလောင်း တေမိ ရှင်ရသေ့သည်လည်း ခမည်းတော်, မယ်တော်တို့အား လည်းကောင်း၊ ဖွားဖက်တော် အမတ်သား ၅၀၀, ရထားမှူးသုနန္ဒာ မှစ၍၊ အလုံးစုံသော အမှူးအမတ်,မင်းပရိသတ်,ပြည်သူပြည်သားအပေါင်း တို့အားလည်းကောင်း၊ ရသေ့ယောကျ်ား, ရသေ့မိန်းမ အသွင်ကို ယူစေပြီးလျှင် ပရိဝုဏ်[၁၁]အကျယ် ၃ ယူဇနာ ကွက်မှတ်၍ ဖန်ဆင်းအပ်သော သိကြားပေးသော ကျောင်းရပ်အတွင်း၌ သားရဲဘေး စသည်တို့မှ ကြောက်လန့်ခြင်း ကင်းစိမ့်သောငှာ ကိုယ်,စိတ်ခိုင်မာရဲရင့်ခြင်းရှိသော ရသေ့ယောကျ်ားတို့ကို ထိုပရိဝုဏ်နား ပတ်လည် ဝန်းကျင် သင့်ရာအသီးအသီး ကျောင်းနေရာ ဆောက်လုပ်နေစေ၏။

ထိုမှ အတွင်း၌ အိုသူ, မကျန်းမမာ နာသူ, မစွမ်းမသန်သူ, ကြောက်လန့်တတ်သူ ရသေ့ယောကျ်ားတို့ကို သင့်ရာကျောင်းသခ်မ်းနှင့် အသီးသီး နေစေ၏။ ထိုမှ အတွင်း၌ မိန်းမအပေါင်းတို့ကို နို့စို့သားငယ်, သမီးငယ်တို့နှင့် တကွ အသီးသီး သင့်ရာကျောင်းသခ်မ်းစီရင်၍ နေစေ၏။ထိုမှအတွင်း ဘုရားလောင်း၏ကျောင်းအနီး၌ မယ်တော်, ခမည်းတော်တို့ကို ကျောင်းတခြားစီ အသီးသီးနေစေ၏။ ထို အလုံးစုံသောကျောင်းသခ်မ်းတို့သည်လည်း

ဝိသုကြုံနတ် ဖန်ဆင်းအပ်သော ကျောင်း၏တင့်တယ်ခြင်းကဲ့သို့ပင်လျှင် ဘုရားလောင်းရှင်ရသေ့ စီရင်အပ်သည် ဖြစ်၍ အလွန်လျှင် တင့်တယ်ကုန်၏။ ထို ကျောင်းသခ်မ်းတို့ကား ၃ ယူဇနာ အကျယ်ရှိသော ဘုရားလောင်း၏ ကျောင်းရပ်အပြင်၌ စပ်ယှဉ်ကာ အပြည့်အသိပ်ဖြစ်ရှိလေ၏။

ထိုသို့ ရဟန်းအသွင်ကို ယူဆောင်သောအခါမှစ၍ အလုံးစုံသောရသေ့အပေါင်းတို့သည် သစ်သီး သစ်ဖု စသည်အလို့ငှာ တူရွင်း, ခြင်းတောင်း, တံချူ ဆောင်ခြင်းမရှိ၊ အပင်၌ ဆွတ်,ခြွေ,တူး,နုတ်၍မစားဘဲ အသီးသီးသောသစ်ပင်တို့၌ အလိုလိုကြွေကျသော သစ်သီးတို့ကိုသာလျှင် ကောက်ယူသုံးဆောင်ကြလျက် ဘုရားလောင်း၏အဆုံးအမကိုခံ၍ ရဟန်းတရားကိုပွားစေကာ နေကြကုန်၏။ ထို ရသေ့အပေါင်းတို့ကား ရသေ့မျိုး ၈ ပါး[၆၂]တွင် အလိုလိုကြွေကျသောသစ်သီးလျှင် အစာရှိသောကြောင့် 'သယံပတိတ ဖလာဟာရ' မည်ကောင်းသော ရသေ့ချည်းတည်း။

ရသေ့တကာတို့၏ပါမောက္ခ[၆၃] ဖြစ်သော ဘုရားလောင်း ရှင်ရသေ့သည် ထို တပည့်ရသေ့အပေါင်း အသောင်း, အသိန်းမကတို့အား ကြောင့်ကြမဲ့မပြုမူ၍ အခါခပ်သိမ်းလျှင် ပရစိတ္တ ဝိဇာနန[၆၄]အဘိညာဉ်ဖြင့် ထိုထိုသို့သော ရသေ့တို့၏စိတ်ကို မျက်မှောက်ပြုလျက် "ဤရသေ့ကား ယခု ကာမဝိတက်ကို ကြံ၏။ ဤ ရသေ့ကား ဝိဟိံသာဝိတက်ကို ကြံ၏။ ဤရသေ့ကား ဗျာပါဒဝိတက်ကို ကြံ၏။' ဤသို့အားဖြင့် ထိုထိုသို့သော ရသေ့တို့၏အကြံကို သိလျှင် ခဏချင်း ထိုအဘိညာဉ်မှလွတ်၍ ဣဒ္ဓိဝိဓ အဘိညာဉ်ဖြင့် အကြံဆိုးပေါက်သော ရသေ့ထံ ကောင်းကင်ဖြင့် ပျံသွားပြီးသော်ကောင်းကင်၌ ထက်ဝယ်ဖွဲ့ခွေ နေတော်မူလျက် ပုဂ္ဂိုလ်အားလျော်စွာ တရားဟောတော်မူ၏။ ထို အကြံဆိုးပေါက်ကုန်သော ရသေ့ယောကျ်ား, ရသေ့မိန်းမတို့သည် ဘုရားလောင်း၏ တရားကို ကြားနာရသောအခါ ထိုအကြံဆိုးပျောက်၍ စိတ်၏တည်ကြည်ခြင်းသမာဓိကို ရကြသဖြင့် ပေးအပ်သော ကမ္မဋ္ဌာန်းလျှင် အာရုံရှိကြလျက် မကြာမီ လျင်စွာပင်လျှင် သမာပတ် ၈ပါး[၆၅],အဘိညာဉ် ၅ပါး[၆၆]တို့ကို ရကြလေကုန်၏။

## ၂၂။ ၇ ပြည်ထောင် တောထွက်ခန်း

ဤသို့ ဗာရာဏသီပြည်သူပြည်သားအားလုံး ဘုရားလောင်း၏အထံ၌ ရသေ့,ရဟန်းပြု၍ ဈာန်အဘိညာဉ် စည်းစိမ်ကို ရကြကုန်ပြီးသောအခါ ကာသိကရာဇ်တိုင်း၏နယ်စပ်အနီး ပြည်သီးတိုင်းခြားဖြစ်သော သာမန္တရာဇ်[၆၇] မင်းသည် 'ဗာရာဏသီပြည်၌ ကာသိကရာဇ်မင်းကြီး, မိဖုရားကြီးတို့နှင့်တကွ ပြည်ကိုစွန့်၍ တောထွက်ခြင်းဖြင့် တစ်ပြည်လုံး ရဟန်းပြုကြလေပြီ'ဟု သတင်းကြားလေသော် 'ဗာရာဏသီပြည်ကို သိမ်းယူအံ့'ဟု များစွာသော ဆင်, မြင်း, ရထား, ဗိုလ်ခြေအလုံးအရင်းနှင့် ချီလာလတ်၍ ဗာရာဏသီပြည်တွင်းသို့ ဝင်မိသောအခါ မြို့၏ အင်္ဂါ ၇ပါးတို့ဖြင့်လည်းကောင်း၊ နန်း, ပြာသာဒ်, အိမ်စဉ်, ပြ, တန်ဆောင်း စသည်တို့ဖြင့် လည်းကောင်း တန်ဆာဆင်အပ်သည်ဖြစ်၍ တင့်တယ်စွာသော မြို့၏ကျက်သရေကိုမြင်လျှင် အလွန်နှစ်သက် ရွှင်လန်းခြင်းဖြင့် နန်းတွင်းသို့ဝင်၍၊ ရွှေတိုက်, ရွှေကြဌာန်း, နန်းရင်ပြင် စသည်တို့၌ ရတနာ ၇ ပါး အစုအပုံတို့ကို လည်းကောင်း,

မင်းတို့အသုံးအဆောင် မျိုးဘဏ္ဍာတို့ကိုလည်းကောင်း ကြည့်၍မနှံ့နိုင်အောင် မြင်လေသော် 'ဤပြည့်ရှင် ကာသိကရာဇ်မင်းကြီးကား ဤသို့သော ပြည်စည်းစိမ်ကိုစွန့်၍ ရဟန်းပြုနိုင်လေသည်မှာ ဤစည်းစိမ်ဥစ္စာကိုမှီ၍ တစ်စုံတစ်ခုသော ဘေးဥပဒ် ရှိသည်ဖြစ်ရာမည်။ ဘေးရန်မရှိဘဲ ဤသို့သောစည်းစိမ်ကို မစွန့်ရာ'ဟု ကြံလျက် မြို့တွင် ရဟန်းမပြုဘဲ ဤသို့သောသေသောက်ကြူးတို့ကို ခေါ်၍ "အချင်းတို့။ သင်တို့ မင်းကြီးအား ဤပြည်၌ အဘယ်ဘေးရန် ဖြစ်သနည်း။ ခိုးသူမင်းတို့ နှောင့်ယှက်လေသလော"ဟု မေး၏။

သေသောက်ကြူးတို့လည်း "အရှင်မင်းကြီး ။ အကျွန်ုပ်တို့မင်းကြီး၌ တစ်စုံတစ်ခုသောဘေးရန်မျှမရှိ" ဟု လျှောက်ကြလျှင်၊ သာမန္တ ရာဇ်မင်းသည် "အချင်းတို့။ ထိုသို့ဖြစ်လျက် အဘယ့်ကြောင့် သင်တို့မင်းကြီး ထွက်သွားသနည်း"ဟု မေးလတ်သောအခါ၊ သေသောက်ကြူးတို့သည်

"အရှင်မင်းကြီး။ အကျွန်ုပ်တို့အရှင်ကား တစ်ပါးသောဘေးရန်ရှိ၍ တောထွက်သည် မဟုတ်။ 'တေမိယကုမာရ'အမည်ရှိသော အရှင့်သားတော်သည် ခမည်းတော်အမွေဖြစ်သော ဤပြည်စည်းစိမ်ကို စိုးစံရမည် ကြောက်သောကြောင့် ငယ်သောအခါကပင် ဆွံ့အ,နားပင်းယောင်ဆောင်၍ စကားမပြောမလှုပ်မရှား အသက်မရှိသောသူကဲ့သို့ အထူးထူးအပြားပြား ရှင်ဖွယ်, ကြောက်မက်ဖွယ်, စက်ဆုပ်ဖွယ်တို့နှင့် အလိုစမ်းသော်လည်း အထူးမရှိနေလျှင်၊ ခမည်းတော်မင်းကြီး ရုက်နိုးထိတ်လန့်သဖြင့် တောသို့ထုတ်ပစ်စေရာတွင် တောသို့ရောက်သောအခါမှ မိမိ ပညာအစွမ်းဂုဏ်ကို ပြလျက် ရသေ့ရဟန်း ပြုလေသည်နှင့် ပို့ထုတ်ရသူ ရထားမှူးလည်း ထိုသခင်သားအထံမှ တရားရခဲ့၍ အကျွန်ုပ်တို့ အရှင်မင်းကြီးအား အကြောင်းမျိုးကိုလျှောက်လျှင် 'သားကို ပြည်သို့ ပြန်စေဦးမည်'အကြံဖြင့် များစွာသော အလုံးအရင်း ဗိုလ်ခြေကိုဆောင်လျက် သားတော်ထံ ချီသွားလေသော် ခမည်းတော်မင်းကြီး အလိုသို့ကား သားတော် မလိုက်။ သားတော်အလိုကို ခမည်းတော်မင်းကြီး နှစ်ခြိုက်လေသောကြောင့် အလုံးအရင်းနှင့် တကွ ရဟန်းပြုကြ၍၊ ဤပြည်သို့ သတင်းကြား စည်လည်ရုံမှုသာ မြို့စိုးအမတ်တို့ကို လွှတ်လိုက်သဖြင့် နောက်ထပ်၍ပင် ပြည်သူပြည်သားရှိသမျှ လိုက်ကြပြန်လေသည်နှင့် ယခု အကျွန်ုပ်တို့သာ ကာမဂုဏ်ချမ်းသာကို မစွန့်ပစ်နိုင်၍ ကျန်ရစ်ခဲ့ပါသည်။ ပြည်စည်းစိမ်၌ အပဘေးရန်ဟူသည် တစ်စုံတစ်ခုမျှ မရှိ။ အတွင်းဘေးရန် သံဝေဂဖြစ်ကြသော အခြင်းအရာ ကာမဂုဏ်အပြစ်ကိုကား အကျွန်ုပ်တို့ နှလုံးမထားနိုင်သူဖြစ်၍ မသိကြပါ"ဟု လျှောက်ကြားကြလေ၏။

ထို သာမန္တ ရာဇ်မင်းသည် သေသောက်ကြူးတို့ ပြောဆိုသောစကားကိုကြားရသဖြင့် ပညာရှိသော မင်းဖြစ်၍၊ ပြည်စည်းစိမ်၌ သံသရာဘေး, ဝဋ်ဆင်းရဲဘေးတို့ကိုမြင်သောကြောင့် 'ကာသိကရာဇ်မင်းကြီး တောထွက်ချေသည်'ဟုယူဆမိလျှင် နှစ်သက်ခြင်းဖြစ်လေသော်၊ 'ငါလည်း ထိုမင်းကဲ့သို့ပင် ရဟန်းပြုရမှု ကောင်း၏'ဟု ကြံ၍၊ "အချင်း သေသောက်ကြူးတို့။ သင်တို့အရှင် ကာသိကရာဇ်မင်း တောထွက်သောအခါ အဘယ်တံခါးဖြင့် ထွက်သွားလေသနည်း"ဟု မေးလျှင်၊ သေသောက်ကြူးတို့လည်း "အရှင်မင်းကြီး။ အကျွန်ုပ်တို့ မင်းကြီးသည် ဤဗာရာဏသီပြည် အရှေ့တံခါးဖြင့် ထွက်သွားပါလေသည်"ဟု လျှောက်ကြသောအခါ ထို သာမန္တ ရာဇ်မင်းသည် မိမိပရိသတ် ဗိုလ်ခြေအလုံးအရင်းနှင့်တကွ အရှေ့တံခါးဖြင့်ထွက်၍ ဘုရားလောင်းရှိရာ ကျောင်းအရပ်သို့ သွားလေ၏။

ဘုရားလောင်း တေမိ ရှင်ရသေ့လည်း 'ဤမည်သော သာမန္တ ရာဇ်မင်းသည် ဗိုလ်ခြေအလုံးအရင်းနှင့် တကွ ယခု ငါ့ထံ ရဟန်းပြုခြင်းကိုငဲ့လျက် လာလတ်၏'ဟုသိလျှင် အဘိညာဉ်တန်ခိုးဖြင့် ကောင်းကင်၌ ထက်ဝယ်ဖွဲ့ခွေနေလျက် ဥစ္စာစည်းစိမ် ကာမဂုဏ်၌ အပြစ်, ရဟန်းပြုခြင်း၌ အကျိုးတို့ကို ပြ၍ ထိုသာမန္တ ရာဇ်

မင်းအား တရားဟောတော်မူ၏။ သာမန္တရာဇ်မင်းသည်လည်း ဘုရားလောင်း၏တရားကို ကြားနာရသဖြင့်လည်းကောင်း၊ ဘုရားလောင်း၏ အရောင်အဆင်း တန်ခိုးကျက်သရေ တင့်တယ်ခြင်းကို မြင်သဖြင့်လည်းကောင်း အလွန်သဒ္ဓါခြင်းရှိလျက် မိမိပရိသတ်နှင့်တကွ ဘုရားလောင်းထံ ရဟန်းပြုလေ၏။

ဤနည်းအတူ ၇ ပြည်ထောင်ကုန်သော မင်းတို့သည် မိမိပရိသတ် ဗိုလ်ခြေအလုံးအရင်းနှင့်တကွ အသီးအသီး ထွက်လာလတ်၍ ဘုရားလောင်းထံ ရဟန်းပြုကြကုန်၏။ ဘုရားလောင်းသည်လည်း ထို ၇ ပြည်ထောင်သော မင်းပရိသတ် အပေါင်းတို့အား ကျောင်းနေရာအသီးသီး ချထားစေလျက် အဆုံးအမပေး၍ ကမ္မဋ္ဌာန်းကိုယ်စီ ပေးအပ်သဖြင့် အလုံးစုံသော ၇ ပြည်ထောင် ပရိသတ်အပေါင်းတို့သည် မကြာမြင့်မီပင်လျှင် ဈာန်သမာပတ်ရကြလေ၍ 'သယံ ပတိတ ဖလာဟာရ' ရသေ့ချည်း ဖြစ်ကြလေကုန်၏။

ထိုအခါ ဗာရာဏသီပြည်ပ္မှစ၍ ၈ ပြည်ထောင်မင်းပရိသတ်တို့၏ အသုံးအဆောင်ဖြစ်ကုန်သော ဆင်၊ မြင်း အစရှိသော သက်ရှိဘဏ္ဍာတို့သည်လည်း သုံးဆောင်သူမရှိခြင်းကြောင့် တောဆင်၊ တောမြင်း အစရှိသည် ခေါ်ဝေါ်ခြင်းသို့ ရောက်လေကုန်၏။ လှည်း၊ ရထား၊ ယာဉ်၊ သံလျှင်း အစရှိသော သက်မဲ့ဘဏ္ဍာတို့သည်လည်း အလိုအလျောက်သာ ဆွေးမြည့်၍ မြေ၏အပွားအစီး ဖြစ်လေကုန်၏။ ထို ဗာရာဏသီပြည်မှ စ၍ ၈ပြည်ထောင် အတွင်း ရွှေတိုက်၊ ငွေတိုက်စသည်တို့၌ သုံးဆောင်သူ မရှိလေပြီးသော ရွှေ၊ ငွေ၊ ပတ္တမြား စသည် ရတနာမျိုး ၇ ပါး များစွာသောဥစ္စာတို့ကို ပံသုကူ[၅၁၈]အဖြစ်ဖြင့် သိမ်းယူဆောင်ကြဉ်းစေပြီးသော် ဘုရားလောင်းရှင်ရသေ့သည် အကျယ် ၃ ယူဇနာရှိသော ကျောင်းရပ်အပြင် ထက်ဝန်းကျင်မြေတလင်းတို့၌ ရတနာသဲဖြူး၍ ကြဲဖြန့်တော်မူ၏။

ဤသို့ ဘုရားလောင်း၏တပည့်ဖြစ်ကုန်သော ထို ၈ ပြည်ထောင်သော လူအပေါင်းတို့သည် ရသေ့အဖြစ်ဖြင့် အဘိညာဉ် ၅ ပါး၊သမာပတ် ၈ ပါး တို့ကို ရကြကုန်သည်ချည်း။ တစ်ယောက်သောရသေ့မျှ ဈာန်အဘိညာဉ် မရသောသူမည်သည် မရှိဖြစ်၍၊ အသက်အာယုကပ်ပတ်လုံး အဘိညာဉ်သမာပတ်ဖြင့် ပျော်မွေ့ကြကုန်လျက် မပျက်သောဈာန် ရှိကြကုန်သည်ဖြစ်၍၊ အသက်အဆုံး၌ အလုံးစုံသော ရသေ့မိန်းမ အသောင်းအသိန်းမက တို့သည် ဗြဟ္မပါရိသဇ္ဇဘုံ ဗြဟ္မာ့ပြည်တို့သို့ လားကြလေကုန်၏။ အလုံးစုံသော ရသေ့ယောကျ်ား အသောင်းအသိန်းမကတို့သည်လည်း မိမိတို့ အလိုအားလျော်စွာ သုဒ္ဓါဝါသ[၅၁၉]မှတစ်ပါး ဗြဟ္မာ့ပြည်တို့သို့ လားကြကုန်၏။

ရသေ့အပေါင်းတို့၏ ဆရာဖြစ်တော်မူသော တေမိရှင်ရသေ့သည်လည်း မိဘဆွေမျိုး အစရှိသော ၇ပြည်ထောင်ပရိသတ် တပည့်ရသေ့အပေါင်းတို့အား သဂြိုဟ်ထောက်ပံ့ခြင်း စသော 'ဉာတတ္ထစရိယ[၅၂၀]၊ လောကတ္ထစရိယ[၅၂၁]တို့ကို ပြီးစေတော်မူလျက် အသက်ထက်ဆုံး အဘိညာဉ် သမာပတ်ချမ်းသာကို ခံစားတော်မူ၍ အသက်အဆုံး၌ ထိုဗြဟ္မာပြည်တို့တွင် အလိုတော်ညွှတ်ရာ ဗြဟ္မာ့ပြည်သို့ ပြောင်းလှည့်စံတော်မူလေ၏။

ထို ရသေ့ပရိသတ်မှတစ်ပါး အကျယ် ၃ ယူဇနာရှိသော ကျောင်းအရပ် အတွင်းအပြင် အနီးအစပ် နေကုန်သော ဆင်၊မြင်း၊ ကျွဲ၊နွား၊ ဆိတ်မြန်မာ၊ ဆိတ်ကုလား အစရှိသည့် တိရစ္ဆာန်အပေါင်းတို့သည်လည်း ရသေ့တို့၌ ကြည်ညိုလေးမြတ်သော နှလုံးရှိကြကုန်သဖြင့် စာတုမဟာရာဇ် တာဝတိံသာအစရှိသော နတ်ပြည် ၆ ထပ်တို့တွင် ကံအာနုဘော် အကြီးအငယ်အားလျော်စွာ ထိုက်ရာဘုံတို့၌ အသီးအသီး နတ်သမီး၊ နတ်သားလျှင် ဖြစ်ကြလေကုန်၏။

## ၂၃။ ဇာတ်ပေါင်းခန်း

ဤသို့ မြတ်စွာဘုရားသည် တေမိယကုမာရဇာတ်တော်၏ အတ္ထုပ္ပတ္တိအလုံးစုံလျှင် ပြရာပြကြောင်းရှိသော ဓမ္မဒေသနာကို ဆောင်တော်မူပြီးလျှင် သစ္စာ ၄ပါးတို့ကို ပြတော်မူပြီးသည်၏အဆုံး၌ စကားစဉ်ရှည်သဖြင့် ရှေးစကားရင်း မပျောက်စေခြင်းငှာ အနုသန္ဓေ [၆၂]ကို ပြတော်မူလို၍–

'နဘိက္ခဝေ ဣဒါနေဝ ပုဗ္ဗေပိ တထာဂတော ရဇ္ဇံ ဆဍ္ဍေတွာ၊ မဟာဘိနိက္ခမနံ နိက္ခန္တော ယေဝ။'ဟူသော ပါဠိတော်ဖြင့် "သံသရာဘေးကို မြင်လေ့ရှိသော တပည့်သားတော်အပေါင်းတို့။ လာခြင်းကောင်းသော ငါဘုရားသည် ယခု ပစ္ဆိမဘဝ[၆၃]ကိုယ်တော်၏အဖြစ်၌သာ ကြီးစွာသော ပြည်စည်းစိမ်ကိုစွန့်၍ တောထွက်တော်မူသည် မဟုတ်သေး။ ရှေး ပါရမီမရင့်မီ သံသရာကလည်း ကြီးစွာသောပြည်စည်းစိမ်ကိုစွန့်၍ တောထွက်တော်မူဖူးပြီ"ဟု ဒေသနာရင်းနှင့် ဆက်စပ်၍ မိန့်တော်မူပြီးလျှင် ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

"ဤတရားသဘင်၌ တရားနာဖြစ်ကုန်သော တပည့်သားအပေါင်းတို့။ ငါ တေမိမင်း ဖြစ်တော်မူသောအခါ ငါ့ကိုအကြံပေးပေသော ထီးဖြူစောင့်နတ်သမီးသည် ယခု ငါဘုရားဖြစ်တော်မူသောအခါ ကမ္ဘာ ၁ သိန်းပတ်လုံး ဖြည့်ဆည်းပူးအပ်သော ပါရမီအားလျော်စွာ ငါ၏တပည့်သားတော်မ ဘိက္ခုနီ အပေါင်းတို့တွင် ဒုတိယအဂ္ဂသာဝိကာ၏အရာ၌ တန်ခိုးအရာဖြင့် ၂ယောက် မရှိ အထွတ်ဖြစ်သော 'ဥပ္ပလဝဏ်[၆၄]ထေရီ'ဖြစ်လာ၏။

"ငါ တေမိမင်းသားဖြစ်တော်မူသောအခါ မင်းခယောက်ျားဖြစ်၍ မင်း၏ဥယျာဉ်ကို ခံသသူဖြစ်လျက် ငါ၏တရားစကားသံကို ကြားဦးမဆွကပင် ကြည်ညိုစုံမက်ခြင်းဖြင့် တရားရ၍ ကာသိကရာဇ်မင်း အစရှိသော မိမိအဆွေခင်ပွန်းအပေါင်းတို့ကို ညီညွတ်စေလျက် တေမိမင်းရှိရာ ရဟန်းပြုလာသော ရထားမှူးသုနန္ဒာသည် ယခု ငါဘုရားဖြစ်တော်မူသောအခါ သိဒ္ဓည်းပရိဗိုဇ်၏တပည့်ဖြစ်၍ ဂိုဏ်းခြားသူဖြစ်လျက် ငါဘုရား၏ တရားဒေသနာ တစ်ဂါထာမျှကို ကြားဦးစမဆွကပင် ယုံမှားကင်းသော ကြည်ညိုခြင်းဖြင့် သောတာပတ္တိမဂ်,ဖိုလ် တရားရ၍ ကောလိတအစရှိသော မိမိအဆွေခင်ပွန်းအပေါင်းတို့ကို ညီညွတ်စေလျက် ငါဘုရားရှိရာ ရဟန်းပြုလာသဖြင့် ၁ သင်္ချေနှင့်ကမ္ဘာ ၁ သိန်းဖြည့်ဆည်းပူးအပ်သော ပါရမီအားလျော်စွာ ငါ့တပည့်သံဃာတော်အပေါင်းတို့တွင် အကြီးဖြစ်သော ပထမအဂ္ဂသာဝက အရာနေ ဤသာသနာတော်ခေတ်ဝယ် ငါဘုရားမှတစ်ပါး အလုံးစုံသတ္တလောက၌ ပညာဖြင့် ၂ယောက် မရှိ။ အထွတ်ဖြစ်သော "သာရိပုတ္တရာထေရ်"ဖြစ်လာ၏။

ငါ တေမိမင်းသား ဖြစ်တော်မူသောအခါ အလုံးစုံသော ကာမဂုဏ်အသုံးအဆောင်တို့ကို အလိုရှိတိုင်း ပြီးစေနိုင်သောတန်ခိုးနှင့် ပြည့်စုံစွာ မျက်စိ ၁၀၀၀ အမြင်ဆောင်လျက် ငါ၏ပါရမီကို စောင်မကြည့်ရှုပေသော သိကြားမင်းသည် ယခု ငါဘုရားဖြစ်တော်မူသောအခါ အလုံးစုံသော ကာမဂုဏ်အသုံးအဆောင်တို့ကို မရှိဟူ၍ မကြားရစဖူး။ အလိုရှိတိုင်း ပြီးစေနိုင်လျက် ကမ္ဘာ ၁ သိန်းဖြည့်ဆည်းပူးအပ်သော ပါရမီ ဘုန်းသမ္ဘာရနှင့် ပြည့်စုံစွာ ဒိဗ္ဗစက္ခုအဘိညာဉ်ဖြင့် ငါ၏သာသနာတော်၌ ၂ ယောက် မရှိ အထွတ်ဖြစ်သော, ငါ ပရိနိဗ္ဗာန်လွန်ပြီးသည့်နောက်တိုင်အောင်လည်း ငါ၏သာသနာတော်ကို စောင်မကြည့်ရှုလတ္တံ့. ဖြစ်သော ဘထွေးတော်၏သား ငါ့ညီ 'အနုရုဒ္ဓါထေရ်'ဖြစ်လာ၏။

"ငါ တေမိမင်းသားဖြစ်တော်မူသောအခါ ငါ့ကို အဝတ်တန်ဆာဆင်ခြင်း, သက်န်း, သပိတ်, ကျောင်းနေရာ အသုံးအဆောင်တို့ကို အသင့်အတင့်ဖန်ဆင်း စီရင်ခြင်း, မြတ်နိုးကြည်ညိုစွာ လိုရာမတောင့်တရကြောင်း ကောင်းစွာပေးကမ်းလာပေသော ဝိသုကြံနတ်သားသည် ယခု ငါဘုရားဖြစ်တော် မူသောအခါ ငါ့အား သင်းပိုင်ကပ်ခြင်း, ကိုယ်ဝတ်ကပ်ခြင်း စသည်တို့ဖြင့် လည်းကောင်း၊ ကျောင်း,ကုဋိတို့ကို ပြင်ဆင်ခြင်း, တံမြက်လှည်းခြင်း စသည်တို့ဖြင့်လည်းကောင်း၊ ငါ၏သပိတ်,သက်န်းတို့ကိုဆောင်၍ နောက်သို့ အစဉ်တစိုက်လိုက်ခြင်းစသည်တို့ဖြင့်လည်းကောင်း မြတ်နိုးကြည်ညိုစွာ လိုရာ မတောင့်တရကြောင်း ကောင်းစွာလုပ်ကျွေးခြင်းရှိလျက် ကမ္ဘာ ၁ သိန်းဖြည့်ဆည်းပူးအပ်သော ပါရမီအားလျော်စွာ ငါ၏ဥပဋ္ဌာကအရာ၌ ဗဟုသုတအစရှိသည့်ဂုဏ် ၅ ပါး[၅၂]ဖြင့် သာသနာတော်၌ ၂ ယောက်မရှိ အထွတ်ဖြစ်သော ဘထွေးတော်သား ငါ့ညီ 'အာနန္ဒာထေရ်'ဖြစ်လာ၏။

"ငါ တေမိမင်း ဖြစ်တော်မူသောအခါ ကာသိကရာဇ်တိုင်းကြီးကိုအစိုးရသော ငါ့ခမည်းတော် ကာသိကရာဇ်မင်းကြီး, မယ်တော်စန္ဒာဒေဝီ မိဖုရားကြီးတို့သည် ယခု ငါဘုရားဖြစ်တော်မူသောအခါ သက္ကတိုင်းကြီးကိုအစိုးရသော အသမ္ဘိန္နခတ္တိယ [၅၆] မင်းမျိုးမင်းနွယ် သာကီဝင်မင်းတကာတို့၏အထွတ် ကပိလဝတ်ပြည်ကြီးရှင်ဖြစ်သော 'မင်းကြီး, မိဖုရားကြီး' ဖြစ်လာကြကုန်၏။

"ငါ တေမိမင်း ဖြစ်တော်မူသောအခါ ၇ ပြည်ထောင်တို့၏အပေါင်းဖြစ်သော ငါ၏တပည့် ရသေ့ဟူသမျှတို့သည် ယခု ငါဘုရားဖြစ်တော်မူသောအခါ ငါဘုရား၏ 'ပရိသတ် ၈ ပါး' ဖြစ်လာကြကုန်၏။

ထိုအခါ သူခပ်သိမ်းတို့ပြုနိုင်ခဲသော ပရိမတ္ထ အဓိဋ္ဌာန်ပါရမီကိုဖြည့်၍ ကာမဂုဏ်ညွတ်ကွင်းမှ ထွက်မြောက်သဖြင့် မိဘဆွေမျိုး အစရှိသော သူအပေါင်းတို့၏ အကျိုးစီးပွားအလို့ငှာ ကျင့်ဆောင်လျက် တပည့်ရသေ့အပေါင်းတို့၏ ဆရာဖြစ်သော တေမိမင်းသားသည် ယခုအခါ သူခပ်သိမ်းတို့ ပြုနိုင်ခဲသော ပါရမီစာဂတို့ကို မရေတွက်နိုင်သောကာလပတ်လုံး ဖြည့်၍ သံသရာဝဲသြဃထဲမှ အရဟတ္တမဂ်ဖြင့် နိဗ္ဗာန်တည်းဟူသော ကမ်းတစ်ဘက်သို့ ကူးခပ်ထွက်မြောက်ပြီးလျှင် မိဘဆွေမျိုး အစရှိသော သတ္တလောက၏ အကျိုးစီးပွား အလို့ငှာ သစ္စာ ၄ ပါးလျှင်အဆုံးရှိသော တရားဒေသနာဟောတော်မူခြင်း စသည်ဖြင့် ဗုဒ္ဓကိစ္စ ၅ပါးကို ဖြည့်ဆောင်တော်မူလျက် တပည့်သာဝက ရဟန်းသံဃာအပေါင်းတို့၏ ဆရာဖြစ်တော်မူသော 'ငါဘုရားလျှင်တည်း"ဟု ဇာတ်တော်ကို ပေါင်းတော်မူ၏ ဟူလိုသည်။

[ဤတွင်ရှေ့ကား ဘုရားလောင်း တေမိမင်းသား၏ စိတ်အလိုနှင့် မပြိုင်မဆိုင်မိသော ကာလပတ်လုံး ပညာတည်းဟူသော ရတနာမြတ်ကို အဓိဋ္ဌာန်တော် သမာဓိ, ဝီရိယ တည်းဟူသော တံခါးရွက်, မင်းတုပ်, သော့ကျင်ထိုး၍ သံဝရသီလ၊ ခန္တီ, မေတ္တာ တည်းဟူသော လက်တော်ဖြင့် မြဲစွာပိတ်ဖုံးလျက် နှလုံးတည်းဟူသော တိုက်တော်၌ ဝှက်ထားသဖြင့် အလိုတော်ရှိတိုင်း ပြီးမြောက်တော်မူသောအခါ ထိုပညာတော်တည်းဟူသော ရတနာမြတ်အပေါင်းကို သတိဝီရိယပြဋ္ဌာန်းသော စိတ္တ ပွါဒ်တော်ဖြင့် တံခါးဟင်းလင်းဖွင့်လျက် သီလခန္တီ မေတ္တာဖြင့် ထုံစေခြင်းဟုဆိုအပ်သော လက်တော်ဖြင့်ကိုင်ဆုပ်ကာ ပေးဝေငှတော်မူ၍ သူခပ်သိမ်းတို့အား နတ်ဗြဟ္မာဖြစ်ကြောင်း ကောင်းမြတ်သော သီလ, သမာဓိ, ပညာ, သမာပတ်, အဘိညာဉ် စည်းစိမ်၌ တည်စေသဖြင့် ချင့်တွက်၍ပုဂ္ဂိုလ်ပေါင်း သချ်ာမသိနိုင်အောင် ၇ ပြည်ထောင်ပရိသတ် မြတ်သောအခြွေအရံ အပေါင်းတို့ကို တရားသဖြင့် အစိုးရတော်မူကြောင်း အတ္ထုပ္ပတ္တိနှင့်တကွ ရှေ့နောက်စကား အဆက်အစပ် ဇာတ်တော်ပေါင်း အယှဉ်အစဉ်ဖြစ်သောပါဠိတော်၌ ဟောတော်မူရာဟောတော်မူကြောင်းဖြစ်သော ဒေသနာတော်၏ အဓိပ္ပာယ်ကို ထုတ်ဖွင့်၍ဆိုအပ်သော စကားရှိသမျှ ပြီးအောင်မြင်ကြောင်းကို ပြခြင်းတည်း။]

**တေမိယ ဇာတ်တော်ကြီးဝတ္ထု ပြီး၏။**

## နိဂုံး

'ပုရေ ရာဇာ မဟောသိယာ၊ဂန္ဓတေတ္တ သမာဂမံ။
တဿတ္ထေပိ ဝှယေ ဂါမေ၊ လေသာ လီနတ္တဒီပကော။ ။
'သေဋ္ဌဋ္ဌာနေ သုသော ဘန္တေ၊ နာနာ စေတိယ ဥဏ္ဍိသေ။
မဟာထေရဿ ဝဏ္ဏိဿ၊ မယာ သီသောန ဒဿိနာ။ ။
'ဩဘာ သောဏ္ဍတိနာမေန၊ ရစိတာယ ဝိဘာဝနီ။
အဋ္ဌမာပိ ကတာ ဒါနိ၊ ယာ တေမိယဝိဘာဝနီ။ ။
'ယာစိတေန ပရတ္တတ္တံ၊ အတ္တဒက္ခိနုပါသကော။
ဖုလ္လာလိနေ ဇိနဋ္ဌက္ကေ၊ သက္ကရာဇေ ပိယာ ဝိဒေ။ ။
'ဇုဏှော ကာ ဒသမေ မာဃေ၊ သီတဂါဟေစ နိဋ္ဌိတာ။
ဗြိသေ စန္ဒိမသံသုတ္တေ၊ မိသေ ပတ္တေ စ လက္ခဏံ။ ။
'သုဒ္ဓေန စေတသာ မယှံ၊ ယထာ ကတဿ သိဒ္ဓိတံ။
မမဋ္ဌသိဒ္ဓိ တိစ္ဆိတံ၊ သဗ္ဗေသဋ္ဌ သုဒဿိတံ။ ။
'ဝိဘဇ မေကမေကံဝ၊ ဣမိနာ စ ဘဝါမှ ဟံ။
ဣတော နိဗ္ဗာန သမ္ပတ္တိ၊ကိစ္စေ နိဒါန ကောဝိဒေါ။ ။
'အဘူတေပိ ဘူတေ ဉာဏံ၊ ဉာဏေ လဘာမိ မိဋ္ဌတံ။
အဋ္ဌာနေန ယောဇေဋ္ဌောပိ၊ ဌာနေ နိဒါနကောဝိဒေါ။ ။
'ပတ္တိတိဋ္ဌိတ သမ္ပတ္တိံ၊ ခမ္မိယာ သုခုမလဒ္ဓကော။
သုဝိမုတ္တော အနိဋ္ဌေဟိ၊ ဣဋ္ဌေဟိ စ ပုရက္ခရော။ ။
'သဗ္ဗပဋ္ဌမံဝ ပူရေန္တော၊ သုဝဟန္တော ပရံဟိတေ။
ဗန္ဓူ မမာ နုဝတ္တေဝ၊ လဘော ဝိတော ဝိသမကာ။ ။
'နေယျေ နာယကဉာဏေန၊ ဝိသမေ သမကာရကော။
မမ ဗလေ သုပရိသော၊ ဉာတိမိတ္တာန မတ္တဓာရော။ ။
'သံသုဒ္ဓဂတိသမ္ပန္နော၊ သန္တဝိဇ္ဇေ သုခံ ဝိဇ္ဇော။
ဓေတေနုပနိဿယေန၊ အခိဏာဉာဏာဘောဂဝါ။ ။
'ပါရမိယောဝ ပူရေတွာ၊ ယထာဘူတံ ဘဝါဘဝေ။
ဗုဒ္ဓက္ကရေ စ ဗုဒ္ဓတ္တံ၊ ဗောဓိံ ဗောဓေမိ ပစ္ဆိမေ။ ။

'ပမောဒဿ္မိ သုဏာန္တာစ၊ ယေ မေ ပုညန္တ တံ ဖလံ။
ဘူပါလော စ ဉာတိ မိတ္တာ၊ တဒညာ ပိ သမံ လဘော။ ။
'သာသနံ ရက္ခန္တု ဒေဝါစ၊ ရာဇာ သန္တိဋ္ဌ ပူရဏော။
ပဇံ ပါလေတု ဓမ္မေန၊ သုဘိက္ခော ဟောတု သဗ္ဗဒါ။ ။
'စိရံ တိဋ္ဌတု သဒ္ဓမ္မော၊ သဗ္ဗေဝမုန္တု မင်္ဂလံ။
ဤဒံပုညံ နမောဒန္တု၊ မမ ပုညဿ တေဇသော။ ။'

ပုရေ၊ ရှေးသက္ကရာဇ်မပြည့်မီ ၈၀၀တွင်း၌ ။ ရာဇာ၊ ဂူကြီးဒါယကာ မိုးညှင်းမင်းတရားကြီးသည်။ မဟေသိယာ၊ ဘို့မယ်အမည် ထင်ရှားသောမိဖုရားနှင့်။ ဇွော၊ ဤအရပ်၌။ သမာဂမံ၊ မာန်ကင်းသည်ဖြစ်၍ နူးညံ့ခံညားသဖြင့် အညီအညွတ်ပေါင်းမိခြင်းသို့။ ဂစ္ဆတိကိရ၊ ရောက်သတတ်။ (ပုရေသဒ္ဒါနောက် ကိရပုဒ် ကြေသည်) တံ တေနကာရဏေန၊ ထိုသို့ မင်း ၂ ပါးတို့၏ ဖူးမြင်ကြည်နူး ပူးဆုံရာဖြစ်သောကြောင့်။ အဿပဒဿ၊ ထို ရာဇသမာဂမော ဟူသောပုဒ်၏။ အတ္ထေပိ–အတ္ထေနပိ၊ အနက်အားဖြင့်လည်း။ အဝှယေ၊ 'မင်းပူး'ဟုခေါ်ဝေါ်အပ်သော။ ဂါမေ၊ ရွာ၌။(အတ္ထေပိ၌ အပိသဒ္ဒါဖြင့် မင်္ဂလံ ပူရေတီတိ မင်းပူး။ မံသိရိံ ပရိသံဝါ ပူရေတီတိ မင်းပူး။ စသည်တို့ဖြင့် သဒ္ဒါအားလျော်စွာ ရထိုက်သမျှသော အနက်တို့ကို ပေါင်းသည်။) ဝဏ္ဏိဿ၊ ပရိယတ္တိ အစရှိသောဂုဏ်နှင့် ပြည့်စုံထသော။ ဝါ၊ သူတော်ကောင်းတို့သည် ချီးမွမ်းအပ်ထသော။ မဟာထေရဿ၊ မဟာထေရ်မြတ်၏။ သေဋ္ဌဌာနေ၊ မြတ်သောနေရာဖြစ်ထသော။ ဝါ၊ မြတ်သောသူတို့၏ နေရာဖြစ်သော အရှေ့မျက်နှာအဖို့၌။ နာနာစေတိယဉဏ်ိသေ၊ မကိုင့်ပန်းကုံးကဲ့သို့ ညွတ်ရုံးကိုးကွယ် တည်ထားအပ်သော စေတီ, မုစ်, လိုဏ် အဆူဆူဖြင့်တင့်တယ်စွာသော ဘုရားကုန်း,တောင်လျဉ်လျှင် ဦးရစ်သင်းကျစ်သဖွယ် ရှိထသော။ သုသောဘန္တေ၊ စာပေသင်ခြင်း စသည်တို့ဖြင့် မဆိတ်မည်သည်ဖြစ်၍ ကောင်းစွာ တင့်တယ်ထသော။ လေသာလီနတ္တ ဒီပကေ၊ ကွယ်ဝှက်သောအနက်ကိုပြရာ 'လေသာ'အမည်ရှိသော ကျောင်းတိုက်၌။ အဿထေရဿ၊ ထိုမဟာထေရ်မြတ်၏။ သိဿေန၊ လက်ရင်းငယ်တပည့်လည်း ဖြစ်ထသော။ ဒသိနာ၊ ကိုယ့်စီးပွား,သူ့စီးပွား ၂ပါးကို ရှုလေ့ရှိထသော။ ဩဘာသော ဣတိနာမေန၊ 'ဩဘာသ'ဟူ၍ ခေါ်ဝေါ်အပ်သော အမည်ရှိထသော။ မယာ၊ ငါသည်။ ရစိတာယ၊ ရေးစီထုတ်ပြအပ်သော။ ဝိဘာဝနီ– ဝိဘာဝနိယာ၊ မဟာနိပါတ် ဇာတ်တော်ကြီးအဖွင့်ဝတ္ထု၌။ ဝါ၊ မဟာဇာတက ဝိဘာဝနိ အမည်ရှိသော ဝတ္ထု၌။ သမဘိနိဝိဋ္ဌာ၊ ကောင်းစွာအကျုံးဝင်သော။ အဋ္ဌမာပိ၊ ၈ ကြိမ်မြောက်လည်းဖြစ်ထသော။ ဒါနိ–ဣဒါနိ၊ ယခု။ ယာ တေမိယ ဝိဘာဝနီ၊ အကြင်တေမိ ဇာတ်တော်အဖွင့်ကို။ ဝါ၊ တေမိယဝိဘာဝနီကို။ (ကတာ၊ ဟူသောပုဒ်မှာစပ်)။ ပရတ္တတ္ထံ–ပရအတ္တတ္ထာယ၊ သူတစ်ပါးအကျိုး, မိမိအကျိုးအလို့ငှာ။ အတ္ထဒက္ခိနာ၊ အကျိုး ၂ပါးကို မြင်လေ့ရှိထသော။ ဥပါသကေ ဥပါသကေန၊ ကျောင်းတကာ 'မောင်ဝ'အမည်ရှိသော ဒါယကာသည်။ ယာစိတေန၊ အဖန်တလဲလဲ တောင်းပန်အပ်သည်ဖြစ်၍။ ကတာရစိတာ၊ ရေးစီထုတ်ပြအပ်ပြီ။ သောတေမိဝိဘာဝနီ၊ ဤတေမိယဝတ္ထုအဖွင့်သည်။ (နိဋ္ဌိတာမှာစပ်)။ ဖုလ္လာ လိနေ၊ ပိတုန်းတို့၏ ဝတ်ရက်သောက်ယူခြင်း မကင်းစေမူ၍ တင့်တယ်စွာပွင့်သော ပဒုမ္မာကြာကဲ့သို့ ဂန္ထခုရ စသည်တို့ကို သောက်ယူတတ်သော သာဝကပရိသတ် မဆိတ်သည်ဖြစ်၍ တင့်တယ်စွာပွင့်ထသော။ ဇိနစက္ကေ၊ မြတ်စွာဘုရား သာသနာတော်စက်သည်။ ဖုလ္လာလိနေ၊ ၂၃၃၀ ခုနှစ်သို့။ ပိယာဝိဒေ၊ အခါအစွဲအမှတ်ပြုသဖြင့် ချစ်ခင်အပ်သော ဝတ္ထုကို ရကြောင်းဖြစ်သော။ သက္ကရာဇေ၊ ကောဇာသက္ကရာဇ် ရှည်သည်။ ပိယာဝိဒေ၊ ၁၁၄၈ ခုနှစ်သို့။ သမ္ပတ္တေ၊ ရောက်သည်ရှိသော်။

မာဃေ၊ တပို့တွဲလဖြစ်သော။ သီတကါလေ၊ ဆောင်းရာသီ၌။ ဝါ၊ သီတဂူဂါယော၊ တနလ်ာနေ့ဖြစ်သော။ ဇုဏှေကာဒသမေ၊ လဆန်းပက္ခ ၁၁ ရက်၌။ ဖြိသေ၊ ဖြိဿ ရာသီနက္ခတ်သည်။ စန္ဒိမသံယုတ္တေ၊ စန်းနှင့်ယှဉ်သည်ရှိသော်။ မိဿေစ၊ မိဿရာသီ နက္ခတ်သည်လည်း။ လက္ခဏံ၊ သုဘနိမိတ် အစရှိသည်ကို မှတ်ကြောင်းဖြစ်သောလက်သို့။ ပတ္တေ၊ ရောက်သည်ရှိသော်။ နိဋ္ဌိတာ၊ ပြီးပြီ။

သုဒ္ဓေနစေတသာ၊ စင်ကြယ်သောစိတ်ဖြင့်။ မယှံမယာ၊ ငါသည်။ ကတဿ၊ ပြုအပ်သော။ ဣမဿ၊ ဤဝတ္တု၏။ ဝတ္တုဗ္ဗကိစ္စံ၊ ဆိုဖွယ်ကိစ္စသည်။သိဒ္ဓိတံယထာ၊ အပြီးရောက်သကဲ့သို့။ တထာ၊ ထို့အတူ။ မမဋ္ဌ၊ ငါ၏လည်း။ ဣဋ္ဌိတံ၊ အလိုရှိအပ် တောင့်တအပ်သောအကျိုးသည်။ သဗ္ဗေသဋ္ဌ၊ သူခပ်သိမ်းတို့၏လည်း။ သုခသိတံ၊ ချမ်းသာရာ ချမ်းသာကြောင်းဖြစ်သောအကျိုးသည်။ ဟါ၊ မမဋ္ဌ ငါ၏ လည်းကောင်း။ သဗ္ဗေသဋ္ဌ သူခပ်သိမ်းတို့၏ လည်းကောင်း။ သုခသိတံ၊ ချမ်းသာခြင်းလျှင် မှီရာရှိသော။ ဣဋ္ဌိတံ၊ အလိုရှိအပ် တောင့်တအပ်သော အကျိုးသည်။ သိဒ္ဓိတံ၊ အပြီးသို့ ရောက်သည်။ ဘဝတု၊ ဖြစ်စေသတည်း။

– ဣမဿ ပုညဿ၊ ဤကောင်းမှု၏။ ဖလံ ၊ အကျိုးကို။ ယထာသမ္ဘဝံ၊ အကြောင်းအားလျော်စွာ။ ဧက မေကံဝ၊ တစ်ခုတစ်ခုစီလျှင်။ ဝိဘဇံ ဝိဘဇန္တော၊ ဝေဖန်သည်ရှိသော်။ အဟံ၊ ငါသည်။ ဣမိနာပုညေန၊ ဤဇာတ်တော်ပါဠိ၏ နိဒါန်းကို ဖွင့်ရသောကောင်းမှုကြောင့်။ ဣတော၊ ဤယခုနေ့မှ။ ပဋ္ဌာယ၊ စ၍။ နိဗ္ဗာန သမ္ပတ္တိ၊ အရဟတ္တဖိုလ် နိဗ္ဗာန်နှင့် ပြည့်စုံသည်တိုင်အောင်။ ကိစ္စေ၊ ဆောင်အပ်သော ကိစ္စကြီးငယ်၌။ နိဒါန ကောဝိဒေါ၊ ထိုကိစ္စကိုပြီးကြောင်း အခွင့်အရာ၌ လိမ္မာသည်။ ဘဝါမိ၊ ဖြစ်ရပါလို၏။

– ဣမိနာစ ပုညေန၊ ဤတေမိမင်း၏ အဓိဋ္ဌာန်ပါရမီ၌ ဆောက်တည်ကြောင်း အတ္ထုပ္ပတ်ကို ဖွင့်ရသော ကောင်းမှုကြောင့်လည်း။ အဘူတေပိ၊ သဘောမဟုတ်ရာနှင့် တွေ့ကြုံရသော်လည်း။ ဘူတေ၊ သဘောဟုတ်မှန်သော အရာ၌။ ဉာဏဋ္ဌ၊ ဇာတိသရ, သုတမယစသည်တို့ဖြင့် သိတတ်သောဉာဏကိုလည်းကောင်း။ ဉာဏ၊ ထိုဉာဏ်တို့ဖြင့် သိပြီးသော သဘောဟုတ်မှန်ရာ၌။ အဓိဋ္ဌိတဋ္ဌ၊ မရွေ့မစောင်း ကောင်းစွာဆောက်တည်နိုင်သော အဖြစ်ကိုလည်းကောင်း။ လဘာမိ၊ ရပါလို၏။

– ဣမိနာစ ပုညေန၊ ဤတေမိမင်းသားအား အလိုစမ်းအဋ္ဌုပ္ပတ်ကို ဖွင့်ရသော ကောင်းမှုကြောင့်လည်း။ ပရေဟိ၊ သူတစ်ပါးတို့သည်။ အဋ္ဌာနေန၊ အကြောင်းအရာ မဟုတ်သဖြင့်။ ယောဇေန္တောပိ၊ တိုက်တွန်းသော်လည်း။ ဌာနေ၊ အကြောင်းအရာ ဟုတ်သည်၌သာလျှင်။ နိစ္စလသမ္မာဝေါ၊ မယိုင်မညွတ်သောအားဖြင့် မြဲစွာတည်နိုင်သည်။ ဘဝါမိ၊ ဖြစ်ရပါလို၏။

– ဣမိနာစ ပုညေန၊ ဤတေမိမင်းသားအား ခမည်းတော်, မယ်တော်, ပြည်သူပြည်သား, သိကြား, ဝိသုကြံနတ်တို့ ချစ်ခင်မြတ်နိုးခြင်း, ချီးမြှောက်ပြုစုခြင်းအတ္ထုပ္ပတ်ကိုဖွင့်ရသော ကောင်းမှုကြောင့်လည်း။ ပတ္ထိ တိဋ္ဌိတ သမ္ပတ္တိ၊ တောင့်တအပ်သော, အလိုရှိအပ်သော စည်းစိမ်ချမ်းသာအပေါင်းကို။ ဓမ္မိယာသုခမ လဒ္ဓကောၤတရားသဖြင့် သိမ်မွေ့နူးညံ့စွာသာလျှင် ရသည်။ဘဝါမိ၊ ဖြစ်ရပါလို၏။

– ဣမိနာစပုညေန၊ ဤဘုရားလောင်း၏ ကာမဂုဏ်အနှောင်အဖွဲ့မှ ထွက်မြောက်ကြောင်း အတ္ထုပ္ပတ်ကို ဖွင့်ရသော ကောင်းမှုကြောင့်လည်း။ အနိဋ္ဌေဟိ၊ အလိုမရှိအပ်, မတောင့်တအပ်သော အရာတို့မှ။ သုဝိမုတ္တော၊ ကောင်းစွာလွတ်မြောက်သည်။ ဣဋ္ဌေဟိစ၊ အလိုရှိအပ်, တောင့်တအပ်သော အရာတို့ဖြင့်လည်း။ ဝါ၊ အရာတို့ကိုလည်း။ ပုရက္ခရော၊ ပြည့်ခြင်းကိုပြုရသည်။ ဝါ၊ ရှေးဦးစွာပြုရသည်။ ဘဝါမိ၊ ဖြစ်ရပါလို၏။

– ဣမိနာစ ပုညေန၊ ဤတေမိမင်းသား၏ ရဟန်းအသွင်ကိုယူခြင်း၊ ရထားမှူးနှင့် စကားပြောဟောခြင်း အတ္ထုပ္ပတ္တိကို ဖွင့်ရသောကောင်းမှုကြောင့်လည်း။ သဗ္ဗပဋ္ဌမံဝ၊ သူခပ်သိမ်းတို့၏ ရှေးဦးစွာလျှင်။ အဟံ၊ငါသည်။ အတ္တာနံ၊ ကိုယ်ကို။ ပူရေန္တော၊ ဒါန, သီလ အစရှိသော သူတော်ကောင်းတရားတို့နှင့် ပြည့်စုံစေလျက်။ ပရဟိတေ၊ သူတစ်ပါးတို့၏ အကျိုးစီးပွားတို့ကို ။ သုဝဟန္တော၊ ကောင်းစွာဆောင်တတ်သော။ ဝိသမကာ၊ အယူသီလ မတူသည်ဖြစ်၍ မညီမညွတ်ခြင်းကိုပြုတတ်သော အဖော်အပေါင်းမှ။ ဝိတော–အပဂတော၊ ကင်းသည်ဖြစ်၍။ မမာနုဝတ္တေဝ၊ အယူသီလ တူသောအားဖြင့် ငါ၏အလိုသို့သာလျှင် လိုက်တတ်ကုန်သော။ ဗန္ဓူ၊ ဘုရားလောင်းအား ရထားမှူးသုနန္ဒာကဲ့သို့ ငါ့အား အဆွေခင်ပွန်းကောင်းတို့ကို။ သဗ္ဗပဋ္ဌမံ၊ ခပ်သိမ်းစုံတို့၏ရှေးဦးစွာ။ လဘေ–လဘာမိ၊ ရပါလို၏။

– ဣမိနာစပုညေန၊ ဤမိတ္တပူဇာ ၁၀ ဂါထာ, သံဝေဂ ဂါထာတို့၏အနက်ကို ဖွင့်ရသောကောင်းမှုကြောင့်လည်း။ နေယျေ၊ဘုရားလောင်းအား ရထားမှူးသုနန္ဒာ, အစရှိသော သူတို့ကဲ့သို့ ငါ့အား ဆုံးမထိုက်သော သူအပေါင်းတို့ကို။ နာယက ဉာဏေန၊ ဆုံးမခြင်းငှာစွမ်းနိုင်သော နာယကဉာဏ်ဖြင့်။ ဝိသမေ၊ ဘုရားလောင်းအား ခမည်းတော်, မယ်တော်အစရှိသော သူတို့ကဲ့သို့ အယူသီလမညီမညွတ်ကုန်သောသူတို့ကို။ သမကာရကော၊ တရားနှင့်လျော်စွာ ညီညွတ်ခြင်းကို ပြုနိုင်သည်။ဝါ၊ ဝိသမေ၊ ဒေါသ, မာန, မစ္ဆေရ စသည်တို့ဖြင့် အချင်းချင်း မသင့်မတင့်ရှိကုန်သောသူတို့ကို။ သမကာရကော၊ ကိုယ်,စိတ် ၂ ပါး တညီတညွတ်တည်းဖြစ်စေကြောင်း ကောင်းစွာညှိနိုင်သည်။ ဘဝါမိ၊ ဖြစ်ရပါလို၏။

– ဣမိနာစပုညေန၊ ဤဘုရားလောင်း၏ ဆွေတော်မျိုးတော် မင်းပရိသတ်နှင့်တကွ ၈ ပြည်ထောင်သားတို့အား သင်္ဂြိုဟ်စောင့်ရှောက်ခြင်း စသောအတ္ထုပ္ပတ္တိကို ဖွင့်ရသောကောင်းမှုကြောင့်လည်း။ မမဗလေ၊ ငါဆောင်ရွက်အပ်သော နာယကဂုဏ်အစွမ်း၌။ သုပရိသော၊ ကောင်းစွာငြိမ်သက်သော ပရိသတ်ရှိသည်။ ဉာတိမိတ္တာနံ၊ ဆရာ, မိဘနှင့် တူကုန်သောသူတို့၏။ ဝါ၊ အဆွေခင်ပွန်းတို့၏။ အတ္ထစာရော၊ အကျိုးစီးပွားတို့ကို ရွက်ဆောင်နိုင်သည်။ သံသုဒ္ဓဂတိသမ္ပန္နော၊ အဂတိ ၄ပါးမှ ကင်းသည်ဖြစ်၍ သန့်ရှင်းစင်ကြယ်စွာ ဖြောင့်မှန်ကောင်းမြတ်သော သစ္စာ,ဂတိနှင့်ပြည့်စုံသည်။ ဝါ၊ အပါယဂတိ စသည်တို့မှ ကင်းလွတ်သည်ဖြစ်၍ ကောင်းမြတ်သော တိဟိတ်ပဋိသန္ဓေဂတိနှင့် ပြည့်စုံသည်။ သန္တဝိဇ္ဇေ၊ ဘုရားလောင်းသူတော်ကောင်းတို့ သင်အပ်သော လောကီကျမ်း, ဓမ္မကျွန်, ပိဋကတ်ကျမ်း, လက်အတတ်, နှုတ်အတတ် အလုံးစုံအပြစ်ကင်းသော အတတ်မျိုးစုံ၌။ သုခံဝိဇ္ဇော၊ မြင်ကာ ကြားကာ ကြံကာ အလွယ်တကူ တတ်မြောက်နိုင်သည်။ အခီဏဉာဏ ဘောဂဝါ၊ သူခပ်သိမ်းတို့အား သင်ကြားပြညွှန်၍ မကုန်ခန်းနိုင်သော ပညာအသုံးအဆောင်, လှူဒါန်းပေးကမ်း၍ မကုန်နိုင်သော စည်းစိမ်ဥစ္စာနှင့် ပြည့်စုံသည်။ ဘဝါမိ၊ ဖြစ်ရပါလို၏။

– ဣမိနာစပုညေန၊ ဤဇာတ်ပေါင်းခြင်းလျှင် အဆုံးရှိသော တေမိဇာတ်တော်ကြီး အတ္ထုပ္ပတ္တိ အလုံးစုံကို ဖွင့်ရသောကောင်းမှုကြောင့်လည်း။ ဘဝါဘဝေ၊ ဘဝကြီး,ငယ်၌။ ဓေနုပနိဿယေနစ၊ ဤကျမ်းပြုခြင်း ကုသိုလ်လျှင် ဥပနိဿယပစ္စည်းပြုသဖြင့်လည်း။ ယထာဘူတံ၊ သဿတ, ဥစ္ဆေဒ အစရှိသည်တို့မှ ကင်းသည်ဖြစ်၍ ဖြောင့်မှန်စွာ။ ဝါ၊ မဖောက်မပြန်။ ဗုဒ္ဓကရေ၊ သဗ္ဗညုတအဖြစ်ကို ပြုတတ်ကုန်သော။ ပါရမိယောဝ၊ ပါရမီတို့ကို သာလျှင်။ ပူရေတွာ၊ ပြည့်စေ၍။ ပစ္ဆိမေ၊ အဆုံးစွန်သောဘဝ၌။ ဗုဒ္ဓတ္တံ၊ သဗ္ဗညုတ အဖြစ်သည်သာလျှင် ကျေးဇူးရှိသော။ ဗောဓိံ၊ သစ္စာ ၄ပါးတရားကို။ ဗောဓေမိ၊ သိရပါလို၏။ ဝါ၊ ဗုဒ္ဓတ္တံ၊ သဗ္ဗညုတအဖြစ်သို့။

ပတ္တာ၊ ရောက်ပြီး၍။ ဇောခိ၊ သစ္စာ ၄ပါးလျှင် သီလတ္တံ့အကြောင်းရှိသော ဝေနေယျ အပေါင်းကို။ ဇောမေမိ၊ ပွင့်စေရပါလို၏။

– ယေသပ္ပုရိသာ၊ အကြင်သူတော်ကောင်းတို့သည်။ ဣမံဇာတက ဝိဘာဝနိံ၊ ဤတေမိယဇာတ်တော် အဖွင့်ဝတ္ထုကို။ သုဏန္တာစ၊ ကြားနာရကုန်သည်ဖြစ်၍လည်း။ ပမောဒန္တိ၊ ဝမ်းမြောက်ကုန်၏။ တေသပ္ပုရိသာ၊ ထို ဝမ်းမြောက်ကုန်သော သူတော်ကောင်းအပေါင်းတို့သည် လည်းကောင်း။ ဘူပါလောစ၊ ရေမြေရှင် မဟာဓမ္မရာဇ်မင်းသည် လည်းကောင်း။ ဉာတိမိတ္တာစ၊ ဆရာ, မိဘနှင့်တူကုန်သော သူတို့သည် လည်းကောင်း။ ဝါ၊ အဆွေအမျိုး ချစ်ကျွမ်းဝင်ကုန်သော သူအပေါင်းတို့သည် လည်းကောင်း။ တဒညာပိ၊ ထိုမှ ကြွင်းကုန်သော သတ္တဝါအပေါင်းတို့သည် လည်းကောင်း။ မေ မမ၊ ငါ၏။ တံပုညဥ္စ၊ ထို အလုံးစုံသောကုသိုလ်ကို လည်းကောင်း။ တံဖလဥ္စ၊ ထို အလုံးစုံသောကုသိုလ်၏ အကျိုးကို လည်းကောင်း။ မေ မယာ၊ ငါနှင့်။ သမံ၊ အတူအမျှ၊ လဘေ–လဘန္တု၊ ရစေကုန်သတည်း။

– မမ ပုညဿ၊ ငါ ယခုပြုအပ်သော ကောင်းမှု၏။ တေဇသာ–ဗလေန၊ အစွမ်းအားဖြင့်။ ဒေဝါ၊ လောကပါလ နတ်မင်း, သိကြားမင်း အစရှိကုန်သော နတ်တို့သည်လည်း။ သာသနံ၊ မြတ်စွာဘုရား သာသနာတော်မြက်ကို။ ရက္ခန္တု၊ စောင့်စေကုန်သတည်း။ ရာဇာစ၊ ရေမြေ့သခင် ဘဝရှင်မင်းတရားသည်လည်း။ သန္တိဋ္ဌပုရဏော၊ တရားနှင့်လျော်စွာ အလိုပြည့်စုံသည်ဖြစ်၍။ ဝါ၊ သူတော်ကောင်းတို့ ချီးမွမ်းအပ်သော အလိုဟူသမျှ ပြည့်စုံသည်ဖြစ်၍။ ပဇံ၊ ပြည်သူတိုင်းသား အများသတ္တဝါအပေါင်းကို။ ဓမ္မေန၊ တရားဖြင့်။ ပါလေတု၊ စောင့်ရှောက်စေသတည်း။ သဗ္ဗဒါ– သဗ္ဗကာလံ၊ အခါခပ်သိမ်း။ ဇနပဒေါ၊ ဇနပုဒ်သည်။ သုဘိက္ခော၊ ဝပြောစည်ပင်သည်။ ဟောတု၊ ဖြစ်စေသတည်း။ သဒ္ဓမ္မော၊ မြတ်စွာဘုရားသာသနာတော် တည်းဟူသော သူတော်ကောင်းတရားသည်။ စိရံ၊ မြင့်ရှည်စွာကာလပတ်လုံး။ တိဋ္ဌတု၊ တည်စေသတည်း။ သဗ္ဗေ၊ ခပ်သိမ်းကုန်သော သူတို့သည်။ မင်္ဂလံ၊ ကောင်းမှုတည်းဟူသော မင်္ဂလာကို။ ဝဍ္ဎန္တု၊ ပွားစေကုန်သတည်း။ ဣဒံပုညံ၊ ဤကောင်းမှုကို။ အနုမောဒန္တု၊ ဝမ်းမြောက်ကြစေကုန်သတည်း။

**ဤတွင် နိဂုံး ပြီး၏။**

# တေမိယဇာတ်တော်ကြီး ခက်ဆစ်အဓိပ္ပာယ်များ

၁။ အဝိဇ္ဇာ=သစ္စာ ၄ ပါးကို မသိမမြင်ခြင်း။
၂။ တဏှာ=တပ်နှစ်သက်ခြင်း။
၃။ ကိလေသာ=ညစ်နွမ်းစေတတ်, ပူလောင်စေတတ်သော တရား။
၄။ ဒေသနာ=ဘုရားဟော တရားစကား။
၅။ ဝိမုတ်=(ဝိမုတ္တိ)ကိလေသာမှ လွတ်ခြင်း။
၆။ သဏ္ဌာန်=(သဏ္ဌာန)အခြင်းအရာ အသွင်ပုံပန်း။
၇။ သစ်သစ်=မကြွင်းကျန်။
၈။ ဝေရှန်း=ဝေ-ဝေဝေဆာဆာ၊ ရှန်း-ပြည့်ပြည့်စုံစုံ။
၉။ ကျော်ဝှန်=ကျော်လွန်ခြင်း,ပိုလျှံခြင်း။
၁၀။ တရား ၁၀ပါး=မဂ် ၄ပါး,ဖိုလ် ၄-ပါး, နိဗ္ဗာန်,ပရိယတ်။
၁၁။ ဒိဋ္ဌိ=အယူ။[ဤ၌ အယူမှားကို ဆိုလိုသည်။]
၁၂။ ဝိစိကိစ္ဆာ=ယုံမှားခြင်း, မဆုံးဖြတ်နိုင်ခြင်း။
၁၃။ သစ္စာ ၄ ပါး=ဒုက္ခသစ္စာ,သမုဒယသစ္စာ, နိရောဓသစ္စာ, မဂ္ဂသစ္စာ။
၁၄။ ဋီကာ=အဋ္ဌကထာကျမ်းကို ဖွင့်ပြသောကျမ်း။
၁၅။ သုတမယ=နာကြားသဖြင့် ဖြစ်သောဉာဏ်။
၁၆။ ပြဿနာ=ခက်ခဲသော အမေး။
၁၇။ ပိဋကတ်(ပိဋကတ္တယ)ပိဋက=သင်ကြားအပ်သောကျမ်း၊ တယ-၃-ပါး။[ပိဋက ၃-ပုံ]
၁၈။ ဇာတ်(ဇာတက)ဇာတ=ရှေးဖြစ်ပုံအတ္တုပ္ပတ်၊ က-ဟောပြောသောစကားစဉ်။
၁၉။ ထောမနာ=ချီးမွမ်းခြင်း။
၂၀။ အန္တရာယ်=အကြားအကြား၌ ဖြစ်တတ်သောဘေးဥပဒ်။
၂၁။ ဂန္ထဂရု=ကျမ်းလေးသောအပြစ်။
၂၂။ ပုနရုတ္တိ ဒေါသ=အဖန်ဖန်အထပ်ထပ်ဆိုသော အပြစ်။
၂၃။ စောဒက=အပြစ်တင်သူ။
၂၄။ ပရိဟာရ=ဖြေရှင်းခြင်း။
၂၅။ ပဏ္ဍာမာရပဟာဘောဂုဏ်=ရှိခိုးထိုက်သောဂုဏ်။
၂၆။ အနန္တဉာဏ်=အဆုံးမရှိသောဉာဏ်။
၂၇။ အစိန္တေယျ=မကြံစည်နိုင်သောဂုဏ်။
၂၈။ အဗျာပိတဒေါသ=မပျံ့နှံ့သောအပြစ်။
၂၉။ သံသြောင်းရင့်ရှ=အသံတော်ဖြင့် ကျူးရင့်ခြင်း,ဟောပြောခြင်း။
၃၀။ အဂ္ဂသမာဓိ=အဂ္ဂ-အမြင့်မြတ်,အထွတ်အထိပ်၊သမာဓိ-တည်ကြည်ခြင်း၊မြင့်မြတ်တည်ကြည်သောမထေရ်။
၃၁။ အမှာကံ ဝံသော ပဗ္ဗဇ္ဇဝံသော=ငါတို့၏အမျိုးအနွယ်ကား ရှင်ရဟန်းပြုသော အမျိုးအနွယ်တည်း။
၃၂။ ဗြဟ္မာ=ချာန်တရား ပွားများနေသူ။
၃၃။ မဃဒေဝ=မြင့်မြတ်၍ ပူဇော်ထိုက်သောမင်း။
၃၄။ ပဗ္ဗဇ္ဇဝင်(ပဗ္ဗဇ္ဇ-ဝံသ)ပဗ္ဗဇ္ဇ=ရှင်,ရဟန်း,ရသေ့၊ ဝံသအနွယ်အဆက်။
၃၅။ သကျဝတ သော ကုမာရာ=အိုအချင်းတို့-မင်းသားများ စွမ်းဆောင်နိုင်ပေကုန်စွတကား။
၃၆။ ဥက္ကာက=ပန်းပဲဖိုကဲ့သို့ ခံတွင်းမှ အရောင်အလင်းထွက်သော မင်း။

၃၇။ သာကီ=(သာကိယ)အမျိုးမပျက်အောင် စောင့်စွမ်းသောမင်း။
၃၈။ သိဒ္ဓတ်=(သိဒ္ဓတ္ထ)အကျိုးစီးပွားဖြစ်စေတတ်သော မင်းသား။
၃၉။ စမွယ်=တင့်တယ်စွာနေထိုင်ခြင်း။
၄၀။ သံသရာ=ခန္ဓာကိုယ် မပြတ်မလပ် အထပ်ထပ်ဖြစ်ခြင်း။
၄၁။ သေကာရီ=အစီးအပွား ရှာဖွေလေ့ရှိသူ။
၄၂။ ဟတ္ထိပါလ=ဆင် ထိန်းသိမ်းစောင့်ရှောက်အပ်သူ။
၄၃။ သံဝရ=မကောင်းမှုမှ စောင့်စည်းသောမင်း။
၄၄။ ရဋ္ဌသာရ=တိုင်းပြည်၏ အနှစ်သဖွယ်ဖြစ်သောမထေရ်။
၄၅။ ဗျာဒိတ်=(ဗျာဒိတ)ကေန် ဘုရားဖြစ်လတ္တံ့ဟု မိန့်ကြားသံ။
၄၆။ သီလဝံသ=သီလရှိသူတို့၏ အနွယ်။
၄၇။ ဗောဓိမဏ္ဍိုင်=(ဗောဓိမဏ္ဍလ)သဗ္ဗညုတဉာဏ်၏ ကြည်လင်ရာဌာန။
၄၈။ အဋ္ဌကထာ=(အဋ္ဌကထာ)အနက်အဓိပ္ပာယ်ကို ပြဆိုသောကျမ်း။
၄၉။ သမန္တပါသာဒိတ=ပတ်ဝန်းကျင်အားလုံး ကြည်နူးဖွယ်ကောင်းသောကျမ်း။
၅၀။ သံဝဏ္ဏနာ=အကျယ်ဖွင့်ပြခြင်း။
၅၁။ လာဘ်=(လာဘ)ရအပ်သောဝတ္ထုပစ္စည်း။
၅၂။ ပူဇော်=(ပူဇာ)ပေးလှူခြင်း။
၅၃။ သက္ကာရ=ရိုသေစွာပြု၍ပေးလှူခြင်း။
၅၄။ ယာဉ်=(ယာန)နိဗ္ဗာန်သို့ ရောက်ကြောင်း၊ အနိစ္စ,ဒုက္ခ,အနတ္တ–ဟူသော လက္ခဏာယာဉ်သုံးပါး။
၅၅။ ဝဋ်=(ဝဋ္ဋ)သံသရာ၌ ကျင်လည်ခြင်း။
၅၆။ ပယောဂသမ္ပဒါ=အားထုတ်မှု လုံ့လနှင့် ပြည့်စုံခြင်း။
၅၇။ စရိုက်=(စရိတ)အလေ့အကျင့်။
၅၈။ ဒေဝဒတ်=(ဒေဝ–ဒတ္တ)ဒေဝ–နတ်,ဒတ္တ–ပေးခြင်း၊ နတ်ပေးသောသား။
၅၉။ စိဉ္စမာဏဝိကာ=မန်ကျည်းပင်၌ သန္ဓေစွဲမိသော သူငယ်မ။
၆၀။ ဣန္ဒြေ=(ဣန္ဒြိယ)စိုးအုပ်ခြင်း၊သက်ဆိုင်ရာ တရားကို စိုးအုပ်သောတရားထူး။
၆၁။ အာသယသမ္ပဒါ=တရားရစေလိုသော ဆန္ဒတော်နှင့် ပြည့်စုံခြင်း။
၆၂။ သတ္တူပကာရသမ္ပဒါ=ဝေနေယျသတ္တဝါတို့အား ကျေးဇူးပြုခြင်းနှင့် ပြည့်စုံခြင်း။
၆၃။ အရဟတ္တမဂ်=ရဟန္တာဖြစ်ရန်အကြောင်း။
၆၄။ အာသယာနုသယ=(အာသယ–အနုသယ)အာသယ–အလိုဆန္ဒ၊ အနုသယ–ကိန်းအောင်းနေသော ကိလေသာ။
၆၅။ ဉာဏသမ္ပဒါ=ဉာဏ်နှင့်ပြည့်စုံခြင်း။
၆၆။ ဝါသနာ=အလေ့အကျင့်။
၆၇။ ပဟာနသမ္ပဒါ=ကိလေသာပယ်ဖျောက်ခြင်းနှင့် ပြည့်စုံခြင်း။
၆၈။ အာနုဘာဝသမ္ပဒါ=တန်ခိုးအစွမ်းနှင့် ပြည့်စုံခြင်း။
၆၉။ ရူပကာယ=ရူပ–အဆင်း၊ ကာယ–ကိုယ်သဏ္ဍာန်။
၇၀။ ဖလသမ္ပဒါ=အကျိုးနှင့် ပြည့်စုံခြင်း။
၇၁။ မဟာကရုဏာ=ကြီးမားသောသနားခြင်း။
၇၂။ ဟေတုသမ္ပဒါ=အကြောင်းနှင့် ပြည့်စုံခြင်း။

၇၃။ ဗုဒ္ဓပ္ပဏာမ=ဘုရားအားရှိခိုးခြင်း။
၇၄။ အာဝဋ္ဋနည်း=ဝဲ လှည့်လည်သကဲ့သို့ အစိတ်ကိုဆိုက အပေါင်းကိုလည်း ယူရ၏၊ အပေါင်းကိုဆိုက အစိတ်ကိုလည်း ယူရ၏။အကြောင်းကိုဆိုက အကျိုးကိုလည်း ယူရ၏။ အကျိုးကိုဆိုက အကြောင်းကိုလည်း ယူရ၏ဟု သိစေရန် ပြဆိုချက်။
၇၅။ တိပုက္ခလနည်း=အစိတ် ၃ ပါးဖြင့် တင့်တယ်သောနည်း။
၇၆။ ဝိပဿနာ=အနိစ္စ,ဒုက္ခ,အနတ္တ ဟု ထူးခြားစွာ ရှုဆင်ခြင်ခြင်း။
၇၇။ သဒိသဘော=(သဒိသ-ဘာဝ)တူသည်၏အဖြစ်။
၇၈။ သဒ္ဒူပမာ=ဣဝ,ဝိယ-ကဲ့သို့ စသောသဒ္ဒါဖြင့် သိအပ်သော ဥပမာ။
၇၉။ အတ္ထူပမာ=အနက်ဖြင့်သာ သိအပ်သော ဥပမာ။
၈၀။ ဝါကျတ္ထူပမာ=ဝါကျအနက်ဖြင့် သိအပ်သော ဥပမာ။
၈၁။ ဇမ္ဗူရည်ပွင့်=ကျွန်းဦးသပြေပင်၏အသွေးအရောင် လှပသောအပွင့်။
၈၂။ ရှင်ပင့်စတေ=ဗုဒ္ဓရှင်တော် မြတ်ဘုရား၏ ဇာတ်တော်စစ်၊ ဝါ-ဆံတော်စစ်များ ဌာပနာခြင်း။
၈၃။ သဒိသ=အတူ။
၈၄။ သဒိသီ=အတူရှိ။
၈၅။ ဝေနေယျ=ဆုံးမထိုက်သူ၊မဂ်,ဖိုလ် ရထိုက်သူ။
၈၆။ ဝိနာယက=ဆုံးမတတ်သောဘုရား။
၈၇။ သချေ်ပြည်း၏=သချေ်-အသေချေ်အနန္တ ၊ပြည်း၏-များပြားလှ၏ ။
၈၈။ ကြိုးပ=ကြိုးဝါးခြင်း။
၈၉။ ပရိယာယ်=(ပရိယာယ)အလဲ့အလှယ်,ပြောင်းလဲခြင်း,လှည့်စားခြင်း။
၉၀။ လော်လက်-=လျှပ်ပေါ်လော်လီခြင်း။
၉၁။ လောက်လက်ခတ်=ယောက်ယက်ခတ်,မဆုံးဖြတ်နိုင်။
၉၂။ စာမရီ=အမွေးရှည်သော တိဘက်နွားမျိုး။
၉၃။ ပါရိသုဒ္ဓိ=ထက်ဝန်းကျင်စင်ကြယ်ခြင်း။
၉၄။ သာရိပုတ္တရာ=ရူပသာရီမည်သော ပုဏ္ဏေးမ၏သား။
၉၅။ အရုဏ်=(အရုဏ)နေမထွက်မီ ဦးစွာပေါ်ထွက်လာသော အရောင်။
၉၆။ သဒ္ဒသုတိ=သဒ္ဒါသံ,စကားသံ။
၉၇။ ဥပမာ=နှိုင်းယှဉ်ပြသော ထင်ရှားသောဝတ္ထု။
၉၈။ ဥပမေယျ=နှိုင်းယှဉ်အပြခံရသော မထင်ရှားသောဝတ္ထု။
၉၉။ ဂုဏ်=(ဂုဏ)ဝတ္ထုဒြပ်၌မှီသော ထူးသောအခြင်းအရာ။
၁၀၀။ ဂုဏေ=(ဂုဏီ)ဂုဏ်၏ တည်ရာဝတ္ထုဒြပ်။
၁၀၁။ နယကောဝိဒ=နည်းပြလိမ္မာသည်။
၁၀၂။ ဒေါသမမီ=အပြစ်မရောက်။
၁၀၃။ နိရတ္ထက=အကျိုးမရှိ။
၁၀၄၊ ကုသိုလ်=(ကုသလ)ကောင်းကျိုးကို ဖြစ်စေသောတရား။
၁၀၅။ မင်္ဂလာ=ကြီးပွားတိုးတက်စေသော တရား။
၁၀၆။ အဇ္ဈာသယ=ကြီးမားလွန်ကဲသော အလိုဆန္ဒ။
၁၀၇။ သုခသိဒ္ဓိ=ကောင်းကျိုးချမ်းသာ ပြီးပြည့်စုံခြင်း။
၁၀၈။ ပီတိ=နှစ်သက်ဝမ်းမြောက်ခြင်း။
၁၀၉။ ဗိတာန်=(ဝိတာန)မျက်နှာကြက်။

၁၁၀။ ဥဒါဟာရုဏ်=(ဥဒါဟာရဏ)ပုံစံသာဓက ထုတ်ဆောင်ပြခြင်း။
၁၁၁။ ပဏာမ=ရှိခိုးခြင်း။
၁၁၂။ ထောမနာ=ချီးမွမ်းခြင်း။
၁၁၃။ သံဝဏ္ဏနာကာရ=အကျယ်ဖွင့်ဆိုသော အခြင်းအရာ။
၁၁၄။ ဥယျောဇဉ်=(ဥယျောဇန)တိုက်တွန်းခြင်း။
၁၁၅။ ပဋိညာဉ်=(ပဋိညာ)တာဝန်ခံခြင်း။
၁၁၆။ ဂန္ထာရမ္ဘပုဗ္ဗက=ကျမ်းပြုစကားဦး။ဝါ၊ ကျမ်းမရေးမီ ဦးစွာဆိုအပ်သောစကား။
၁၁၇။ မဟာကရုဏာ=ကြီးမားသောသနားခြင်း။
၁၁၈။ စကြဝဠာ=၄ ကျွန်းတစ်မြင်းမိုရ်ကို စကြဝဠာ တစ်တိုက် ခေါ်သည်။
၁၁၉။ ဇမ္ဗူကျွန်း=ကျွန်းဦးကျွန်းထိပ်၌ သပြေပင်ရောက်သော ကျွန်းကြီး။
၁၂၀။ သောင်းတိုက်=စကြဝဠာတိုက်ပေါင်း ၁ သောင်း။
၁၂၁။ မှူး=ကျက်သရေမင်္ဂလာ။
၁၂၂။ ပြည်သာနိဗ္ဗူ=သာယာသော နိဗ္ဗာန်ပြည်။
၁၂၃။ ၈ ပါးပရိသတ်=စတုမဟာရာဇ်နတ်,တာဝတိံသာနတ်,မာရ်နတ်,ဗြဟ္မာ,ရဟန်း, ပုဏ္ဏား,သူကြွယ်,မင်းမျိုး။
၁၂၄။ သာဝတ္ထိ=သဝတ္ထရသေ့၏ နေရာဟောင်းဖြစ်သော ပြည်။ ဝါ၊ ရွှေငွေစသော ဥစ္စာအပြည့်အစုံရှိသော ပြည်။
၁၂၅။ အနာထပိဏ်=(အနာထပိဏ္ဍိက)ကိုးကွယ်ရာ မဲ့သူတို့အား အစားအစာ ပေးကမ်းသောသူဌေး။
၁၂၆။ ဝိမုတ်=(ဝိမုတ္တိ)ကိလေသာမှ လွတ်ခြင်း။
၁၂၇။ ဘိသိက်=(အဘိသေက)ဦးထိပ်၌ သွန်းလောင်းခြင်း။
၁၂၈။ မြေအချက်=အချက်အချာဖြစ်သောမြေ။ ဝါ-ချက်တိုင်သဖွယ် ဇမ္ဗူကျွန်း၏ဗဟိုအလယ်ကျသောမြေ။
၁၂၉။ မဟာဘိနိက္ခမ=မြတ်သော တောထွက်ခြင်း။
၁၃၀။ အတ္ထုပ္ပတ်=(အတ္ထုပ္ပတ္တိ)အကြောင်းအရာ, ဖြစ်ပုံပျက်ပုံ။
၁၃၁။ နိမိတ်ဖတ်=ကောင်း,မကောင်းနှင့် ကြောင်း,ကျိုး ဟောပြခြင်း။
၁၃၂။ ပုရောဟိတ်=(ပုရောဟိတ)ပြည်ကျိုးဆောင် မင်းဆရာ။
၁၃၃။ ဥယျာဉ်=(ဥယျာန)ဥ-ဥလ္လောကန-မော်ကြည့်ခြင်း၊ယာန-လာရောက်ခြင်း၊ အဆန်းတကြယ်ရှုလိုသူတို့ လာရောက်ရာ မြိုင်တော။
၁၃၄။ ညောင်ဗုဒ္ဓဟေ=သဗ္ဗညုတဉာဏ် ရရာ,ရကြောင်း, ဘုရား ဖြစ်ရာ ဖြစ်ကြောင်း ညောင်ပင်။
၁၃၅။ မာရ်=(မာရ)သတ်ပုတ်ညှဉ်းဆဲတတ်သော နတ်ဆိုး။
၁၃၆။ နိဗ္ဗူအောင်ခန်း=ကိလေသာရန်ကိုအောင်ရာ နိဗ္ဗာန်ရွှေပြည်။
၁၃၇။ သရဖူ=ဘုရင်များ၏ ဦးစွပ်။
၁၃၈။ မှန်ကူသင်းကျစ်=မှန်ကူ-မျက်မှောင်ကြား၌ ခြယ်သော အပြောက်၊ သင်းကျစ်-ဘုရင်များ၏ဦးရစ်ခေါင်းပေါင်း။
၁၃၉။ ဂန္ဓကုဋိ=နံ့သာမွှေးထုံအပ်သော ကျောင်းငယ်။
၁၄၀။ ပညတ်တင်၍=ဝေါဟာရစကားစဉ် တင်၍။
၁၄၁။ ၄ပါးသော နိမိတ်=သူအို,သူနာ,သူသေ,ရဟန်း။
၁၄၂။ ပါရမီ=နိဗ္ဗာန်တစ်ဘက်သို့ ကူးလိုသူတို့၏အကျင့်။
၁၄၃။ ၅သွယ်သောတရား=သင်္ခါရ,ဝိကာရ,လက္ခဏ,နိဗ္ဗာန်,ပညတ်၊ဉေယျ်ခံ တရား၅ပါး။
၁၄၄။ သံသရာ=ဘဝအတန်တန် ခန္ဓာဝန်မပြတ် တရစပ်ဖြစ်ရခြင်း။
၁၄၅။ သနင်း=မင်းမြတ်။
၁၄၆။ လက္ခဏာ=အမှတ်အသား။
၁၄၇။ သံဝေဂ=ထိတ်လန့်ကြောက်ရွံ့ခြင်း။

၁၄၈။ ဈာန်=(ဈာန)နိဝရဏများကို ရှို့မြိုက်ပယ်သတ်သော တရား။
၁၄၉။ အဘိညာဉ်=(အဘိညာဏ)လွန်ကဲထူးမြတ်သော အသိဉာဏ်။
၁၅၀။ နိရောဓ သမာပတ် =စိတ်,စေတသိက်,စိတ္တဇရုပ်တို့၏ ပိုင်းခြားသောကာလအတိုင်း၌ ချုပ်ငြိမ်းခြင်းသို့ရောက်ခြင်း။
၁၅၁။ အဇ္ဈတ္တသန္တာန်=(အဇ္ဈတ္တသန္တာန)အစဉ်မပြတ်ဖြစ်နေသော မိမိကိုယ်ခန္ဓာ။
၁၅၂။ ဝဇိရစိန်=အရာဟူသမျှ ဖောက်ထွင်းနိုင်သော သိကြားမင်းစွဲကိုင်သော လက်နက်ထူး၊ ဝါ၊ အရာဟူသမျှ အရောင်ဖြင့် ဖောက်ထွင်းနိုင်သော ရတနာထူး။
၁၅၃။ သခ်မ်း=သူတော်သူမြတ်တို့ နေရာဌာန။
၁၅၄။ ကာမဂုဏ်=(ကာမဂုဏ)အလိုရှိအပ်,နှစ်သက်အပ်သော အာရုံ ၅ ပါးအစု။
၁၅၅။ မသေဆေး=မသေရာနိဗ္ဗာန်သို့ ရောက်ကြောင်း-မဂ္ဂင်။
၁၅၆။ နိက္ခမပါရမီ=ကာမနယ်မှ ထွက်မြောက်ကြောင်း ပါရမီအကျင့်။
၁၅၇။ ဝှဲချီး=ချီးမြှောက်သည်။
၁၅၈။ ဉာဏသမ္ပယုတ်=ဉာဏ်နှင့် ယှဉ်သည်။
၁၅၉။ စိတ္တုပ္ပါဒ်=(စိတ္တ-ဥပ္ပါဒ)စိတ္တ-စိတ်၊ဥပ္ပါဒ-ဖြစ်ခြင်း။
၁၆၀။ ဇော=(ဇဝန)အရှိန်အဟုန်နှင့်တကွ ရှိသောစိတ်။
၁၆၁။ အာဝဇ္ဇန်း=(အာဝဇ္ဇန)နှလုံးသွင်းခြင်း။
၁၆၂။ မဉ္ဇူ=သာယာခြင်း။
၁၆၃။ သဝဏီယ=နာပျော်ဖွယ်ရှိခြင်း။
၁၆၄။ ဂုဏ် ၈အင်=ကြည်လည်သန့်ရှင်းခြင်း၊ သာယာခြင်း၊ သိလွယ်ခြင်း၊ နာပျော်ဖွယ်ရှိခြင်း၊ ဖရိုဖရဲမရှိခြင်း၊ လုံးလုံးစည်းစည်းရှိခြင်း၊ နက်နဲခြင်း၊ ပဲ့တင်ထပ်ခြင်း ဟူသောဗုဒ္ဓ၏ အသံတော်ဂုဏ်အင် ၈ပါး။
၁၆၅။ ဗာရာဏသီ=(ဝါနရ သီသ)မျောက်ဦးခေါင်းရှိသော မြို့။ ဝါ၊ မျောက်ဦးခေါင်းသဏ္ဌာန် ကျောက်ဖျာရှိသောမြို့။
၁၆၆။ သင်္ဂဟတရား ၄ ပါး=‘အခွန် ၁၀ ဖို့၊ ၁ ဖို့ခွဲယူ၊ မှုထမ်းသူကို၊ ကြည်ဖြူပေးကမ်း၊ ငြိမ်းချမ်းသာယာ၊ ပြောကာစကား၊ တိုးပွားကင်းပ၊ ချေးငှားက၊ ၄ ဝစိုးမြှောက်နည်း’ဟူဆိုသည့်အတိုင်းသိလေ။
၁၆၇။ နာယကဂုဏ် ၆ ပါး=‘ထကြွ,နိုးကြားသနား,သည်းခံ၊ဝေဖန်,ကြည့်ရှုကြောင်းဖြေ၊ကြီးသူ့ကျင့်ရာ တရားတည်း’ဟု ဆိုသည့်အတိုင်းသိလေ။
၁၆၈။ ကိုယ်လုပ်=ကိုယ်၏အနီးခြေရင်း၌ အမှုကိစ္စ ပြုလုပ်ဆောင်ရွက်သော အပျိုတော်။
၁၆၉။ မောင်းမ=မိဖုရားငယ်။
၁၇၀။ မဒ္ဒရဋ္ဌ=(မဒ္ဒရဋ္ဌ)မဒ္ဒတိုင်း[မဒ္ဒ-သဒ္ဒါသည် ယစ်ခြင်းအနက်ကိုဟောသောကြောင့် ယောကျ်ားများကို ယစ်စေတတ်သော မိန်းမကောင်းပေါ်ထွန်းရာ တိုင်းပြည်ဖြစ်၍ မဒ္ဒတိုင်း ဟုတွင်သည်။]
၁၇၁။ စန္ဒာဒေဝီ=လပြည့်ဝန်းပမာ ကျက်သရေအဖြာဖြာရှိသော မိဖုရား။
၁၇၂။ အဂ္ဂမဟေသီ=မြင့်မြတ်သောမိဖုရား,မိဖုရားခေါင်။
၁၇၃။ ဥပုသ်=(ဥပေါသထ)၈ ပါးသီလ စောင့်သုံးခြင်း။
၁၇၄။ မင်းရင်ပြင်=နန်းတော်ဦး။
၁၇၅။ ပဟိုရ်=(ပဟာရ)တီးခတ်ခြင်း။ [နေ့၄-ပဟိုရ်,ညဉ့် ၄-ပဟိုရ်၊ ပေါင်း ၈-ပဟိုရ် တစ်ရက်]
၁၇၆။ ပုရ=နဂရ-နေပြည်တော်,မြို့တော်။
၁၇၇။ သောက=စိုးရိမ်ခြင်း။
၁၇၈။ ကျူးအေး=အသံသာယာစွာ ကျူးရင့်ခြင်း။
၁၇၉။ ပြကတေ့=ပကတိနဂိုမူလ။
၁၈၀။ အဘယ်=အိမ်ရှင်မကိုခေါ်သော အာလုတ်။

၁၈၁။ ကျိုးနွံ=မာန်စွယ်ကျိုး၍ နှိမ့်ချခြင်း။

၁၈၂။ အာဏာ=စေခိုင်းခြင်း,အမိန့်ပေးခြင်း။

၁၈၃။ ရာဇာသံ=မင်း၏အမိန့်။

၁၈၄။ မကျိုး=မပေါက်-မပြောက်-မကြား-၅ပါး,၈ပါးစသောသီလတို့တွင် အစ,အဆုံးပျက်လျှင် ကျိုးပဲ့သည် မည်၏။ အလယ်တည့်တည့် တစ်ပါးပျက်လျှင် ပေါက်သည် မည်၏။ အလယ်မှ ၂-ပါး,၃-ပါးပျက်လျှင် ကြားသည် မည်၏။ တစ်ခုကြား,၂-ခုကြားပျက်လျှင် ပြောက်သည်မည်၏။

၁၈၅။ ပဏ္ဍုကမ္ဗလာကျောက်ဖျာ=ဖျော့တော့သော အဆင်းရှိသော သားမွေးသက္ကလပတ်အထည်နှင့်တူသော ကျောက်ဖျာ။

၁၈၆။ တာဝတိံသာ=မာဃလုလင်နှင့်တကွ ကုသုလ်ပြုဖက် ၃၃ကျိပ် ၃ ယောက်သော သူတို့ဖြစ်ရာ ဒုတိယနတ်ဘုံ။

၁၈၇။ သုစရိုက်=(သုံစရိတ)ကောင်းသောကျင့်ဝတ်တရား။

၁၈၈။ စုတေ=(စုတိ)ရွေ့လျောခြင်း, သေခြင်း။

၁၈၉။ ယာမာ=ဆင်းရဲဒုက္ခကင်းသော တတိယနတ်ဘုံ။

၁၉၀။ ဗိမာန်=(ဝိမာန)ထူးဆန်းအံ့ဩ ရှုချင်ဖွယ်အဆောက်အအုံ။

၁၉၁။ ပဋိသန္ဓေ=ဘဝ ၂ ပါး ဆက်စပ်သောအားဖြင့် ဘဝဦးအစ သတ္တဝါဖြစ်မှု။

၁၉၂။ သိကြား=(သက္က)အလိုရှိရာ ဆောင်စွမ်းနိုင်သော တာဝတိံသာနတ်မင်းကြီး။

၁၉၃။ သမ္ပတ္တိ=ပြည့်စုံခြင်း,ကြွယ်ဝချမ်းသာခြင်း။

၁၉၄။ အဓိကူပမာဒေါသ=ဥပမာကမြင့်၍ ဥပမေယျက နိမ့်ကျသောအပြစ်။

၁၉၅။ ပရဟိတ=သူ့အကျိုး၊ အများအကျိုး။

၁၉၆။ ကေဒေသူပစာရ=အပေါင်း၌ အစိတ်ကို တင်စား၍ ဆိုသောစကား။

၁၉၇။ အာဂန္တုက=ဧည့်သည်။

၁၉၈။ ဥတုဇ=ဥတုကြောင့်ဖြစ်သော။

၁၉၉။ ဝဋ္ဋာ=သားမဖွား-အမြုံမ။

၂၀၀။ ယူဇနာ=(ယောဇန)ပေါင်းခြင်း။ ၄-ဂါဝုတ်ပေါင်း ၁ ယူဇနာ။

၂၀၁။ စမုတ်=အဆောင်တော်။

၂၀၂။ ဥပဒ်=(ဥပဒ္ဒဝ)ဘေးရန်အန္တရာယ်။

၂၀၃။ ဂေဟသိတမေတ္တာ=ဂေဟသိတ-အိမ်သူအိမ်သား၌မှီသော၊မေတ္တာ-ချစ်ခင်ခြင်း။

၂၀၄။ ရေသီဒါ=သီဒါ သမုဒ္ဒရာရေ။[ထိုရေသည် အလွန်အေးရကား ဥဒေါင်းလည်ဆံမွေးသော်ပင် နစ်မြုပ်ရသည် ဟူ၏]

၂၀၅။ ရဟန္တာ=(အရဟန္တ)ကိလေသာကုန်ခန်း၍ ပူဇော်ထူးခံထိုက်သူ။

၂၀၆။ ပုထုဇဉ်=(ပုထုဇ္ဇန)ကိလေသာထူပြောသူ။

၂၀၇။ မဟာသေနာပတိ=စစ်ဘုရင်,ဗိုလ်ချုပ်။

၂၀၈။ ဒေါသ=အပြစ်။

၂၀၉။ အာလမ္ဗ=တွဲလျားကျခြင်း။

၂၁၀။ ထနာ=နို့အုံ။

၂၁၁။ ကုတ်ဟီးနား=မောနာ,ပန်းနာ။

၂၁၂။ လာဘ်=(လာဘ)ရအပ်သော ဝတ္ထုပစ္စည်း။

၂၁၃။ ပူဇော်=(ပူဇာ)ပေးလှူခြင်း။

၂၁၄။ သက္ကာရ=အရိုအသေပြု၍ပေးလှူခြင်း။

၂၁၅။ ပုရောဟိတ်=(ပုရ-ဟိတ)ပုရ-တိုင်းပြည်၊ဟိတ-အကျိုးစီးပွား၊ တိုင်းကျိုးပြည်ကျိုးဆောင် မင်းဆရာ။

၂၁၆။ ဇမ္ဗူဒိပ်=(ဇမ္ဗူဒီပ)ကျွန်းဦး၌ ဇမ္ဗူသပြေပင်ရှိသော ကျွန်း။

၂၁၇။ မင်္ဂလာ=စီးပွားချမ်းသာ တိုးပွားစေခြင်း။

၂၁၈။ သောမနဿ=ဝမ်းသာခြင်း။

၂၁၉။ ပီတိ=နှစ်သက်ခြင်း။

၂၂၀။ စမွယ်=တင့်တယ်ခြင်း။

၂၂၁။ မုစ်=မုခ-အဝင်ဝ။

၂၂၂။ ရာဇမောန်=(ရာဇ-မာန)ရာဇ-မင်း၊မာန-ထောင်လွှားခြင်း,မောက်မာခြင်း။

၂၂၃။ အာဏာသံ=စေခိုင်းသောအသံ,အမိန့်ပေးသောအသံ။

၂၂၄။ ယမမင်း=ငရဲမင်း။

၂၂၅။ ယေဘုယျနည်း=ရှားတော,ပေါက်တော ဟူသော စကားမျိုးကဲ့သို့ အတည်အမှိ,ဝတ္ထုဖြင့် တည်ရာမှီရာဝတ္ထုကိုမှတ်သားလျက် အများကိုဆိုလျှင် အနည်းအပါး သိရသောနည်း။

၂၂၆။ တဗ္ဗဟုလနည်း=တောလည်မုဆိုး,စစ်မြေလှည့်ဆင်-ဟူသောစကားမျိုးကဲ့သို့ တည်ရာမှီရာဝတ္ထုဖြင့် အတည်အမှီဝတ္ထုကို မှတ်သားလျက် အများကိုဆိုလျှင် အနည်းအပါးကို သိရသောနည်း။

၂၂၇။ ဒေါမနဿ=နှလုံးမသာယာခြင်း။

၂၂၈။ ဇာတိဿရဉာဏ်=နောက်နောက်ဘဝကို သတိရသောဉာဏ်။

၂၂၉။ ဥဿဒရက်=ငရဲငယ်များ။

၂၃၀။ ကုမုဒြာ=ကြာဖြူ။

၂၃၁။ ပဒုမ္မာ=ပွင့်ချပ် ၁၀၀ ရှိသောကြာ။

၂၃၂။ ပရမတ္ထပါရမီ=မွန်မြတ်သောအသက်ကိုပင် စွန့်နိုင်သောအကျင့်။

၂၃၃။ မဂ္ဂင်=(မဂ္ဂင်)သံသရာဝဋ်ဒုက္ခ ငြိမ်းခြင်း၏ အကြောင်း။ဝါ၊နိဗ္ဗာန်ရောက်ကြောင်း။

၂၃၄။ လူတိမ်ပုပ်=မိုးတိမ်ပုပ်နှင့် တူသူ။ဝါ၊လူတိမ်,လူအ,လူပုပ်,လူညစ်။

၂၃၅။ သမုတ်=(သမ္မုတိ)ခေါ်ဝေါ်ခြင်း။

၂၃၆။ ကာလကဏ္ဏီ=လူယုတ်,လူညစ်။

၂၃၇။ မန္တရား=(မန္တ)ဗေဒင်စသောအတတ်။

၂၃၈။ တစိုးတစိ=အနည်းအကျဉ်း။

၂၃၉။ မောင်းသံ=ရေခွက် တစ်ခါနစ်လျှင် တစ်မောင်း၊ ၄ မောင်းတစ်ပဟိုရ်၊ နေ့ ၄-ပဟိုရ်၊ ညဉ့် ၄-ပဟိုရ်၊ ပေါင်း ၈-ပဟိုရ် တစ်ရက်၊ နာရီ ၆၀-တစ်ရက် [၄-ယောက် အလှည့် ၆၀ ပြည့်နို့ထိန်းပေါင်း]ဆိုရာ၌ စတုသဋ္ဌိအရ-တစ်နာရီ၄-ယောက်၊ နာရီ ၆၀-သော် နို့ထိန်း ၂၄၀-ဖြစ်၏။

၂၄၀။ ဣရိယာပုထ်=ထ,ထိုင်,သွား,လျောင်းခြင်း ၄ -ပါးဖြင့် ခန္ဓာကိုယ်ကို မျှစေခြင်းအမှု။

၂၄၁။ အဓိဋ္ဌာန်=(အဓိဋ္ဌာန)အဓိ-အလွန်အကဲ၊ ဌာန-တည်ခြင်း, ဆောက်တည်ခြင်း။

၂၄၂။ သုမမိန်=လွယ်ကူချမ်းသာစွာ နှိုင်းချိန်တတ်သော ပညာရှိ။

၂၄၃။ မွတ်သိပ်=ဆာလောင်ခြင်း,စားလိုသောက်လိုခြင်း။

၂၄၄။ ဆုပ်လွေး=ဆုပ်ကိုင်စားသောက်ခြင်း။

၂၄၅။ အူအူတက်=ဆူဆူညံညံ။

၂၄၆။ ရသတဏှာ=အရသာ၌တပ်မက်ခြင်း။

၂၄၇။ စရိုက်=(စရိတ)အကျင့်။

၂၄၈။ ယဉ်မင်းငယ်=အရုပ်ငယ်။

၂၄၉။ ဘောဇဉ်=(ဘောဇန)စားဖွယ်,အစာ။

၂၅၀။ ဒုဗ္ဘိက္ခ=အစာရှားပါးခြင်း,ငတ်မွတ်ခြင်း။

၂၅၁။ သုဘိက္ခ=အစာရလွယ်ခြင်း,ဝပြောခြင်း။
၂၅၂။ ပရမ်းပတာ=ရှုပ်ယှက်ခတ်။
၂၅၃။ ကြေကျွမ်းဘနန်း=ကြေမွလုမတတ်, ကျွမ်းလုမတတ်။
၂၅၄။ အနိဋ္ဌာရုံ=အလိုမရှိအပ်သောအာရုံ။
၂၅၅။ ဖျော့တော့=အဖြူ,အဝါရောၡ ဝါဖန့်ဖန့်အရောင်။
၂၅၆။ စိတ္တဇ=စိတ်ကြောင့်ဖြစ်သည်။
၂၅၇။ အလမ္ပာယ်=(အလမ္ပာယန)မြွေကို အစိုးတရ ထူးထူးထွေထွေ ဖြစ်စေနိုင်သူ။
၂၅၈။ ၃ ရပ်သောအမိဋ္ဌာန်=ပညာရှိဖြစ်ကြောင်း မသိစေခြင်း၊ လူတိမ်ပုပ်, လူယုတ်မာဟု ထင်စေခြင်း၊ လူတကာ အော့နှလုံး နာစရာဖြစ်စေခြင်း။
၂၅၉။ အနုမာနဉာဏ်=မှန်းဆ၍သိသောဉာဏ်။
၂၆၀။ တင်သီးနား=တင်ပါး,တင်ပဆုံ,တင်ရိုး။
၂၆၁။ ဈာန်=(ဈာန)အကုသိုလ် နီဝရဏတရားတို့ကို ရှို့မြိုက်ပယ်သတ်တတ်သော တရား။
၂၆၂။ တင်းတိမ်=ကန့်လန့်ကာ။
၂၆၃။ သမ္မာသမ္ဗောဓိပဋ္ဌနာ=ဘုရားဆုပန်ခြင်း။
၂၆၄။ ဥပါယ်တမျဉ်=အောင်မြင်ရန်အကြောင်းတစ်မျိုး။
၂၆၅။ ပဋိဃာနုသယ=ငုပ်ကိန်းနေသော အမျက်ဒေါသ။
၂၆၆။ ဗျာပါဒ=အကျိုးစီးပွား ပျက်စီးစေတတ်သော အမျက်ဒေါသ။
၂၆၇။ တိဇရုပ်=ကံ,ဥတု,အာဟာရကြောင့်ဖြစ်သော ရုပ်။
၂၆၈။ မဟာထေရ်=ကြီးမားသော သမာဓိရှိသူ။
၂၆၉။ သန့်သက်အိမ်=အညစ်အကြေးစွန့်ရာအိမ်။
၂၇၀။ ဇော=(ဇဝန)အဟုန်နှင့်တကွဖြစ်သော စိတ်အစဉ်။
၂၇၁။ တဒါရုံ=(တဒါရမ္မဏ)ထိုဇောစိတ်၏ အာရုံကိုယူသော စိတ်။
၂၇၂။ မီးမယ်ဖျူး=မီးအိုးကင်း, မီးလင်းဖို။
၂၇၃။ အဝီစိ=ငရဲသား,မီးလျှံဆင်းရဲခြင်းတို့ဖြင့် အကြားအလပ်မရှိသော ငရဲကြီး။
၂၇၄။ ဥပုသ်=(ဥပေါသထ)သီတင်းသီလ စောင့်သုံးခြင်း။
၂၇၅။ နာဠိကိတ္တိ=ကချေသည်မိန်းမ။
၂၇၆။ ဖောဋ္ဌဗ္ဗာရုံ=အတွေ့အထိအာရုံ။
၂၇၇။ အာသယ=အလိုဆန္ဒ။
၂၇၈။ အလိုတမာ=အလိုအလျောက်။
၂၇၉။ အာသာ=တောင့်တခြင်း,မက်မောခြင်း။
၂၈၀။ လောကဝတ်=လောက၌ပြုရသောကျင့်ဝတ်။
၂၈၁။ ဓမ္မဝတ်=တရားသဘောရှိတိုင်း ပြုရသောကျင့်ဝတ်။
၂၈၂။ ရာဇဝတ်=မင်း၌ပြုရသောကျင့်ဝတ်။
၂၈၃။ ဒုစရိုက်=(ဒုစ္စရိတ)မကောင်းသောအလေ့အကျင့်။
၂၈၄။ သမ္မာဝါစာ=ကောင်းသောစကား။
၂၈၅။ ပဝတ္တိပယောဂ=မွေးပြီးနောက်အခါ ပြုအပ်သော အားထုတ်မှု။
၂၈၆။ ဇာတိလက္ခဏာ=ဖွားမြင်ချိန် မှတ်ကြောင်း,ဇာတာလက္ခဏာ။
၂၈၇။ ပရိယာယ်=(ပရိယာယ)သွယ်ဝိုက်ခြင်း။

၂၈၈။ ပရဝမ္ဘန=ပရ–သူတစ်ပါး၊ဝမ္ဘန–ကဲ့ရဲ့ရှုတ်ချခြင်း။
၂၈၉။ သင်္ကေတ=အမှတ်အသား။
၂၉၀။ သီလဝတ်=သီလစန်း၌ လာရှိတိုင်း ပြုရာသောကျင့်ဝတ်။
၂၉၁။ ဇာတိ=အမျိုးအနွယ်။
၂၉၂။ အညမညယောဂီ=အညမည–အချင်းချင်း၊ယောဂီ–ယှဉ်တွဲဖက်ရှိသော။
၂၉၃။ သုတ=အကြားအမြင်။
၂၉၄။ ဝယ=အရွယ်။
၂၉၅။ ဇာတိ=အမျိုးဇာတ်။
၂၉၆။ ပညာ=အပြားအားဖြင့်သိခြင်း။
၂၉၇။ သီလာ=ကိုယ်,နှုတ်စောင့်သုံးခြင်း အလေ့။
၂၉၈။ သိပ္ပ=အတတ်ပညာ။
၂၉၉။ ဟိတ=ပစ္စုပ္ပန်,အနာဂတ်အကျိုးစီးပွား။
၃၀၀။ သုခ=ချမ်းသာခြင်း။
၃၀၁။ လာဘ=လာဘ်ရခြင်း။
၃၀၂။ ကိတ္တိ=အကျော်အစော။
၃၀၃။ ယသ=အခြံအရံ။
၃၀၄။ **နေရောင်ခြည်ကို တောင့်တသောပန်း= ကြာပဒုမ္မာ။**
၃၀၅။ လရောင်နှင့်မိတ်သင့်သော ပန်း=ကြာဖြူ။
၃၀၆။ နောင်တ=နောင်မှ တသရခြင်း။ ဝါ၊ စိုးရိမ်ရခြင်း။
၃၀၇။ ဥကင်=ရာဇပလ္လင်၏အထက် တံကဲပန်းကုံး။
၃၀၈။ တရား ၁၀ပါး=လှူ,ကျင့်,စွန့်ကြံ, မညှဉ်းဆဲနှင့် ဖြောင့်စွဲနူးညံ့မဆန့်ကင်းပ မြေမှုသည်းခံ မြိုးခြံအသင့် ဤ ၁၀ ဆင့်၊ မင်းကျင့်တရားမှတ် ဟု ဆိုသည်အတိုင်းသိလေ။
၃၀၉။ ဟုံးစုံး=ကြုံးဝါးခြင်း။
၃၁၀။ တက္ကသိုလ်=(တက္ကသီလ)ကြံစည်လေ့လာသူတို့ နေထိုင်ရာပြည်။
၃၁၁။ ဝါဠုယက္ခကန္တာရ=သားရဲ,ဘီလူး ပေါများသောခရီးခဲ။
၃၁၂။ မြောက်သားတော်သမီး=ကြင်ဖော်တော်မယား။
၃၁၃။ နိသမ္မကာရီ=စူးစမ်းဆင်ခြင်မှု ပြုလေ့ရှိခြင်း။
၃၁၄။ ဓမ္မရာဇ်=(ဓမ္မရာဇ) တရားမင်း။
၃၁၅။ ကတို=(ကတိက)ဝန်ခံခြင်း။
၃၁၆။ ပဥ္စပတိကာ=လင် ၅ ယောက်ရှိသော မိန်းမ။
၃၁၇။ အဓွန့်=(အဒ္ဓါန)ရှည်ဝေးသောခရီး။
၃၁၈။ သဗ္ဗညုတဉာဏ်=တရားအားလုံးကို သိသောဉာဏ်။
၃၁၉။ သုနန္ဒာ=အလွန်နှစ်သက်ဖွယ်ရှိသူ။
၃၂၀။ လုတ်တိုင်း=သူသေမြှုပ်ရာသင်းချိုင်း။
၃၂၁။ လဒ္ဓိသဘာဝ=ရှက်ခြင်းသဘော။
၃၂၂။ မိစ္ဆာဒိဋ္ဌိ=မှားသောအမြင်။
၃၂၃။ ဒုသီလ=သီလမရှိ အကျင့်ပျက်သူ။
၃၂၄။ အလဒ္ဓိသဘာဝ=မရှက်ခြင်းသဘော။

၃၂၅။ ဒိဋ္ဌမ္ဗတ္တက=အမြင်မှား၍ရှုးသောသူ။
၃၂၆။ ဥပစာ=အနီးအပါး၊မြို့မှတိုင်းထွာသော်-ကုတ်လုပ် ၄ တာအပြန် ၅၀၀ အတွင်းတည်း။
၃၂၇။ ယထာဘူတဉာဏ်=ဟုတ်မှန်တိုင်းသိသောဉာဏ်။
၃၂၈။ ကံမြစ်၍=တားမြစ်၍,ဆုံးမ၍။
၃၂၉။ အာနုဘော်=(အာနုဘာဝ)တန်ခိုး,အစွမ်း။
၃၃၀။ သုသာန်=(သုသာန)သူသေကောင်စွန့်ပစ်ရာဌာန။
၃၃၁။ ဟိရိကောပိန=အရှက်ကိုဖျက်ဆီးခြင်း။
၃၃၂။ လောကသင်္ကေတ=လောကအမှတ်။
၃၃၃။ နပုန်း=(နပုံသက)ဣတ္ထိလိင်,ပုလ္လိင်မရှိသူ။
၃၃၄။ ပဏ္ဍုက်=(ပဏ္ဍက)မိန်းမတစ်လှည့်,ယောကျ်ားတစ်လှည့်ဖြစ်သူ။
၃၃၅။ ဝိဟိံသာဝိတက်=သတ်ဖြတ်ညှဉ်းဆဲရန်ကြံစည်ခြင်း။
၃၃၆။ ဗျာပါဒဝိတက်=ပျက်စီးရန်ကြံစည်ခြင်း။
၃၃၇။ ပဏ္ဍုကမ္ဗလာ=အဖြူ,အရွှေ အရောင် ၂ မျိုးရော၍ ဖျော့သောသောအဆင်းရှိသော, သိုးမွေးကမ္ဗလာနှင့်တူသော ကျောက်ဖျာ။
၃၃၈။ ဝိသုကြို=(ဝိသုကမ္မ)ထူးချွန်စွာ ပြုလုပ်ဖန်ဆင်းသော နတ်။
၃၃၉။ ယမမင်း=ငရဲမင်းကြီး။
၃၄၀။ ပလွှား=ဝါကြွားခြင်း။
၃၄၁။ ရက္ခူပမမိတ္တ ဒုဗ္ဘိဒေသနာ=သစ်ပင်ပမာဖြင့် ခင်ပွန်းပြစ်မှားပုံ ပြဆိုသောတရားစကား။
၃၄၂။ သန္ဒိဋ္ဌ=အတူတကွ မြင်ဖူးသောသူ။
၃၄၃။ သမ္ဘုတ္တ=အတူတကွ စားသုံးဖူးသောသူ။
၃၄၄။ မိတ္တဒုဗ္ဘိ=အဆွေခင်ပွန်းပြစ်မှားခြင်း။
၃၄၅။ အတ္တာပနုနည်း=အနက်သဘောအလျောက် ယူရသောနည်း။
၃၄၆။ ဥပသကာ=ရတနာ ၃ ပါးကို ဆည်းကပ်ကိုးကွယ်သောသူ။
၃၄၇။ ဗာလဝါတ်ဓွ=မိုက်သောလှည်းကုန်သည်။
၃၄၈။ မိတ္တပူဇာ=အဆွေခင်ပွန်းကို ပူဇော်ခြင်း။
၃၄၉။ အင္ဂသာဝက=အင်္ဂ-အထွတ်အထိပ်။သာဝက-တပည့်။
၃၅၀။ အထီးကျန်=ခိုကိုးရာမဲ့သူ။
၃၅၁။ သုခမိန်=လွယ်ကူချမ်းသာစွာ နှိုင်းချိန်တတ်သောပညာရှိ။
၃၅၂။ ရန်သူ ၅ ပါး=ရေ,မီး,မင်း,ခိုးသူ,မချစ်မနှစ်သက်အပ်သောသူ။
၃၅၃။ သာမာ=ရွှေအဆင်းရှိသောသူ။
၃၅၄။ ပတိဒေဝတာ=လင်ကို နတ်သဖွယ်ထား၍ လုပ်ကျွေးသောသူမ။
၃၅၅။ သံဃိက=သံဃာအများ ပိုင်ဆိုင်သည့်ဝတ္ထု။
၃၅၆။ ဥက္ကောဋန=လှုပ်ချောက်ချားခြင်း။
၃၅၇။ နေယျတ္ထနည်း=ဆောင်၍သိအပ်သောနည်း။ဝါ၊သွယ်ဝိုက်၍သိအပ်သောနည်း။
၃၅၈။ ဗျတိရိက်နည်း=ပြန်ဘက်အားဖြင့် သိအပ်သောနည်း။
၃၅၉။ ဒိသာပါမောက္ခ=အရပ်ရပ် တိုင်းသူတို့၏ အမှူးအချုပ်ဆရာကြီး။
၃၆၀။ မုသာဝါဒ=မဟုတ်မမှန် ပြောဆိုခြင်း။
၃၆၁။ အာနုဘော်=(အာနုဘာဝ)တန်ခိုးအစွမ်း။
၃၆၂။ ခနဋ္ဌယ=ဥစ္စာများစွာ ဆည်းပူးထားသူ။

၃၆၃။ နိတတ္ထ=တိုက်ရိုက်သိအပ်သောနည်း။ဝါ၊မသွယ်မဝိုက်သိအပ်သောနည်း။
၃၆၄။ ပဋိညာဉ်=ဝန်ခံခြင်း။
၃၆၅။ နေ့သန့်ရာ,ညဥ့်သန့်ရာ=နေ့နေရာ,ညဥ့်နေရာ။
၃၆၆။ အပစာနုတ္တ=မပြင္ဌာန်းသောအနက်။
၃၆၇။ အတ္ထက္ခာယီ=အကျိုးစီးပွားရှိသည်ကိုသာ ပြောဆိုတတ်သောမိတ်ဆွေ။
၃၆၈။ သမာနသုခဒုက္ခ=ချမ်းသာအတူ ဆင်းရဲအမျှ ခံစားတတ်သောမိတ်ဆွေ။
၃၆၉။ အညဒတ္ထု=ပစ္စည်းကိုသာယူလိုသော မိတ်ဆွေတု။
၃၇၀။ တုဋ္ဌိဒါန=နှစ်သက်အားရသော ကောင်းချီးပေးခြင်း။
၃၇၁။ မနောမယပတ္တမြား=စိတ်ကြံတိုင်းပြီးစေနိုင်သော ပတ္တမြား။
၃၇၂။ လောကဝတ်=လောကအလိုအားဖြင့် ပြုလုပ်ရသော ဝတ်တရား။
၃၇၃။ ရာဇဝတ်=မင်းအလိုအားဖြင့် ပြုလုပ်ရသောဝတ်တရား။
၃၇၄။ ဓမ္မဝတ်=တရားတော်အလိုအားဖြင့်ပြုလုပ်ရသော ဝတ်တရား။
၃၇၅။ ရာဟု=အသုံရိန်နတ်။
၃၇၆။ ဥဒါန်း=(ဥဒါန)ပီတိအဟုန်ဖြင့် စိတ်၌ မသိုထားနိုင်မူ၍ ထုတ်ဖော်မြွက်ဟသော စကား။
၃၇၇။ တိန်ညင်မျိုး=တည်ကြက်ပမာ အယောင်ပြမ္ဘားထားသော သတ္တဝါမျိုး။
၃၇၈။ ရတနာမျက် ၉ ပါး=စိန်,ပုလဲ,သန္တာ,ဂေါမုတ်,နီလာ,ကြောင်မျက်ရွဲ,ဥဿဖယား,မြ,ပတ္တမြား ဟူသော နဝရတ် ၉ ပါး။
၃၇၉။ ရက္ခူပမာဂါထာ-သစ်ပင်ဥပမာဖြင့်ပြသော ဂါထာ။
၃၈၀။ မိတ္တပူဇာဂါထာ=မိတ်ဆွေကို ပူဇော်ချီးမြှောက်ရပုံပြသော ဂါထာ။
၃၈၁။ ဇာတိသရ=ဖြစ်ပြီးဘဝကို သတိရအောက်မေ့နိုင်သောဉာဏ်။
၃၈၂။ စမုတ်=အဆောင်,ပြာသာဒ်။
၃၈၃။ ကုဋီ=ကျောင်းငယ်။
၃၈၄။ စင်္ကြံ=(စင်္ကမ)အညောင်းပြေလျှောက်ရာ လမ်းငယ်။
၃၈၅။ ဒုကုဋ်=၂ ထပ် ၂ လွှာချုပ်၍ လက်ဝဲပခုံးစွန်း၌ တင်ရုံအပ်သောသင်္ကန်း။
၃၈၆။ ကုသိုလ်သမ္ဘာရ=ကောင်းမှု ဟူသော အဆောက်အဦ။
၃၈၇။ ကမ္မည်း=ထင်စွာရေးထားသော စာကြောင်းလိပ်စာ။
၃၈၈။ သက္ကဒတ္တိယ=သိကြားမင်းပေးလှူအပ်သော ကျောင်းသင်္ခမ်း။
၃၈၉။ ဆံကျစ်=ဆံထုံးကို စွပ်ဖွဲ့ထားသောဝတ္ထု။
၃၉၀။ ဗြဟ္မဝိဟာရ=မေတ္တာ,ကရုဏာ,မုဒိတာ,ဥပေက္ခာ ဟူသော ဗြဟ္မစိုရ်တရား ၄ပါး။
၃၉၁။ တဒင်္ဂဉာဏ်=ထိုထိုကုသိုလ်ဖြင့် ထိုထိုအကုသိုလ်တစိတ်ကို တစ်ခဏမျှပယ်သတ်သောဉာဏ်။
၃၉၂။ သမာပတ်=ဈာန်ဝင်စားခြင်း။
၃၉၃။ အဘိညာဉ် ၅ရပ်=ဒိဗ္ဗစက္ခု,ဒိဗ္ဗသောတ,ဣဒ္ဓိဝိဓ, စေတောပရိယ,ပုဗ္ဗေနိဝါသာနုဿတိ ဟူသော အထူးသိတတ်သောဉာဏ် ၅ပါး။
၃၉၄။ မဟဂ္ဂုတ်=(မဟာ-ဂတ)မြတ်သောဈာန်။
၃၉၅။ ဘုဉ်းပေးခြင်း=စားသောက်ခြင်း။
၃၉၆။ ဝေါ=ထမ်းစင်။
၃၉၇။ သိန္ဓော=သိန္ဓုတိုင်း၌ဖြစ်သော မြင်းကောင်း။
၃၉၈။ ပဋိသန္ဓာရ=အစေ့အစပ်ပြောဆိုခြင်း။
၃၉၉။ ပိယကထာ=ချစ်နှစ်သက်ဖွယ်စကား။
၄၀၀။ နစ္စဂီတ=ကခြင်း,သီဆိုခြင်း။

၄၀၁။ ဝိက္ခမ္ဘန = ကိလေသာကို ဝေးစွာပယ်ခွာခြင်း။
၄၀၂။ ရန်သူမျိုး ၅-ပါး = ရေ, မီး, မင်း, ခိုးသူ, မချစ်မနှစ်သက်သောသူ။
၄၀၃။ ဆန္ဒရာဂ = အလိုဖြင့်တပ်မက်ခြင်း။
၄၀၄။ ကာမရာဂ = ကာမဂုဏ်ဖြင့် တပ်မက်ခြင်း။
၄၀၅။ သက်ပွရာဂ = ကြံစည်စိတ်ကူးဖြင့် တပ်မက်ခြင်း။
၄၀၆။ မရဏာနုဿတိ = သေခြင်းတရားကို အဖန်ဖန်အောက်မေ့ခြင်း။
၄၀၇။ အပါယ် ၄ ရပ် = ငရဲ, တိရစ္ဆာန်, ပြိတ္တာ, အသူရကာယ်။
၄၀၈။ ကပ် ၃ တန် = လက်နက်ကပ်, ရောဂါကပ်, ဝတ်မွတ်ခေါင်းပါးသောကပ်။
၄၀၉။ ဘေး = (ဘယ) = ကြောက်မက်ဖွယ် အန္တရာယ်ဆိုး။
၄၁၀။ ကြမ္မာ = (ကမ္မ) = ကံဆိုး၊ မှုပြစ်ဆိုး။
၄၁၁။ ပရိဂုဏ် = ပရိဝေဏ = အရာမ်အပိုင်းအခြား။
၄၁၂။ ရသေ့မျိုး ၈ ပါး = ၁-ဥစ္စာစီးပွား ရှာမှီးသိမ်းဆည်းသောရသေ့၊ ၂-ကောက်စပါးစသည်ကို တောင်းခံထုထောင်းချက်ပြုတ်စားသောရသေ့၊ ၃-ဆန်ကိုသာ တောင်းခံချက်ပြုတ်စားသော ရသေ့၊ ၄- ထမင်းကိုသာ တောင်းခံစားသောရသေ့၊ ၅-သစ်ခွံ, သစ်ခေါက်ကို လက်ရိုက်ဖြင့် ရိုက်ပုတ်ခွာထုတ်စားသောရသေ့၊ ၆-သစ်ခွံ, သစ်ခေါက်ကို သွားဖြင့်သာ ခွာထုတ်စားသောရသေ့၊ ၇-သစ်သီး, သစ်ရွက်ကို တုတ်, လှံကန်, တံချူဖြင့် ခြွေယူစားသောရသေ့၊ ၈- အလိုလိုကြွေကျမှသာ စားသောရသေ့။
၄၁၃။ ပါမောက္ခ = အကြီး, အမှူး, အချုပ်။
၄၁၄။ ပရစိတ္တဝိဇာနေန = သူတစ်ပါးစိတ်အကြံကို သိခြင်း။
၄၁၅။ သမာပတ် ၈ ပါး = စတုက္ကနည်းအားဖြင့် ရူပဈာန် ၄ ပါး, အရူပဈာန် ၄ ပါး၊ ပေါင်း ၈-ပါး။
၄၁၆။ အဘိညာဉ် ၅-ပါး= ၁-ထူးထူးထွေထွေ တန်ခိုးဖန်ဆင်းခြင်း၊ ၂- နတ်မျက်စိကဲ့သို့မြင်နိုင်ခြင်း၊ ၃- နတ်နားကဲ့သို့ကြားနိုင်ခြင်း၊ ၄- သူတစ်ပါးစိတ်ကို သိနိုင်ခြင်း၊ ၅- ရှေးဖြစ်ဖူးသည်ကို သိနိုင်ခြင်း။
၄၁၇။ သာမန္တရာဇ် (သာမန္တ-ရာဇ) သာမန္တ-အနီးအပါး၊ ရာဇ-မင်း။
၄၁၈။ ပံသုကူ (ပံသု-ကူလ) = မြေမှုန့်လိမ်းကျံသောပစ္စည်း။
၄၁၉။ သုဒ္ဓါဝါသ = ကာမဂုဏ် အညစ်အကြေး ကင်းစင်သောသူ။
၄၂၀။ ဉာတတ္ထစရိယ = ဆွေမျိုးတို့၏အကျိုးငှာကျင့်ခြင်း။
၄၂၁။ လောကတ္ထစရိယ = သတ္တဝါတို့၏အကျိုးငှာကျင့်ခြင်း။

## မဟာဓနုတကာတ်

သင် သနားချစ်ခင်ခြင်းရှိ၍ ငါ့ကို ဆောင်ပါလျှင်လည်း လိုအင်အပြီးရောက်ခြင်း အကျိုး ရှိလတ္တံ့။
သင် မသယ်တင်၍ ဤတွင်ပင် ငါ ဆုံးရသော်လည်း လုံ့လပြုကျိုး ငါ၌ ရှိလေပြီ။
ငါသည် အစွမ်းရှိတိုင်း, အားရှိတိုင်း
မဆုတ်မဆိုင်းသောလုံ့လဖြင့် မဟာသမုဒ္ဒရာကမ်းသို့ကူးလျက်
ယောကျ်ားတို့ပြုအပ်သော လုံ့လကို ပြုအံ့သတည်း။

လစက်ဝန်းကဲ့သို့ ရွှန်းရွှန်းကြည်လင် သန့်စင်သောကျောက်သရေအပေါင်းဖြင့်
တင့်တယ်စွာလာလတ်သော ဘုရားလောင်းကိုမြင်လျှင်
ထူးခြွေကြီးစွာသော မိန်းမဖြစ်လျက် မိမိကိုယ်အဖြစ်ဖြင့် မတည်နိုင်သည်ဖြစ်၍
နေရာမှ လျင်မြန်စွာထပြီးလျှင် နန်းမဆောင်တံခါးဝသို့ သွား၍
ဘုရားလောင်း၏နံပါး၌ မိုတွယ်အံ့သကဲ့သို့ ပျောင်းနွဲ့သောအမူအရာဖြင့်
မိမိလက်ကို ဘုရားလောင်းလက်ပါးသို့ ညွတ်ယိမ်းလိုက်လေ၏။

ဤလောက၌
တစ်စုံတစ်ခုသောဂုဏ် ရှိကုန်သောသူတို့သည်
ထို မိမိတို့၌ပြည့်စုံသော ဂုဏ်ကိုအမှီပြု၍
ကိုယ်အောက် ညံ့သောမာန်, ကိုယ်နှင့် အင်တန်ရုံသောမာန်, ကိုယ်နှင့် အင်မတန် လွန်စွာသောမာန်,
ဤမာန် ၃ ပါးတို့တွင်
တစ်ပါးပါးဖြင့် ထောင်လွှားတတ်ကုန်၏။

ရှင်ရဟန်း။ အဖော်များတိုင်း အရာခပ်သိမ်းမှာ ကောင်းသည် မဟုတ်။
ဤ မြားဖြောင့်ခြင်းမည်သည်လည်း
မျက်စိ ၂ ဘက်ဖြင့် ကြည့်၍ ဖြောင့်ချေလျှင် စိတ်များခြင်းကြောင့် အာရုံပြားသည်ဖြစ်၍
မြား၏ အသိမ်အမွေ့ဖြစ်သော အမို့အယမ်း, အစုန်းအလိမ်, အပိန်အထောင့်,
အဖြောင့်အကောက်ကို မမြင်ဘဲ တစ်ပြင်တည်းသာထင်သဖြင့် အလွန်ဖြောင့်နိုင်ခဲ၏။
မျက်စိတစ်ဘက်တည်းဖြင့် ကြည့်၍ ဖြောင့်ရမူကား
စိတ်တစ်ခုတည်းဖြစ်ခြင်းကြောင့် သမာဓိကိုရသဖြင့်
အသိမ်အမွေ့ဖြစ်သော မြား၏ အကောက်အဖြောင့်,
အထောင့်အလိမ်, အပိန်အမို့ကို ပြတ်ပြတ်ထင်ထင် မြင်သည်ဖြစ်၍
ဖြင်လွယ်, ဖြောင့်လွယ် ရှိသတည်း။



ခြေကိုလှစ်ကာ ကြည့်လေသော် ယောကျ်ားမြတ်တို့၏ လက္ခဏာကောင်းတို့ကိုမြင်လျှင် ‘ဤယောကျ်ားမြတ်ကား ဇမ္ဗူဒိပ်ကျွန်းကို ထားဘိဦး။ ကျွန်းငယ် ၂၀၀၀နှင့်တကွ ၄ကျွန်းလုံးကိုပင်လည်း သိမ်းယူ၍ မင်းပြုမည်ဆိုသော် မင်းပြုထိုက်သော ဘုန်းလက္ခဏာရှိ၏’ ဟု သိ၍ ဝမ်းသာမျိုးမက ဝမ်းသာသဖြင့်

## ဓဟာရနုဏဂာတ်

သင် သနားချစ်ခင်ခြင်းရှိ၍ ငါ့ကို ဆောင်ပါလျှင်လည်း လိုအင်အပြီးရောက်ခြင်း အကျိုး ရှိလတ္တံ့။
သင် မသယ်တင်၍ ဤတွင်ပင် ငါ ဆုံးရသော်လည်း လုံ့လပြုကျိုး ငါ၌ ရှိလေပြီ။
ငါသည် အစွမ်းရှိတိုင်း, အားရှိတိုင်း
မဆုတ်မဆိုင်းသောလုံ့လဖြင့် မဟာသမုဒ္ဒရာကမ်းသို့ကူးလျက်
ယောက်ျားတို့ပြုအပ်သော လုံ့လကို ပြုအံ့သတည်း။

လစက်ဝန်းကဲ့သို့ ရွှန်းရွှန်းကြည်လင် သန့်စင်သောကျက်သရေအပေါင်းဖြင့်
တင့်တယ်စွာလာလတ်သော ဘုရားလောင်းကိုမြင်လျှင်
ဣန္ဒြေကြီးစွာသော မိန်းမဖြစ်လျက် မိမိကိုယ်အဖြစ်ဖြင့် မတည်နိုင်သည်ဖြစ်၍
နေရာမှ လျင်မြန်စွာထပြီးလျှင် နန်းမဆောင်တံခါးဝသို့ သွား၍
ဘုရားလောင်း၏နံပါး၌ မိုးတွယ်အံ့သကဲ့သို့ ပျောင်းနွဲ့သောအမူအရာဖြင့်
မိမိလက်ကို ဘုရားလောင်းလက်ပါးသို့ ညွတ်ယိမ်းလိုက်လေ၏။

ဤလောက၌
တစ်စုံတစ်ခုသောဂုဏ် ရှိကုန်သောသူတို့သည်
ထို မိမိတို့၌ပြည့်စုံသော ဂုဏ်ကိုအမှီပြု၍
ကိုယ်အောက် ညံ့သောမာန်, ကိုယ်နှင့် အင်တန်ရုံသောမာန်, ကိုယ်နှင့် အင်မတန် လွန်စွာသောမာန်,
ဤမာန် ၃ ပါးတို့တွင်
တစ်ပါးပါးဖြင့် ထောင်လွှားတတ်ကုန်၏။

ရှင်ရဟန်း။ အဖော်များတိုင်း အရာခပ်သိမ်းမှာ ကောင်းသည် မဟုတ်။
ဤ မြားဖြောင့်ခြင်းမည်သည်လည်း
မျက်စိ ၂ ဘက်ဖြင့် ကြည့်၍ ဖြောင့်ချေလျှင် စိတ်များခြင်းကြောင့် အာရုံပြားသည်ဖြစ်၍
မြား၏ အသိမ်အမွေ့ဖြစ်သော အမှိုအယမ်း, အစုန်းအလိမ်, အပိန်အထောင့်,
အဖြောင့်အကောက်ကို မမြင်ဘဲ တစ်ပြင်တည်းသာထင်သဖြင့် အလွန်ဖြောင့်နိုင်ခဲ၏။
မျက်စိတစ်ဘက်တည်းဖြင့် ကြည့်၍ ဖြောင့်ရမူကား
စိတ်တစ်ခုတည်းဖြစ်ခြင်းကြောင့် သမာဓိကိုရသဖြင့်
အသိမ်အမွေ့ဖြစ်သော မြား၏ အကောက်အဖြောင့်,
အထောင့်အလိမ်, အပိန်အမှိုကို ပြတ်ပြတ်ထင်ထင် မြင်သည်ဖြစ်၍
ဖြင်လွယ်, ဖြောင့်လွယ် ရှိသတည်း။



ခြေကိုလှစ်ကာ ကြည့်လေသော် ယောက်ျားမြတ်တို့၏ လက္ခဏာကောင်းတို့ကိုမြင်လျှင် 'ဤယောက်ျားမြတ်ကား ဗိုဟ်ဒီပ်ကျွန်းကို ထားဘိဦး၊ ကျွန်းငယ် ၂၀၀၀နှင့်တကွ ၄ကျွန်းလုံးကိုပင်လည်း သိမ်းယူ၍ မင်းပြုမည်ဆိုသော် မင်းပြုထိုက်သော ဘုန်းလက္ခဏာရှိ၏' ဟု သိ၍ ဝမ်းသာမျိုးစေက ဝမ်းသာသဖြင့်

# ဗဟာဓနအစေတ်တော်ကြီး

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

**ပဏာမ**

'ဇနေသု အဂ္ဂေါ၀ မဟန္ဓဟန္တော၊ ဝိဒေါ သရသ္မိဟိ သုရသ္မိသံသော။
သုခေတ္တပတ္တော သုခေတ္တာ သုခလ္လီ၊ နမတ္ထု တေသန္တု ဂုဏီဿရော မေ။ ။' [ဥပေန္ဒ ဝဇိရာဂါထာ]

ဇနေသု၊ လူတို့၌။ အဂ္ဂေါ။ နေမင်းသည်။ ဝိဒေါသရသ္မိဟိ၊ အပြစ်ကင်းသော ရောင်ခြည်တို့ဖြင့်။ သုခေတ္တပတ္တော၊ ဝိဝဋ္ဋဌာယီ အသင်္ချေယျကပ်သို့ ရောက်သည်ရှိသော်။ သုခေတ္တာ၊ ခိုင်ခံ့သောမြေအဖို့ကို ဖြစ်စေလျက်။ မဟန္ဓဟန္တော၀- မဟာအန္ဓကာရံဝိဓမေန္တော၀ိယ၊ ကြီးစွာသောအမိုက်တိုက်ကို ဖျောက်သကဲ့သို့။ သရသ္မိဟိ၊ ရူပကာယတော်မှထွက်လတ်သော ရောင်ခြည်တော်, နာမကာယတော်မှထွက်လတ်သော မရေမတွက်နိုင်သော တရားရောင်ခြည်တော်တို့ဖြင့်။ ဇနေသု၊ ဘုံ ၃ ပါး၌ရှိကုန်သော ဝေနေယျတို့၏သန္တာန်တို့၌။ မဟန္ဓဟန္တော၊ ကြီးစွာသော အဝိဇ္ဇာတည်းဟူသော အမိုက်တိုက်ကို ဖျက်ဆီးတော်မူတတ်ထသော။ သုရသ္မိသံသော၊ ကောင်းသော ရောင်ခြည်တော်, ချီးမွမ်းအပ်သောတရားတော်နှင့် ပြည့်စုံတော်မူထသော။ ယောဝိဒေါစ၊ အကြင်လောက ၃ ပါးကို သိတော်မူထသော မြတ်စွာဘုရားသည် လည်းကောင်း။ ဂုဏီဿရော၊ ဂုဏ်သတ္တိအပေါင်းတို့ကို အစိုးရတော်မူထသော။ သုရသ္မိ၊ မတုန်မလှုပ်သောရောင်ခြည်လည်း ဖြစ်ထသော။ ယောသံသောစ၊ အကြင်သူတော်ကောင်းတို့၏ ဥစ္စာဖြစ်သော ၁၀ ပါးသော တရားတော်မြတ်သည် လည်းကောင်း။ သုခလ္လီ၊ မဂ်,ဖိုလ်,နိဗ္ဗာန် ချမ်းသာလျှင် အာရုံရှိထသော။ သုခေတ္တပတ္တော၊ ဗုဒ္ဓုပ္ပါဒကာလ ဟုဆိုအပ်သော သာသနာတော်စက်၌။ ယောသုခေတ္တောစ၊ အကြင်ကောင်းမှုကိုပြုသောသူတို့၏ ကောင်းမှုတည်းဟူသော မျိုးစေ့စိုက်ပျိုးရာ လယ်မြေကောင်းသဖွယ်ဖြစ်သော ပရမတ္ထ, သမ္မုတိ, အရိယာ သံဃာတော်အပေါင်းသည် လည်းကောင်း။ သုခလ္လီ၊ အကျွန်ုပ်ကို သူကောင်းပြုတော်မူပေသော။ ယောဂုဏီဿရောစ၊ အကြင် ကျေးဇူးသခင် ဆရာအရှင်မြတ်သည် လည်းကောင်း။ အတ္ထိ၊ ရှိတော်မူ၏။ တေသံ ရတနတ္တယဂုရူနံ၊ ထို ရတနာ ၃ ပါး, ကျေးဇူးရှင်ဆရာမြတ်တို့အား။ မေ-မမ၊ အကျွန်ုပ်၏။ နမော- နမက္ကာရော၊ ရှိခိုးခြင်းသည်။ အတ္ထု-ဘဝတု၊ ဖြစ်စေသတည်း။

[ဤဂါထာ၌ အနက်ပေးသည်ကား ဝါကျသိလေသနည်းတည်း။ ။ပရမတ္ထ, သမ္မုတိ, အရိယာ သံဃာတော်ဟု အနက်ပေးရာ၌ 'ပရမတ္ထသံဃာတော်သာလျှင် အရိယာ မဟုတ်။ မဂ်,ဖိုလ် မရသေးသော သမ္မုတိ သံဃာသည်လည်း အရိယာ မည်၏'ဟု စကားရောက်ခဲ့သည်။ 'အသို့လျှင် အရိယာ မည်နိုင်ပါအံ့နည်း' ဟူငြားအံ့။

သော ပန အရိယော စတုဗ္ဗိဓော ဟောတိ အာစာရအရိယော ဒဿနအရိယော လိင်္ဂအရိယော ပဋိဝေဓအရိယောတိ။ တတ္ထမနုဿောဝါဟောတု တိရစ္ဆာနောဝါ အရိယာစာရေ ဌိတော အာစာရအရိယော နာမ၊ ရူပေန ပန ဣရိယာပထ ပါသာဒိကေန ဒဿနီယေန သမန္နာဂတော ဒဿနအရိယောနာမ၊ နိဝါသနပါရုပန

လိင်္ဂပ္ပဟာဏေန ပန သမဏာသဒိသော ဟုတွာ ဝိစရန္တော ဒုဿီလော ဟုတွာပိ လိင်္ဂအရိယောနာမ၊ ဗုဒ္ဓါဒယောပန ပဋိဝေဓ အရိယောနာမ ဟူ၍ တိကနိပါတ် တိလမုဋ္ဌိဇာတ်တွင် လာသောကြောင့် အရိယာကား– အာစာရအရိယာ, ဒဿနအရိယာ, လိင်္ဂအရိယာ, ပဋိဝေဓအရိယာ ဟူ၍ ၄ ပါးပြား၏။ ထို ၄ ပါးတို့တွင်–

[လူ,တိရစ္ဆာန်တို့ပင်ဖြစ်သော်လည်း မြတ်သောအကျင့်ကိုကျင့်လျှင် 'အာစာရအရိယာ'မည်၏။

ထိုလူ,တိရစ္ဆာန်တို့ပင်လျှင်လည်း မြတ်သောအကျင့်ကို ကျင့်သည်ဖြစ်စေ,မကျင့်သည်ဖြစ်စေ၊ အထင် အမြင်အားဖြင့် သွားခြင်း, နေခြင်း, ကြည့်ခြင်းစသည် ကြည်ညိုဖွယ်ရှိလျှင် 'ဒဿနအရိယာ'မည်၏။

[၎င်းအရိယာပုဒ်၌ ကြည်ညိုဖွယ်မရှိသည်ပင်ဖြစ်စေ၊ ဝတ်ခြင်း, ရုံခြင်းဖြင့် ရဟန်းတို့နှင့်အသွင်တူလျှင် ဒုဿီလစင်စစ်ဖြစ်သော်လည်း 'လိင်္ဂအရိယာ'မည်၏။

[ဘုရားအစရှိသော ပရမတ္ထပုဂ္ဂိုလ်တို့သည် မဂ်,ဖိုလ်နှင့် ပြည့်စုံခြင်းကြောင့် 'ပဋိဝေဓအရိယာ'မည်၏။

[ယင်းသို့ တိရစ္ဆာန်, လူတို့ပင်လည်း မိမိတို့ အားထိုက်ရာအကျင့်ကိုကျင့်ကာမျှ အာစာရအရိယာ မည်တုံသေး၏။ သမ္မုတိသံဃာတော်တို့မှာ မြတ်စွာဘုရားသည် ပေးတော်မူအပ်သော ဝတ်ခြင်း, ရုံခြင်းစသော ရဟန်း၏အသွင်၊ သွားခြင်း, နေခြင်း, ကြည့်ခြင်းစသော အရိယာပုထ်တို့၏ကြည်ညိုဖွယ် 'အဓိကသီလအာစာရ ဂေါစရ' ဟုဆိုအပ်သော မြတ်သောအကျင့်သီလကို ကျင့်တော်မူသည်ဖြစ်လျက် အဘယ့်ကြောင့် အရိယာ မဖြစ်ထိုက် ရှိအံ့နည်း။ အလွန် အရိယာ ဟု ဆိုထိုက်လှ၏။ မဂ်,ဖိုလ်ကို မျက်မှောက်ပြုသူမဟုတ်သောကြောင့်သာ ပရမတ္ထသံဃာတော်ဟု မုချမဆိုရ။ ဥပစာရအားဖြင့်ကား သမ္မုတိသံဃာတို့ကျင့်သော စတုပါရိသုဒ္ဓိသီလကိုပင်လျှင် ပရမတ္ထသံဃာလည်း ကျင့်တော်မူသောကြောင့် အကျင့်သီလတူသည်ဖြစ်၍ သဒိသူပစာရအားဖြင့် သမ္မုတိသံဃာတို့ ကျင့်အပ်သော သီလသည် မဂ်,ဖိုလ်ရခြင်း၏အကြောင်းဖြစ်သောကြောင့်လည်း ဖလူပစာရအားဖြင့် ပရမတ္ထသံဃာ ဟူ၍ပင် ဆိုအပ်ပါသေး၏။ ဤအကြောင်းကို 'သီလဝန္တပုထုဇ္ဇနော သောတာပန္နောယေဝ သင်္ဂဟိတော'ဟု အဋ္ဌကထာဆရာ မိန့်ဆိုလေပြီ။

[ပရမတ္ထသမ္မုတိအရိယာ ဟူသောစကား၌ ပရမတ္ထအရိယာသံဃာ, သမ္မုတိအရိယာသံဃာဟု အရိယာ သဒ္ဒါကို ၂ ပုဒ်လုံး၌ စပ်၍ယူပါ။ ပရမတ္ထနှင့်ယှဉ်သော အရိယာသဒ္ဒါဖြင့် ဆိုခဲ့ပြီးသည့် အရိယာ ၄ ပါးလုံးကိုပင် ယူ။ သမ္မုတိနှင့်ယှဉ်သော အရိယာသဒ္ဒါဖြင့် အာစာရ, ဒဿန, လိင်္ဂ ဤ ၃ ပါးနှင့်ပြည့်စုံသော အရိယာကိုယူ။ ဤသို့ယူခြင်းကား 'သက္ခရကထလိကမ္ပိ မစ္ဆဂုမ္ဗမ္ပိစရန္တံ မ္ပိတိဋ္ဌန္တံ မ္ပိပဿတိ'ဟု ရေထဲ၌ ကျောက်စစ်, အိုးခြမ်း, ငါး,လိပ်အ ပေါင်းတို့ သွားသည်, တည်သည်ကိုမြင်၏ဟူ၍ ကျောက်စစ် မသွားတတ်ဘဲလျက် တစ်ဝါကျတည်း ဆိုသော်လည်း သက္ခရကထလိကမ္ပိကို တိဋ္ဌန္တံ မ္ပိနှင့်တွဲစပ်၍ မစ္ဆဂုမ္ဗမ္ပိကို စရန္တံ မ္ပိတိဋ္ဌန္တံ မ္ပိ ၂ ပုဒ်လုံးနှင့် တွဲစပ်၍ ယူရသကဲ့သို့ ဤ၌လည်း ယထာလာဘနည်းအားဖြင့် တွဲစပ်၍၊ ရသင့်ရာအရိယာကို ယူပါ ဆိုလိုသည်။ စကားထွက်တိုင်း ဝင့်၍မျှင်မူ အခင်းကြီးသဖြင့် ပြီးခဲမည်စိုးသောကြောင့် မဆိုပြီ။ ။ဤ ဇနေသု အစရှိသော ဥပေန္ဒဝဇိရာဂါထာဖြင့် ဂန္ဓာရမ္ဗ ၃ ပါးတို့တွင် အာသီသ ပုဗ္ဗက ဂန္ဓာရမ္ဗကိုပြပြီး၍ တောင်းပန်သောသူ၏ ဆန္ဒအားလျော်စွာ မဟာဇနကဇာတ်တော်၏အတ္ထုပ္ပတ္တိကို ပါဠိတော်လာတိုင်း သိသာနာပျော်ဖွယ်ရှိအောင် စကားပြေ စီကုံးပေအံ့။]

## ဝဏ္ဏုနီဒါန်း

နေမင်း၏အဆွေဖြစ်တော်မူသော မြတ်စွာဘုရားသည် ဂကာသလတိုင်း[၁] သာဝတ္ထိပြည်[၂]ကြီး၏ အနောက်သို့ စဉ်းငယ်ယွန်းသော တောင်မျက်နှာ ကုလ၄တာ[၃] ၅၀၀ ခြားသောအရပ်၌ ဓေတမင်း[၄]၏ ဥယျာဉ်ကို ၅၄ ကုဋေသော ဥစ္စာတို့ဖြင့်ဝယ်၍ အနာထပိဏ်[၅] သူဌေးသည် ဆောက်လှူကိုးကွယ်အပ်သော ဇေတဝန်[၆]ကျောင်းတော်၌ နေတော်မူသောအခါ တစ်နေ့သ၌ တရားသဘင်ဝယ် ပရိသတ်အစည်းအဝေးဖြစ်ကြလတ်သော် ရဟန်းတို့သည် ဤသို့ နိက္ခမပါရမီ[၇]တော်ကို ချီးမွမ်းကြကုန်၏။

"အရှင်တို့ လူ ၃ ဦး[၈]တို့၏ဆရာ ဖြစ်တော်မူသော မြတ်စွာဘုရားသည် မဟာသမ္မတမင်းမှ ဆင်းသက်၍ ရွှေလက်ထက်တိုင် ထီးရိုးနန်းစဉ် မင်းဆက်မပြတ် သားမြေးအစဉ်အတိုင်း စိုးစံကြသော အသမ္ဘိန္နခတ္တိယ[၉] အနွယ်အမျိုးတော်၌ဖြစ်သော ဤ အတုမရှိသောစည်းစိမ်တော်တွင် မင်းဆက်တကာတို့ မစံရဘူးသော ရွှေအိုးကြီး ၄ လုံးနှင့်တကွ ကာလရတု ဥတုရာသီနှင့်လျော်စွာ အချမ်း,အပူကိုမျှစေတတ်သော နန်း ၃ ဆောင်[၁၀]တို့ဝယ် အလှယ်လှယ်အပြောင်းပြောင်း အသောင်းမက မင်းသမီးတို့၏အကြီးဖြစ်သော မြောက်သားတော်မင်းသမီးနှင့် အတူတကွစိုးစံတော်မူ၍ အလွန် ကာမဂုဏ်ချမ်းသာဖြင့် သိမ်မွေ့နူးညံ့သော ကိုယ်တော်, နှလုံးတော် ရှိသူဖြစ်လျက် နိမိတ် ၄ ပါး[၁၁]ကိုမြင်ကာမျှဖြင့် ကာမဂုဏ်အနှောင်အဖွဲ့ကို ဖြတ်တော်မူ၍ အလွန်ကြင်နာလှစွာသော မြောက်သားတော်မင်းသမီးကိုမျှ မသိစေဘဲ ဆန္နအမတ်တစ်ယောက်ကိုသာ အဖော်ပြုတော်မူလျက် သဗ္ဗညုတဉာဏ်[၁၂]အလို့ငှာ မြင်းတော်နှင့် တောသို့ထွက်ကြွတော်မူ၍၊ ရဟန်းပြုတော် မူနိုင်လေသည်ကား အလွန်အံ့ဩဖွယ်ရှိစွ"ဟု နိက္ခမပါရမီတော်ကို ချီးမွမ်း၍နေကြကုန်၏။

ထိုအခါ မြတ်စွာဘုရားသည် ဂန္ဓကုဋီ[၁၃] ဘုရားနေရာတော်၌ နေတော်မူလျက် တရားသဘင်၌ နိက္ခမပါရမီကိုချီးမွမ်းလျက် ရဟန်းတို့နေသောအကြောင်းကို သိတော်မူလျှင် 'ဤအကြောင်းကိုမှီ၍ အတ္ထုပ္ပတ်[၁၄]ကို ဟောရသဖြင့် ဤမျှလောက်သောသတ္တဝါတို့သည် အကျွတ်တရားကို ရလတ္တံ့သည်'ဟု မြင်တော်မူသည်နှင့်လျော်စွာ ရဟန်းပရိသတ်ရှိရာ တရားသဘင်သို့ကြွတော်မူ၍ ခင်းအပ်သော ဘုရားနေရာ၌ နေတော်မူပြီးသော်

"သံသရာ[၁၅]ဘေးကို ရှုလေ့ရှိသော ငါ၏ တပည့်သားတော်အပေါင်းတို့။ ယခု ငါမရောက်မီတွင် သင်တို့ အဘယ်စကားကို ပြော၍နေကြသနည်း"ဟု မေးတော်မူ၏။ ရဟန်းတို့သည်လည်း "ဘုန်းတော်ကြီးလှသော အရှင်ဘုရား။ ယခု ကိုယ်တော်၏ နိက္ခမပါရမီတော်ကို အံ့ဩချီးမွမ်း၍ နေကြပါသည်"ဟု လျှောက်ကြကုန်၏။ မြတ်စွာဘုရားသည်

"ငါ၏ တပည့်သားတော်အပေါင်းတို့။ အဆက်ဆက်သော ပါရမီ အထွတ်အထိပ်ဖြစ်၍ သဗ္ဗညုတဉာဏ် လက်သို့ ရောက်လုနီးသော ယခုဘဝ၌ ငါဘုရား၏ မဟာဘိနိက္ခမ[၁၆]ဂုဏ်ကို မအံ့ဩလောက်သေး။ ရှေးပါရမီ နုစဉ်ကပင် ယခုကဲ့သို့သော မင်းစည်းစိမ်၌ ရာဟုလာမိခင်ကဲ့သို့ အလွန်မြတ်သောမင်းသမီးနှင့် ထီးနန်းစံလျက်လည်း

ယခုမြင်သော နိမိတ် ၄ ပါးကဲ့သို့ သံဝေဂ[၃၇]မထင်ရှားလောက်သေးသော နိမိတ်ကိုမြင်သဖြင့် မင်းစည်းစိမ်၌ ငြီးငွေ့၍ နန်းတော်၌ တစ်စုံတစ်ယောက်ကိုမျှ မသိရစေဘဲ ရဟန်းအသွင်ကိုယူလျက် ယခုကဲ့သို့မျှ အဖော်မပါ တစ်ယောက်တည်းသာလျှင် ဟိမဝန္တာ[၃၈]သို့ ရှေးရှုသွားစဉ် ယခုကဲ့သို့မျှ လွတ်လွတ်မသွားရ။ စည်းစိမ်ဖက် မင်းသမီးကြားသိသဖြင့် ငါ့နောက်သို့အစဉ်တစိုက် ဟိမဝန္တာတောဝနာတိုင်အောင်လိုက်လျက် နန်းသို့ ပြန်မည့်အကြောင်းကို အသွယ်သွယ်အဖြာဖြာ များစွာသောပရိယာယ်ဖြင့် ခုံခုံမင်မင် ဖက်လဲတကင်း[၃၉] ဖြားယောင်း တောင်းပန်လျက်လည်း ထို အလုံးစုံသောကာမဂုဏ်ချမ်းသာကို ခံတွင်းနှင့်ကင်းလေပြီးသော တံတွေးကဲ့သို့ ငဲ့ကွက်ခြင်းမရှိ။ သဗ္ဗညုတဉာဏ်တည်းဟူသော စည်းစိမ်တော်ကိုသာ တောင့်တခြင်းဖြင့် တောထွက်တော်မူ ဖူးလေပြီ"ဟု အရှည်ဆက်လို၍ အမြွက်မိန့်တော်မူပြီးလျှင် အရဟတ္တဖိုလ်[၂၀] စည်းစိမ်ခံစား၍ နေတော်မူလေ၏။

ထိုအခါ ရဟန်းတို့သည် "ဘုန်းတော်ကြီးလှသော တရားမင်းဘုရား။ ရှေး၌ တောထွက်တော်မူဖူး ကြောင်းကို အကျယ်ဟောတော်မူပါမှ တပည့်သားတော်အပေါင်းတို့ သိမှတ်ရပါမည်"ဟု လျှောက်တောင်းပန်ကြ လတ်သော်၊ မြတ်စွာဘုရားသည် တောင်းပန်ခြင်းနှင့်လျော်စွာ မဟာဇနက[၂၁]မင်းကြီးဖြစ်၍ မိဖုရားကြီးနှင့် စိုးစံခဲ့ပြီးမှ တောထွက်တော်မူကြောင်းတွင်ရွေ့သော ဟောတော်မမူဘဲ မဟာသမုဒ္ဒရာ[၂၂]၌နစ်မွန်းလျက် ယောက်ျားတို့၏လုံ့လကို မလျှော့ခြင်းကြောင့် အကျိုးထူးကို ရဖူးကြောင်းနှင့်တကွ အရင်းအမြစ်ကစ၍ဟောရလျှင် အလွန်အံ့သြဖွယ်ရှိသဖြင့် ကျွတ်ထိုက်သောဝေနေယျ[၂၃]တို့လည်း ထိုကိုမှီ၍ အကျွတ်တရားရခြင်း၊ ပရိသတ်အပေါင်းတို့ မှတ်နာရသဖြင့်လည်း အလွန်ကျေးဇူးများခြင်း အကျိုးရှိသည်ဟု သိမြင်တော်မူသည်ဖြစ်၍ ဝေနေယျတို့၏အလိုအားလျော်စွာ အမြစ်အရင်း မကြွင်းစေစုံစွာ 'ဝါယမေထေဝ ပုရိသော' အစရှိသောဂါထာ[၂၄]တို့ဖြင့် တန်ဆာဆင်အပ်သော ဤမဟာဇနက ဇာတ်တော်ကို ဟောတော်မူ၏။

[ဤစကား၌ 'မဟာဘိနိက္ခမနံ ဝဏ္ဏယန္တာ နိသီဒိံသု' ဟု တရားသဘင်၌ တောထွက်တော်မူခြင်းကို ရဟန်းတို့ချီးမွမ်း၍ နေကြကုန်သည်ဟူ၍သာ သာမည[၂၅] ဆိုသည်။ မည်သို့ချီးမွမ်းသည်ဟူ၍ မဆိုဘဲလျက် ထိုသို့ချီးမွမ်းကြောင်းကို ဆိုလိုက်သည်ကား 'ဝန်းသောအရွက်ကို မြင်သဖြင့် ထိုအရွက်၏အစေ့သည်လည်း ဝန်းရာ၏' ဟု ဆနိုင်ရာသကဲ့သို့၊ မြတ်စွာဘုရားတို့မည်သည်လည်း အကြောင်းနှင့်လျော်စွာသော အကျိုးကို ဟောတော်မူသောကြောင့် အကျိုးဒေသနာတော်ဖြစ်သော 'မဟာဇနက' ဝတ္ထုကို ထောက်သဖြင့် ထိုဒေသနာတော်၏ ဟောကြောင်း နိဒါန်း[၂၆]ဖြစ်သော ရဟန်းတို့၏အချီးအမွမ်းစကားကိုလည်း ဝတ္ထုနှင့်လျော်စွာ 'ဤသို့ ချီးမွမ်းသည်ဖြစ်ရာ၏'ဟု ဆီလျော်သင့်မြတ် လျောက်ပတ်တင့်တယ်အောင် စကားကို တန်ဆာဆင်လိုက်သည်။

[မြတ်စွာဘုရားသည် ရဟန်းတို့ချီးမွမ်းကြသည်ကို သိတော်မူလျက် မကြားမသိယောင်ကဲ့သို့ မေးတော် မူလေသည်ကား–

['ဇာနန္တာပိ တထာ ဂတာ ပုစ္ဆန္တိ၊ ဇာနန္တာပိ နပုစ္ဆန္တိ–'ဟူသော ပါဠိနှင့်အညီ သိလျက်ပင်မေးတော်မူခြင်း၊ သိလျက်ပင် မသိယောင်ကဲ့သို့ မမေးနေတော်မူခြင်းသည် ဘုရားတို့ဓမ္မတာဖြစ်၍ သိလျက်ပင် မေးတော်မူသတည်း။ အဘယ်ကိုဆင်ခြင်တော်မူ၍ သိလျက်ပင် မေးတော်မူခြင်း၊ မမေးနေတော်မူခြင်းကို ပြုလေသနည်း ဟူမူကား–

['ကာလံ ဝိဒိတွာ ပုစ္ဆန္တိ၊ ကာလံ ဝိဒိတွာ န ပုစ္ဆန္တိ–'ဟူသော ပါဠိနှင့်အညီ သိတော်မူသော်လည်း မေး၍ အကျိုးစီးပွားများမည့်အခါ၊ မေး၍ အကျိုးစီးပွားမရှိမည့်အခါကို မြော်တော်မူသဖြင့် အကျိုးစီးပွား များသည့်အခါဖြစ်လျှင် မေးတော်မူ၏။ အကျိုးစီးပွား မရှိမည့်အခါဖြစ်လျှင် မေးတော်မမူ။

[မြတ်စွာဘုရားတို့ မေးတော်မူခြင်းအကြောင်းကား–

['တထာဂတာ ဒွိဟိ ကာရဏေဟိ ဗုဒ္ဓါ ဘဂဝန္တော ဘိက္ခူ ပဋိပုစ္ဆန္တိ ဓမ္မံဝါ ဒေသိဿာမ သာဝကနံဝါ သိက္ခာပဒံ ပညပေဿာမာတိ'ဟူသော ပါဠိတော်နှင့်အညီ ဇာတ်ဝတ္ထု စသော အဋ္ဌုပ္ပတ္တိကို ဟောတော်မူလို သောကြောင့် လည်းကောင်း၊ ရဟန်းတို့အား သိက္ခာပုဒ်ကို ပညတ်တော်မူလိုသောကြောင့် လည်းကောင်း ဤအကြောင်း ၂ ပါးတို့တွင် တစ်ခုခုသောအကြောင်း ပေါ်ရှိ၍ မေးအပ်သောအခါကြိမ်လျှင် အခါကိုသိသည်နှင့် လျော်စွာ မေးတော်မူ၏။ အကြောင်းပင်ရှိသော်လည်း အခါမဟုတ်လျှင် မေးတော်မမူ။ ဤဇာတ်တော်ကို ဟောတော်မူသောအခါ၌ကား မေးအပ်သောအကြောင်း, မေးအပ်သောကာလ ကြိမ်သည်ဖြစ်၍ သိတော်မူလျက်ပင် မေးတော်မူလေသတည်း။

[ထိုတရားသဘင်၌ 'ဘုရားကြွတော်မူလာမှ နေရာခင်းရလေသလော'ဟူမူကား– ဘုရားကြွတော်မူလာမှ ခင်းသည်မဟုတ်။ မည်သည့်အရပ်မှာမဆို ရဟန်းတို့သည် အစည်းအဝေးပြုသည် ဖြစ်စေ, တစ်ယောက်တည်းပင် နေသည် ဖြစ်စေ အကြောင်းပေါ်ရှိ၍ လျောက်ပတ်သောအခါဖြစ်လျှင် ထိုရဟန်းတို့ရှိရာသို့ ရှောင်တခင်ကြွလာတော်မူတတ်သောကြောင့် နေရာတော်ခင်း၍ အစဉ်ပင်ထားကြရသည်ဟု မှတ်အပ်၏။ ဤကား စကားချပ်တည်း။]

# မဟာဇနကဇာတ်တော်ကြီး

## ၁။ ညီနောင် ၂ ပါး စစ်တိုက်ခန်း

လွန်လေပြီးသောအခါ ဝိဒေဟရာဇ်[၂၈] တိုင်း မိထိလာပြည်[၂၉] ၌ မဟာဇနက အမည်ရှိသောမင်းသည် မင်းပြု၏။ ထိုမင်း၌ အရိဋ္ဌဇနကမင်းသား, ပေါလဇနကမင်းသား ဟူ၍ သားတော် ၂ ပါး ရှိ၏။ ထို ၂ ပါးတို့တွင် သားတော်အကြီးဖြစ်သော အရိဋ္ဌဇနကမင်းသားအား အိမ်ရှေ့အရာကို ပေး၏။ သားတော်အငယ်ဖြစ်သော ပေါလဇနကမင်းသားအား စစ်ဘုရင် သေနာပတိ[၃၀]အရာကို ပေး၏။

မဟာဇနကမင်းကြီးသည် ကာလရှည်လျားစွာမင်းပြု၍ ဘုန်းကံအာနုဘော်ကုန်သောအခါ ဘဝတစ်ပါးပြောင်းလဲလေ၏။ အိမ်ရှေ့မင်းဖြစ်သော အရိဋ္ဌဇနက မင်းသားသည် ခမည်းတော်အား ဖုတ်ကြည်းသဂြိုဟ်[၃၁]ခြင်းကိုပြုပြီးသော် မြို့ကို ဆေးသန့်[၃၂]သုတ်သင်တန်ဆာဆင်၍ အဘအရိပ်အရာဖြစ်သောထီးနန်းကို သိမ်းမြန်းလေ၏။ အရိဋ္ဌဇနကမင်းသား မင်းဖြစ်သောအခါ ညီတော် ပေါလဇနကမင်းသားအား အိမ်ရှေ့အရာကို ပေးလေ၏။ ထိုအခါ အိမ်ရှေ့မင်း၏အတွင်းကျွန်ယုံဖြစ်သော အမတ်တစ်ယောက်သည် တစ်စုံတစ်ခုသောအခွင့်၌ ကိုယ့်အလိုအတိုင်းမပြည့်လျှင် မိမိအရှင်ဖြစ်သောအိမ်ရှေ့မင်းကို စိတ်တွင်အငြိုးထား၍ အရိဋ္ဌဇနကမင်းကြီးထံသို့ ဝင်ပြီးသော်–

"အရှင်မင်းကြီး။ အရှင်မင်းကြီးညီတော် အိမ်ရှေ့မင်းသည် ကိုယ်တော်၏အသက်အန္တရာယ်[၃၃], စည်းစိမ်တော်၏အန္တရာယ်ကို ပြုမည်ကြံဆောင်ခဲ့သည်။ မပြတ် သတိထားတော်မူပါ။ အကျွန်ုပ်မှုကား ကိုယ်မှိခိုသည့်အရှင်ဖြစ်၍ အိမ်ရှေ့မင်း၏ အတိုင်းထက်အလွန် တင့်တယ်ခြင်းကို အလိုရှိငြားသော်လည်း အရှင်မင်းကြီး၏ ရာဇဝတ်တော်ကိုစောင့်ထိန်းလျက် နေရသူဖြစ်သည်နှင့်အညီ ကျေးဇူးသစ္စာတော်ရှိတိုင်း အရှင့်ရန်သူစစ်စစ်မှန်လျှင် အမှုကို မထိန်ဝှက်သာ၊ အလိုပါအလိုတူ မပြုသင့်ဖြစ်၍သာ လျှောက်ထားရခြင်းဖြစ်ပါသည်"ဟု ကုန်းတိုက် ချောစား[၃၄]လေ၏။

အမတ်စကားကိုကြားလျှင် အရိဋ္ဌဇနကမင်းကြီးသည် မည်သို့မျှမဆို။ 'ငါ့ညီ ငါ့ကို မကောင်းကြံမည့်သူ မဟုတ်'ဟု နှလုံးမူကာသာ နေလေ၏။ ထိုအမတ်လည်း အခွင့်မသာ၍နေပြန်ပြီးလျှင် တစ်ဖန် အခွင့်သာသော ကာလ၌ ရှေးနည်းအတူ လျှောက်ပြန်လေ၏။ မင်းကြီးလည်း မည်သို့မျှမဆို၊ နှလုံးမူကာသာ နေလိုက်၏။

ဤသို့သောနည်းဖြင့် ထိုအမတ်သည် အကြောင်းသင့်တိုင်း ထိုစကားကို လျှောက်ဖန်များလတ်သော် အရိဋ္ဌဇနက မင်းကြီးသည် 'ဤအမတ်ကား ဤစကားကို တစ်ကြိမ်သာမဟုတ်။ ကြိမ်ဖန်များစွာ ငါ့အား လျှောက်ထား၏။ အမတ်လျှောက်တိုင်းပင် ငါ့ညီသည် ငါ့ကို မကောင်းကြံသည် ဖြစ်ရာ၏'ဟု အယူရှိသဖြင့် ညီတော်အား ချစ်ခြင်းကိုဖြတ်၍ 'ဤပေါလဇနကမင်းသားသည် မိမိကျေးဇူး ငါ့တွင် တစ်စုံတစ်ခုမျှမရှိဘဲလျက်

ညီ၏ချစ်ခြင်းဖြင့် ငါချစ်၍ သူကောင်းပြုတော်မူသည်ကို ငါ့ကျေးဇူးကိုမျှမသိ၊ ပြုရမည်လော’ဟု ရာဇမာန်[၃၅] ဖြင့် အမျက်ဝင်လေသော်–

‘ကောဓေ အတ္တံ န ဇာနာတိ[၃၆]’ဟူသည်နှင့်အညီ မင်းတို့ ဆင်ခြင်စူးစမ်းရာသည့် အကြောင်းရှိပါလျက် ဆင်ခြင်စူးစမ်းတတ်သော နိသမ္မဉာဏ်[၃၇]ကို ထန်စွာသောဒေါသမီး ဆီးကာသဖြင့် ဆင်ခြင်စူးစမ်း မေးမြန်း စစ်ဆေးခြင်းကိုမပြုဘဲ တစ်ဘက်စကားနှင့်သာ “ယခုပင် ပေါလဇနကမင်းကို ဖမ်း။ အိမ်ရှေ့မင်းစည်းစိမ်မှ ရှုတ်ချ၍ သံခြေကျဉ်းအနှောင်အဖွဲ့ အစောင့်အရှောက်လုံ့ခြုံစွာ အိမ်ဆိုးတစ်ခုခုမှာ ထား”ဟု မြို့ဝန်မြို့ကွပ်[၃၈]တို့ဆီသို့ မင်းမိန့်ထုတ်ပြန်လိုက်၏။

မြို့ဝန်မြို့ကွပ်တို့လည်း မင်းမိန့်ရှိတိုင်း အိမ်ရှေ့မင်းကိုဖမ်းယူ၍ နန်းတော်မှမနီးမဝေးဖြစ်သော အိမ်ဆိုး[၃၉]တစ်ခု၌ သံခြေကျဉ်းအနှောင်အဖွဲ့နှင့် အစောင့်အရှောက် လုံ့ခြုံစွာထားလေ၏။

အိမ်ရှေ့မင်းသည် အနှောင်အဖွဲ့နှင့်နေရလေသော် ‘ငါကား ခမည်းတော်မရှိသည့်နောက် နောင်တော် ထီးနန်းကိုသိမ်းမြန်း၍ ငါ့ကို အိမ်ရှေ့အရာ၌ထားသည်မှ ယခုတိုင် နောင်တော်ကို ရန်သူနှလုံးထားသဖြင့် ပြစ်မှားမိသောအရာမည်သည် ဆံလွှာခန့်မျှ ငါ၌ မရှိ။ ထိုသို့လျက် ယခု ငါ့ကို အကျဉ်းအမြောင်းထားသည်မှာ ငါ့အား အခြားကိုးကွယ်ရာ မရှိပြီ။ သစ္စာသာလျှင် ကိုးကွယ်ရာဖြစ်တော့သည်’ဟု ကြံမိလျှင်–

“ငါသည် နောင်တော်၏ ရန်သူစစ်စစ်မှန်လျှင် ဤ အိမ်တံခါး, အနှောင်အဖွဲ့ သံခြေကျဉ်းတို့သည်လည်း မပွင့်မလွတ် စေကုန်သတည်း။ နောင်တော်၏ ရန်သူစစ်စစ်မဟုတ်လျှင် ဤ အိမ်တံခါး, အနှောင်အဖွဲ့ သံခြေကျဉ်းတို့သည် ယခုခဏချင်း ပွင့်စေ, လွတ်စေကုန်သတည်း”ဟု သစ္စာပြု၏။

ထိုအခါ ထက်လှစွာသောသန်လျက်ဖြင့်ဖြတ်၍မျှ တစ်ခဏချင်းပြတ်ခြင်းငှာ မစွမ်းနိုင်ကောင်းသော သံခြေကျဉ်းတို့သည်လည်း သစ္စာ၏အာနုဘော်ဖြင့် ခဏချင်း အပိုင်းပိုင်းပြတ်လေကုန်၏။ အိမ်တံခါးသည်လည်း ပွင့်လေ၏။ ထိုအခါ ပေါလဇနကမင်းသားသည် အနှောင်အဖွဲ့မှလွတ်သော ဆင်ပြောင်မုန်ယစ်ကဲ့သို့ မင်းဖြစ်ထိုက်သောဘုန်းလက္ခဏာ ရှိသည်တစ်ကြောင်း, တော်ဖြောင့်သောနှလုံး ရှိသည်တစ်ကြောင်းဖြစ်၍ အစောင့်အရှောက်ပြုသူမှစ၍ တစ်စုံတစ်ယောက်မျှမဖမ်းဆီးဝံ့ဘဲ မြို့မှထွက်သွားသဖြင့် တစ်ခုသော ရပ်စွန်ရွာငယ်၌ နေလေ၏။ ပစ္စန္တ ရစ်[၄၀]ရွာသူရွာသားတို့လည်း အိမ်ရှေ့မင်းမှန်းကိုသိလျှင် ခစားကျိုးနွံကြလေကုန်၏။

အရိဋ္ဌဇနကမင်းလည်း အိမ်ရှေ့မင်းကို ဖမ်းယူခြင်းငှာ မတတ်နိုင်ဖြစ်လေ၏။

ပေါလဇနကမင်းသားသည်လည်း အစဉ်သဖြင့် ပစ္စန္တ ရစ်ရွာငယ်များကိုသိမ်းရုံး၍ လက်နက်ပြုပြီးသော် ‘ငါသည် အထက်ကမူကား နောင်တော်၏ရန်သူ မဟုတ်။ ယခုမူကား ရန်သူ လုပ်ရတော့မည်’ဟုကြံလျက် များစွာသောအလုံးအရင်းနှင့် မိထိလာပြည်သို့ချီလာလတ်၍ မြို့ပြင်မနီးမဝေး၌ သစ်တပ်[၄၁]တည်ကာ နေလေ၏။ ပေါလဇနကမင်းထံ ခစားထမ်းရွက်ဖူးသူ အမှုထမ်း, အမတ်, သူရဲတို့သည် လည်းကောင်း၊ ထိုမှတစ်ပါး ပေါလဇနကမင်းကို မြတ်နိုးကုန်သော အမတ်, သူရဲတို့သည် လည်းကောင်း အိမ်ရှေ့မင်းချီလာကြောင်းကို ကြားလျှင်ပင် မိမိတို့၌ရှိသော ဆင်, မြင်း စသည့်လက်နက်နှင့်တကွ မြို့မှထွက်လာလတ်၍ ပေါလဇနကမင်းထံ ဝင်စားလာကြကုန်၏။ ထို မှူးမတ်, သူရဲတို့ကိုအမှီပြု၍ အချို့သောပြည်သူပြည်သားတို့သည်လည်း ဝင်စားလာကြကုန်၏။ ပေါလဇနကမင်းသားသည် များစွာသော အလုံးအရင်းရှိပြီးသော် ထိုသစ်တပ်၌နေလျက် နောင်တော် အရိဋ္ဌဇနကမင်းကြီးထံ ဤသို့ စာနှင့်လွှတ်လိုက်၏။

‘နောင်တော်အရိဋ္ဌမင်း။

'အကျွန်ုပ်သည် နောင်တော်ထံ အိမ်ရှေ့စည်းစိမ်နှင့်နေသည့်ကာလ နောင်တော်အား ၃ ပါးသောက်[၆၂]ဖြင့် ရန်သူနှလုံးထား ပြစ်မှားမိသောအရာ မရှိစဘူး။ ယခုမူကား အကျွန်ုပ်သည် ရန်သူမလုပ်လိုဘဲလျက် နောင်တော်က လုပ်စေလိုသောကြောင့် ရန်သူပင် လုပ်ရတော့မည်။ ရွှေထီးရွှေနန်းကိုသော်လည်း ပေးအပ်မည်လော၊ စစ်ပွဲသော်လည်း ပြိုင်ဆိုင်မည်လော။ အချက်ကျကျသိရအောင် အမိန့်ရှိတော်မူလိုက်။ အကြာအရှည်နေ၍ ကျွန်တော်မျိုးများသာ ပင်ပန်းကြတော့မည်'ဟု စာနှင့် ရဲရင့်သောသူတို့ကို စေလိုက်၏။

ထိုစကားကို အရိဋ္ဌဇနကမင်းကြားလျှင် "ငါသို့သော မင်းကိုစင်လျက် ဤစကားကို ဆိုရမည်လော"ဟု မင်းမာန်ပေါက်၍–

'ပေါလဇနက။

'ထီးနန်းနှင့် သင် ထိုက်တန်သလော။ ယခုပင် ငါ များစွာအလုံးအရင်းနှင့်ထွက်၍ သင့်ဦးခေါင်းကို ယူတော်မူမည်'ဟု ပြန်ဆိုလိုက်၏။

ထိုအခါကား ထို အရိဋ္ဌဇနကမင်း၏မိဖုရားကြီးဝမ်းတွင် ဘုရားလောင်း ပဋိသန္ဓေ[၆၃]ယူ၍ ကိုယ်ဝန် အရင့်အမာ ရှိသတည်း။

အရိဋ္ဌဇနကမင်းသည် ထိုစကားကို ဆိုလိုက်ပြီးလျှင် မိဖုရားကြီးခေါ်၍–

"အဘယ်။ စစ်ထိုးခြင်းမည်သည်ကား ရှုံးအံ့သည်, နိုင်အံ့သည် မသိနိုင်ဖြစ်ချေသည်။ ယခု ငါ စစ်ထိုး ထွက်ချီတော်မူရမည်ဖြစ်သောကြောင့် အခွင့်ကိုနားထောင်၍ ကိုယ်ဝန်ကို ကောင်းစွာ သင် စောင့်ရှောက်လေ"ဟု မှာထားပြီးသော်၊ စစ်အခင်းအကျင်းအလုံးစုံကို ခန့်ထားစုရုံးစေ၍ လက်နက်စွဲ, သူရဲ[၆၄], သူခက်[၆၅], စစ်မှူး, စစ်ကြပ်[၆၆], ဆင်, မြင်း, ရထား စသော များစွာသောအလုံးအရင်းနှင့်တကွ ထွက်ချီလေ၏။

ပေါလဇနကမင်းလည်း များစွာသောအလုံးအရင်းနှင့် အခိုင်အခံ့ခံ၍ ကျင်းပနင့်လေ၏။

ထို မင်းညီနောင်တို့ စစ်မျက်နှာပြိုင်၍ထိုးကြလေသော် ပေါလဇနကမင်း၏စစ်သည်များလက်နက်ဖြင့် အရိဋ္ဌဇနကမင်း အသက်ကုန်လေ၏။ ထိုအခါ အရိဋ္ဌဇနကမင်းကြီးဆုံးလေလျှင် စစ်မှူး, စစ်ကြပ်နှင့်တကွ လက်နက်စွဲ သူရဲအပေါင်းတို့ကို ပေါလဇနကမင်း သိမ်းယူလေ၏။

မိထိလာပြည်အလုံးလည်း 'မင်းကြီး ဆုံးခဲ့ပြီ'ဟု အုတ်အုတ်ကျက်ကျက်[၆၇] ဖြစ်လေ၏။

## ၂။ မိဖုရားကြီး ထွက်ပြေးခန်း

အရိဋ္ဌဇနကမင်း၏မိဖုရားကြီးသည်လည်း ထိုအကြောင်းကိုကြားသိလျှင် အမှုမငြိမ်မဝပ် ဆူလောင်ဆဲတွင် အလျင်အမြန် ရွှေတိုက်၌ ရွှေစင်ရွှေကောင်း, ပတ္တမြား စသော ကျောက်မျက်ကောင်းတို့ကိုယူ၍ ခိုင်ခံ့သော ပုဆိုးဖြင့် အထပ်ထပ်ရစ်ထုပ်ပြီးလျှင် တောင်းဆိုးတစ်ခု၌ထည့်ပြီးမှ အပေါ်၌ ပုဆိုးနွမ်းခင်း၍ အတန်ငယ် ဆန်စေ့များကို ဖုံးလောက်ရုံကြဲဖြန့်ကာ မိမိမှာလည်း နန်းသုံးနန်းဝတ်ကိုစွန့်၍ ညစ်နွမ်းသောအဝတ်,

ထွေးရှုပ်သောဆံဦးဖြင့် ဆင်းရဲသူမအသွင်ကိုယူလျက် ထိုတောင်းကိုရွက်ပြီးသော် စစ်မျက်နှာလွတ်ရာ မြောက်တံခါးဖြင့် ထွက်သွားလေ၏။ တစ်စုံတစ်ယောက်သော မြို့သူမြို့သားမျှလည်း အသွင်ခြားသည်ဖြစ်၍ မိဖုရားကြီးဟု မသိကြလေကုန်။

ပေါလဇနကမင်းသည်လည်း အလုံးစုံ ပြဲဖွယ်ကိစ္စတို့ကိုပြု၍ မြို့ကိုသိမ်းယူပြီးလျှင် မိထိလာမြို့၌ ထီးနန်းစိုးစံလေ၏။

ဤအရာ၌ အရိဋ္ဌဇနကမင်းသည် သူကြီးပြုသူတို့ ဂုဏ် ၆ ပါးတွင် ဆင်ခြင်ရာသည့်အခွင့် ရှိပေလျက် ဆင်ခြင်စူးစမ်းခြင်းကိုမပြုဘဲ ဣက္ခဏဂုဏ်[၆၇]ချို့တဲ့၍ ဒေါသာဂတိ[၆၈]သို့ လိုက်မှားသဖြင့် မပြစ်မှားအပ်သောသူကို ပြစ်မှားမိချေသောကြောင့်–

['ယော ဒဏ္ဍေန အဒဏ္ဍေသု၊ အပဒုဋ္ဌေသု ဒုဿတိ။

ဒသန္နမညတရံ ဌာနံ၊ ခိပ္ပမေဝ နိဂစ္ဆတိ။ ။'ဟုဟောတော်မူသော ဓမ္မပဒပါဠိတော်နှင့်အညီ အပြစ်ဒဏ် မထိုက် မပြစ်မှားအပ်သူတို့၌ ဒဏ်ဖြင့် ပြစ်မှားကုန်သောသူတို့အား–

'ဝေဒနံ ဖရုသံ' ဟုဆိုအပ်သော ကြမ်းတမ်းစွာသောဦးခေါင်းနာ စသည်ရောက်ခြင်း၊ 'ဇာနိံ' ဟုဆိုအပ်သော ဉစ္စာစည်းစိမ်သည် ဆုတ်ယုတ်ဆုံးပါးခြင်း၊ 'သရီရဿစ ဘေဒနံ' ဟုဆိုအပ်သော လက်ပြတ်ခြင်း စသည့် ကိုယ်အင်္ဂါပျက်ခြင်း၊ 'ဂရုကံ ဝါပိ အာဗာဓံ' ဟုဆိုအပ်သော ကုဋ္ဌနာ, အပမာရနာ စသော ဆေးမကုနိုင်ရာ လေးစွာအနာ ကပ်ရောက်ခြင်း၊ 'စိတ္တက္ခေပဥ္စ' ဟုဆိုအပ်သော ရူးသွပ်ခြင်း၊ 'ရာဇတောဝါ ဥပသဂ္ဂံ' ဟုဆိုအပ်သော မင်းဘေးမင်းဒဏ်သင့်ခြင်း၊ 'အဗ္ဘက္ခာနဥ္စဒါရုဏံ' ဟုဆိုအပ်သော ရှန့်ကြမ်းလှစွာသော သူတစ်ပါးတို့အစွပ်အစွဲကို ခံရခြင်း၊ 'ပရိက္ခယဥ္စ ဉာတီနံ' ဟုဆိုအပ်သော အဆွေအမျိုး ပြုန်းတီးခြင်း၊ 'ဘောဂါနဥ္စ ပဘင်္ဂုနံ' ဟုဆိုအပ်သော စည်းစိမ်အခြေအရံ ပျက်စီးခြင်း၊ 'အဂါရာနိအဂ္ဂိဒယှတိ' ဟုဆိုအပ်သော အိမ်ကိုမီးသင့်ခြင်း ဤ ၁၀ ပါးသောအပြစ်တို့တွင် တစ်ခုခုသည် လျင်စွာရောက်၍၊ သေသည်၏အခြားမဲ့၌ ငရဲသို့သာ ရောက်ရလေ၏ဟူ၍ ဟောတော်မူသည်နှင့်လျော်စွာ ပေါလဇနကမင်းကိုပြုသောဒဏ်သည် မိမိသို့ ပြန်လာသဖြင့် စည်းစိမ်လည်းပြုန်း အသက်လည်းဆုံး ရှိချေသည်။

ဤသို့ထောက်၍ ယခုအခါ သူကြီးပြုသမျှသော သူအပေါင်းတို့သည်–

[မီးမပွားလောက်သည့်အမှု၌ ပမာဏမပြုဘဲ သည်းခံခြင်းဟုဆိုအပ်သော 'ခမာဂုဏ်'၊ သွားခြင်း, နေခြင်း, အိပ်ခြင်း, ဝတ်ခြင်းစသည်တို့၌ သတိပညာ ထက်ကြပ်ပါခြင်းတည်းဟူသော 'ဇာဂရိယဂုဏ်'၊ ခပ်သိမ်းသောအခွင့်တို့၌ ငယ်သူငယ်သားထက် ၂ ဆတက်, ၃ ဆတက်လုံ့လရှိခြင်းတည်း ဟူသော 'ဥဋ္ဌာနဂုဏ်'၊ အထိုက်အလိုက်ကိုချင့်၍ ဝေဖန်ထုံးဖွဲ့ခြင်းတည်း ဟူသော 'သံဝိဘာဂဂုဏ်'၊ ငယ်သူငယ်သားတို့အား မိမိကိုယ်ကဲ့သို့ သနားချစ်ခင် ကြင်နာခြင်း ဟုဆိုအပ်သော 'ဒယာဂုဏ်'၊ အလုံးစုံသောအခွင့်အရေးတို့ကို တွေးမြော်ဆင်ခြင်ခြင်း ဟုဆိုအပ်သော 'ဣက္ခဏဂုဏ်'။ ဤနှယ ဂုဏ် ၆ ပါးနှင့်ပြည့်စုံကြောင်း ကောင်းစွာ နှလုံးထားကုန်ရာ၏။ ခပ်သိမ်းသောသူအပေါင်းတို့ သည်လည်း မပြစ်မှားအပ်သောသူတို့အား နှလုံးဖြင့်မျှ မပြစ်မှားချေဟု မှတ်ကုန်ရာ၏။ ဤကား စကားချပ်တည်း။ ]

အရိဋ္ဌဇနကမင်း၏မိဖုရားကြီးသည် ထိုမြောက်တံခါးဖြင့် ထွက်သွားလေသော် မိမိသည် အရပ်တစ်ပါးသို့ မသွားဘူးသူဖြစ်၍ ခရီးလမ်းကိုလည်း မသိ၊ အရပ်အစွဲအမှတ်လည်း မရှိဖြစ်သဖြင့် မြို့မှခွာ၍ ဝေးစွာမသွားဝံ့ဘဲ

တစ်ဆောင်သောဇရပ်တွင် ဝင်နားလျက်၊ 'ဤပြည်မှအကွာ ယူဇနာ ၆၀ ထက်၌ ကာလစမ္ပာနဂိုရ်[၃၃] ပြည် ရှိ၏'ဟု ရှေးကကြားဖူးသည်နှင့်သာ ထိုပြည်ကိုအစွဲအမှတ်ပြု၍ ကာလစမ္ပာနဂိုရ်ပြည်သို့သွားသူတို့ကို ခရီးသွားကြုံတိုင်း မေးမြန်းနေလေ၏။

ထိုအခါ မိဖုရားကြီးဝမ်း၌ ဘုန်းသမ္ဘာ[၃၃] ရင်ဖြစ်သော ဘုရားလောင်း၏အာနုဘော်[၃၄]ဖြင့် တာဝတိံသာ နတ်ပြည်ဝယ် ပင်လယ်ကသစ်ပင်ရင်း၌ခင်းအပ်သော အလျား ယူဇနာ ၆၀, အနံ ယူဇနာ ၅၀, အထု ၁၅ ယူဇနာ ပမာဏ, လယ်ခေါင်ရန်းပွင့်ကဲ့သို့ နီမြန်းသောအဆင်း, သိကြားမင်းထိုင်လျှင် ခါးတိုင်အောင်နစ်သော အနူးအညွှတ်နှင့်ပြည့်စုံသော ပဏ္ဍုကမ္ဗလာ[၃၅] ကျောက်ဖျာသည် စည်မျက်နှာကဲ့သို့ တင်းမာခြင်းဖြင့် သိကြားမင်း နှလုံး ညှိုးနွမ်းပူပန်အံ့သောအခြင်းအရာကို ပြလေ၏။ သိကြားမင်းသည်–

'ငါတည်း ဤစည်းစိမ်မှ ရွေ့လျောလိုသလော။ အဘယ်အကြောင်းကြောင့် ဤသို့သောအခြင်းအရာ ဖြစ်လေသနည်း'ဟုဆင်ခြင်လေသော်၊ 'တစ်ပါးအကြောင်းကြောင့် မဟုတ်။ အရိဋ္ဌမင်း၏မိဖုရားသည် ယခု မိမိတို့ထီးနန်းစည်းစိမ် တိမ်းယိမ်းသဖြင့် ဆင်းရဲစွာသွားရာ လမ်းမပေါက်ရှိ၍ မိမိဝမ်း၌ သန္ဓေစွဲသူသည် ဘုန်းသမ္ဘာရင်ဖြစ်ခြင်းကြောင့် ထိုသူငယ်၏အာနုဘော်ဖြင့် ဤအခြင်းအရာ ဖြစ်ချေသည်'ဟုသိမြီးသော်၊ 'မင်းဖြစ်ထိုက်သော ဘုန်းရှိယောကျ်ားဖြစ်ပေလျက် မပျက်စီးသင့်လေကောင်း။ ဤသူငယ် အသက်ရှည်သဖြင့် ပြည်သူပြည်သားတို့အားလည်း များစွာ စီးပွားဖြစ်လတ္တံ့။ ထိုသို့သောယောကျ်ားမြတ်ကို အန္တရာယ်မဖြစ်စေခြင်းငှာ ငါ သွား၍ မစ,ထိုက်လှပေသည်'ဟုကြံပြီးလျှင်၊ ရထားပေါင်းချုပ်[၃၆] ဖန်ဆင်း၍ ထိုရထားပေါ်၌ ညောင်စောင်း[၃၇] နေရာခင်းပြီးသော် ယောကျ်ားအို၏အသွင်ဖန်ဆင်းလျက် ရထားကိုနှင်၍ မိဖုရားနေရာဇရပ်သို့ ရှေးရှုလာသဖြင့်၊ ဇရပ်နားသို့ရောက်လျှင် ရထားကိုတန့်လျက်–

"ဤအရပ်တွင် ကာလစမ္ပာနဂိုရ်ပြည်သို့ သွားလိုသူခရီးသွား ရှိသလော"ဟု အမှတ်မထင် မေးလေ၏။

မိဖုရားကြီးသည် ထိုစကားကိုကြားလျှင် "ဘိုးအေ။ အကျွန်ုပ် သွားလိုပါသည်"ဟု ဆို၏။

သိကြားမင်းသူအိုလည်း "ချစ်သမီး။ ယင်းသို့တပြီးကား[၃၈] ရထားထက်သို့ တက်လှည့်။ ယခုပင် သွားကြကုန်အံ့"ဟုဆို၏။

မိဖုရားကြီးလည်း "ဘိုးအေ။ အကျွန်ုပ်ကား ကိုယ်ဝန်အရင့်အမာနှင့် ဖြစ်ခဲ့သည်။ ရထားစီးခြင်းငှာ မဝံ့ပါ။ ဤ အကျွန်ုပ်၏တောင်းကိုသာ ရထား၌ တင်ပါရစေတော့။ ရထားနောက်က အကျွန်ုပ် လိုက်ပါမည်"ဟုဆို၏။

သိကြားမင်းသူအိုလည်း "ချစ်သမီး။ အသို့ ဆိုရပါသနည်း။ တစ်ပါးသူကဲ့သို့ ဘိုးအေကို မှတ်ထင် သလော။ ရထားနှင်ခြင်း၌ ဘိုးအေနှင့်တူ၍ တတ်သောသူ မရှိ။ မကြောက်နှင့်။ တက်သာ တက်"ဟု ဆို၏။

မိဖုရားကြီးလည်း သိကြားမင်းသူအိုစကားဖြင့် 'ရထားထက်သို့ တက်အံ့'ဟု ရှေးရှုလာ၏။ ထိုအခါ သိကြားမင်း၏အာနုဘော်ကြောင့် ရထားသို့ မိဖုရားကြီးတက်ရာဖြစ်သောမြေအရပ်သည် လေဖြင့်ပြည့်သော သားရေနယ်အိတ်ကဲ့သို့ ပုံ့ပုံ့ကြွ၍ ရထားနောက်မြိတ်[၃၇] ကို ထိလျက်တည်လေ၏။ မိဖုရားကြီးသည်လည်း ပြကတေ့[၃၈] လှမ်းမြဲသောခြေဖြင့် ရထားထက်သို့တက်၍ ညောင်စောင်းအပြင်ဝယ် ခင်းအပ်သောအိပ်ရာ၌ လျောင်းမိခါလျှင် 'ဤအဘိုးကား လူမဟုတ်။ နတ်စင်စစ် မှန်ရာသည်'ဟုသိလျက် နတ်၏အတွေ့ကို တွေ့ရခြင်းကြောင့် အိပ်ပျော်ခြင်းသို့ ရောက်လေ၏။

## ၃။ မိဖုရားကြီး ကာလစမ္ပာနဂိုရ် ရောက်ခန်း

သိကြားမင်းလည်း ရထားနှင့် မိဖုရားကိုဆောင်ယူ၍နှင်လေသော် ခဏချင်းဖြင့် မိထိလာပြည်မှ ယူဇနာ ၃၀ ကွာသောအရပ်တစ်ခု၌ မြစ်နားသို့ရောက်သောအခါ ရထားကိုတန့်နား၍ မိဖုရားကြီးကိုနှိုးပြီးလျှင်–

"ချစ်သမီး။ ဤမြစ်၌ ရေချိုးချေတော့။ ရေချိုးပြီးလျှင် သင့် အိပ်ရာဦးခေါင်းရင်း၌ထားသော ထိုအဝတ်စုံတို့ကိုဝတ်ဆင်လျက် ရထားတွင်း၌ထားအပ်သော ထမင်းထုပ်မှ ထမင်းဘောဇဉ်တို့ကို ယူ၍ သုံးဆောင်လေ"ဟု ဆို၏။

မိဖုရားကြီး အိပ်ရာမှထ၍ သိကြားမင်းဆိုတိုင်း ရေချိုးခြင်း, ဝတ်စားခြင်းတို့ကိုပြုပြီးသော် တစ်ဖန် ထိုအိပ်ရာ၌ပင် လျောင်းခါမျှဖြင့် အိပ်ပျော်ခြင်းသို့ ရောက်ပြန်လေ၏။ သိကြားမင်းသူအိုလည်း ရထားကို အဖြည်းအသာနှင်၍ ညချမ်းသောအခါ ကာလစမ္ပာနဂိုရ်ပြည်၏ ဂေါင်တံခါးအနီးသို့ ရောက်လေသော် မိဖုရားကြီးကို နှိုး၏။ မိဖုရားကြီးလည်း နိုးပြီးကြည့်လတ်လျှင် မြို့[၅၉], ပြ[၆၀], တန်ဆောင်း, ပစွင်[၆၁], ရင်တား[၆၂], တံခါးမုခ်[၆၃] တို့ကိုမြင်သဖြင့်–

"ဘိုးအေ။ ဤရှေ့ကမြို့ကား အဘယ်မြို့နည်း"ဟု မေး၏။

သိကြားမင်းသူအိုလည်း "ချစ်သမီး။ ကာလစမ္ပာနဂိုရ်ဆိုသည် ဤမြို့ မဟုတ်လော"ဟု ဆို၏။

မိဖုရားကြီးလည်း "ဘိုးအေ။ အသို့ ဆိုရသနည်း။ ကျွန်ုပ်တို့ကြားဖူးသည်မှာ ကျွန်ုပ်တို့ပြည်မှ ကာလစမ္ပာနဂိုရ်ပြည်သည် ယူဇနာ ၆၀ ကွာဝေး၏တကား။ နေ့ချင်းဖြင့် အသို့လျှင် ရောက်နိုင်ပါအံ့နည်း"ဟုဆို၏။

သိကြားမင်းလည်း "ချစ်သမီး။ ကြားဖူးတိုင်းပင် ယူဇနာ ၆၀ ကွာသည် မှန်၏။ ဘိုးအေမှာမူကား ဤအရပ်၌ ကျွမ်းကျင်သူဖြစ်၍ ခရီးဖြောင့်ကိုသိသောကြောင့် ယခုနေ့ချင်း ဤပြည်သို့ ရောက်နိုင်လေသည်"ဟု ဆို၏။

ဤသို့ပြောဆိုပြီးလျှင် သိကြားမင်းသည် "ချစ်သမီး။ သင်မူကား ယခု လိုရာရောက်ပြီ။ ဘိုးအေမှာမူကား သွားရာခရီး ဝေးသေးသည်ဖြစ်၍ သွားရဦးမည်။ ဤအရပ်၌ဆင်း၍ သင်ချစ်သမီး မြို့တွင်းသို့ ဝင်လေလော့"ဟု ဆိုပြီးလျှင်၊ မိဖုရားကြီးကို ထိုအရပ်၌ချထား၍ ရထားဖြင့် မိဖုရားကြီး မျက်စိဆုံးလောက်ရုံတိုင်အောင် သွားဟန်မူ၍ တာဝတိံသာသို့ တက်လေ၏။

မိဖုရားကြီးလည်း ကာလစမ္ပာနဂိုရ်ပြည်၏ တောင်တံခါးအပြင်မနီးမဝေးတွင် တစ်ဆောင်သောဇရပ်၌ ဝင်နားကာနေလေ၏။

ထိုအခါ ထိုပြည်၌ ဗေဒင် စသောအတတ်တို့ကို ဆောင်ရွက်၍ အရပ်မျက်နှာတို့၏ ဆရာအကြီးပြုလျက် ဗြာဟ္မဏမဟာသာလ[၆၄] ဖြစ်၍လည်းကောင်း၊ အလုံးစုံသော အတတ်မျိုးတို့ကို တတ်သဖြင့် အရပ် ၈ မျက်နှာတို့၌ နေကုန်သော မင်းသား, ပုဏ္ဏားသား, သူဌေး သူကြွယ်သား အမျိုး ၄ပါး[၆၅] တို့၏အတတ်သင်ရာ ဆရာဖြစ်၍လည်းကောင်း ကျော်စောထင်ရှားခြင်းကြောင့် ဥဒိစ္စပုဏ္ဏား[၆၆] ဟု ခေါ်ဝေါ်အပ်သော ဒိသာပါမောက္ခ[၆၇] ဆရာကြီးသည် တပည့် ၅၀၀ အခြံအရံနှင့်တကွ ထိုနေ့ညချမ်းသောအခါ၌ 'ရေချိုးအံ့'ဟု တောင်တံခါးဖြင့် ထွက်လာလတ်၍ အဝေးကပင်လျှင် ဇရပ်ပေါ်၌ အရွယ်အဆင်း တင့်တယ်ခြင်းနှင့်ပြည့်စုံစွာသော မိဖုရားကြီးကိုမြင်လေသော်၊ မိဖုရားကြီးဝမ်း၌ ပိုက်လျက်ပါလာသော ဘုရားလောင်း၏ဘုန်းအာနုဘော်အစွမ်းဖြင့် မြင်သည်နှင့်တစ်ပြိုင်နက်

ပင်လျှင် ကာလလျားစွာ[၆၈] ကွေကွင်းလေပြီးသော တစ်မိတစ်ဘတည်းပေါက်ဖွားသော နှမငယ်ကို ယခုမှ တွေ့ကြုံရသကဲ့သို့ အပြစ်ကင်းသော နှမ၏ချစ်ခြင်းဖြင့် ဗြဟ္မစိုရ်[၆၉]မေတ္တာရေသက်ပြီးသော် မိမိအခြံအရံဖြစ်သော ပုဏ္ဏားလုလင်ပျိုတို့ကို လွတ်ရာဖယ်ခွာစေပြီးလျှင် တစ်ယောက်တည်းချင်း ဇရပ်သို့ဝင်၍-

"နှမထွေး။ သင် အဘယ်အရပ်သူပေနည်း"ဟု မေး၏။

မိဖုရားကြီးသည်လည်း "မောင်ကြီး။ အကျွန်ုပ်ကား မိထိလာပြည်ကိုအစိုးရသော အရိဋ္ဌဇနကမင်း၏ မိဖုရားကြီးဖြစ်သတည်း"ဟု ဆို၏။

ပါမောက္ခဆရာလည်း "အမယ်။ ထိုသို့သော မိဖုရားစင်လျက် ဤဝေးစွာသောအရပ်သို့ အဘယ်အကြောင်းကြောင့် တစ်ယောက်တည်း လာခဲ့သနည်း"ဟု ဆို၏။

မိဖုရားလည်း "မောင်ကြီး။ ဤအရပ်သို့ အကျွန်ုပ်လာရသည်ကား ပေါလဇနကအမည်ရှိသော အိမ်ရှေ့မင်းသည် ဤမည်သောအကြောင်းဖြင့်ထောင်ထား၍[၇၀] အကျွန်ုပ်ကျေးဇူးရှင် ဆုံးချေသောကြောင့် ကိုးကွယ်ရာမဲ့ဖြစ်၍ ပဋိသန္ဓေကိုစောင့်ရှောက်ခြင်းငှာ တစ်ယောက်တည်းချင်း ထွက်လာခဲ့လျှင် ခရီးလမ်းအကြား၌ အဘိုးအိုတစ်ယောက် ရထားနှင်လာသည်ကို တွေ့ကြိမ်ပေသောကြောင့် ထိုရထားရှင်ကိုပင် အမှီပြု၍ ဤပြည်သို့ အကျွန်ုပ် ရောက်လာပါသည်"ဟု ဆို၏။

ပါမောက္ခဆရာလည်း "အမယ်။ ဤပြည်၌ သင်နှင့်တော်စပ်သူ အဆွေအမျိုး တစ်စုံတစ်ယောက် ရှိပါ၏လော"ဟု မေး၏။

"မောင်ကြီး။ ဤပြည်၌ အဆွေအမျိုး,သိကျွမ်းသူ တစ်စုံတစ်ယောက်မျှ အကျွန်ုပ်မှာ မရှိပါ"ဟုဆို၏။

ပါမောက္ခဆရာလည်း "အမယ်။ ယင်းသို့တပြီးကား မစိုးရိမ်ပါလင့်။ အကျွန်ုပ်သည် ဤပြည်၌ ဗြာဟ္မဏမဟာသာလ ဖြစ်၍လည်းကောင်း၊ အလုံးစုံသော အတတ်မျိုးတို့ကိုတတ်သဖြင့် အရပ် ၈ မျက်နှာတို့၌ နေကုန်သော မင်းသား, ပုဏ္ဏားသား, သူဌေး သူကြွယ်သား အမျိုး ၄ ပါးတို့၏အတတ်သင်ရာ ဆရာဖြစ်၍လည်းကောင်း ဒိသာပါမောက္ခဆရာ ဟူ၍ ကျော်စောထင်ရှားသော ပုဏ္ဏားသူကြွယ်ပင်တည်း။ အဝတ်အစား, အသုံးအဆောင် ကြိုငြင်ဆင်းရဲမည်ဟူ၍ မစိုးရိမ်နှင့်။ နှမရင်းကဲ့သို့မှတ်၍ အကျွန်ုပ် ကျွေးမွေးပြုစုပါမည်။ သင်ကလည်း အကျွန်ုပ်ကို မောင်ကြီးကဲ့သို့မှတ်၍ ယခု ကျွန်ုပ်ခြေကိုဖက်လျက် 'ကာလရှည်ကြာစွာ ကွဲပြီးမှ မောင်ကြီးကို မသေမပျောက်တွေ့ရပေသည်'ဟု မြည်တမ်းငိုကြွေးလော့"ဟု ဆို၏။

မိဖုရားလည်း ပါမောက္ခဆရာဆိုတိုင်း ခြေကိုဖက်၍ သည်းစွာငိုကြွေးလေ၏။

ပါမောက္ခဆရာသည်လည်း "ငါ့နှမကို ယခုမှ မသေမပျောက် တွေ့ရပေတော့သည်"ဟု ငိုကြွေးလေ၏။

၂ ဦးသောသူတို့၏ ငိုကြွေးသံကိုကြားလျှင် တပည့် ပုဏ္ဏားလုလင်ပျိုတို့သည် ဇရပ်သို့ စည်းဝေးလာကြ၍-

"ဆရာ။ အဘယ့်ကြောင့် ငိုကြွေးဘိသနည်း"ဟု မေးကြကုန်၏။

ပါမောက္ခပုဏ္ဏားလည်း "အမောင်တို့။ နှစ်လရှည်စွာ ကွဲလေပြီးသော ဤငါ့နှမကို ယခုမှ မသေမပျောက် တွေ့ရပြန်သောကြောင့် နှလုံးကြည်နူး[၇၁]ခြင်းဖြစ်၍ ငိုရတော့သည်"ဟုဆိုလျှင် တပည့်လုလင်ပျိုတို့သည်-

"ဆရာ။ ကွဲလေပြီးသော ပေါက်ဖော်ဆွေမျိုးကို တွေ့မြင်ရပေသည်ကား အလွန်ကောင်း၏။ ဆောင်ရွက်ရန်ရှိသည်ကို အကျွန်ုပ်တို့ ဆောင်ရွက်ပါကုန်အံ့။ စိုးရိမ်တော်မမူပါလင့်"ဟု ဆိုကြကုန်၏။

ပါမောက္ခပုဏ္ဏားလည်း "အမောင်တို့။ ငါ့နှမစီးရန် အိမ်မှာသွား၍ ရထားပေါင်းချုပ်ကို ယူချေကုန်"ဟု စေလွှတ်လိုက်သဖြင့် ယူစေပြီးလျှင်၊ ရထားပေါင်းချုပ်ထက်၌ မိဖုရားကိုနေစေပြီးသော် 'ပုဏ္ဏေးမအား ငါ့နှမအဖြစ်ကို

ပြော၍ ပြုရာဆောင်ရာသည့် ဝတ်တို့ကိုပြုလျက် ကောင်းစွာ ငါ့နမကို သိမ်းပိုက်နှင့်ဘိ'ဟု ငါမှာလိုက်ကြောင်းကို ဆိုလေ"ဟု မှာထားပြီးလျှင် မိမိအိမ်သို့ပို့စေ၏။

## ၄။ ဖွားတော်မူခန်း

ပုဏ္ဏေးမလည်း မိမိအိမ်သို့ မိဖုရားရောက်လာသဖြင့် ပါမောက္ခဆရာကြီး မှာလိုက်ကြောင်းအလုံးစုံကို ကြားလျှင် 'ငါ့ယောက်မကို တွေ့ရပေသည်'ဟု ဝမ်းမြောက်ဝမ်းသာကြုံဆို၍ နံ့သာရေတို့ဖြင့် ရေကိုချိုးစေလျက် ကောင်းမြတ်သောအိပ်ရာနေရာတို့ဖြင့် ချပေးပြုစု သိမ်းပိုက်ကာထားနှင့်လေ၏။

ပါမောက္ခဆရာလည်း ရေချိုးပြီးသော် တပည့်လုလင်ပျိုအပေါင်းခြံရံလျက် မိမိအိမ်သို့ ပြန်လာလတ်၏။ ထမင်းစားသောအခါ၌လည်း "ငါ့နမနှင့် အတူစားအံ့။ ခေါ်လိုက်ပါ"ဟုဆို၍ မိဖုရားကြီးနှင့် အတူစား၏။

ပါမောက္ခဆရာသည် မိဖုရားကို နမရင်းကဲ့သို့သော ချစ်ခြင်းဖြင့် အိမ်တွင်း၌သာနေစေလျက် ကောင်းစွာ ကျွေးမွေးပြုစုလေ၏။ ထိုအခါ ပါမောက္ခဆရာအိမ်သို့ရောက်၍ ကာလမမြင့်မီပင် မိဖုရားကြီးသည် ရွှေအဆင်းကဲ့သို့ ရှုချင်ဖွယ်အဆင်းနှင့်ပြည့်စုံသော ဘုရားလောင်းကို ဖွားမြင်လေ၏။

ထိုသတို့သားအား အမည်မှည့်အံ့သောနေ့၌ မိဖုရားသည် တစ်ပါးသောအမည်ကို မမှည့်မူ၍ ဘိုးတော်မင်းကြီး၏အမည်ဖြင့်ပင်လျှင် 'မဟာဇနက သတို့သား'ဟူသောအမည်ကို မှည့်လေ၏။

[ဤ 'မဟာဇနက' ဟူသော အမည်သည် ရုဠ္ဟီအမည်, အန္ဝတ္ထအမည် ၂ ပါးတို့တွင် တိဿ, ဒတ္တ အမည်တို့ကဲ့သို့ ဝိဂြိုဟ်မပြုကောင်းသော အမည် မဟုတ်။ ဝိဂြိုဟ်ပြုကောင်းသောကြောင့် အန္ဝတ္ထအမည်တည်း။ ဝိဂြိုဟ် ပြုသော်ကား-

['မဟာဇနေဟိ ကနိတဗ္ဗော နန္ဒိတဗ္ဗောတိ မဟာဇနကော။'

[ယော ရာဇကုမာရော၊ အကြင် မင်းသားကို။ မဟာဇနေဟိ၊ လူအပေါင်းတို့သည်။ ကနိတဗ္ဗော နန္ဒိတဗ္ဗော၊ ချစ်နှစ်လိုအပ်၏။ ဣတိတသ္မာ၊ ထိုသို့ တိုင်းသားပြည်သူလူအပေါင်းတို့ ချစ်နှစ်လိုအပ်သော သတ္တိကြောင့်။ သောရာဇကုမာရော၊ ထိုမင်းသားသည်။ မဟာဇနကော၊ မဟာဇနက မည်၏။

[ကိတန္တသမာသ်ဝိဂြိုဟ်။ မဟာဇနသဒ္ဒူပပဒ၊ ကန-ဓာတ်၊ ဏွု-ပစ္စည်း။ ။ကန-ဓာတ်၏အရ ကတ္တုတ္ထ ကြိယာကား မိဘဆွေမျိုး အစရှိသော တိုင်းသူပြည်သားလူအပေါင်းတို့၏ ချစ်နှစ်လိုခြင်းဟုဆိုအပ်သော အကျိုးပစ္စုပ္ပန်ဖြစ်သော ပီတိသဟဂုတ် ဇောစိတ္တုပ္ပါဒ်သည် မုချအားဖြင့် ရ၏။ ကမ္မတ္ထကြိယာကား ထိုဇောစိတ္တုပ္ပါဒ်၏ အကောင်းအာရမ္မဏပစ္စည်းဖြစ်သော မင်းသား၏အဆင်းသဏ္ဌာန် ဘုန်းကြွန်လက္ခဏာ ဇာတိမဟတ္တ စသော ဂုဏ်သည် ဖလူပစာရတ္တအားဖြင့် ရ၏။ ဏွု-ပစ္စည်း၏အရကား ထို မုချဖလူပစာရတို့ဖြင့် မှတ်အပ်သောဂုဏ်, အမည်, သတ္တိတို့၏တည်ရာ ဂုဏေ, အာဓာရ, သတ္တိမာန်ဖြစ်သော နန်းညွန့်နန်းလျာ ဘုန်းပညာ လက္ခဏာကောင်းရှင်ဖြစ်သော မင်းသား ရ၏။ ။ဤကား စကားချပ်တည်း။]

ထို မဟာဇနကမင်းသားသည် လိမ္မာလောက်သောအရွယ်သို့ ရောက်လတ်သော် တစ်ပါးသောသူငယ်တို့နှင့် ကစားကြသောအခါ သူငယ်တို့သည် မိမိတို့အလိုနှင့် မဆိုင်မိလျှင် သူငယ်တို့ဝလေ့အားဖြင့် ဘုရားလောင်းကို မနာလိုအောင် ချုပ်ချယ်ကြကုန်၏။ ဘုရားလောင်းမင်းသားသည် ဆောဘိုးမှဆင်းသက်၍ မ႑က်သောထီးနန်းရှင်သားမြေးဖြစ်ခြင်း ဇာတိဂုဏ်[၁၂], တစ်ပါးသောသူငယ်တို့ထက် သာလွန်၍ ခွန်အားကြီးခြင်း ကာယဗလဂုဏ်[၁၃], ဤအကြောင်း ၂ ပါး ပေါင်းယှက်၍ မာန်ခက်ထန်ခြင်းရှိသဖြင့် သူတစ်ပါးရမ်းကားသည်ကို သည်းမခံနိုင်ဘဲ ထိုချုပ်ချယ်သည့်သူငယ်တို့ကို ပြန်၍ လက်စားမချေဝံ့အောင် နာကျင်စွာ တွန်းကိုးပုတ်ခတ်လိုက်၏။ ထိုသူငယ်တို့လည်း နှုတ်ဖြင့်မျှ ဆဲဆိုခြင်းကိုမပြုဝံ့ဘဲ ငိုကာသာ နေကြကုန်၏။ သူငယ်မိဘတို့သည် သားငိုသည်ကို ကြားမြင်သဖြင့် လာ၍-

"အဘယ်သူ သတ်ပုတ်သနည်း"ဟု မေးလျှင်၊ သူငယ်တို့သည် မိဘတို့ကိုအမှီရမှ "ဤမုဆိုးမသား ငါ့ကိုသတ်သည်"ဟု ပြောကြကုန်၏။

'မုဆိုးမသား' ဟူသောစကားကို ကြားလျှင် 'ဤသူငယ်တို့ကား ငါ့ကို မုဆိုးမသားဟု နှိပ်စက်၍ဆိုကုန်ဘိ၏။ အကယ်ပင် ငါသည် မုဆိုးမသား ဟုတ်လေသလော။ ငါ့အမိကို ငါ မေးဦးအံ့'ဟုကြံလျက်၊ တစ်နေ့သ၌ မယ်တော်ကို-

"မိခင်။ အကျွန်ုပ်အဘကား အသူနည်း"ဟု မေးလေ၏။

မယ်တော်လည်း သား နှလုံးမသာရှိအံ့စိုး၍ မှန်တိုင်းမပြောဘဲ-

"ချစ်သား။ ဤပါမောက္ခဆရာသည် မောင့်ဖခင်တည်း"ဟုဆို၍ ဘုရားလောင်းမင်းသားလည်း အမိစကားကို ယုံကြည်၏။

နောက်တစ်ဖန် သူငယ်တို့နှင့် ခိုက်ရန်ဖြစ်ပြန်သဖြင့် ရှေးနည်းအတူ 'မုဆိုးမသား'ဟု သူငယ်တို့ဆိုသောအခါ-

"အဘယ့်ကြောင့် သင်တို့ ငါ့ကို 'မုဆိုးမသား' ဟု ဆိုကြသနည်း။ ဤပုဏ္ဏားသူကြွယ်သည် ငါ့အဘ မဟုတ်လော"ဟု ဆို၏။

သူငယ်တို့သည်လည်း "သင်တို့ သားအမိကား တစ်ပြည်တစ်ရပ်ကလွင့်ပါး၍ ဤ ငါတို့ပြည်သို့ ရောက်လာသည်တကား။ ဤ ပုဏ္ဏားသူကြွယ်နှင့် သင် အဘယ်တော်စပ်သနည်း"ဟု ဆိုကြကုန်၏။

ထိုစကားကိုကြားလျှင် ဘုရားလောင်းသည် 'ဤသူငယ်တို့ကား ယခု ငါ့ကို ဤသို့သောစကားဖြင့် ဆိုကုန်၏။ ထိုသူငယ်တို့စကားပင် ဟုတ်ရာမည်မသိ။ ငါ့အမိသည် မိမိတို့မိန်းမမာန်ဖြင့် ငါ့အား ဟုတ်မှန်တိုင်း မပြောသည် ဖြစ်ရာ၏။ ငါသို့သော ယောကျ်ားကိုစင်လျက် ဟုတ်မှန်တိုင်း ငါ့အမိ မပြောနေရမည်လော'ဟုကြံ၍၊ မယ်တော်မှာလည်း သားတစ်ယောက်တည်းသာရှိသည်နှင့် ဘုရားလောင်းသည် နို့စို့ချိန်အရွယ် ဟူ၍မရှိပြီ။ မယ်တော်ရင်ကြား၌သာ ကြီးရခြင်းကြောင့် တစ်နေ့သ၌ မယ်တော်၏သားမြတ်စွန်းကိုကိုင်လျက်-

"မိခင်။ အကျွန်ုပ်ဖခင်ကို အမှန်အတိုင်း ပြောလော့။ မှန်တိုင်းမပြောလျှင် သားမြတ်စွန်းကို ပြတ်အောင် ကိုက်မည်"ဟု ဆို၏။

မယ်တော်လည်း လှည့်စား၍မပြောဝံ့သောကြောင့် "ချစ်သား။ သင်ကား မိထိလာပြည်ကြီးကိုအစိုးရသော အရိဋ္ဌဇနကမင်းကြီး၏ သားတည်း"ဟုဆို၍ အလုံးစုံ ဤပြည်သို့ မိမိရောက်သည်တိုင်အောင် မခွင်းမချန် ဖြစ်ပျက်ခဲ့သမျှကို ပြန်ပြောလေ၏။

ထိုအခါမှစ၍ တစ်ပါးသောသူငယ်တို့သည် 'မုဆိုးမသား'ဟူ၍ပင် နှိပ်စက်ချုပ်ချယ်ကြသော်လည်း စိုးစဉ်း[၇၅]မျှ အမျက်မထွက်ဘဲ 'မှန်လျှင်ဆိုစေတော့'ဟု သည်းခံတော်မူ၏။ ဤသို့ ချမ်းသာစွာကစားလျက် ကြီး၍ ပညာစွဲမှတ်ချိန်ရောက်သောအခါ ထိုပါမောက္ခဆရာ့ထံ၌ပင်လျှင် ဗေဒင်ကျမ်း, ဓမ္မသတ်ကျမ်း, ဆန်း, အလင်္ကာ, သဒ္ဒါ, နီတိ အစရှိသော နှုတ်အတတ်, လက်အတတ် များစွာသောအတတ်တို့ကို သင်ကြားဆောင်ရွက်၍ ၁၆ နှစ်အရွယ်ရောက်သောအခါ၌ အတတ်သင်ခြင်း အပြီးသို့ရောက်လေ၏။

ဘုရားလောင်းသည် ၁၆ နှစ်လွန်သဖြင့် မြတ်သောအရွယ်အဆင်းကိုဆောင်လျက် အစွမ်းအားလျော်စွာ ကိုယ်ကိုထူထောင်နိုင်သောအရွယ်သို့ ရောက်လတ်သော် 'ငါ့ခမည်းတော်၏ အရိုပ်အရာဖြစ်သော မိထိလာပြည်ကို ယောကျ်ားတို့၏လုံ့လအစွမ်းဖြင့် ရအောင် ငါ သိမ်းယူအံ့'ဟု ကြံပြီးလျှင် မယ်တော်ကို-

"မိခင်။ ဥစ္စာစိုးစဉ်းမျှ မိခင်မှာ ရှိပါ၏လော။ ဥစ္စာမရှိလျှင်လည်း ကျွန်ုပ် ကုန်သွယ်သွားလာ ဖောက်ကားရောင်းဝယ်ခြင်းကိုပြု၍ ဥစ္စာရသောအခါ အဘအရိပ်အရာဖြစ်သော မိထိလာပြည်ကို သိမ်းယူလိုပါသည်"ဟု ဆို၏။

မယ်တော်လည်း "ချစ်သား။ မိထိလာပြည်မှ မိခင် ဆင်းရဲစွာထွက်လာခဲ့သော်လည်း လက်ချည်းသက်သက်လာသည် မဟုတ်။ ဆောင်လွယ်ယူလွယ် အနည်းငယ်နှင့် အဖိုးများစွာထိုက်သော ရတနာတို့ကိုယူ၍ မိခင် လာခဲ့၏။ ယခု မိခင်လက်တွင် အဖိုးပြတ်လောက်သော ရွှေကောင်း, ကျောက်ကောင်းတို့ကို ထားဘိဦး။ မောင့်ခမည်းတော် ဝတ်ဆင်မြဲဖြစ်သော ပုလဲရတနာ ၁ လုံး, မြကောင်း ၁ လုံး, စိန်ကောင်း ၁ လုံး၊ ဤ ၃ လုံးသော မျက်မြတ်ရတနာတို့သည်လည်း ပါလာကုန်၏။ ထို ၃ လုံးသော မျက်မြတ်ရတနာတို့ကို ၁ လုံးလျှင် အဖိုးမည်မျှထိုက်၏ဟူ၍ ရာပြတ်[၇၇]တို့ မပြတ်,မဆိုနိုင်ကုန်။ ဤရတနာ ၃ လုံးသည် မောင့်ခမည်းတော် လက်ထက်တွင်သာ ပေါ်ရောက်လာသည့်ရတနာ မဟုတ်။ ဘေးလောင်းတော်, ဘိုးလောင်းတော်တို့မှ ဆင်းသက်၍ နန်းစဉ်ထားသော မျက်မြတ်ရတနာနှစ် ဖြစ်သည်။ ထို ၃ ခုတွင် တစ်ခုခုသောရတနာပင်လည်း တစ်တိုင်းတစ်ပြည်မက အဖိုးထိုက်သောကြောင့် တစ်ခုခုသော မျက်မြတ်ရတနာကိုယူ၍ မောင့်ခမည်းတော် အရိပ်အရာဖြစ်သော မိထိလာပြည်ကို သိမ်းယူချေလော့။ ရောင်းဝယ်ဖောက်ကား သွားလာခြင်းကို မပြုလင့်"ဟုဆို၏။

မယ်တော်စကားကို ဘုရားလောင်းကြားလျှင်-

"မိခင်။ ယခု မိခင်လက်တွင်ရှိသည့် ဥစ္စာစုကို တစ်ဝက်ခွဲ၍ အကျွန်ုပ်အား ပေးလော့။ ထို တစ်ဝက်သော ဥစ္စာကို ပွားများအောင်ပြုလျက် သုဝဏ္ဏဘူမိတိုင်း[၇၆]သို့သွား၍ များစွာသောဥစ္စာနှစ်တို့ကို ဆောင်ယူပြီးလျှင် မိထိလာပြည်ကို ကျွန်ုပ် သိမ်းယူချေအံ့"ဟု ဆို၏။

မယ်တော်လည်း မင်းသားဆိုတိုင်း မိမိတွင်ရှိသမျှဥစ္စာကို တစ်ဝက်ခွဲ၍ ပေးလေ၏။ ဘုရားလောင်းလည်း ထိုဥစ္စာကို လုံခြုံစွာထုပ်ဖွဲ့ပြီးလျှင် သုဝဏ္ဏဘူမိသို့လွှင့်အံ့သည့် သင်္ဘောစီးကုန်သည်တို့ကို ရှာမေးသဖြင့် တွေ့၍၊ "ကျွန်ုပ်တို့နှင့်အတူပင် လိုက်ခဲ့လော့"ဟု သင်္ဘောစီးတို့ကဆိုသော်၊ ထိုဥစ္စာထုပ်ကို သင်္ဘောဆိပ်သို့ချ၍ သင်္ဘော၌ တင်ထားခဲ့ပြီးမှ မယ်တော်ဆီသို့ တစ်ဖန်ပြန်လာလတ်၍ မယ်တော်ကို ရှိသေစွာရှိခိုးလျက်-

"မယ်တော်။ ယခု သုဝဏ္ဏဘူမိသို့သွားသူ သင်္ဘောစီးကုန်သည်များ အဖော်ကြိမ်သောကြောင့် ထိုသူတို့နှင့်အတူ သုဝဏ္ဏဘူမိသို့လိုက်၍ ကုန်ကူးပါချေအံ့။ အကျွန်ုပ်ကို အနုးအညွတ်လွှတ်တော်မူပါ"ဟု ခွင့်တောင်းလေ၏။

အကျိုးတို့၏ ဥပ္ပါဒသတ္တိသည် မုချ၊ ကာရိုက်ပစ္စည်း၏ ဟေတုကတ္တြ ကြိယာကား ထိုအကျိုးအားတပ်သော သင်္ဂဟ ၄ ပါး, ရာဇဓမ္မ ၁၀ ပါး စသည်တို့ဖြင့် ကောင်းစွာကျင့်ခြင်း ဟုဆိုအပ်သော မင်းကျင့်တရား၏ ပကတူပနိဿယသတ္တိ သည် ဖလူပစာရ၊ ဏ္ဍ ပစ္စည်း၏အရကား ထို မုချဖလူပစာရတ္တတို့ဖြင့် မှတ်အပ်သော မဟာဇနကမင်း ရ၏။

[မဟာဇနေ တီဟိ ဗလေဟိ ကမတိ အတိက္ကမတီတိ မဟာဇနကော။ ။ယော ရာဇာ၊ သည်။ တီတိဗလေဟိ၊ အာဏာဗလ, ဘောဂ ဗလ, ဉာဿရိယဗလဟု ဆိုအပ်သော ၃ ပါးသောဗလတို့ဖြင့်။ မဟာဇနေ၊ တိုင်းသူလူအပေါင်းတို့ကို။ ကမတိ–အတိက္ကမတိ၊ လွန်မြောက်တတ်၏။ ဣတိ တသ္မာ၊ ကြောင့်။ သော ရာဇ၊ သည်။ မဟာဇနကော၊ မည်၏။

[ကတ္တုသာဓနေ ကိတ်ဝိဂ္ဂြိုဟ် မဟာဇနသဒ္ဒူပပဒ ကမုဓာတ်, ကွိပစ္စည်း။ ။ကမုဓာတ်အရကား မင်း၏သန္တာန သတ္တိသည် မုချ။ ကရဏတ္တကြိယာကား ထိုသတ္တိအားတပ်သော အာဏာ, လက်ရုံး, စည်းစိမ်, အခြံအရံ, အစိုးရခြင်း အသဒိသဘောဖြစ်အောင် ဘုန်း အာနုဘော်၏ ပကတူပနိဿယ သတ္တိသည် ဖလူပစာရတ္တ၊ ကွိပစ္စည်း၏ အရကား ထိုမုချ ဖလူပစာရတ္တတို့ဖြင့် မှတ်အပ်သော သတ္တိ၏တည်ရာ သတ္တိမန်ဖြစ်သော မဟာဇနကမင်း ရ၏။ ။တစ်နည်းလည်း မဟန္တော စ သော အာဇာနကော ဇာတိ မဟာဇာနကော၊ ဇာ,၌ အာ,ကို ရဿပြု။ ။မဟန္တော စ၊ မြတ်သည်လည်း။ ဟောတိ ဖြစ်၏။ သော၊ ထိုမြတ်သောသူသည်။ အာဇာနကော စ၊ အာဇာနည် ၃ ပါးထက် လွန်ကဲသော လူအာဇာနည်သည်လည်း။ ဟောတိ၊ ၏။ ဣတိတသ္မာ၊ ကြောင့်။ မဟာဇနကော၊ မည်၏။

[ကမ္မဓာရည်းသမာသ်ဝိဂ္ဂြိုဟ်။ ။မဟန္တပုဒ်, အာဇာနကပုဒ်။ ။မဟန္တောပုဒ်၏ အရကား ထီးစဉ် နန်းရိုး မင်းမျိုးစိုးနွယ်ဖြစ်သော ဇာတိမဟတ္တ, ဉာဿရိယမဟတ္တ, ဘောဂမဟတ္တဂုဏ်, အာဇာနကော ဟူသော နောက်ပုဒ်၏အရကား အဆင်း, ပညာ, အာဏာ, လက်ရုံ, ဘုန်းကျက်သရေတည်းဟူသော ဥပမိသမ္ဘတ္တိ ဂုဏ်သည် အပ္ပဓာနအား ဖြင့်ရ၏။ မဟာဇနကော ဟူသော သမာသ်ပုဒ်လုံး၏အရကား ထိုဂုဏ် ၂ ပါး၏တည်ရာ ဂုဏေဖြစ်သော မဟာဇနကမင်းသည်သာလျှင် ပဓာနအားဖြင့် ရ၏။

[မဟာဇနကဿ ဇာတော မဟာဇနကဇာတော။ တပ္ပုရိသ် သမာသ်ဝိဂ္ဂြိုဟ်။ ။မဟာဇနကဿ၊ မဟာဇနကမင်း၏။ ဇာတော၊ အဖြစ်တော်တည်း။ မဟာဇနကဇာတော၊ မဟာဇနကမင်း၏ အဖြစ်တော်။

[မဟာဇနကပုဒ်, ဇာတပုဒ်။ ။မဟာဇနကောဟူသော ရှေးပုဒ်၏အရကား မဟာဇနကမင်းရ၏။ ဇာတော ဟူသော နောက်ပုဒ်၏အရကား ခန္ဓာ ၅ ပါးတို့၏ ဥဒါရဘော ရ၏။ သမာသ်ပုဒ်လုံး၏အရကား မဟာဇနကမင်းဟု ခေါ်ဝေါ်အပ်သော သန္တာနပညတ်၏တည်ရာ ခန္ဓာ ၅ ပါးတို့၏ ဖြစ်ခြင်းသဘောသာလျှင်ရ၏။

[မဟာဇနက ဇတဿ ဥပ္ပတ္တိဋ္ဌာနံ မဟာဇနကဇာတကံ။ ။ဇာတာဒိတဒ္ဓိတ်။ ။မဟာဇနကဇာတဿ၊ မဟာဇနက ဇာတ်တော်၏။ ဥပ္ပတ္တိဋ္ဌာနံ၊ ဖြစ်ခြင်း အကြောင်းအရာတည်း။ မဟာဇနကဇာတကံ၊ အရာ။

[မဟာဇနက–ပုဒ်, ဣက–ပစ္စည်း။ ။တဒ္ဓိတ်ပုဒ်လုံး၏ အရကား မဟာဇနကမင်း၏ အဖြစ်အပျက် အနေအထိုင် အသုံးအဆောင် အပေါင်းအဖော် အစရှိသော အလုံးစုံအကြောင်းအရာ ဟူသမျှရ၏။

[မဟာဇနက ဇာတကဿဣဒံ ပကာသနံ မဟာဇနကဇာတကံ။ ရာဂါဒိတဒ္ဓိတ်။ ။ဣဒံ၊ ဤ ပြကြောင်း ဖြစ်သော ကျမ်းသည်။ မဟာဇနက ဇာတကဿ၊ မဟာဇနက မင်းကြီး၏ အဖြစ်အပျက် အကြောင်းအရာကို။ ပကာသနံ၊ ပြကြောင်းဖြစ်သော ကျမ်းတည်း။ မဟာဇနကဇာတကံ၊ မဟာဇနကဇာတ်ကျမ်း။

[တဒ္ဓိတ်ပုဒ်လုံး၏ အရကား 'ကောယံမဇ္ဈေသမုဒ္ဒသ္မိံ'အစရှိသော ဂါထာဖြင့် တန်ဆာဆင်၍ ဟောတော်မူခြင်း ဒေသနာတော်အစဉ် ရ၏။

[မဟာဇနကဇာတကတော ဥဒ္ဓရိတံ ဝတ္ထုံတိ မဟာဇနကဇာတကဝတ္ထု။ တပ္ပုရိသံသမာသ်။ ။ယံ ဣဒံ၊ အကြင်ဝတ္ထုသည်။ မဟာဇနကဇာတကတော၊ မဟာဇနက ဇာတ်ပါဠိတော်မှ။ ဥဒ္ဓရိတံ။ အနက်ကို ထုတ်၍ မြန်မာဘာသာရေးစီအပ်သော။ ဝတ္ထု၊ ထိုဇာတ်တော်၏ အကြောင်းအရာဖြစ်သော ဝတ္ထုတည်း။ ဣတိသ္မာ၊ ထို့ကြောင့်။ တံဣဒံ၊ ထိုဝတ္ထုသည်။ မဟာဇနကဇာတကဝတ္ထု၊ မဟာဇနကဇာတ်ဝတ္ထု မည်၏။

[သမာသ်ပုဒ်လုံး၏ အရကား ဤမြန်မာဘာသာဖြင့် ထုတ်စီရင်အပ်သော ဝတ္ထုရ၏။ ။ဂါထာတူ ပေါင်းဖွဲ့ဖက် ဇာတ်မရှိသောကြောင့် နိပါတ်လွတ် သန့်သန့်သီးသီးထားအပ်သော ဇာတ်ကြီး ၁၀ စောင်တွင် နေမိ, နာရဒ, ဝေဿန္တရာ ဤ ၃ စောင်ဇာတ်တို့မှာ စရိယပိဋကကျမ်း၌ လာသောကြောင့်လည်း ကောင်း၊ တစ်ပါးသော ထောက်ထားရာ ရှိသောကြောင့် လည်းကောင်း ဤကမ္ဘာ ဤအန္တရကပ်တွင်ပင် ဖြစ်သည်ဟု သိရ၏။ တေမိ, သုဝဏ္ဏသာမ, ဘူရိဒတ်, စန္ဒကုမာရ ဤ ၄ စောင် ဇာတ်တို့မှာ ၎င်းကျမ်း၌လာရကား ဤကမ္ဘာတွင် ဖြစ်သည်ဟု သိရ၏။ တစ်ပါးထောက်ထားရာ မထင်သောကြောင့် မည်သည့် အန္တရကပ်တွင် ဖြစ်သည်ဟု မသိရ။ မဟာဇနက, ဝိဓုရ, မဟောသဓ ဤ ၃ စောင်ဇာတ်တို့မှာ ၎င်းကျမ်းတွင်လည်းမလာ ထောက်ထားရာ လည်း မထင်သောကြောင့် မည်သည့်ကမ္ဘာတွင် ဖြစ်သည်ဟူ၍ အတပ်မဆိုသာဟု မှတ်အပ်၏။]

**သမဏေနေဘာသာဘိဓာနယုဝကေန ရစိတီဒံဝတ္ထု**

**မြန်မာဘာသာယ နိဋ္ဌိတံ။**

**ဇာတ်တော်ပေါင်းခန်း ပြီး၏။**

**မဟာဇနက ဇာတ်တော်ကြီးဝတ္ထု ပြီး၏။**

# မဟာဇနကဇာတ်တော်ကြီး ခက်ဆစ်အဓိပ္ပာယ်များ

၁။ ကောသလတိုင်း=ရွှေ,ငွေ ဥစ္စာဘဏ္ဍာများကို သွင်းယူရာတိုင်း။
၂။ သာဝတ္ထိပြည်=သဝတ္ထုမည်သော ရှင်ရသေ့ကြီးတစ်ပါး၏ သစ်မ်းကျောင်းနေရာ၌ တည်သောမြို့။
၃။ ကုလ ၄ တာ= ၂ တောင်ထွာ ပမာဏရှိသော အမျိုး၏လေးကိုင်းဖြင့် တိုင်းတာလျှင် ၅၀၀ ကွာသောအရပ်။
၄။ ဇေတမင်း=ရန်သူအပေါင်းကို အောင်မြင်ခိုက်တွင် ဖွားမြင်သောမင်းသား။
၅။ အနာထပိဏ်=ကိုးကွယ်ရာမဲ့သူတို့အား ထမင်းကိုပေးတတ်သောသူဌေး။
၆။ ဇေတဝန်=ဇေတမင်းသား၏ဥယျာဉ်၌ ဆောက်လုပ်အပ်သောကျောင်း။
၇။ နိက္ခမပါရမီ=နိက္ခမ(ပါဠိ) တောထွက်ခြင်း၊ ပါရမီ(ပါဠိ) မြတ်သောသူတို့၏ ဥစ္စာပစ္စည်း။
တစ်နည်း-သံသရာမှ တစ်ဘက်ကမ်း ဖြစ်သော နိဗ္ဗာန်သို့ ကူးသွားနိုင်သောတရား။
၈။ လူ ၃ ဦး=လူ, နတ်, ဗြဟ္မာ။
၉။ အသမ္ဘိန္နခတ္တိယ=မဟာသမ္မတမင်းမှစ၍ အမျိုးမကွဲ အဆက်မပြတ် ဆင်းသက်လာသောမင်းမျိုး။
၁၀။ နန်း ၃ ဆောင်= ၃ ဆောင်သော နန်းတော်ပြာသာဒ်ကြီးများ။
၁၁။ နိမိတ် ၄ ပါး=သူအို, သူနာ, သူသေ, ရဟန်း။
၁၂။ သဗ္ဗညုတဉာဏ်=အလုံးစုံသော တရားအပေါင်းကို သိတတ်သောဉာဏ်။
၁၃။ ဂန္ဓကုဋီ=ဘုရား သီတင်းသုံးတော်မူရာ မွှေးပျံ့သင်းကြိုင်သောရနံ့ရှိသော ကျောင်းတော်။
၁၄။ အတ္ထုပ္ပတ်=အတ္ထုပ္ပတ္တိ(ပါဠိ) အကြောင်းအရာ အဖြစ်အပျက်။
၁၅။ သံသရာ=ခန္ဓာ, အာယတန, ဓာတ်တို့၏ အစဉ်မပြတ်ဖြစ်နေသော တရား။
၁၆။ မဟာဘိနိက္ခမ=မြတ်သောတောထွက်ခြင်း။
၁၇။ သံဝေဂ=ထိတ်လန့်ခြင်း။
၁၈။ ဟိမဝန္တာ=ဆီးနှင်းရှိသောတောင်။
၁၉။ ဖက်လဲတကင်း=ချစ်ခြင်း,စုံမက်ခြင်း။
၂၀။ အရဟတ္တဖိုလ်=ရဟန္တာပုဂ္ဂိုလ်တို့၏ ဥစ္စာဖြစ်သော ၈ ခုမြောက်သော လောကုတ္တရာစိတ်သည် အရဟတ္တဖိုလ်စိတ် မည်၏။
၂၁။ မဟာဇနက= ကြီးမြတ်သော ကိုယ်စီးပွားသူစီးပွားကို ဖြစ်စေတတ်သောသူ။
၂၂။ မဟာသမုဒ္ဒရာ=ကြီးစွာသော ဆားငန်ရေ အမျှရေသော လှိုင်းရေလုံးကြီးများတက်သောကြောင့် မဟာသမုဒ္ဒရာ ခေါ်သည်။
၂၃။ ဝေနေယျ=ဆုံးမထိုက်သူ, ကျွတ်ထိုက်သူ။
၂၄။ ဂါထာ=ဉာဏ်၏တည်ရာ။ ဝါ-သီဆိုအပ်သော ပါဠိအဖွဲ့။
၂၅။ သာမညာ=သာမန်၊ အထူးဝိသေသ မဟုတ်။
၂၆။ နိဒါန်း=မူလအကြောင်းရင်း။
၂၇။ ရှောင်တခင်=အလျင်တဆော(ပေါ်ရာဏ)။
၂၈။ ဝိဒေဟရာဇ်=ဝိဒေဟ။ ဝိ၊ ထူးခြားသော။ ဒေဟ၊ ကိုယ်ခန္ဓာ။ ရာဇ၊ မင်း။ ထူးခြားသော ကိုယ်တင့်တယ်ခြင်းရှိသော မင်း၏စိုးပိုင်ရာတိုင်းပြည်။
၂၉။ မိထိလာပြည်=ရန်သူတို့ကို နှိပ်စက်တတ်သောပြည်။
၃၀။ သေနာပတိ=စစ်သည်တို့အရှင်၊ စစ်သူကြီး။
၃၁။ ဖုတ်ကြည်းသင်္ဂြိုဟ်=သုသာန်သချိုင်းတွင် သေသူ၏အလောင်းကို မီးရှို့ခြင်း၊ ထိုကဲ့သို့ဆောင်ရွက်ရာတွင် ကူညီပိုင်းဝန်းခြင်း။
၃၂။ မြို့ကိုဆေးသန့်=ဤအရာမျိုးကိုရည်၍ ကဝိလက္ခဏာသတ်ပုံ၌ 'စင်သန့်သနွေး၊ မြို့တော်ဆေး၊ ရေအေးပက်တော့သည်'ဟုစပ်၏။
၃၃။ အန္တရာယ=အန္တရာယ်၊ အကြား၌ ရောက်တတ်သောဘေးရန်။
၃၄။ ချောစား=မဟုတ်မမှန်သည်ကို အမှန်ကဲ့သို့ ပြုလုပ်ပြောဆိုကာ အချစ်ပျက်အောင် ကုန်းတိုက်ခြင်း။
၃၅။ ရာမောန်=မင်း၏ တက်ကြွထောင်လွှားသော စိတ်မျိုး။
၃၆။ ကောဓေး=ကြမ်းကြုတ်သော အမျက်ဒေါသသည်။ အတ္ထ=အကျိုးအကြောင်း အဆိုအကောင်းကို။ နဇာနာတိ=မသိ။

၃၇။ နိသမ္မဉာဏ်=ဆင်ခြင်စူးစမ်း ထောက်လှမ်းမြော်မြင်တတ်သောဉာဏ်။
၃၈။ မြို့ဝန်,မြို့ကွပ်=ရှင်း ၂ ချက် အတူတူပင် ဖြစ်၏။ ထို့ကြောင့် ကုသပျို့သစ်၌ 'ပြည်ထဲအရေး၊ ရှေးမြို့ကွပ်ခေါ်၊ နောက်သော်တွင်ပြန်၊ ရွှေမြို့ဝန်တို့'ဟု မုံရွေးဆရာတော်ကြီး စပ်ဆို၏။
၃၉။ အိမ်ဆိုး=လူကောင်းသူကောင်းတို့ နေထိုင်သုံးဆောင်ခြင်းငှာ မထိုက်သော ဆိုးဝါးသောအချုပ်ထောင်ကို အိမ်ဆိုး။
၄၀။ ပစ္စန္တရစ်=အဝန်း ၉၀၀ ရှိသော မဇ္ဈိမဒေသမှ အပြင်အပဖြစ်သောအရပ်။
၄၁။ သစ်တပ်=သစ်သားတို့ဖြင့် တည်သောတပ်။
၄၂။ ၃ ပါးသောကံ=ကိုယ်မှု, နှုတ်မှု, စိတ်မှု။
၄၃။ ပဋိသန္ဓေ=တစ်ဘဝနှင့်တစ်ဘဝ အဖန်ဖန် ချုပ်တတ်စပ်တတ်သော တရားသဘော။
၄၄။ သူရဲ=သူရ-ရဲရင့်သူ။
၄၅။ သူခက်=ခက်ခဲကြပ်တည်းလှသော တိုက်ပွဲတို့၌ နိုင်အောင်တိုက်ခိုက်နိုင်သော စစ်သား။
၄၆။ စစ်မှူး,စစ်ကြပ်=စစ်သည်တပ်သားတို့အပေါ် အမှူးအကြီးအကဲပြုသော အရာရှိ။
၄၇။ အုတ်အုတ်ကျက်ကျက်=ဆူဆူညံညံ သူတစ်မျိုး,ငါတစ်ဖုံ လူအများပြောဆိုကြသော စကားသံ။
၄၈။ ဣင်္ဂိတဉာဏ်=အမူကိုစွဲဟူသမျှ၌ သင့်,မသင့် တော်,မတော် ရှုမြော်တတ်သောဉာဏ်။
၄၉။ ဒေါသာဂတိ=အမျက်ထွက်သဖြင့် မလားအပ်, မပြုအပ်သည်ကို လားခြင်းပြုခြင်း။
၅၀။ ကာလစမ္ပာနဂိုရ်=မည်းနက်သော စကားပင်ရှိသောမြို့။
၅၁။ ဘုန်းသမ္ဘာ=ဘုန်းကံအဆောက်အဦ။
၅၂။ အာနဘော်=တန်ခိုးအာနုဘော်။
၅၃။ ပဏ္ဍုကမ္ဗလာ=ဖျော့တော့သောအဆင်းရှိသော ကမ္ဗလာနှင့်တူသော သိကြားမင်း၏ ကျောက်နေရာ။
၅၄။ ရထားပေါင်းချုပ်=အမိုးအကာရှိသော ဗိရိုရထားလုံး။
၅၅။ ညောင်စောင်း=ခုတင်။
၅၆။ တပြီးကား=သည်လိုဖြင့်၊ သလိုဖြင့်။
၅၇။ ရထားနောက်မြိတ်=ရထားနောက်မြီးစွန်း။
၅၈။ ပြကတေ့=ပင်ကိုမူလသဘော။
၅၉။ မြို့=မြို့ရိုး, မြို့တံတိုင်းတို့ကို ဤနေရာ၌ မြို့ ဟုယူဆရမည်။ မြေမြို့ရိုး, အုတ်မြို့ရိုး စသည်ဟူ၍မှတ်။
၆၀။ ပြ=မြို့ရိုးပတ်လည် တံခါးတို့၏အကြားအကြားတို့၌ ဘုံ ၂ ဆင့်, ဘုံ ၃ ဆင့် စသည်ဖြင့် မြို့တွင်းရှိ အကွက်လမ်းတို့ကို ပြည့်ရှုနိုင်ရန် ပြုလုပ်ထားသောအရာ။
၆၁။ ပစွင်=တံခါးအပေါ်က ပြာသာဒ်ကြီး။
၆၂။ ရင်တား=ရန်တားထားသောနေရာ။ တစ်နည်း၊ အမြောက်,သေနတ်,လက်နက်ပစ်ခတ်ရန် ရင်ပတ်ခန့်မြင့်အောင် ကာထားသောအရာ။
၆၃။ တံခါးမုခ်=သွားလာဝင်ထွက်ရာ အပေါက်ဝတွင် စရွေးစွပ်လျက် ပိတ်လို,ဖွင့်လိုသောအခါ လည်၍ ပိတ်နိုင်,ဖွင့်နိုင်သောအရာ။
၆၄။ ဗြာဟ္မဏ မဟာသာလ=ဗြာဟ္မဏမဟာသာလ ပုဏ္ဏားမျိုး၊ များသောဥစ္စာနှစ်ရှိသောအမျိုး။
၆၅။ အမျိုး ၄ ပါး=မင်းမျိုး, ပုဏ္ဏားမျိုး, သူဌေးမျိုး, သူဆင်းရဲမျိုး။
၆၆။ ဥဒိစ္စပုဏ္ဏား=မြင့်မြတ်ထင်ရှား ကျော်စောသောပုဏ္ဏား။
၆၇။ ဒိသာပါမောက္ခ=အရပ် ၄ မျက်နှာ, အရပ် ၈ မျက်နှာမှ လာသမျှသောသူတို့၏ အတတ်သင်ရာဆရာကြီး။
၆၈။ ကာလလျားစွာ=ကာလရှည်ကြာစွာ။
၆၉။ ဗြဟ္မစိုရ်=ဗြဟ္မစရိယ-မြတ်သောအကျင့်။
၇၀။ ထောင်ထား၍=ထကြွပုန်ကန်၍၊ ခြားနား၍။
၇၁။ ကြည်နူး=လွမ်းဆွတ်ဝမ်းနည်းခြင်း။
၇၂။ ဇာတိဂုဏ်=အမျိုးဇာတိဂုဏ်။

၇၃။ ကာယဗလဂုဏ်=ကိုယ်အင်အား ကြီးမားသန်စွမ်းသောဂုဏ်။
၇၄။ စိုးစဉ်း=အနည်းငယ်။
၇၅။ ရာပြတ်=စိန်ကျောက်တို့ကို အကဲတန်ဖိုးဖြတ်သူ။
၇၆။ သုဝဏ္ဏဘူမိတိုင်း=ရွှေထွက်သောမြေရှိသောတိုင်း။
၇၇။ နာလေ၏=ဖျားနာလေ၏။
၇၈။ ဥပဒ်=ဘေးရန်။
၇၉။ လင်းယဉ်တိုင်=သင်္ဘောရွက်တိုင်။
၈၀။ မကန်း=မကရ်းခေါ်သော ရေသတ္တဝါတစ်မျိုး။
၈၁။ တစ်ဥသဘ=နွားလားတစ်တွန်၊ အတောင် ၁၄၀ ကွာ၏။
၈၂။ မြခံ့လောက်=မြသား ဖိုခနောက်။
၈၃။ စတုလောကပါလ=လောကကိုစောင့်ကုန်သော နတ်မင်းကြီး ၄ ပါး။ ဓတရဋ္ဌ, ဝိရူဠက, ဝိရူပက္ခ, ကုဝေရ။
၈၄။ မဏိမေခလာ=ပင္လယ်ပြားခါးကြိုးတန်ဆာ ဝတ်ဆင်သော နတ်သမီး။
၈၅။ ရဲရဲစူးစူး=ရဲဝံ့စွာ လိုရာသို့ရောက်စေအံ့ဟု မြဲမြဲစူးစိုက် နှလုံးပိုက်ခြင်း။
၈၆။ ကိုယ့်ဆန္ဒ=မိမိလိုလားခြင်း, တောင့်တခြင်း။
၈၇။ စကားတုံ့ပြန်=တစ်ဖန် စကားပြန်ပြောခြင်း။
၈၈။ အစောက်=အနက်, အစောက်။
၈၉။ အပြော=အကျယ်အဝန်း။
၉၀။ ကံကြမ္မာ=ကုသိုလ်ကံ, အကုသိုလ်ကံ၊ ကောင်းသောကံ, မကောင်းသောကံ။
၉၁။ လူပျင်းလူတန်=တစ်စုံတစ်ခုသောအလုပ်၌ အားမထုတ်ဘဲ ပျင်းရိပေါ့တန်နေတတ်သောသူ။
၉၂။ ရုက္ခစိုး=သစ်ပင်ကို စိုးမိုးပိုင်ဆိုင်သောနတ်။
၉၃။ အပြစ် ၆ ပါး=မြင့်လွန်း, နိမ့်လွန်း, မည်းလွန်း, ဖြူလွန်း, ကြုံလွန်း, ဆူလွန်း ဟူသော အပြစ် ၆ ပါး။
၉၄။ ကောင်းခြင်း ၅ ဖြာ=အရေ၏ကောင်းခြင်း, အသား၏ကောင်းခြင်း, အရိုး၏ကောင်းခြင်း, အရွယ်၏ကောင်းခြင်း, ဆံပင်၏ကောင်းခြင်း။
၉၅။ သလွန်=အခြားနေရာတို့ထက် သာလွန်၍မွန်မြတ်နိုးအပ်သည် ဖြစ်သောကြောင့် 'သာလွန်'ခေါ်ရာက ကာလကြာ၍ 'သလွန်'။
၉၆။ ငါအရိပ် လွဲတော်မူလျှင်=ထီးနန်းစည်းစိမ်ကို စွန့်ခွာ၍ ဘဝတစ်ပါး ပြောင်းသွားလျှင်။
၉၇။ ကာယဗလ=ကိုယ်စွမ်းအင်အား။
၉၈။ ဉာဏဗလ=အသိဉာဏ်ပညာအင်အား။
၉၉။ သားရဲရုပ်=ခြင်္သေ့,သစ်,ကျား စသော ရဲရင့်သောသတ္တဝါတို့၏အရုပ်ကို သားရဲရုပ်။
၁၀၀။ အင်္ဂါ ၄ ပါး=သမီးတော်နှစ်သက်ခြင်း အင်္ဂါတစ်ပါး, ကာယဗလအင်္ဂါတစ်ပါး, ဉာဏဗလ အင်္ဂါ ၂ ပါးတည်း။
၁၀၁။ ဥတုဇ=အအေး, အပူဟူသော တေဇောဓာတ်၊ ဥတုကြောင့်ဖြစ်သောရုပ်။
၁၀၂။ လွှတ်=ထီးလိုမင်းလိုမင်းသည် နောင်တော်တို့အား ပြည်ထဲရေးကို စီမံရန် လွှဲအပ်ခွင့်လွှတ်ရာ ဖြစ်သောကြောင့် 'လွှတ်'ခေါ်၏ဟု ရှေးဘုံဒါန်း၌ ဆို၏။ တစ်နည်း-ပူဇော်ခြင်းကိုပင် 'လွှတ်'ခေါ်၏။
၁၀၃။ ဗလ ၃ တန်=ကိုယ်အား,ဉာဏ်အား,စည်းစိမ်အား။
၁၀၄။ ခဲလှ၏=ခဲယဉ်း၏။
၁၀၅။ ငံ့လင့်=ဆိုင်းငံ့လင့်စားခြင်း, စောင့်စားမျှော်လင့်ခြင်း။
၁၀၆။ ဂုဏ်မဲ့သောသူတို့၏ သွားခြင်းဖြင့် အလျင်တဆောသွား၍၊ စစ်သူကြီးသည် စစ်သူကြီးနှင့်မတန်သော အမူအရာကို ပြုသောကြောင့် ဆိုသည်။
၁၀၇။ အရိပ်မတိုရအောင်=ဂုဏ်မငယ်ရအောင်။
၁၀၈။ ပုရောဟိတ်=ပြည်၏အကျိုးစီးပွားကို ဆောင်တတ်သောသူ။

၁၀၉။ ဖုဿရထား=ဖုဿနက္ခတ်နှင့်ယှဉ်၍ စီရင်အပ်သော ရထား။ ဖုတ်သွင်းရထား။

၁၁၀။ မင်းမြောက်တန်ဆာ ၅ ပါး=သားမြီးယပ်, သင်းကျစ်, သန်လျက်, ခြေနင်း, ထီးဖြူ။

၁၁၁။ ကုမုဒြာကြာပွင့်=ပဒုမာကြာ၊ ဝါ-ကြာဖြူ။ ကု-မြေ၌။ မုဒ-ရွှင်လန်းပေါက်ရောက်တတ်သောကြာ။

၁၁၂။ စိုင်လျော်ရွှေမွေး=နံ့သာရောင်တွင် နေရောင်ဟပ်သဖြင့် ရွှေကဲ့သို့ တလျှပ်လျှပ်နေသည့်အရောင်။

၁၁၃။ ယာဉ်=ရထား။

၁၁၄။ ဗလဝါမုခဝ်=ကတော့ကြီးသဖွယ် ကြီးကျယ်သောမျက်နှာဝရှိသော ဝဲ။

၁၁၅။ 'ထိန့်ထိန့်ရှင်မျှ='သံမြတ် သာအိန့်၊ ဤသို့မိန့်၏၊ ကျော်ထိန့်အုံဖွယ်'(၉ ခန်း။) 'ချိုလေးသာအိန့်၊ နှုတ်တော်မိန့်၊ ထိန့်ထိန့် ကျော်သံဝေ'(ကဝိလက္ခဏ။)

၁၁၆။ လက္ခဏာ=အမှတ်အသား။

၁၁၇။ ကလူကစားဘိ၏= 'ကလုန်၊ သနားစဖွယ်။ ပရိဒေဝယိ၊ ငိုကြွေးရှာလေပြီ'စသည်ဖြင့် ဇာတ်တော်များ၌ပါ၏။ ရှေးမြန်မာစာပေတို့၌ 'နှစ်ပါးအတူ-ကလူကျီစယ်၍ နေကုန်၏'စသည်ဖြင့် ရေးလေ့ရှိကုန်၏။ နဝဒေးကြီး၏ ရတု၌လည်း 'ကလူ၏သို့-မြူ၏သို့'ဟု အသုံးချထားသည်ကို တွေ့ရလေသည်။

၁၁၈။ ပမာဏမပြုဘဲ=နှိုင်းယှဉ်ကြောင်းမပြုဘဲ။

၁၁၉။ ရာဇပလ္လင်=မင်းတို့ ထက်ဝယ်ဖွဲ့ခွေ ထိုင်နေတော်မူရာ။

၁၂၀။ လက်အုပ်ကြာမုံ=လက်အုပ်ချီခါ ကြာပန်းငုံကဲ့သို့ပြု၍။

၁၂၁။ ကျိုးနွံစေား=ရိုသေတုပ်ဝပ်စွာ နေခြင်း။

၁၂၂။ ဥပေါသထဆင်=ရန်သူတို့ကိုကပ်၍ ပူပန်စေတတ်သောကြောင့် ဥပေါသထ မည်၏။ အစွယ် ၂ ချောင်း ညီစွာရှည်၏။ အမြီးနှင့် နှာမောင်း ညီ၏။ ကောင်းကင်သို့ ပျံနိုင်၏ တောဆင် ၁၀ စီးအားကို ဆောင်နိုင်၏။

၁၂၃။ ရွှေသျှောင်ကျင်=ရွှေမောင်းတော်။

၁၂၄။ အိပ်ဖန်=အိပ်ဖန်တော်စောင့်၊ စက်တော်ခေါ်ရာတွင် စောင့်ရသူများ။

၁၂၅။ ညဥ့် ၃ ယံ=ညဥ့်ဦးယံ, သန်းခေါင်ယံ, မိုးသောက်ယံ။

၁၂၆။ ပစ္စေကဗုဒ္ဓါ=ပစ္စေက-အသီးအခြား။ ဗုဒ္ဓ-ဘုရား။ သီးခြားပွင့်သော ဘုရားငယ်။

၁၂၇။ ဥဒည်တောင်=နေတက်တောင်၊ နေထွက်တောင်။

၁၂၈။ အတ္တဂံမတောင်=နေဝင်တောင်။

၁၂၉။ နှယ်တာလရာသီ=ဝါဆိုလ။

၁၃၀။ မလေးပွား=မလေးအစစ်ကို အခါခပ်သိမ်းရရန် ခဲယဉ်းသောကြောင့် မလေးပန်းအတုပွားအောင် ပြုထားသည်ကို ဆို၏။ မြတ်လေးဟုလည်း ခေါ်ရိုးရှိ၏။

၁၃၁။ စတုမဓု=ပျားရည်, ဆီကြည်, ထောပတ်, တင်လဲ ၄ ဦးပေါင်းသော အရသာ။

၁၃၂။ ဥကင်=မြင့်မြတ်သော နေရာ။

၁၃၃။ ယုဂန္ဓိုရ်=နေ,လ,အစုံကို ဆောင်တတ်သောတောင်။ [နေ,လထွက်ရာ ကောင်း ကင်အရပ်နှင့် အညီအမျှမြင့်မားသော တောင်။]

၁၃၄။ နံနက် ၄ ချက်တီးကျော်=စက်နာရီ နံနက် ၉ နာရီအတွင်းမှတ်၊ နေဝင် ၆ နာရီမှ နေထွက် ၆ နာရီကို ၄ စုပြု၍ တစ်စု တစ်နာရီ-ပေါင်း ည ၄ နာရီ၊ နေ့လည်းအတူ။

၁၃၅။ မဟာကုသိုလ်=မဟာ-မြင့်မြတ်ကြီးကျယ်သော။ ကုသလ-အပြစ်မရှိ ကောင်းသော အကျိုးပေးခြင်း လက္ခဏာရှိသော တရား။

၁၃၆။ သောမနဿ သဟဂုတ်=ဝမ်းမြောက်ခြင်းနှင့်တကွ ဖြစ်သော်သဘော။

၁၃၇။ စော=အဟုန်ပြင်းစွာ ဖြစ်သောစိတ်၊ စိတ်အဟုန်။

၁၃၈။ စိတ္တုပ္ပါဒ်-စိတ္တ-စိတ်။ ဥပ္ပါဒ-ဖြစ်ကြောင်း စေတသိက်။

ပန်းရွှေပြည်တအုပ်ထိုက်

၁၃၉။ ဘဝင်=ဘဝ+အင်္ဂ၊ ဘဝ၏အစိတ်အပိုင်း။

၁၄၀။ ခဏိကာပီတိ=ခဏိက–ခဏချင်း။ ပီတိ–နှစ်သက်ရွှင်လန်းခြင်း။

၁၄၁။ ခုဒ္ဒကာပီတိ=ခုဒ္ဒက–သေးငယ်သော။ ပီတိ–နှစ်သက်ရွှင်လန်းခြင်း။

၁၄၂။ ရာဇဓမ္မ ၁၀ ပါး=‘လှူ,ကျင့်,စွန့်ကြဲ၊ မညည်းဆဲနှင့်၊ ဖြောင့်စွဲ,နူးညံ့၊ မဆန့်,ကင်းပ၊ မြေမျှသည်းခံ၊ မြီးခြံအသင့်၊ ဤ ၁၀ ဆင့်၊ မင်းကျင့်တရားမှတ်’။

၁၄၃။ သင်္ဂဟ ၄ ပါး=‘၁–အခွန် ၁၀ ဖို့ ၁ ဖို့ခွဲယူ၊ ၂–မှူးထမ်းသူကို ကြည်ဖြူပေးကမ်း၊ ၃–ငြိမ်းချမ်းသာယာ ပြောကာစကား၊ ၄–တိုးပွားကင်းပ ချေးငှားက ‘၄’ ဝ ချီးမြောက်နည်း’ဟုမှတ်။

၁၄၄။ နာယကဂုဏ် ၆ ပါး=‘ထကြွ,နိုးကြား၊ သနား,သည်းခံ၊ ဝေဖန်,ကြည့်ရှု၊ ကြောင်း ၆ ခု၊ ကြီးသူ့ကျင့်ရာ တရားတည်း။

၁၄၅။ ဒီဃာဝု=အသက်ရှည်သောမင်း။

၁၄၆။ သုစာဘုတ်=သုစာ(ပါဠိ) ကောင်းစွာစီရင်အပ်သော။ ဘုတ်–ဘုတ္တ(ပါဠိ)စားခြင်း။ ဝါ၊ စားအပ်သောအစာ။

၁၄၇။ ရသတဏှာ=အရသာ၌ တပ်မက်ငြိအပ်သော တဏှာ။

၁၄၈။ အာလယ=အလိုအာသာ ငြိကပ်သောတဏှာ။

၁၄၉။ စနောင့်စနင်း=အရှက်, အခက်ကျိုးပြတ်၍ ဖရိုဖရဲရှိခြင်း, ကြည့်ရှုမကောင်းခြင်းကို ဆိုလိုသည်။

၁၅၀။ ဒန်ပူ=သွားဖြူစင်ကြောင်းအရာ။

၁၅၁။ အရပ်မျက်နှာတို့၏ ထီး=အရပ် ၄ မျက်နှာရှိ, အရပ် ၈ မျက်နှာရှိ လူအပေါင်းတို့၏မှီခိုရာ။

၁၅၂။ မြေကြီးသေဠှနင်း=မြေရှိလူအပေါင်းတို့ထက် မြတ်သောမင်း။

၁၅၃။ သီလက္ခန္ဓ=သီလအစု။

၁၅၄။ လောကန္တရိက်=လောကဓာတ်ကျယ်ဝန်း ၄ ကျွန်း ၁ မြင့်မိုရ် ထိုထိုစကြဝဠာတို့၏အကြား၌ တည်သော ငရဲ။

၁၅၅။ ကျုံး ၃ ထပ်=ရေကျုံး, ညွန်ကျုံး, အခြောက်ကျုံး။

၁၅၆။ မျက် ၉ ပါး=ပတ္တမြား, ကြောင်မျက်ရွဲ, ဂေါမုတ်, ဥဿဖယား, မဿာရဂလ်, မြ, စိန်, နီလာ, ပြရိုးယား။

၁၅၇။ အင်းပျဉ်=ညောင်စောင်းတစ်မျိုး။

၁၅၈။ စုလျား=အပေါ်တင်အဝတ်။

၁၅၉။ ခေါမ=ခေါမ ဟူသောအမည်ဖြင့် ချည်ကိုလည်းကောင်း, ပုဆိုးကိုလည်းကောင်း, အီဂျစ်ပြည်–ခေါမတိုင်းကိုလည်းကောင်း, ပါဠိကျမ်းဂန်တို့၌ ခေါ်လေ့ရှိကုန်၏။

၁၆၀။ ကောဋုမ္ဗရာဇ်=ကောဋုမ္ဗရ တိုင်းမှဖြစ်သော အဝတ်ပုဆိုး။

၁၆၁။ အာဇာနည်=အကျိုးအကြောင်းကို လွန်စွာသိတတ်သော မြင်းမျိုး။

၁၆၂။ သိန္ဓောမျိုး=သိန္ဓုအရပ်, သိန္ဓုသမုဒ္ဒရာ၌ဖြစ်သော မြင်းမျိုး။

၁၆၃။ မိန်ညို–လက်ရှည်စစ်ဝတ်တန်ဆာအညို။

၁၆၄။ ချပ်=အချပ်ချပ်အထပ်ထပ် ငါးကြေးပတ်, နဂါးကြေးခွံ စသည်တို့ကဲ့သို့ပြုထားသော စစ်ဝတ်တန်ဆာ။ (သံကိုလုပ်၍ သံချပ်အင်္ကျီစသည်ဖြင့် ခေါ်ပြန်၏။)

၁၆၅။ ကာ=စစ်တက်သူတို့ သုံးသည်။ လက်ဝဲကိုင် လက်နက်ကာသည့်တန်ဆာ။

၁၆၆။ ဆိတ်ကုလား=သိုး။

၁၆၇။ မြားတောင့်=မြားထည့်သောပုံး။

၁၆၈။ ကာသိကရာဇ်=ထွန်းပတတ်သော တိုင်း။

၁၆၉။ ဦးပြည်း=ခေါင်းတုံး။

၁၇၀။ ဒုကုဠ်=၂ ထပ်သင်္ကန်းကြီး။

၁၇၁။ ပုံသုကူ=မြေမှုန့်အလိမ်းလိမ်းကပ်သော အဝတ်တို့ကို ချုပ်စပ်၍ ပြုအပ်သောသင်္ကန်း။

၁၇၂။ ကာမသံယောဇဉ်=သံယောဇဉ် ၁၀ ပါးတို့တွင် တစ်ပါး။ ကာမဂုဏ်တရားဖြင့် သတ္တဝါတို့ကို သံသရာဝဋ်ဆင်းရဲ၌ မလွတ်အောင် နှောင်ဖွဲ့တတ်သောတရား။

၁၇၃။ နေက္ခမ္မဝိတက်=တောထွက်ရန် အကြံအစည်။

၁၇၄။ တဒင်္ဂပဟာန်=တဒင်္ဂပဟာန(ပါဠိ) ထိုထိုမဟာ ကုသိုလ်အင်္ဂါဖြင့် ကိလေသာတို့ကို ပယ်ခြင်း။

၁၇၅။ ဥပါဒါန်=ပြင်းစွာစွဲလမ်းတတ်သော တရား။

၁၇၆။ သမဏပရိက္ခရာ=ရဟန်းတို့၏အသုံးအဆောင်။ (ဓာသိ, ခါးဝတ်သင်းပိုင်, ၂ ထပ်သင်္ကန်းကြီး, သပိတ်, ခါးပန်းကြိုး, ရေစင်, သင်တုန်းဓား, အပ်)

၁၇၇။ ဆတ္တာသည်=ခေါင်းရိတ်သောသူ။

၁၇၈။ ဥပါယ်တမျဉ်=လှည့်ပတ်သော အကြောင်းအချက်တစ်ခု ဟု ဆိုလို၏။

၁၇၉။ အိမ်ဆိုး, ဇရပ်ဆိုး=ဤ၌ အဆွေးအဟောင်းသက်သက်ကို ဆိုလိုသည်။

၁၈၀။ မျက်မျိုး=ကျောက်မျက်ရတနာမျိုး။

၁၈၁။ ခံလောက်စိမ်း=သံမဏိ။

၁၈၂။ သလွဲစင်=ခဲ။

၁၈၃။ ဝတ္ထုကာမ=ဘုံ ၃ ပါး၌ဖြစ်သော တရားမှန်သမျှ ဝတ္ထုကာမ မည်၏။

၁၈၄။ ကိလေသာကာမ=ကာမရာဂပင်တည်း။ ကာမရာဂဟူသည်-ဝတ္ထုကာမ၌ တပ်မက်သော တဏှာပင်တည်း။

၁၈၅။ ဥသဘ ၄၀ မျှလောက်=ကိုက် ၂၀၀၀ မျှလောက်။

၁၈၆။ ဖီလာဖြတ် အရေးသားတော်မူခဲ့မည်=ကန့်လန့်ဖြတ် မျဉ်းကြောင်း ဆွဲတော်မူခဲ့မည်။

၁၈၇။ ရာဇဒဏ်=မင်းပြစ် မင်းဒဏ်။

၁၈၈။ အဘိညာဉ် ၅ ပါး=ဒိဗ္ဗစက္ခု-နတ်မျက်စိကဲ့သို့ မြင်နိုင်ခြင်း, ဒိဗ္ဗသောတ-နတ်နားကဲ့သို့ ကြားနိုင်ခြင်း, ပရစိတ္တဝိဇာနန သူ့စိတ်အကြံကို သိနိုင်ခြင်း, ဣဒ္ဓိဝိဓ-အထူးထူးအပြားပြား ဖန်ဆင်းနိုင်ခြင်း, ပုဗ္ဗေနိဝါသာနုဿတိ-ရှေး၌ မိမိဖြစ်ခဲ့ဖူးသည်ကို သိနိုင်ခြင်း, ပဥ္စမဈာန်နှင့်တကွဖြစ်သော ပညာသည် အဘိညာဉ်မည်၏။

၁၈၉။ ဈာန်=စူးစူးစိုက်စိုက် ကပ်၍ရှုတတ်သော တရား။

၁၉၀။ သမာပတ်=ကောင်းစွာဝင်စားခြင်း။ သမာပတ် ၈ ပါး ရှိ၏။

၁၉၁။ ဝိက္ခမ္ဘနပဟာန်=မဟဂ္ဂုတ်ဈာန်တရားဖြင့် နီဝရဏတရားတို့ကို ခွါတွက်ပယ်ရှားခြင်း။

၁၉၂။ ကမ္မဋ္ဌာန်း=ကမ္မဋ္ဌာန(ပါဠိ) 'အလုပ်စခန်း'။

၁၉၃။ ဗြဟ္မဝိဟာရ=မြတ်သောနေခြင်း၊ တစ်နည်း-ဗြဟ္မာတို့၏နေခြင်း၊ မေတ္တာ-ချစ်ခြင်း၊ ကရုဏာ-သနားခြင်း၊ မုဒိတာ-ဝမ်းမြောက်ခြင်း၊ ဥပေက္ခာ-လျစ်လျူရှုခြင်း။

၁၉၄။ ပဉ္စင်္ဂသီလ=အင်္ဂါ ၅ ပါးနှင့် ပြည့်စုံသော သီလအကျင့်။

၁၉၅။ အဋ္ဌင်္ဂသီလ= ၈ ပါးသောအင်္ဂါနှင့် ပြည့်စုံသော သီလ။

၁၉၆။ ဒသင်္ဂသီလ= ၁၀ ပါးသောအင်္ဂါနှင့် ပြည့်စုံသော သီလ။

၁၉၇။ ကသိုဏ်းပရိကံ=ကသိဏပရိကမ္မ(ပါဠိ) ကသိဏ-အကြွင်းမဲ့ရောက်ခြင်း အပ္ပနာကို ပြုပြင်တတ်သော, အပ္ပနာ၏ အစဖြစ်သော ကာမာဝစရဘာဝနာသည် ပရိကံမည်၏။

၁၉၈။ ကုသိုလ်ကမ္မပထ ၁၀ ပါး=ကောင်းမှုလမ်းကြောင်း ၁၀ ပါး၊ မသတ်, မခိုး, မှား၍မကျင့်, မမှန်မပြော, ကုန်းတိုက်မပြော, ကြမ်းတမ်းမဆို, ပြိန်ဖျင်းမပြော, သူ့ဥစ္စာကို တပ်မက်၍မကြံ, ပျက်စီးကြောင်းမကြံ ကောင်းသောအမြင် ဤ ၁၀ ပါး။

၁၉၉။ မိဂါစိန်=မိဂ-အစိန(ပါဠိ) မိဂ-သားသတ္တဝါ၊ အစိန-အရေ၊ သစ်နက်, သစ်ဆင်, သစ်ကျူတ်တို့ကဲ့သို့သော သားတစ်မျိုး အရေ၊ ရှေးဆရာအချို့လည်း သစ်နက်မည်သော သစ်ပင်၏အခေါက်လျှော်တေဟု ယူ၏။

၂၀၀။ ပုထုဇဉ်=ကိလေသာကို များစွာဖြစ်စေသူ။

၂၀၁။ ပဝေဏီ=အလေ့အလာ အစဉ်။

၂၀၂။ ကမ္မဝါဒီ=ကံ ဟု ယူဆပြောဆိုလေ့ရှိသူ။

၂၀၃။ အာသဝက္ခယ ဝိဇ္ဇာ=အာသဝေါတရား ၄ ပါး ကုန်ပြီးသော အဘိညာဉ်ရှိသူ။

၂၀၄။ တစေ=အမြဲ။

၂၀၅။ ပလိဗောဓ=(ပါဠိ) ကြောင့်ကြမှု။

၂၀၆။ ဒုစရိုက်=မကောင်းသော အလေ့အကျင့်။

၂၀၇။ ၄ ဖြာသောအပါယ်=ငရဲ, တိရစ္ဆာန်, ပြိတ္တာ, အသုရကာယ်။

၂၀၈။ ဓမ္မိယလဒ္ဓ=တရားသဖြင့် ရအပ်သောပစ္စည်း။

၂၀၉။ ဓမ္မကရိုဏ်=ရေစစ်ကိရိယာ။

၂၁၀။ မီးမယ်ဖျူး=မီးလင်းဖို၊ မီးအိုးကင်း။

၂၁၁။ ပအုံးရည်=ပုန်းရည်။

၂၁၂။ သုဂတိ=ကောင်းသောသူတို့၏ လားရာဘုံ။

၂၁၃။ ဖြဟ္မပါရိသဇ္ဇာ=မဟာဖြဟ္မာတို့၏ အလုပ်အကျွေးများနေရာဘုံ။

၂၁၄။ ဝေဟပ္ဖိုလ်=ကြီးကျယ်သော ကောင်းကျိုးရှိသူတို့၏ ဖြစ်ရာဘုံ။

၂၁၅။ အဂ္ဂသာဝိကာ=ကြီးမြတ်သော တပည့်မ။

၂၁၆။ ဥပ္ပလဝဏ်ထေရီ=ကြာညိုအဆင်းရှိသော ရဟန်းမ။

၂၁၇။ ဗိမ္ဗိသာရ=ရွှေစင်အနှစ်ကဲ့သို့ တင့်တယ်သောမင်း။

၂၁၈။ နန္ဒိရာဂ=နှစ်သက်တပ်မက်လှသော တဏှာ။

၂၁၉။ ဓမ္မပဋိသမ္ဘိဒါနိပ္ပါဘိညာ=လျှင်သောပဋိသမ္ဘိဒါအဘိညာ။

၂၂၀။ ဓမ္မဘဏ္ဍာဂါရိက=တရားဘဏ္ဍာစိုး။

၂၂၁။ ဗိမ္ဗာထေရီ=ရွှေအဆင်းကဲ့သို့ တင့်တယ်သော ရဟန္တာထေရီမ။ (ယသောဓရာ ထေရီမကို ဆိုလိုသည်။)

ချစ်သား၊ သင်သည် ငါဘုရား၏ သွားသောခရီး၌ တည်သောသူပေတည်း။
ငါဘုရားသည်လည်း ရှေးသောအခါက အကျင့်ကိုကျင့်သည်ရှိသော် အမိအဖတို့ကို ကျွေးမွေးဖူး၏။

အို-မိခင်ဖခင်တို့၊ သင်တို့ မျက်စိသည် ပိန္နဲ့လုံးလှုယ်သောအခါကပင် ပျက်စီးခြင်းသို့ ရောက်ကြကုန်၏။ ထိုကြောင့် ငိုသတည်း။
ယခုအခါ၌ကား ငါသည် မိခင်ဖခင်တို့ကို လုပ်ကျွေးအံ့သောဇာ ရလတ္တံ့သတည်း။ ထိုကြောင့် ရယ်သတည်း။

သုဝဏ္ဏသာမသုခမိန်သည် ပစ်မိသော်လည်း ရေအိုးကို မလွှတ်စေမူ၍ သတိကိုဖြစ်စေလျက် အသာချပြီးလျှင် သဲကိုယက်၍ ရေအိုးကို ထား၏။ ထိုသို့ အိုးကိုအသာချပြီးမှ အရပ်မျက်နှာကိုမှတ်၍ 'ဤအရပ်သည် ငါ၏ မယ်တော်, ခမည်းတော်တို့ အရပ်တည်း' ဟု မယ်တော်, ခမည်းတော်တို့ နေရာအရပ်သို့ ဦးခေါင်းပြုလျက် ငွေအဆင်းနှင့်တူသော, ဖြူစင်လှစွာသော သဲပြင်၌ ရွှေဆင်းတုကဲ့သို့အိပ်၍၊ သတိကိုဖြစ်စေလျက်၊ ၅ ပါးသော ရှိခိုးခြင်းဖြင့် မယ်တော်, ခမည်းတော်တို့ကို ရှိခိုး၍ ဤသို့ မြည်တမ်း၏။ "ဤဟိမဝန္တာတောအရပ်၌ ငါ၏ရန်သူလည်း မရှိ၊ မိခင်, ဖခင်တို့၏ ရန်သူလည်း မရှိ"ဟု ဆို၍၊ ခံတွင်းဖြင့် သွေးကိုစွန့်၍ မင်းကို မမြင်ဘဲလျက်လျှင်

ရှေးဦးစွာ ဝင်လာသောဆိပ်လူးမြားထက် အမိအဘတို့ကို မမြင်ရခြင်းဖြစ်သော
စိုးရိမ်ခြင်းတည်း ဟူသောမြားသည် အဆအရာ, အဆအထောင်, အဆအသိန်း, အဆအသန်းမက
လွန်စွာသောဆင်းရဲခြင်းသည် ငါ့အား ဖြစ်သည်။

ကာသိကရာဇ်ပြည်ကြီးကို အစိုးရတော်မူသော မဟာမွေ့ရာဇ်မင်းကြီးသည်
အကျွန်ုပ်တို့၏ အမှုကြီးငယ်ကို ပြုခြင်းသည် သဘောမဟုတ်။
ငါတို့ အမှုကြီးငယ်ကို ပြုခြင်းသည် ငါတို့၌မအပ်။
အရှင်မင်းကြီးသည် ငါတို့သခင်ဖြစ်သော မင်း ပေတည်း။ ငါတို့သည် အရှင်မင်းကြီး၏ခြေကို ရှိခိုးပါကုန်၏

ငါသည် လည်းကောင်း, သင်ချစ်သား သုဝဏ္ဏသာမ၏အမိသည် လည်းကောင်း အမှတ်မရှိ ပြုအပ်သော ကောင်းမှု
ရှိ၏။ ခပ်သိမ်းသော ထိုကောင်းမှုကြောင့် ငါ့သား သုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

အကြင်သတ္တဝါတို့သည် အမိကို လည်းကောင်း, အဘကို လည်းကောင်း တရားသဖြင့် လုပ်ကျွေးမွေး၏။
ထိုသို့ အမိအဘကိုမွေးပေးသောသူကို ပစ္စုပ္ပန်လောကဤဘဝ၌ပင်လျှင် ခပ်သိမ်းသောသူတို့သည် ချီးမွမ်းကုန်၏။
နောင်တမလွန်ဘဝ၌လည်း ဒေဝလမ္ဘတိနှင့်ပြည့်စုံလျက် နတ်သက်အတိုင်း မွေ့လျော်ပျော်ပါး စံစားရ၏။



သစ်သီးကြီး,ငယ်တို့ကို ကျောင်းသခ်မ်း၌ ထားခဲ့ပြီးလျှင် ရေအိုးဖြင့် ရေကိုဆောင်ယူ၍ ရေချမ်းရေပူတို့ဖြင့် အမိအဖတို့ကို အလိုအားလျော်စွာ ရေချိုးခြင်းကိုလည်းကောင်း၊ ခြေဆေးခြင်းကိုလည်းကောင်း . . .

## သုဝဏ္ဏသာမဇာတ်

ချစ်သား၊ သင်သည် ငါ့ဘုရား၏ သွားသောခရီး၌ တည်သောသူပေတည်း။
ငါဘုရားသည်လည်း ရှေးသောအခါက အကျင့်ကိုကျင့်သည်ရှိသော် အမိအဖတို့ကို ကျွေးမွေးပုံ။

အို-မိခင်ဖခင်တို့၊ သင်တို့ မျက်စိသည် ပျို့ရွယ်သောအခါကပင် ပျက်စီးခြင်းသို့ ရောက်ကြကုန်၏။ ထိုကြောင့် ငိုသတည်း။ ယခုအခါ၌ကား ငါသည် မိခင်ဖခင်တို့ကို လုပ်ကျွေးအံ့သောဇာ ရလတ္တံ့သတည်း။ ထိုကြောင့် ရယ်သတည်း။

သုဝဏ္ဏသာမသုခမိန်သည် ပင်ပမ်းသော်လည်း ရေအိုးကို မလွှတ်စေမူ၍ သတိကိုဖြစ်စေလျက် အသာချပြီးလျှင် သဲကိုယက်၍ ရေအိုးကို ထား၏။ ထိုသို့ အိုးကိုအသာချပြီးမှ အရပ်မျက်နှာကိုမှတ်၍ 'ဤအရပ်သည် ငါ၏ မယ်တော်, ခမည်းတော်တို့ အရပ်တည်း' ဟု မယ်တော်, ခမည်းတော်တို့ နေရာအရပ်သို့ ဦးခေါင်းပြုလျက် ငွေအဆင်းနှင့်တူသော, ဖြူစင်လှစွာသော သဲပြင်၌ ရွှေဆင်းတုကဲ့သို့အိပ်၍၊ သတိကိုဖြစ်စေလျက်၊ ၅ ပါးသော ရှိခိုးခြင်းဖြင့် မယ်တော်, ခမည်းတော်တို့ကို ရှိခိုး၍ ဤသို့ မြည်တမ်း၏။ "ဤဟိမဝန္တာတောအရပ်၌ ငါ၏ရန်သူလည်း မရှိ။ မိခင်, ဖခင်တို့၏ ရန်သူလည်း မရှိ"ဟု ဆို၍၊ ခံတွင်းဖြင့် သွေးကိုစွန့်၍ မင်းကို မမြင်ဘဲလျက်လျှင်

ရှေးဦးစွာ ဝင်လာသောဆိပ်လူးမြားထက် အမိအဘတို့ကို မမြင်ရခြင်းဖြစ်သော
စိုးရိမ်ခြင်းတည်း ဟူသောမြားသည် အဆအရာ, အဆအထောင်, အဆအသိန်း, အဆအသန်းမက
လွန်စွာသောဆင်းရဲခြင်းသည် ငါ့အား ဖြစ်သည်။

ကာသိကရာဇ်ပြည်ကြီးကို အစိုးရတော်မူသော မဟာဓမ္မရာဇ်မင်းကြီးသည်
အကျွန်ုပ်တို့၏ အမူကြီးငယ်ကို ပြုခြင်းသည် သဘောမဟုတ်။
ငါတို့ အမူကြီးငယ်ကို ပြုခြင်းသည် ငါတို့၌မအပ်။
အရှင်မင်းကြီးသည် ငါတို့သခင်ဖြစ်သော မင်း ပေတည်း။ ငါတို့သည် အရှင်မင်းကြီး၏ခြေကို ရှိခိုးပါကုန်၏

ငါသည် လည်းကောင်း, သင်ချစ်သား သုဝဏ္ဏသာမ၏အမိသည် လည်းကောင်း အမှတ်မရှိ ပြုအပ်သော ကောင်းမှု
ရှိ၏။ ခပ်သိမ်းသော ထိုကောင်းမှုကြောင့် ငါ့သား သုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

အကြင်သတ္တဝါတို့သည် အမိကို လည်းကောင်း, အဘကို လည်းကောင်း တရားသဖြင့် လုပ်ကျွေးမွေး၏။
ထိုသို့ အမိအဘကိုမွေးပေးသောသူကို ပစ္စုပ္ပန်လောကဤဘဝ၌ပင်လျှင် ခပ်သိမ်းသောသူတို့သည် ချီးမွမ်းကုန်၏။
နောင်တမလွန်ဘဝ၌လည်း ဒေဝသမ္ပတ်နှင့်ပြည့်စုံလျက် နတ်သက်အတိုင်း မွေ့လျော်ပျော်ပါး စံစားရ၏။



သစ်သီးကြီး,ငယ်တို့ကို ကျောင်းသင်္ခမ်း၌ ထားခဲ့ပြီးလျှင် ရေအိုးဖြင့် ရေကိုဆောင်ယူ၍ ရေချမ်းရေပူတို့ဖြင့် အမိအဖတို့ကို အလိုအားလျော်စွာ ရေချိုးခြင်းကိုလည်းကောင်း၊ ခြေဆေးခြင်းကိုလည်းကောင်း . . .

# သုဝဏ္ဏသာမဇာတ်တော်ကြီး

## နိဒါန်း

ဤသုဝဏ္ဏသာမ ဇာတ်တော်ကြီးဝတ္ထုကို စကားပြေ ပြန်ဆိုပြုစုတော်မူသော အရှင်သူမြတ်သည်ကား တမ္ဗဒီပတိုင်း (မာဃဝ) မာဂဝလုလင်၏နေရာဖြစ်၍ (မယွေး) မကွေးမြို့အပိုင် ကျည်းပင်တက်ရွာ, ကျွဲသိုးမြောင်ရွာတို့၏ကျေးလက်ဖြစ်သော ပုဂံစစ်ရွာ အရှေ့စေတီရင်ပြင်ဝယ်တည်ရှိသော 'စေတိယင်္ဂဏ'ခေါ် ကျောင်းတော်မြတ်၌ ကိန်းဝပ်စံပယ် တင့်တယ်ရွှင်ပြုံး သီတင်းသုံးနေထိုင်တော်မူသော 'ပညာတိက္ခ' နာမခေါ်ဆို ပဥ္စင်းပျို ဖြစ်တော်မူသည်။

ဤဇာတ်တော်ကြီးဝတ္ထုကို ရေးသားတော်မူသော ကျမ်းဆရာ၏ကျေးဇူးရှင် ဆရာမြတ်သည်ကား သုနာပရန္တတိုင်း စကုမြို့အပိုင် 'နမန္တ'ခေါ် မန်းမြစ်သို့ပေါင်းဆုံရာ မြစ်ငယ်တို့၏ အညွန့်အဖူးသဖွယ်ဖြစ်သော ဌာန၌ တည်ရှိသောကြောင့် (မန်းဖူး) 'မင်းဖူး'ဟူ၍လည်းကောင်း၊ တစ်နည်း မန်းမြစ်သို့ မြစ်ငယ်တို့၏ပူးပေါင်းရာ ဌာန၌ တည်ရှိသောကြောင့် (မန်းပူး) 'မင်းပူး'ဟူ၍လည်းကောင်း ခေါ်ဝေါ်သမုတ်အပ်သောရွာဝယ် 'ရန်ကုန်တိုက်,' 'ရတနာတိုက်'ဟု ၂ မည်ရသော ကျောင်းတိုက်ကြီး၌ ထက်,အောက် ၂သွယ် စာသင်ငယ်တို့၏အားထားဖွယ်ဖြစ်၍ ဂန္ထကာရက ပရိယတ္တိဝိသာရဒ ပဋိပတ္တိအာရဒ္ဓက လဇ္ဇီပေသလ သိက္ခာကာမ ဝဇ္ဇဘီရုက ဂုဏ်ပေါင်းခသော ထေရမဟော် ဆရာတော် ဖြစ်တော်မူသတည်း။

ဤ သုဝဏ္ဏသာမဇာတ်တော်ကြီးဝတ္ထုကို ပြုတော်မူသော ဆရာတော် အရှင်ပညာတိက္ခသည် ပရိယတ္တိဝိသာရဒ နာနာနယကောဝိဒ ဂန္ထန္တရဗဟုတ အလင်္ကာရဝိဒူဖြစ်၍ 'ကျရောက်မြူသွင် အပြစ်မြင်က တင်၍နှုတ်သာ ကဲ့ရဲ့ပါနှင့် လျှင်စွာလှောက်ကူ ပြင်တော်မူရှင့်'ဟု မှာကြားရေးသားတော်မူခဲ့သဖြင့် ပုထုဇဉ်ရဟန်းမျှသာဖြစ်၍ မောဟတရား မကင်းနိုင်သေးရကား သတိတရားယွင်းပါး တိမ်းချော်မှုမှ မကင်းနိုင်သည်၏အဖြစ်ကို လည်းကောင်း, မာန်မာနမခက်ထန် အမှန်ကိုသာလိုလားသော သူမွန်သူမြတ်အဖြစ်ကို လည်းကောင်း, သည်းခံခြင်း 'ခမာ'ဂုဏ်နှင့် ပြည့်စုံသည်၏အဖြစ်ကို လည်းကောင်း သိရှိရလေသည်။

ရင်းပြင် 'သုံးပါးထွက်ချာ မေတ္တယျာဟု မြတ်စွာဘုရား ထင်ရှားကံ့ကော် ဗောဓိကျော်ဝယ် ပွင့်တော်မူခါ လက်ဦးစွာက စိန္တေယျလျှင် ခေါ်ထပေ်' စသော နိဂုံးဆုတောင်းတွင် ရေးသားစီရင်တော်မူခဲ့သဖြင့် ထိုကျမ်းပြုအရှင်သည် နိဗ္ဗာန်နန်းသို့ အလှမ်းမကျယ် အလွယ်နှင့်ရောက် ရွှေမျက်မှောက်တွင် မဂ်ပေါက်ဖိုလ်ထိ ပကတိသာဝက ဆုငယ်မျှနှင့် ဘဝဇာတ်သိမ်း၍ ငြိမ်းအေးတော်မူလိုသတည်း။

ဤကျမ်းကို ပြုတော်မူရန် ရိုသေစွာ တောင်းပန်လျှောက်ထားသူမှာ ကျမ်းပြုဆရာတော် အရှင်ပညာတိက္ခနှင့် မိတ်ဆွေရင်း ငယ်သူငယ်ချင်းဖြစ်သူ မင်းအမှုထမ်း စာရေးတော်ကြီး 'မောင်သာ' မည့်ခေါ် သူတော်ကောင်း တစ်ယောက် ဖြစ်လေသည်။

ဤကျမ်းကို သာသနာသက္ကရာဇ် ၂၃၆၉ ခုနှစ်, ကောဇာသက္ကရာဇ် ၁၁၈၈ခုနှစ် မေထုန်ရာသီ နယုန်လပြည့်ကျော် ၈ ရက် မြန်မာနာရီ ၃ ချက်တီးအချိန်တွင် ရေးသားစီရင်ခြင်း ပြီးဆုံးလေသည်။

ပန်းရွှေပြည်စာအုပ်တိုက်

# သုဝဏ္ဏသာမဇာတ်တော်ကြီး

နမော တဿ ဘဂဝတော အရဟတော သမ္မာ သမ္ဗုဒ္ဓဿ။

## ပဏာမ

'တထာဂတော ယော ကရုဏာကရော ကရော၊ ပယာတ မောသဇ္ဇသုခ ပွဒံ ပဒံ။
အကာ ပရတ္ထံ ကလိ သမ္ဘဝေ ဘဝေ၊ နမာမိ တံ ကေဝလ ဒုက္ကရံ ကရံ။ ။
'အပူဇယုံ ယံ မုနိကုဉ္ဇရာ ဇရာ၊ ရုဇာ ဒိမုတ္တာ ယဟိ မုတ္တရေ တရေ။
ဠိတာ တိဝဋ္ဋ မ္ဗုနိမိန္နရာ နရာ၊ တရိံ သု တံ ဓမ္မ မဃပ္ပဟံ ပဟံ။ ။
'ဂတံ မုနိန္ဒော ရသသူနုတံ နုတံ၊ သုပုညခေတ္တံ ဘဝနေ သုတံ သုတံ။
ဂဏမ္ပိ ပါဏီကတ သံဝရံ ဝရံ၊ သဒါ ဂုဏောဃေန နိရန္တရ န္တရံ။ ။

ကရုဏာကရော၊ ကရုဏာတော်၏ တည်ရာဖြစ်တော် မူထသော။ ယော တထာဂတော၊ အကြင်မြတ်စွာဘုရားသည်။ ကရောပယာတံ၊ လက်တော်သို့ ရောက်ပြီးသော။ သုခပွဒံ၊ ချမ်းသာခြင်း၏တည်ရာဖြစ်သော။ ပဒံ၊ နိဗ္ဗာန်ကို။ ဩသဇ္ဇ၊ စွန့်တော်မူ၍။ ကလိသမ္ဘဝေ၊ ဆင်းရဲခြင်း၏ အကြောင်းဖြစ်သော။ ဘဝေ၊ သံသရာတည်းဟူသောဘဝ၌။ ကေဝလဒုက္ကရံ၊ စင်စစ်ပြုနိုင်ခဲလှစွာသော စွန့်ခြင်းကြီး ၅ပါး[3] အစရှိသည်ကို။ ကရံ– ကရောန္တော၊ ပြုတော်မူသည်ဖြစ်၍။ ပရတ္ထံ၊ သူတစ်ပါးတို့၏ အကျိုးစီးပွားကို။ အကာ၊ ပြုတော်မူလေပြီ။ တံ တထာ ဂတံ၊ ထိုမြတ်စွာဘုရားကို။ အဟံ၊ ငါသည်။ နမာမိ၊ ရှိခိုးပါ၏။

ယံဓမ္မံ၊ အကြင် တရားတော်မြတ်ကို။ ဇရာရုဇာဒိမုတ္တာ၊ အိုခြင်း, နာခြင်း အစရှိသော သံသရာဘေးမှ လွတ်တော်မူကုန်ပြီးသော။ မုနိကုဉ္ဇရာ၊ မြတ်စွာဘုရားတို့သည်။ အပူဇယုံ၊ ပူဇော်တော်မူကုန်ပြီ။ ဥတ္တရေ၊ မြတ်စွာထသော။ ယဟိံတရေ၊ အကြင်တရားတည်းဟူသော သင်္ဘောလှေ၌။ ဠိတာ၊ တည်ကုန်သော။ နရာ နရာ၊ လူနတ်တို့သည်။ တိဝဋ္ဋမ္ဗုနိမိံ၊ ဝဋ် ၃ ပါး[2] ဖြင့်နှောင့်ယှက်သော သံဝရာဝဋ်[4]တည်းဟူသော မဟာသမုဒ္ဒရာကို။ တရိံသု၊ ကူးကုန်ပြီ။ အဃပ္ပဟံ၊ သံသရာဝဋ်ဆင်းရဲကို ပယ်ဖျက်တော်မူတတ်ထသော။ တံဓမ္မံအပိ၊ ထိုတရားတော်မြတ်ကိုလည်း။ အဟံ၊ ငါသည်။ နမာမိ၊ ရှိခိုးပါ၏။

မုနိန္ဒောရသသူနုတံ၊ မြတ်စွာဘုရား၏ရင်၌ဖြစ်သော သားတော်အဖြစ်သို့။ ဂတံ၊ ရောက်ပြီးထသော။ နုတံ၊ ကိလေသာ[6] အပေါင်းကိုလည်း ပယ်ပြီးထသော။ သုပုညခေတ္တံ၊ ကောင်းမှုတည်းဟူသော မျိုးစေ့၏ စိုက်ပျိုးရာ လယ်မြေကောင်းသဖွယ်လည်းဖြစ်ထသော။ ဘဝနေ၊ လောက ၃ပါး[5]၌။ သုတံ၊ ကျော်စောစွာထသော။ အသုတံ၊ ကိလေသာတည်းဟူသော မိုးဖြင့်လည်း မစွတ်ထသော။ ပါဏီကတသံဝရံ၊ အသက်ကဲ့သို့ပြုအပ်သော သံဝရသီလလည်းရှိထသော။ ဝရံ၊ နတ်နှင့်တကွသော လူအပေါင်းတို့သည် တောင့်တအပ်ထသော။ သဒါ၊ အခါခပ်သိမ်း။ ဂုဏောဃေန၊ သီလအစ ရှိသော ဂုဏ်ကျေးဇူးအပေါင်းဖြင့်။ နိရန္တရန္တရံ၊ မပြတ်သောစိတ်လည်း

ရှိထသော။ ဂဏမ္ဗိ၊ ၈ ယောက်သောအရိယာ[၆] ပုဂ္ဂိုလ်မြတ်တို့၏အပေါင်းကိုလည်း။ အဟံ၊ ငါသည်။ နမာမိ၊ ရှိခိုးပါ၏။

ဤသို့ အတွင်း, အပ အန္တရာယ်ပျောက်ငြိမ်းခြင်း၊ ကျမ်းပြီးခြင်း၊ တောင့်တအပ်သောအလို, ကုသိုလ်မင်္ဂလာ, အဇ္ဈာသယ[၇], သုခသိဒ္ဓိ[၈], ပီတိရွှန်းဝေ[၉], ကျက်သရေတိုးပွား များစေခြင်း၊ အကျိုးရှိသော ရတနာ ၃ပါးတို့အား ညွတ်တွားထိပ်ထက် တင်ရွက်ရှိပန်[၁၀] မိတာန်[၁၁]အောင်ထီးကို ချီးမြှောက်မိုးကာ၍ မေတ္တာတော်အာနုဘော် ဘုန်းတော်ရိပ်အစွမ်းကို ချမ်းမြေ့စွာခိုလှုံလျက် အဓိပ္ပာယ်အနက် ကွယ်ဝှက်ခြင်းရှိသော ပါဠိတော်ရွှေတိုက်မှ အမြိုက်ရည်[၁၂]လျှင် အဆီရှိသော ဤ'သုဝဏ္ဏသာမ' ဇာတ်[၁၃]တော်ရတနာကို အခါခါတောင်းပန်သောသူတို့၏ အလိုနှင့်လျော်စွာ သဒ္ဓါသီလသုတ[၁၄]ပညာ ပွားရာသောအကြောင်း သူတော်သူမြတ်အပေါင်းတို့ မှတ်သားနာပျော်ဖွယ် မကျယ်မကျဉ်း အလျဉ်းသင့်ရာ ဥဒါဟရဏ်[၁၅]စုံလင်အောင် ပြန်ကြား၍ စကားကျစ်လစ်[၁၆] ပြေပြစ်သန့်ရှင်းစွာ ပန်းပွင့်ဝတ်ဆံမပျက် ပန်းရွက်ဝတ်မှုန်ကိုယူသော ပျားပိတုန်းဥပမာ[၁၇]ကဲ့သို့ အစွမ်းအလျောက် အားထုတ်စီရင်ပေအံ့။

ဤ သုဝဏ္ဏသာမ ဇာတ်တော်ရတနာကို ရှေးဆရာတော်တို့ မရေးမသား ချန်ထားခဲ့သည်မှာ 'လင်္ကာဒီပ'ဟု ဆိုအပ်သော သီဟိုဠ်[၁၈]ကျွန်း၌ သိရီမေဃသောကမင်းကြီး၏သားတော် ဖြစ်တော်မူသော အရှင်မဟိန္ဒထေရ်သည် ဒေဝါနံပိယတိဿမင်းကြီးနှင့် ဒေသစာရီကြွချီတော်မူသောအခါ စကားပန်းတို့ဖြင့် မဟာစေတီတည်မည့်အရပ်ကို အရှင်မဟိန္ဒထေရ် ပူဇော်တော်မူလျှင် မဟာပထဝီမြေကြီးသည် ပြင်းစွာတုန်လှုပ်၏။

ထိုသို့ မြေတုန်လှုပ်သောအကြောင်းကို ဒေဝါနံပိယတိဿမင်းကြီးသည် အရှင်မဟိန္ဒထေရ်အား မေးလျှောက်သည်ရှိသော်၊ အရှင်မဟိန္ဒထေရ်သည်လည်း ဤသို့ မိန့်တော်မူ၏။

"မြတ်သောမင်းကြီး။ လူ ၃ ဦးတို့၏အထွတ်ဖြစ်တော်မူသော မြတ်စွာဘုရား၏ မွေတော်[၂၀] ဓာတ်တော်[၂၁]မြတ် ကိန်းဝပ်တော်မူရာ မဟာစေတီ[၂၂]တည်မည့် အကြောင်းနိမိတ်တည်း"ဟု မိန့်တော်မူ၏။

ထိုအကြောင်းကိုကြားလျှင် ဒေဝါနံပိယတိဿမင်းကြီးသည် "အကျွန်ုပ်ပင် တည်ပါမည်"ဟု လျှောက်၏။

ထိုသို့လျှောက်သောအခါ အရှင်မဟိန္ဒထေရ်သည် ဤသို့မိန့်တော်မူ၏။

"မြတ်သောမင်းကြီး။ သည်းခံဦးလော့။ ဤမြေကြီးတုန်လှုပ်သည်ကား သင်မင်းကြီးအား တည်ထားစိမ့်သောငှာ တုန်လှုပ်သည် မဟုတ်။ သင်မင်းကြီးအား များစွာသောပြုဖွယ်ကိစ္စ ရှိသေး၏။ နောင်သောအခါ သင်မင်းကြီး၏မြစ်တော်ဖြစ်သော ဒုဋ္ဌဂါမဏိ အဘယမင်း တည်လတ္တံ့။ ထို ဒုဋ္ဌဂါမဏိ အဘယမင်း တည်စိမ့်သောငှာ မြေတုန်လှုပ်သတည်း"ဟု မိန့်တော်မူလျှင်၊ ဒေဝါနံပိယတိဿမင်းကြီးသည်

"အကျွန်ုပ်မြစ်တော်ဖြစ်သော ဒုဋ္ဌဂါမဏိအဘယမင်း တည်လျှင်လည်း အကျွန်ုပ်တည်သည်ပင် မည်သည်"ဟု လျှောက်တိုင်စိုက်၍ ကမ္ပည်းကျောက်စာ အက္ခရာထားသကဲ့သို့၊ ထို့အတူ ၎င်းသုဝဏ္ဏသာမ ဇာတ်တော်ရတနာ၏ဝတ္ထုကို မရေးမသား ရှေးဆရာတို့ ချန်ထားခဲ့လေသတည်း။

# ဇာတ် နိဒါန်း

မဟာကရုဏာ[၂၃], မေတ္တာ[၂၄]တော်တည်းဟူသော မိုးတိမ်တိုက်တစ်ခဲနက် စကြဝဠာကုဋေ ၁ သိန်းလုံး ဖုံးအုပ်သွန်းဖျန်း ရွှင်လန်းငြိမ်းဆေး ပေးတော်မူလျက် ဇမ္ဗူကျွန်းသူ မိုလ်လူအပေါင်း သောင်းတိုက်[၂၅] နတ်ပြဟ္မာတို့အား အမြိုက်ချိုအေး တိုက်ကျွေးနှစ်လို့ အောင်မြို့ငြိမ်းရာ ပြည်သာနိဗ္ဗူ[၂၆] တင်ယူပို့ဆောင် အောင်သူများသခင် သာကီဝင်မင်းတို့အထွတ်ဖြစ်သော မြတ်စွာဘုရားသည် ၈ ပါးသောပရိသတ်[၂၇]တို့၏ ကျင့်ဝတ်ယူရာ သာဝတ္ထိပြည်ကြီး၏ အနောက်တောင်ဝယ် ရန်အောင်ခိုက်ဖွားသော ဇေတဝန်မင်းသား၏ဥယျာဉ်ကို ရန်စင်ကင်းဝေးသော သူဌေးကြီးအနာထပိဏ်[၂၈]သည် ရွှေအချိန် ၁၈ ကုဋေဖြင့် ဝယ်၍ ရန်စွယ်အဆိပ်အတောက် ဖျောက်ချေပယ်နုတ် ဝိမုတ်[၂၉]ငြိမ်းအေး ရှေးရှေးသောဘုရားအဆူဆူ အောင်သူတကာတို့၏ အောင်ရာဘိသိက် ဗျာဒိတ်[၃၀]အောင်ပွဲခံရာမြေအချက်တွင် နှစ်သက်ဝမ်းမြောက် ဆောက်လှူအပ်သော နှံ့စပ်ကျော်ဝှန် ဇေတဝန်အောင်ထီး ရွှေကျောင်းကြီး၌ ၄ ပါးသော ကုလရိယာပုထ်[၃၁]တို့ဖြင့် နေတော်မူသောအခါ အမိ,အဖကိုကျွေးမွေးသော တစ်ယောက်သောရဟန်းကို အကြောင်းပြု၍ 'ကောနု မံ ဥသုနာ ဝိဇ္ဈိ[၃၂]' အစရှိသောဂါထာတို့ဖြင့် တန်ဆာ ခြယ်စီလျက် ဤ သုဝဏ္ဏသာမဇာတ်တော်ကို ဟောတော်မူပေ၏။

အဘယ်သို့ အကြောင်းဖြစ်သနည်း ဟူမူကား သာဝတ္ထိပြည်၌ ၁၈ ကုဋေ ဥစ္စာရှိသော တစ်ယောက်သော သူဌေးမျိုးအား တစ်ယောက်တည်းသောသား ရှိသည် ဖြစ်သတတ်။ ထို တစ်ယောက်တည်းသောသားကို အမိ, အဖတို့သည် အလွန် ချစ်နှစ်လိုကုန်၏။ ထိုသူဌေးသားသည် တစ်နေ့သောနေ့၌ မြတ်သောပြာသဒ်ထက် နေလျက် 'သီဟပဉ္ဇရ' ဟုဆိုအပ်သော ခြသေ့ံခံသော မြတ်သောလေသာနန်းတံခါးကို ဖွင့်၍ ခရီးမကို ကြည့်သည်ရှိသော်၊ ပန်း,နံ့သာ အစရှိသော ဒါနဝတ္ထုတို့ကို လက်ဖြင့်ကိုင်ကုန်လျက် တရားတော်ကို နာအံ့သောငှာ ဇေတဝန်ကျောင်းတော်သို့သွားသော များစွာသောလူအပေါင်းတို့ကို မြင်လေ၏။

ထိုသို့မြင်လေသည်ရှိသော် 'ငါသည်လည်း တရားတော်ကို နာပါအံ့'ဟူ၍ ပန်း, နံ့သာ အစရှိသော ဒါနဝတ္ထုတို့ကို ယူစေ၍ ဇေတဝန်[၃၃]ကျောင်းတော်သို့သွားလေ၍၊ ပုဆိုး, ဆေး, အဖျော် အစရှိသော အလှူဝတ္ထုကို ရဟန်းသံဃာတော်တို့အား လှူစေ၏။ မြတ်စွာဘုရားကို ပန်း,နံ့သာ အစရှိသည်တို့ဖြင့် ပူဇော်၍ တင့်အပ်သောအရပ်၌ နေလျက် တရားတော်ကိုနာ၍ ကာမဂုဏ်[၃၄]အပြစ်ကို လည်းကောင်း၊ ရဟန်းအဖြစ်၌ အကျိုးကို လည်းကောင်း မှတ်၍ ပရိသတ်တို့ထပြီးသော် မြတ်စွာဘုရားကို ၅ ပါးသောရှိခိုးခြင်း[၃၅]တို့ဖြင့် ရိုသေစွာရှိခိုး၍ ရဟန်းအဖြစ်ကို တောင်းပန်၏။

မြတ်စွာဘုရားသည်လည်း "အမျိုးသား။ အမိ,အဖတို့ ခွင့်မပြုသောသားကို ဘုရားမြတ်စွာတို့သည် ရဟန်းမပြုကုန်"ဟု မိန့်တော်မူ၏။

သူဌေးသားသည် ထိုစကားကိုကြားလျှင် မြတ်စွာဘုရားကို ရှိသေစွာရှိခိုးပူဇော်ခဲ့ပြီးလျှင် အိမ်သို့တစ်ဖန် ပြန်သွားလေ၍ အမိ,အဖတို့အား ရှိသေစွာရှိခိုးလျက် "အို၊ မိခင်, ဖခင်တို့။ အကျွန်ုပ်သည် မြတ်စွာဘုရား၏ အထံတော်၌ ရဟန်းပြုပါအံ့"ဟု ဆို၏။

ထိုသို့ဆိုသောအခါ သူဌေးသား၏ မိခင်,ဖခင်တို့သည် သူဌေးသား၏စကားကိုကြားလျှင် တစ်ယောက်တည်းသောသား၏အဖြစ်ဖြင့် နှလုံး ၇ စိတ် ကွဲအံ့သကဲ့သို့ သား၌ချစ်ခြင်းဖြင့် ကိုယ်အလုံး တုန်လှုပ်လျက် ဤသို့ဆိုကုန်၏။

"ယြော်၊ ချစ်လှစွာသော သား။ ယြော်၊ အမျိုး၏အညွန့်ဖြစ်သော သား။ ယြော်၊ မျက်စိနှင့်တူသော သား။ ယြော်၊ အသက်နှင့်တူသော သား။ သင်ချစ်သားနှင့် ကင်း၍ အဘယ်သို့လျှင် ငါတို့ အသက်ရှည်ကုန်အံ့။ သင်ချစ်သားနှင့် ငါတို့၏အသက်သည် စပ်၏။ ချစ်သား။ ငါတို့သည် အိုမင်းဆွေးမြည့်ခြင်းသို့ ရောက်ကုန်ပြီ။ အင်္ဂါကြီးငယ် ရင့်ခြင်းသို့ ရောက်ကုန်ပြီ။ သွားကျိုးခြင်း, ဆံဖြူခြင်း အစရှိသည်ဖြင့် ကြီးခြင်းသို့ ရောက်ကုန်ပြီ။ ချစ်သား။ ငါတို့သည် ယနေ့လည်းကောင်း, နက်ဖြန်လည်းကောင်း,သန်ဘက်လည်းကောင်း သေခြင်းသို့ ရောက်ကုန်အံ့။ ထို့ကြောင့် ချစ်သား ငါတို့ကို စွန့်၍မသွားပါလင့်။ ချစ်သား။ ရဟန်းအဖြစ်မည်သည်ကား အလွန်ပြုခဲလှစွာ၏။ အချမ်းကိုအလိုရှိသော် အပူကို ရတတ်၏၊ အပူကိုအလိုရှိသော် အချမ်းကို ရတတ်၏။ ထို့ကြောင့် ချစ်သား ရဟန်းမပြုနှင့်"ဟု ဆိုကုန်၏။

သူဌေးသားသည်လည်း အမိ, အဖတို့ဆိုသော စကားကိုကြားလျှင် နှလုံးမသာခြင်း ရှိသည်ဖြစ်၍ ချသောဦးခေါင်းရှိလျက် နောက်ဖီတကိုင် ကြံမှိုင်တွေဝေလျက် ၇ ရက်ပတ်လုံး အစာမစားဘဲ နေလေ၏။ ထိုသို့ အစာမစားဘဲနေသောအခါ သူဌေးသား၏အမိ,အဖတို့သည် 'ငါတို့သားကို အကယ်၍ ခွင့်မပြုချေအံ့။ ဤအရပ်၌ပင် သေခြင်းသို့ ရောက်ခဲ့ရာ၏။ တစ်ဖန် ငါတို့သည် မမြင်ရကုန်ပြီ။ ရဟန်းပြုလတ်သော်မူကား တစ်ဖန် ငါတို့ မြင်ရကုန်အံ့'ဟုကြံ၍၊ "ချစ်သား။ ရဟန်းပြုစိမ့်သောငှာ ငါတို့ ခွင့်ပြုကုန်၏။ သင်ချစ်သားသည် ရဟန်းပြုလေတော့"ဟု ခွင့်ပြုကုန်၏။

သူဌေးသားသည် အမိ, အဖတို့စကားကို ကြားလျှင် အလွန်နှစ်သက်ဝမ်းမြောက်သော နှလုံးရှိသည်ဖြစ်၍ အမိ, အဖတို့ကိုရှိခိုး၍ ပန်ကြားခဲ့ပြီးလျှင်၊ ဇေတဝန်ကျောင်းတော်သို့သွားလေ၍ မြတ်စွာဘုရားကို ရှိသေစွာ ရှိခိုးပြီးလျှင် "အရှင်ဘုရား။ အကျွန်ုပ်ကို ရဟန်းပြုတော်မူပါ"ဟု ရဟန်းအဖြစ်ကို တောင်းပန်၏။

မြတ်စွာဘုရားသည် တစ်ယောက်သောရဟန်းကို ခေါ်တော်မူ၍ "ချစ်သား။ ဤသူဌေးသားကို ရဟန်းပြုလေလော့"ဟု စေတော်မူ၏။ ထိုရဟန်းသည်လည်း "အရှင်ဘုရား။ ကောင်းပါပြီ"ဟု ဝန်ခံ၍ ထိုသူဌေးသားကို ရဟန်းပြုပေ၏။

ထိုသူဌေးသား ရဟန်းပြုသောအခါမှစ၍ ဆရာဥပဇ္ဈာယ်[၃၆]တို့အား များသောလာဘ်သပ်ပကာတို့သည် ဖြစ်ကုန်၏။ ထို သူဌေးသားရဟန်းသည်လည်း ဆရာဥပဇ္ဈာယ်တို့ကို နှစ်သက်စေလျက် ပဉ္စင်းအဖြစ်ကိုရပြီးသော် ၅ ဝါပတ်လုံး ပါတိမောက်ကိုသင်၍ 'ငါသည် ဤအရပ်၌ ပြွမ်းလျက်နေ၏။ ထိုသို့နေခြင်းသည် ငါ့အား မလျောက်ပတ်'ဟု ဝိပဿနာစုရ[၃၇]ကို ဖြည့်ခြင်းငှာ အလိုရှိသည်ဖြစ်၍ ဆရာဥပဇ္ဈာယ်အထံ၌ ကမ္မဋ္ဌာန်း[၃၈]ကိုယူ၍ ဇေတဝန်ကျောင်းတော်မှထွက်လေ၍ တစ်ခုသောပစ္စန္တ ရစ်[၃၉]ရွာကို အမှီပြု၍ တောကျောင်း၌ နေလေ၏။

ထို သူဌေးသားရဟန်းသည် ထိုကျောင်း၌ ဝိပဿနာကိုပွားစေလျက် ၁၂ နှစ်ပတ်လုံး စေ့ဆော်လျက် လုံ့လပြုသော်လည်း မဂ်[၄၀]ကို လည်းကောင်း, ဖိုလ်[၄၁]ကို လည်းကောင်း ဖြစ်စိမ့်သောငှာ မတတ်နိုင်။

ထိုသို့ ကမ္မဋ္ဌာန်းစီးဖြန်း၍ ၁၂ နှစ်ပတ်လုံးနေသောအခါ ထို သူဌေးသားရဟန်း၏ အမိ,အဖတို့သည် သား ရဟန်းပြုသောအခါမှစ၍ သူဌေး ၂ ယောက်တို့သည် ဆင်းရဲခြင်းသို့ ရောက်ကုန်၏။

အကြင်သူတို့သည် ထိုသူဌေးတို့၏လယ်ကို လည်းကောင်း၊ ကုန်စလယ် သွယ်ခြင်းကို လည်းကောင်း ယှဉ်စေကုန်၏။ ထိုအမှုကို ပြုကုန်သောသူတို့သည် 'ဤသူဌေးမျိုး၌ သားသည် လည်းကောင်း, ညီသည် လည်းကောင်း မြဲကိုတောင်းခံယူအံ့သောသူ မည်သည် မရှိပြီ'ဟု မိမိတို့၏လက်၌ရှိသော ဥစ္စာဘဏ္ဍာတို့ကိုယူ၍ အလိုအလျောက် ပြေးကြလေကုန်၏။ အိမ်၌နေကုန်သော, အမှုကြီးငယ်ကိုလုပ်သော ကျွန်တို့သည်လည်း ရွှေ,ငွေ, အဝတ်, ပုဆိုး အစရှိသော ဥစ္စာတို့ကိုယူ၍ အလိုအလျောက် ပြေးကြလေကုန်၏။

နောက်အဖို့ဖြစ်သောကာလ၌ သူဌေး ၂ယောက်တို့သည် အတီးကျုန်[၅၂]ကုန်သည်ဖြစ်၍ ရေဆေးရန်ဖြစ်သော အိုးခွက်ကိုမျှလည်း မရသောကြောင့် အိမ်ကိုရောင်းရသဖြင့် အိမ်မရှိကြကုန်သည်ဖြစ်၍၊ အလွန်သနားဖွယ်ဖြင့် ပုဆိုးညစ်ကိုဝတ်၍ ခွက်လက်စွဲလျက် ထမင်းတောင်း၍ စားရအံ့သောငှာ သွားကြရကုန်၏။

ထိုအခါ ရဟန်းတစ်ပါးသည် ဇေတဝန်ကျောင်းတော်မှထွက်ခဲ့၍ သူဌေးသားရဟန်း၏ နေရာအရပ်သို့ သွားလေ၏။ သူဌေးသားရဟန်းသည် ဇေတဝန်ကျောင်းတော်မှရောက်လာသော ရဟန်းအား နေရာပေးခြင်း, သောက်ရေ သုံးဆောင်ရေ တည်ထားခြင်း အစရှိသော အာဂန္တုက[၅၃]ဝတ်ကိုပြု၍ ချမ်းသာစွာနေစေပြီးသော် "အရှင်ဘုရား။ အဘယ်အရပ်မှ လာတော်မူသနည်း"ဟု မေး၏။ အာဂန္တုက ရဟန်းသည်လည်း "သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်မှလာခဲ့သည်"ဟု ဆိုပေ၏။

ထိုသို့သော အာဂန္တုကရဟန်း၏စကားကိုကြားလျှင် အလွန် နှစ်သက်ဝမ်းမြောက်သည်ဖြစ်၍

"အရှင်ဘုရား။ မြတ်စွာဘုရားအား လည်းကောင်း, ၈ ကျိပ်ကုန်သော မဟာသာဝက[၅၄]တို့အား လည်းကောင်း အနာရောဂါမရှိသည် ဖြစ်ပါ၏လော။ ဆွမ်း,သကၤန်းစသည် မျှတပါ၏လော"ဟု မေး၏။

ထိုသို့ သူဌေးသားရဟန်း မေးသောအခါ အာဂန္တုကရဟန်းသည်လည်း ဤသို့ ဆိုပေ၏။

"ငါ့ရှင်။ မြတ်စွာဘုရားမှစ၍ အဂ္ဂသာဝက[၅၅], မဟာသာဝကတို့အား အနာရောဂါမရှိ၊ ခံ့ကျန်းသာယာ မာသည်ဖြစ်ကုန်၏"ဟု ဆိုလေသော်၊ အမိ, အဖတို့အကြောင်းကို မေးမြန်းလို၍ 'အသုကဿ ဘန္တေ သာဝတ္ထိယံ' စသောပါဠ်ကို ဆို၏။ အဓိပ္ပာယ်ကား "အရှင်ဘုရား။ သာဝတ္ထိပြည်၌ ဤမည်သော သူဌေးမျိုးအား အနာရောဂါ မရှိသည်ဖြစ်၍ ခံ့ကျန်းသာယာပါ၏လော"ဟု မိမိ၏ အမိအဖတို့အကြောင်းကို မေး၏။

"ငါ့ရှင်။ ထိုသူဌေးအမျိုး၏အကြောင်းကို မမေးလင့်"ဟု ဆို၏။

ထိုသို့ အာဂန္တုကရဟန်း ဆိုသောစကားကိုကြားလျှင် သူဌေးသားရဟန်းသည် "အရှင်ဘုရား။ အဘယ့်ကြောင့်နည်း"ဟု မေး၏။

"ငါ့ရှင်။ ထိုသူဌေးမျိုးအား တစ်ယောက်တည်းသောသား ရှိသတည်း။ ထိုသားသည် သာသနာတော်၌ ရဟန်းပြုလေသတတ်။ ထိုသူဌေးသား ရဟန်းပြုသောအခါမှစ၍ ထိုသူဌေးအမျိုးသည် ပြုန်းတီးခဲ့ကုန်၏။ ယခုမူကား ထိုသူဌေး၂ယောက်တို့သည် အတီးကျုန်ကုန်သည်ဖြစ်၍ ကိုးကွယ်ရာမရ အလွန်သနားဖွယ်သောအဖြစ်သို့ ရောက်ကုန်၍ ခွက်လက်စွဲလျက် ထမင်းတောင်း၍စားရအံ့သောငှာ သွားကြကုန်သည်"ဟု ဆိုလေ၏။

ထိုသို့ပြောဆိုသော အာဂန္တုကရဟန်း၏ စကားကိုကြားလျှင် သူဌေးသားရဟန်းသည် မိမိကိုယ်၏ အဖြစ်ဖြင့် တည်စိမ့်သောငှာ မတတ်နိုင်သည်ဖြစ်၍ ငိုကြွေးမြည်တမ်း၏။

"ငါ့ရှင်။ အဘယ့်ကြောင့် ငိုသနည်း"ဟု မေး၏။

"အရှင်ဘုရား။ ထိုသူဌေးဆင်းရဲတို့သည် အကျွန်ုပ်၏ အမိ, အဖတို့တည်း။ အကျွန်ုပ်သည် ထိုသူဌေးဆင်းရဲတို့၏ သားပင်တည်း"ဟုဆို၏။

"ထိုသို့တပြီးကား ငါ့ရှင့်။ သင်၏ မိခင်,ဖခင်တို့သည် သင့်ကိုမှီ၍ ကြီးစွာသောပျက်စီးခြင်းသို့ ရောက်ကုန်၏။ ငါ့ရှင် သွားချေ။ ထိုအမိ,အဖတို့ကို လုပ်ကျွေးချေလော့"ဟု ဆိုပေ၏။

ထို သူဌေးသားရဟန်းသည် ဤသို့ကြံ၏။

'ငါသည် ၁၂နှစ်ကာလပတ်လုံး စေ့ဆော်လျက် လုံ့လပြုသော်လည်း မဂ်ကိုလည်းကောင်း, ဖိုလ်ကိုလည်းကောင်း ဖြစ်စိမ့်သောငှာ မတတ်နိုင်။ မကျွတ်ထိုက်[၁၅]သည် ဖြစ်လတ္တံ့သတည်း။ ထို့ကြောင့် ငါ့အား ရဟန်းအဖြစ်ဖြင့် အဘယ်အကျိုး ရှိအံ့နည်း။ လူထွက်ပြီးလျှင် အမိ,အဖတို့ကိုမွေး၍ အလှူပေးခြင်း, သီလဆောက်တည်ခြင်းကိုပြု၍ နတ်ပြည်သို့လားရသည် ဖြစ်လတ္တံ့သတည်း' ဟု ကြံ၍၊ တောကျောင်းကို ထိုဉ္စ်သည်ဖြစ်သောရဟန်းအား အပ်နှင်းခဲ့၍၊ မိုးသောက်သောနေ့၌ တောကျောင်းမှ ထွက်ခဲ့၍ အစဉ်သဖြင့် သွားလေသည်ရှိသော် သာဝတ္ထိပြည်၏အနီး ဇေတဝန်ကျောင်းတော်နောက်သို့ ရောက်လေ၏။

ဇေတဝန်ကျောင်းတော်နောက်၌ ၂ ကြောင်းသောခရီးတို့သည် ရှိကုန်၏။ တစ်ကြောင်းသောခရီးကား ဇေတဝန်ကျောင်းတော်သို့ သွားလေ၏။ တစ်ကြောင်းသောခရီးကား သာဝတ္ထိပြည်သို့ သွားလေ၏။

သူဌေးသားရဟန်းသည် ထိုခရီးအကြား၌ ရပ်လျက် ဤသို့ကြံ၏။

'ငါသည် ရှေးဦးစွာ အမိ, အဖတို့ကို ဖူးမြင်ရအံ့လော။ ထိုသို့မဟုတ်မူကား အား ၁၀ ပါးနှင့်ပြည့်စုံတော်မူသော မြတ်စွာဘုရားကို ရှေးဦးစွာ ဖူးမြင်ရအံ့လော'ဟု ကြံ၏။ ဤသို့ကြံပြီးလျှင်

'ငါသည် အမိ,အဖတို့ကို အရှည် မြင်ရလတ္တံ့သတည်း။ ဤနေ့မှစ၍ ငါ့အား မြတ်စွာဘုရားကို ဖူးမြင်ခြင်း ငှာ အလွန် ရခဲလတ္တံ့သတည်း။ ထို့ကြောင့် ယနေ့ပင်လျှင် မြတ်စွာဘုရားကို ဖူးမြင်၍၊ တရားတော်ကို နာ၍ နက်ဖြန်မှလျှင် အမိ, အဖတို့ကို ဖူးမြင်အံ့'ဟု သာဝတ္ထိပြည်သို့ သွားသောခရီးကို စွန့်၍ ညချမ်းသောအခါ၌ ဇေတဝန်ကျောင်းတော်သို့ ရောက်လေ၏။

ထို့နေ့ မိုးသောက်သောအခါ၌ မြတ်စွာဘုရားသည် လောကကို ကြည့်ရှုတော်မူသည်ရှိသော် ဤသူဌေးသား ရဟန်း၏ မဂ်,ဖိုလ်ရအံ့သော ဥပနိဿယ[၁၆]ကို မြင်တော်မူလေ၏။

ထိုအခါ မြတ်စွာဘုရားသည် ထိုသူဌေးသားရဟန်း လာသောအခါ၌ မာတုပေါသက[၁၇]သုတ်ဖြင့် အမိ,အဖတို့၏ဂုဏ်ကျေးဇူးကို ချီးမွမ်းတော်မူ၏။ ထို သူဌေးသားရဟန်းသည်လည်း ပရိသတ်၏အဆုံး၌တည်၍ သာယာစွာသောတရားစကားကို နာလျက် ဤသို့ကြံ၏။

'ငါသည်ကား လူထွက်၍ အမိ,အဖတို့အား လုပ်ကျွေးအံ့သောငှာ တတ်နိုင်၏ဟု မှတ်ဘိ၏။ မြတ်စွာဘုရားသည်ကား ရဟန်းပြု၍ပင်လျှင် အမိ,အဖတို့အား ကျေးဇူးဆပ်ရာ'ဟု မိန့်တော်မူ၏။

'ငါသည် အကယ်၍ မြတ်စွာဘုရားကို မဖူးမြင်မူ၍ သွားချေအံ့။ ဤသို့သဘောရှိသော သာသနာတော်၌ အလွန်ရခဲလှစွာသော ရဟန်းအဖြစ်မှ ယုတ်လေရာ၏။ ဤယခု ငါကား လူမထွက်မူ၍ ရဟန်းဖြစ်လျက်ပင်လျှင် အမိ, အဖတို့ကို လုပ်ကျွေးအံ့'ဟု ကြံ၏။

ထိုသို့ကြံပြီး၍ သူဌေးသားရဟန်းသည် မြတ်စွာဘုရားကို ရှိသေစွာရှိခိုးခဲ့ပြီးလျှင် ဇေတဝန်ကျောင်းတော်မှ ထွက်ခဲ့၍ သာဝတ္ထိပြည်သို့သွားပြီးလျှင်၊ စာရေးတံဖြစ်သော ယာဂုကိုလည်းကောင်း, စာရေးတံ^၄^ဖြစ်သော ဆွမ်းကိုလည်းကောင်း ဆောင်ယူခဲ့၍ ၁၂ နှစ်ပတ်လုံး တောၶ်နေသောရဟန်းသည် ပါရာဇိက ရောက်သကဲ့သို့ဖြစ်၏။

ထို သူဌေးသားရဟန်းသည် နံနက်ကပင်လျှင် သာဝတ္ထိပြည်သို့ ဝင်လေ၏။

'ရှေးဦးစွာ ယာဂုကို ခံရအံ့လော၊ ထိုသို့မဟုတ်မူကား အမိ, အဖတို့အား ဖူးမြင်ရအံ့လော'ဟု ကြံ၏။

'ငါသည် အထီးကျန်သော အမိ, အဖတို့၏ထံသို့ လက်ချည်းသွားအံ့သောငှာ မသင့်ချေ'ဟုကြံ၍ စာရေးတံယာဂုကို လည်းကောင်း, စာရေးတံဆွမ်းကို လည်းကောင်း ခံပြီးလျှင်၊ ထိုအမိ,အဖတို့ အိမ်ဟောင်းတံခါးသို့ သွားလေ၏။

ထိုအခါ သူဌေးသားရဟန်း၏ အမိ,အဖတို့သည်လည်း ယာဂုထမင်းကိုခံပြီးလျှင် သူတစ်ပါးတို့အိမ်နံရံကို မှီ၍နေကုန်၏။ သူဌေးသားရဟန်းသည်လည်း အနီးသို့ကပ်၍ အထီးကျန်ကုန်သော အမိ,အဖတို့ကိုမြင်လေလျှင် ပြင်းစွာသောစိုးရိမ်ခြင်း ရှိသည်ဖြစ်၍ မျက်ရည်ဖြင့်ပြည့်သောမျက်စိတို့ဖြင့် အမိ,အဖတို့ အနီး၌ရပ်၏။ သူဌေး ၂ယောက်တို့သည်လည်း သားဖြစ်သောရဟန်းကိုမြင်၍ မသိကြကုန်။

ထိုအခါ သူဌေးသားရဟန်းအမိသည် 'ဤရဟန်းကား ဆွမ်းအလို့ငှာ ငါတို့၏အထံ၌ ရပ်သည်ဖြစ်လတ္တံ့.' ဟူသောအမှတ်ဖြင့်၊

"အရှင်ဘုရား။ အရှင်ဘုရားတို့အား လှူအပ်သည်နှင့်ယှဉ်သော ဝတ္ထုသည် ငါတို့အား မရှိကုန်။ ငါတို့သည် အလွန်ဆင်းရဲခြင်းသို့ ရောက်ကုန်၏။ အရှင်ဘုရား ကန်တော့ပါ၏"ဟု ဆို၏။

ထိုအခါ သူဌေးသားရဟန်းသည် အမိဆိုသောစကားကိုကြားလျှင် ကွဲအံ့သောနှလုံးဖြင့် စိုးရိမ်ခြင်း ပြင်းစွာဖြစ်သည်ဖြစ်၍ မျက်ရည်တွေတွေ ခြေဖမိုးသို့ကျလျက် ရပ်၏။ ၂ကြိမ်, ၃ကြိမ်တိုင်အောင် အမိဆိုသော်လည်း မသွားမူ၍ ရပ်သည်သာတည်း။

ထိုသို့ရပ်သောအခါ သူဌေးသားရဟန်း၏အဖသည် အမိကို ဆို၏။

"အဘယ်။ သွား၍ သိအောင်ပြုလော့။ ဤရဟန်းသည် ငါတို့သားပင် ဖြစ်လေသည်မသိ"ဟုဆို၏။

အမိသည် ထ၍ကြည့်သည်ရှိသော် သား၏အဖြစ်ကိုသိ၍ သူရူးမကဲ့သို့ဖြစ်၍ သား၏ခြေရင်း၌ဝပ်လျက် ပြင်းစွာငိုကြွေး၏။ ထိုသို့ငိုကြွေးသောအသံကို ကြားလျှင် သူဌေးသား ရဟန်း၏အဖသည်လည်း သား၏ခြေကို ဖက်၍ အလွန်သနားဖွယ် ပြင်းစွာငိုကြွေး၏။

သူဌေးသားရဟန်းသည်လည်း အမိ,အဖတို့ ပြင်းစွာငိုကြွေးသည်ကိုသိ၍ မိမိကိုယ်၏အဖြစ်ဖြင့် တည်စိမ့်သောငှာ မတတ်နိုင်သည်ဖြစ်၍ မျက်ရည်တို့ဖြင့် ယိုစီး၏။ သူဌေးသားရဟန်းသည် ပြင်းစွာသောစိုးရိမ်ခြင်း သောကကို သည်းခံ၍

"အို၊ မိခင်,ဖခင်တို့။ မစိုးရိမ်ကြကုန်လင့်။ ငါသည် မိခင်,ဖခင်တို့ကို မွေးအံ့"ဟု အမိ,အဖတို့ကို နှစ်သိမ့်စေဦး၍၊ ယာဂုကိုသောက်စေ၍ တင့်အပ်သောအရပ်၌နေစေပြီးလျှင်၊ ဆွမ်းအလို့ငှာသွား၍ ဆွမ်းကို ဆောင်ယူချေပြီးလျှင်၊ တစ်ဖန် အမိ, အဖတို့ကို စားစေ၏။ မိမိအလို့ငှာ ဆွမ်းခံသွား၍၊ ဆွမ်းရပြီးလျှင် အမိ, အဖအနီးသို့ချဉ်းကပ်၍ နောက်မှ စား၏။

ထိုသူဌေးသားရဟန်းသည် အမိ, အဖတို့ကို တွေ့သည်မှစ၍ ဤသို့သောနည်းဖြင့်လျှင် အမိ, အဖတို့ကို လုပ်ကျွေး၏။ လဆန်းပက္ခ, လဆုတ်ပက္ခတို့၌ ရအပ်သောဆွမ်း အစရှိသည်တို့ကို အမိ, အဖတို့အား ပေး၏။

မိမိသည် ဆွမ်းခံ၍ ရသည်ရှိသော် စားရ၏၊ မရသော် မစားရ။ ဝါဆိုဖို့ ပုဆိုးကို လည်းကောင်း, ထိုမှတစ်ပါး အမှတ်မရှိ ရအပ်သော ပုဆိုးကို လည်းကောင်း ရ၍ အမိ, အဖတို့အားသာလျှင် ပေး၏။ အမိ, အဖတို့ ဝတ်ရုံသုံးဆောင်လေပြီးသည်မှ ဟောင်းနွမ်းဆွေးရိသော ပုဆိုးကိုယူ၍ စပ်ဖာပြီးလျှင် ဆိုးရည်တို့ဖြင့်ဆိုး၍ မိမိသည် သုံးဆောင်ရ၏။

ထို သူဌေးသားရဟန်းသည် ဆွမ်းရသောနေ့ကား နည်းလှ၏၊ ဆွမ်းမရသောနေ့ကား များ၏။ ဝတ်ရုံသော သင်္ကန်းတို့ကား အလွန်ညစ်နွမ်းကုန်၏။ ထိုသူဌေးသားရဟန်းသည် အမိ, အဖတို့ကို လုပ်ကျွေးမွေးမြူရ သောကြောင့်လျှင် နောက်အဖို့ဖြစ်သောကာလ၌ ကြုံပြ၍ ဖက်ရွက်ရော်အဆင်းကဲ့သို့ ဖျော့တော့လျက် အကြောပြိုင်းပြိုင်းထသောကိုယ် ရှိ၏။

ထိုအခါ သူဌေးသားရဟန်းကို အတူတကွ မြင်ဖူး, စားဖူးသောရဟန်းတို့သည် မေးကုန်၏။

"ငါ့ရှင် ရှေး၌ သင်၏အဆင်းသည် အလွန်တင့်တယ်၏။ ယခုမူကား သင် ကြုံလှီလှ၏တကား၊ ညစ်ညူးလှ၏တကား၊ ဖက်ရွက်ရော်အဆင်းကဲ့သို့ ဖျော့တော့ခြင်းရှိ၏တကား၊ အကြောပြိုင်းပြိုင်းထသော ကိုယ်ရှိ၏တကား။ သင့်အား အဘယ်ရောဂါ ရှိသနည်း"ဟု မေးကုန်၏။

"ငါ့ရှင်တို့။ ငါ့အား တစ်စုံတစ်ခုမျှ အနာရောဂါ မရှိ။ စင်စစ်သော်ကား ငါ့အား တစ်ခုသော ကြောင့်ကြသည် ရှိ၏"ဟု ဆို၏။

ထိုအခါ သူဌေးသားရဟန်းကို တစ်ပါးသောရဟန်းတို့သည်

"ငါ့ရှင်။ သဒ္ဓါ၍လှူသောပစ္စည်းကို အဘယ့်ကြောင့် ဖျက်ဆီးလေသနည်း။ သင်သည် သဒ္ဓါ၍ လှူသောပစ္စည်းကို လူတို့အားပေး၍ မအပ်သောအမှုကို အဘယ့်ကြောင့် ပြုဘိသနည်း"ဟု ဆိုကုန်၏။

ထို သူဌေးသားရဟန်းသည် ထိုရဟန်းတို့စကားကို ကြားလျှင် အလွန်ရှက်သည်ဖြစ်၍ ဦးခေါင်းချလျက် ပုန်းလေ၏။

ထိုရဟန်းတို့သည် ဤမျှကဲ့ရဲ့ခြင်းဖြင့်လည်း မရောင့်ရဲကုန်သည်ဖြစ်၍၊ မြတ်စွာဘုရားအထံတော်သို့ သွားကြလေ၍ မြတ်စွာဘုရားအား လျှောက်ကြလေကုန်၏။

"အရှင်ဘုရား။ ဤမည်သောရဟန်းသည် သဒ္ဓါ၍လှူသောပစ္စည်းကို ဖျက်ဆီး၍ လူတို့အား ပေး၏"ဟု လျှောက်ကုန်၏။

မြတ်စွာဘုရားသည် သူဌေးသားရဟန်းကို ခေါ်တော်မူ၍ သိတော်မူလျက်ပင် မေးတော်မူ၏။

"ချစ်သားရဟန်း။ သင်သည် သဒ္ဓါ၍လှူသောပစ္စည်းကို လူတို့အား ကျွေးမွေးသောဟူသည် မှန်၏လော"ဟု မေးတော်မူ၏။

သူဌေးသား ရဟန်းသည်လည်း

"အရှင်ဘုရား။ မှန်ပေ၏"ဟု လျှောက်၏။

မြတ်စွာဘုရားသည် ထို သူဌေးသားရဟန်း၏အပြုအမူကို ချီးမွမ်းတော်မူလိုသည်ဖြစ်၍၊ ကိုယ်တော်၏ လည်း ရှေး၌ဖြစ်သောအကျင့်တော်ကို ထင်ရှားပြတော်မူလိုသည်ဖြစ်၍

"ချစ်သားရဟန်း။ လူတို့ကို ကျွေးမွေး၏ ဟူသည်ကား အဘယ်မည်သောသူကို ကျွေးမွေးသနည်း"ဟု မေးတော်မူ၏။

"အရှင်ဘုရား။ အကျွန်ုပ်၏ အမိ, အဖတို့ကို ကျွေးမွေးပါသည်"ဟု လျှောက်၏။

မြတ်စွာဘုရားသည် ထိုသူဌေးသားရဟန်းအား အားထုတ်ခြင်းကိုဖြစ်စိမ့်သောငှာ

"ချစ်သားရဟန်း။ သာဓု, သာဓု, သာဓု၊ ကောင်းစွ ကောင်းစွ"ဟု ၃ကြိမ် ကောင်းချီးပေးတော်မူ၍၊

"ချစ်သား။ သင်သည် ငါဘုရား၏ သွားသောခရီး၌ တည်သောသူပေတည်း။ ငါဘုရားသည်လည်း ရှေးသောအခါက အကျင့်ကိုကျင့်သည်ရှိသော် အမိ, အဖတို့ကို ကျွေးမွေးဖူး၏"ဟု မိန့်တော်မူ၏။

ထိုအခါ သူဌေးသားရဟန်းသည် သက်သာရာကို ရလေ၏။

မြတ်စွာဘုရားသည် ထို ရှေး၌ဖြစ်သောအကျင့်တော်ကို ထင်ရှားပြုတော်မူအံ့သောငှာ ဆိတ်ဆိတ် နေတော်၏။

ထိုအခါ ရဟန်းတို့သည်

"အရှင်ဘုရား။ သူဌေးသားရဟန်း၏ အမိ, အဖတို့ကို လုပ်ကျွေးမွေးမြူသည်ကို အကျွန်ုပ်တို့ သိရပါကုန်ပြီ။ အရှင်ဘုရား၏ ရှေး၌ အမိ,အဖတို့အား ကျွေးမွေးသောအကြောင်းကို ဟောတော်မူပါ"ဟု လျှောက်ကြကုန်၏။

ထိုသို့ လျှောက်ထားတောင်းပန်သောအခါ မြတ်စွာဘုရားသည် လွန်လေပြီးသောအကြောင်းကို ဆောင်တော်မူ၏။

## ၁။ ဒုကူလ, ပါရိကာတို့ ဖွားမြင်ခန်း

သံသရာဘေးကို ရှုလေ့ရှိကုန်သော ချစ်သားရဟန်းများတို့။ ရှေးလွန်လေပြီးသောအခါ ဗာရာဏသီ[၁]ပြည်မှ မနီးမဝေးသောအရပ်၌ အမွန်ရှည်သော တစ်ခုသောမြစ်သည် ရှိ၏။ ထိုမြစ်၏ ဤမှာဘက်ကမ်းနား၌ နေသာဒဂါမ ဟုဆိုအပ်သော တစ်ခုသောတံငါရွာသည် ရှိ၏။ ထိုမှာဘက်ကမ်းနား၌လည်း တစ်ခုသောတံငါရွာသည် ရှိ၏။ တစ်ရွာ, တစ်ရွာ၌လည်း ၅၀၀, ၅၀၀ သော တံငါမျိုးတို့သည် နေကြကုန်၏။

ထို ၂ ရွာတို့၌လည်း တံငါကြီး ၂ယောက်တို့သည် ရှိကုန်၏။ အဆွေခင်ပွန်းပြု၍ နေကြကုန်၏။ ထို တံငါကြီး ၂ ယောက်တို့သည် ငယ်သောအခါကပင်လျှင် ကတိကဝတ်[၁]ကို ပြုကြကုန်၏။

"အဆွေ။ ငါတို့သည် တစ်ယောက်သောသူအား သားမိန်းမ ရှိသည်ဖြစ်အံ့။ တစ်ယောက်သောသူအား သားယောကျ်ား ရှိသည်ဖြစ်အံ့။ ထို သားသမီးတို့အား ထိမ်းမြားခြင်းမင်္ဂလာကို ပြုကြကုန်အံ့"ဟု ကတိကဝတ်ကို ပြုပြီးသော်၊ ထိုသို့ ကတိကဝတ်ကိုပြုပြီးသောကာလ၌ ဤမှာဘက်၌ရွာသူကြီးအား သားယောကျ်ား ဖွား၏။ ထိုသတို့သား ဖွားသောခဏ၌ ဘွဲ့ဖြူပုဆိုး[၃]ဖြင့် ခံ၏။ ထိုသတို့သားအား အမည်မှည့်သည်ရှိသော် ဘွဲ့ဖြူပုဆိုးဖြင့် ခံသောကြောင့် 'ဒုကူလ' သတို့သား ဟူသောအမည်ကို မှည့်ကုန်၏။

ဤမှာဘက်မှတစ်ပါး ရွာသူကြီးအိမ်၌ သမီးမိန်းမ ဖွားလေ၏။ ထိုသတို့သမီးအား ထိုမှာဘက်၌ ဖွားသောကြောင့် 'ပါရိကာ' ဟူသောအမည်ကို မှည့်ကုန်၏။ ထို ၂ ယောက်သော ဒုကူလ, ပါရိကာတို့သည်

အလွန် အဆင်းလှကုန်၏။ ကြည်ညိုဖွယ် ရှိကုန်၏။ ရွှေအဆင်းနှင့် တူသောအဆင်း ရှိကုန်၏။ ထို ၂ယောက်ကုန်သော ဒုကူလ, ပါရိကာတို့သည် တံငါမျိုး၌ဖြစ်သော်လည်း အသက်သတ်ခြင်း အစရှိသောအကုသိုလ် ဒုစရိုက်ကို မပြုကုန်။

နောက်အဖို့ဖြစ်သောကာလ၌ ၁၆နှစ် အရွယ်ရောက်သော ဒုကူလသတို့သားကို အမိ,အဖတို့သည်

"ချစ်သားဒုကူလ။ ငါတို့အဆွေခင်ပွန်း၏သမီးသည် အလွန် အဆင်းလှ၏။ ရှုဖွယ်ကြည်ညိုဖွယ် ရှိ၏။ ရွှေအဆင်းနှင့် တူသောအဆင်း ရှိ၏။ ထို သတို့သမီးကို သင့်အား ဆောင်နှင်းအံ့"ဟု ဆိုကုန်၏။

ဒုကူလသတို့သားသည်ကား ဗြဟ္မာ့ပြည်မှလာ၍ စင်ကြယ်သော သတ္တဝါဖြစ်သောကြောင့် နား ၂ ဘက်ကို ပိတ်၍၊

"ငါ့အား အိမ်ရာထောင်ခြင်းကို အလိုမရှိ။ မိခင်, ဖခင်တို့။ ဤသို့သောစကားကို မဆိုကြကုန်လင့်"ဟု ဆို၏။ ၂ကြိမ်, ၃ကြိမ်မြောက်အောင်ဆိုသော်လည်း "အိမ်ရာထောင်ခြင်းကို အလိုမရှိ"ဟု ဆို၏။

ပါရိကာကို အမိ, အဖတို့လည်း ဒုကူလအတူ ဆိုကုန်၏။

"ချစ်သမီးပါရိကာ။ ငါတို့အဆွေခင်ပွန်း၏သားသည် ရှိ၏။ ထိုသတို့သားသည် အလွန် အဆင်းလှ၏။ ကြည်ညိုဖွယ်ရှိ၏။ ရွှေအဆင်းနှင့် တူသောအဆင်း ရှိ၏။ ထိုသတို့သားအား သင့်ကို ပေးကုန်အံ့"ဟုဆိုကုန်၏။

ထိုသို့ အမိ, အဖတို့ဆိုသော စကားကိုကြားလျှင် ပါရိကာသည် နား ၂ ဘက်ကိုပိတ်၍ ဒုကူလအတူပင် ဆိုလေ၏။ ထိုပါရိကာသည်လည်း ဗြဟ္မာ့ပြည်မှလာသည်ဖြစ်၍ စင်ကြယ်သောသတ္တဝါ ဖြစ်သောကြောင့် "အိမ်ရာထောင်ခြင်းကို အလိုမရှိ"ဟုဆို၏။

ထိုရောအခါ ဒုကူလသတို့သားသည် ပါရိကာအား 'လျှို့ဝှက်သောသတင်းစကားကို အကြောင်းကြားချေ'ဟု စေလိုက်၏။ 'ပါရိကာ။ သင်သည် အကယ်၍ မေထုန်သဘောဖြင့် အလိုရှိသည်ဖြစ်အံ့။ တစ်ပါးသောယောကျ်ား၏ အိမ်သို့ သွားလေလော့။ ငါ့အား မေထုန်သဘောဖြင့် အလိုမရှိ'ဟု စေလိုက်၏။

ပါရိကာသည်လည်း ထိုဒုကူလ သတို့သားအား 'လျှို့ဝှက်သောသတင်းစကားကို အကြောင်းကြားချေ'ဟု စေလိုက်၏။ 'ဒုကူလသတို့သား။ သင်သည် အကယ်၍ မေထုန်သဘောဖြင့် အလိုရှိသည်ဖြစ်အံ့။ တစ်ပါးသော အမျိုးသမီးအိမ်သို့ သွားလေလော့။ ငါ့အား မေထုန်သဘောဖြင့် အလိုမရှိ'ဟု စေလိုက်၏။

ထို ဒုကူလ,ပါရိကာတို့သည် အလိုမရှိကုန်ဘဲလျက် အမိ,အဖတို့သည် ထိမ်းမြားပေးစားခြင်းကို ပြုကုန်၏။ ထိုသို့ပြုကုန်သော်လည်း ကိလေသာတည်းဟူသော မဟာသမုဒ္ဒရာသို့ မသက်မူ၍ ၂ယောက်သော ဗြဟ္မာကြီးတို့ကဲ့သို့ တကွနက်လျှင် နေကြကုန်၏။ ဒုကူလသတို့သားသည် ငါးကို လည်းကောင်း, သမင်ကို လည်းကောင်း မသတ်မပုတ်။ အယုတ်သဖြင့် ဆောင်ခဲ့သောဟင်းမျိုးတို့ကိုမျှလည်း ရောင်းခြင်းကိုမပြု။

ထိုသို့မပြုနေသောအခါ အမိ, အဖတို့သည် ဒုကူလကို ဆိုကုန်၏။

"ချစ်သား ဒုကူလ။ သင်သည် မုဆိုး,တံငါမျိုးတို့၌ပင်ဖြစ်လျက် အသက်သတ်ခြင်းကို မပြု။ အယုတ်သဖြင့် ဆောင်ခဲ့သော ငါး, အမဲကိုမျှလည်း ရောင်းခြင်းငှာ အလိုမရှိ။ အဘယ်အမှုကိုပြု၍ အသက်ရှည်ကုန်အံ့နည်း"ဟု ဆိုကုန်၏။

"မြင်းမိုရ်, စကြဝဠာ, မဟာမြေစိုင်မက ကြီးလှသောကျေးဇူး ရှိပေသော မိခင်, ဖခင်တို့။ သင်တို့သည် အကယ်၍ အနှုးအညွတ် ခွင့်လွှတ်ပါကုန်သည်ဖြစ်အံ့။ အကျွန်ုပ်တို့ ရဟန်းပြုပါကုန်အံ့"ဟု ဆို၏။

အမိ,အဖတို့သည်လည်း ဒုကူလ, ပါရိကာတို့စကားကိုကြားလျှင်

"ချစ်သားတို့။ ထိုသို့ ရဟန်းပြုလိုပြီးတကား၊ ကောင်းစွာ, ကောင်းစွာ။ ရဟန်းပြုကြလေကုန်လော့"ဟု ခွင့်ပြုကြကုန်၏။

## ၂။ ဒုကူလ, ပါရိကာတို့ တောထွက်ခန်း

ထို ဒုကူလ, ပါရိကာတို့သည် အမိ, အဖတို့စကားကိုကြားလျှင် အလွန်ဝမ်းမြောက်သောစိတ် ရှိကုန်သည် ဖြစ်၍ အမိ, အဖတို့ကို ရိုသေစွာ ရှိခိုးပန်ကြားခဲ့ပြီးလျှင် နေသာဒဂါမ ဟုဆိုအပ်သော တံငါရွာမှထွက်ခဲ့၍ အစဉ်သဖြင့် သွားလေကုန်သည်ရှိသော်၊ ဂင်္ဂါမြစ်နားသို့ရောက်၍ ဟိမဝန္တာ[၅၅]သို့ ဝင်ကြလေကုန်၏။

အကြင်အရပ်၌ မိဂသမ္မတာ[၅၆]မြစ်သည် ရှိ၏။ ထို မိဂသမ္မတာမြစ်သည် ဟိမဝန္တာမှသက်လတ်၍ ဂင်္ဂါမြစ်သို့စီးလာ၏။ ထို စီးရာမြစ်နားသို့ရောက်လာလျှင် ထိုဂင်္ဂါမြစ်ကိုစွန့်၍ မိဂသမ္မတာမြစ်သို့ ရှေးရှုတက်လေကုန်၏။

ထိုသို့တက်လေကုန်သော ခဏ၌ပင်လျှင် သိကြားမင်း၏နေရာ ပဏ္ဍုကမ္ဗလာ[၅၇] မြကျောက်ဖျာသည် ပူပြင်းမာချော် ခက်တရော်ရှိသောအခြင်းအရာကို ပြပေ၏။ သိကြားမင်းသည် 'အဘယ်အကြောင်းကြောင့်နည်း'ဟု ကြည့်ရှုဆင်ခြင်လတ်သည်ရှိသော်၊ ဒုကူလ, ပါရိကာတို့သည် နေသာဒ ဂါမဟုဆိုအပ်သော တံငါရွာမှထွက်ခဲ့သော အကြောင်းအရာကို သိမြင်သဖြင့်

'ငါကား မျက်စိ ၁၀၀၀ အမြင်ဆောင်သော သိကြားနတ်မင်းဖြစ်လျက် မဆင်ခြင်၍ မသိ။ အသက်မရှိသော ဤကျောက်ဖျာကား ထိုသူမြတ် ၂ယောက်တို့၏ဂုဏ်ထူးကို သိသကဲ့သို့ ဖြစ်လေ၏။ ယခုပင် ထိုသူမြတ် ၂ယောက်တို့၏ နေရာဖြစ်သော ကျောင်းသခ်မ်း[၅၈]ကို ပြီးစေအံ့'ဟု ဝိသကြုံ[၅၉]နတ်သားကိုခေါ်တော်မူ၍၊

"အချင်းဝိသကြုံနတ်သား။ ဒွေမဟာပုရိသ ဟုဆိုအပ်သော ယောကျ်ားမြတ် ၂ ယောက်တို့သည် ရွာမှထွက်၍ ရသေ့ရဟန်းအဖြစ်ဖြင့် ရဟန်းပြုအံ့သောငှာ အလိုရှိသည်ဖြစ်၍ ဟိမဝန္တာသို့ ဝင်ကုန်၏။ ထိုယောကျ်ားမြတ် ၂ယောက်တို့၏နေရာ ကျောင်းသခ်မ်းကို လည်းကောင်း, ရဟန်းတို့၏ပရိက္ခရာ[၆၀]တို့ကို လည်းကောင်း ဖန်ဆင်း၍ပေးချေ"ဟု စေလိုက်၏။

ထို ဝိသကြုံနတ်သားသည် "ကောင်းပါပြီ အရှင်မင်း"ဟု သိကြားမင်း၏အမိန့်တော်ကို ဦးထိပ်ထက် ဆင်ရွက်ပြီးလျှင် ဟိမဝန္တာသို့လာလတ်၍၊ ထိုသူမြတ်တို့၏နေရာ ကျောင်းသခ်မ်းကို လည်းကောင်း၊ ရဟန်းတို့ ပရိက္ခရာကိုလည်းကောင်း၊ ထိုသခ်မ်း၌ ညီလာခံရာ[၆၀], လေညှင်းခံရာ, ကမ္မဋ္ဌာန်းရှုရာ, သမာပတ်[၆၁]ဝင်စားရာ စသော ညဉ့်သန့်စင်ရာ[၆၂] နေ့သန့်စင်ရာ[၆၃]တိုက်ခန်း, ပြတင်း, လေသာ, စမုတ်, တပြင်ကျယ်, ကုဋီတို့ကို လည်းကောင်း၊ ကျောင်းဦး၌ ထုပ်အကျယ် ၂၄တောင်ရှိသော စင်္ကြံ[၆၄]ကို လည်းကောင်း၊ ကျောင်းနှင့်မနီးမဝေး အာရာမ်အတွင်း၌ ကြာမျိုး ၅ပါး[၆၅]တို့ဖြင့် ဖုံးလွှမ်းအပ်သော ၄ ထောင့်ရေကန်တို့ကို လည်းကောင်း၊ ၁၂ ရာသီ အခါမရွေး ချိုမြိန်စွာသော အသီးနှင့်ပြည့်စုံသော သစ်မည်စည်, တည်, လွန်, သရက်, ပိန္နဲ, ငှက်ပျောစသော

"ကာသိကရာဇ်ပြည်သူတို့ကို အစိုးရတော်မူသောအရှင်မင်းကြီး။ အရှင်မင်းကြီးအား ရှိခိုးခြင်းသည် ဖြစ်စေသတည်း။ ကာသိကရာဇ်ပြည်သူတို့၏အစိုးအပွားကို ဆောင်တော်မူသော အရှင်မင်းကြီး။ အရှင်မင်းမြတ်အား ရှိခိုးခြင်းသည် ဖြစ်စေသတည်း။ အရှင်မင်းမြတ်အား လက်အုပ်ချီပါကုန်၏။ အရှင်မင်းမြတ်သည် ငါတို့ကို သုဝဏ္ဏသာမထံသို့ ပို့တော်မူလော့။

"ထိုသုဝဏ္ဏသာမကို ခြေတို့ကိုလည်းကောင်း, ရှုချင်ဖွယ်သော မျက်နှာကို လည်းကောင်း သုံးသပ်ပြီးလျှင် မိမိကိုယ်ကိုပုတ်ခတ်လျက် သေခြင်းသို့ ရောက်ကုန်အံ့"ဟု ဆို၏။

ဤသို့လျှင် ၃ယောက်သော မင်း, ရသေ့တို့ စကားပြောဟော၍နေစဉ်တွင်ပင်လျှင် ဧနေဝင်ခဲ့၏။ ထို နေဝင်သောအခါ ပီဠိယက္ခမင်းကြီးသည် 'ဤယခုအခါ ငါသည် ဤရသေ့တို့ကို သုဝဏ္ဏသာမနေရာ မိဂသမ္မတာမြစ်သို့ ဆောင်ချေအံ့။ ထိုသုဝဏ္ဏသာမကို ပြကတည်းကလျှင် ထိုရသေ့၏နှလုံးသည် ကွဲလတ္တံ့သတည်း။ ဤသို့နှလုံးကွဲသောအခါ ၃ယောက်သောသူတို့သည် သေခြင်းသို့ ရောက်ကုန်လတ္တံ့။ ထိုသို့ ဒုကူလ, ပါရိကာ, သုဝဏ္ဏသာမတို့သည် သေခြင်းသို့ရောက်သောအခါ ငါသည် ငရဲ၌ဖြစ်သည်သာ မည်ရာ၏။ ထို့ကြောင့် ဒုကူလ, ပါရိကာတို့ သွားအံ့သောငှာ မပေးအံ့'ဟု ကြံ၍–

'ဗြဟာ ဝါဠမိဂါကိဏ္ဏံ၊ အာကာသန္တံဝ ဒိဿတိ။
ယတ္ထ သာမော ဟတော သေတိ၊ စန္ဒောဝ ပတိတော ဆမာ။
'ဗြဟာ ဝါဠမိဂါကိဏ္ဏံ၊ အာကာသန္တံဝ ဒိဿတိ။
ယတ္ထ သာမော ဟတော သေတိ၊ သူရောဝ ပတိတော ဆမာ။ ။
'ဗြဟာ ဝါဠမိဂါကိဏ္ဏံ၊ အာကာသန္တံဝ ဒိဿတိ။
ယတ္ထ သာမော ဟတော သေတိ၊ ပံသုနာ ပတိကုဏ္ဍိတော။ ။
'ဗြဟာ ဝါဠမိဂါကိဏ္ဏံ၊ အာကာသန္တံဝ ဒိဿတိ။
ယတ္ထ သာမော ဟတော သေတိ၊ ဣဓေဝ ဝသထ ဿမေ။ ။' ဟူသော ၄ ဂါထာကို ဆို၏။

အဓိပ္ပာယ်ကား–

"အရှင်ရသေ့တို့။ ဗြဟာရည ဟုဆိုအပ်သော ကျယ်စွာသောတောကြီး၌ ကြောက်မက်ဖွယ်သော တိုး, အောင်း, စာမရီ, ဆင်, ခြင်္သေ့, သစ်, ကျား, သားရဲတို့ဖြင့်ပြည့်သော ဟိမဝန္တာ ကျယ်စွာသောတောကြီး၌ ငါသတ်မိသော သုဝဏ္ဏသာမသည် မြေထက်၌ကျသောလမင်းကဲ့သို့ အိပ်ရစ်၏။

"အို၊ ရှင်ရသေ့တို့။ အကြင်တောအရပ်၌ ငါသတ်မိသော သုဝဏ္ဏသာမသည် မြေကြီးထက်၌ကျသော နေလုလင်ကဲ့သို့ အိပ်ရစ်၏။

"ထိုတောသည်ကား ဗြဟာရည ဟုဆိုအပ်သော တောကြီးသည် အလွန်မြင့်စွာ၏။ ဝါဠမိဂါကိဏ္ဏ ဟု ဆိုအပ်သော သားရဲတို့ဖြင့်လည်း ပြည့်၏။ ကောင်းကင်အဆုံးကဲ့သို့ ထင်၏။ တစ်နည်းကား အို–ရှင်ရသေ့တို့။ ဟိမဝန္တာတောအရပ်၌ ငါသတ်မိသောသုဝဏ္ဏသာမသည် မြေမှုန့်အလိမ်းလိမ်း ကပ်သည်ဖြစ်၍ အိပ်ရစ်၏။

"ထို ဗြဟာရည ဟုဆိုအပ်သော တောကြီးသည် အလွန်ကျယ်စွာရှိ၏။ ဝါဠမိဂါကိဏ္ဏ ဟုဆိုအပ်သော သားရဲတို့ဖြင့် ပြည့်၏။ ကောင်းကင်အဆုံးကဲ့သို့ ထင်၏။ ဤသခ်မ်း၌သာလျှင် နေကြကုန်လော့"ဟု ဆို၏။

ထိုသို့ဆိုသောအခါ ဒုကူလ, ပါရိကာတို့သည် မိမိတို့၏ သားရဲ၌ မကြောက်သောသဘော ရှိသောအဖြစ်ကို ပြအံ့သောငှာ–

'ယဒိ တတ္ထ သဟဿာနိ၊ သတာနိ နယုတာနိစ။

နေဝမှာကံ ဘယံ ကောစိ၊ ဝနေ ဝါဠေသု ဝိဇ္ဇတိ။ ။' ဟူသောဂါထာကို ဆို၏။ အဓိပ္ပာယ်ကား–

"ကာသိကရာဇ်ပြည်ကြီးသခင် ဖြစ်တော်မူသော အရှင်မင်းကြီး။ အဘယ့်သို့ ဆိုတော်မူသနည်း။ ဤဟိမဝန္တာ ကျယ်စွာသောတော၌ အထောင်, အသောင်း, အသိန်း, အသန်းမကသော သားရဲတို့သည် အကယ်၍ ရှိကုန်အံ့။ ထို ဟိမဝန္တာ ကျယ်စွာသောတော၌ ထိုသားရဲတို့သည် ရှိလေငြားသော်လည်း တစ်စုံတစ်ခုသော သားရဲ၌ ငါတို့ ကြောက်ခြင်းလည်း မရှိ"ဟု ဆို၏။

## ၇။ ဒုကူလ, ပါရိကာတို့ လိုက်လာခန်း

ထိုသို့ ဒုကူလ, ပါရိကာတို့ ဆိုသောအခါ ပိဋ္ဌိယက္ခမင်းကြီးသည် ထို ဒုကူလ, ပါရိကာရသေ့တို့ကို တားမြစ်အံ့သောငှာ မတတ်နိုင်သောကြောင့် ထိုဒုကူလ, ပါရိကာလက်တို့ကိုကိုင်၍ မိဂသမ္မတာမြစ်နား သုဝဏ္ဏသာမ၏အထံသို့ ဆောင်လေ၏။

ထိုသို့ ပိဋ္ဌိယက္ခမင်းကြီး ဆောင်လေသောအကြောင်းကို ထင်ရှားပြတော်မူလိုသော မြတ်စွာဘုရားသည်–

'တတော အန္ဓာန မာဒါယ၊ ကာသိရာဇာ ဗြဟာဝနေ။

ဟတ္ထေ ဂဟေတွာ ပက္ကာမိ၊ ယတ္ထ သာမော ဟတော အဟု။ ။' ဟူသော ဂါထာကို ဟောတော်မူ၏။

ဘိက္ခဝေ၊ ရဟန်းတို့။ တတော–တဒါကာလေ၊ ထို ငါသုဝဏ္ဏသာမ ဖြစ်တော်မူသောအခါ၌။ ကာသိရာဇာ၊ ကာသိကရာဇ်မင်းကြီးသည်။ ဗြဟာဝနေ၊ လူမနီးသော တောကြီးအလယ်၌။ အန္ဓာနံ၊ ကန်းသောရသေ့တို့ကို။ အာဒါယ၊ ယူ၍။ ယတ္ထ၊ အကြင်အရပ်၌။ သာမော၊ သာမကို။ ဟတော၊ သတ်အပ်သည်။ အဟု၊ ဖြစ်၏။ တတ္ထ၊ ထိုအရပ်သို့။ ဟတ္ထေ၊ လက်တို့ကို။ ဂဟေတွာ၊ ကိုင်၍။ ပက္ကာမိ၊ ဘဲလေပြီ။ အဓိပ္ပာယ်ကား–

"သံသရာဘေးကို မပြတ်ရှုလေ့ရှိသော ချစ်သားရဟန်းတို့။ ငါ သုဝဏ္ဏသာမ ဖြစ်တော်မူသောအခါ ကာသိကရာဇ် ပြည်ကြီးသခင်ဖြစ်တော်မူသော ပိဋ္ဌိယက္ခမင်းကြီးသည် ဗြဟာရညဟုဆိုအပ်သော တောကြီးကျယ်စွာ ဟိမဝန္တာ၌ သူကန်းဖြစ်သောရသေ့တို့ကို ဆောင်ယူ၍ အကြင်မိဂသမ္မတာမြစ်နား၌ သုဝဏ္ဏသာမကို သတ်အပ်၏။ ထို မိဂသမ္မတာမြစ်နားသို့ ဒုကူလ, ပါရိကာတို့၏လက်ကိုကိုင်၍ သွားလေ၏။"

ထိုသို့ဆောင်သွားပြီးလျှင် သုဝဏ္ဏသာမ၏အထံ၌ ရပ်၍ "ဤသည်ကား သင်တို့၏သားဖြစ်သော သုဝဏ္ဏသာမတည်း"ဟု ကြားပေ၏။ ထိုပိဋ္ဌိယက္ခမင်းကြီးကြားသော် သုဝဏ္ဏသာမ၏ခမည်းတော်သည် ဦးခေါင်းကိုချီ၍, မယ်တော်သည် ခြေကိုချီ၍ ပေါင်ပေါ်ထက်၌ထားပြီးလျှင် အထူးထူးအပြားပြား များစွာသော အကြောင်းတို့ဖြင့် ငိုကြွေးမြည်တမ်းကုန်၏။

ထိုသို့ ဒုကူလ, ပါရိကာတို့ ငိုကြွေးသောအကြောင်းကို ထင်ရှားပြတော်မူလိုသော မြတ်စွာဘုရားသည်–

'ဒိသွာန ပတိတံ သာမံ၊ ပုတ္တကံ ပံသုကုဏ္ဌိတံ၊

အပဝိဋ္ဌံ ဗြဟာရညေ၊ စန္ဒံဝ ပတိတံ ဆမာ။ ။' ဟူသော ဂါထာကို မိန့်တော်မူ၏။ အဓိပ္ပာယ်ကား–

"သံသရာဘေးကို ရှုလေ့ရှိသော ချစ်သားရဟန်းတို့။ ငါ သုဝဏ္ဏသာမဖြစ်သောအခါ၌ သားဖြစ်သော, မြေမှုန့်အလိမ်းလိမ်းကပ်သော, လူမနီးသော ဗြဟာရည ဟုဆိုအပ်သော တောကြီးထဲ၌ မြေဝယ်ကျသော လကဲ့သို့ လဲသော သုဝဏ္ဏသာမကိုမြင်၍ "အို၊ အချင်းတို့။ တုရားမဟုတ်သောအမှုကို ပြုလေစွာတကား"ဟု လက် ၂ ဘက်တို့ကိုချီ၍ ငိုကြွေးကြကုန်၏။

ဤသို့ ဒုကူလ, ပါရိကာတို့သည် မြေဝယ်ကျသောလမင်းကို ဥပမာပြု၍ ငိုကြွေးမြည်တမ်းသော်လည်း သား၌ဖြစ်သော စိုးရိမ်ခြင်း ပြင်းစွာနှိပ်စက်အပ်သောကြောင့် မြေထက်၌ကျသောနေမင်းကို ဥပမာပြု၍ ငိုကြွေးမြည်တမ်းလိုသောကြောင့်–

'ဒိသွာန ပတိတံ သာမံ၊ ပုတ္တကံ ပံသုကုဏ္ဌိတံ၊

အပဝိဋ္ဌံ ဗြဟာရညေ၊ သူရံဝ ပတိတံ ဆမာ။ ။'ဟူသော ဂါထာကို ဆို၏။ အဓိပ္ပာယ်ကား–

"သားဖြစ်သော, မြေမှုန့်အလိမ်းလိမ်းကပ်သော, လူမနီးသော ဗြဟာရည ဟုဆိုအပ်သော တောကြီးထဲ၌ မြေဝယ်ကျသောနေကဲ့သို့ လဲသော သုဝဏ္ဏသာမကို မြင်၍ "အို–အချင်းတို့။ ပြုရက်လေစွာ တကား"ဟု လက် ၂ဘက်ကိုမြှောက်၍ သည်းစွာသောအသံဖြင့် ငိုကြွေးကြကုန်၏။

ဤသို့ သုဝဏ္ဏသာမသည် မြေထက်၌လဲသည်ကို ကောင်းကင်မှကျသောနေကဲ့သို့ ဥပမာပြု၍ ငိုကြွေးသော်လည်း သား၌ဖြစ်သောစိုးရိမ်ခြင်းဖြင့် ပြင်းစွာနှိပ်စက်အပ်သောကြောင့်–

'ဒိသွာန ပတိတံ သာမံ၊ ပုတ္တကံ ပံသုကုဏ္ဌိတံ၊

အပဝိဋ္ဌံ ဗြဟာရညေ၊ ကလုနံ ပရိဒေဝယုံ။ ။' ဟူသော ဂါထာကို ဆို၏။ အဓိပ္ပာယ်ကား–

သားဖြစ်သော မြေမှုန့် အလိမ်းလိမ်းကပ်သော လူမနီးသော ဗြဟာရည ဟုဆိုအပ်သော တောကြီး၌ လဲသော သုဝဏ္ဏသာမကိုမြင်၍ အလွန်သနားဖွယ်' လက် ၂ဘက်ကိုမြှောက်၍ ငိုကြွေးကြကုန်၏။

"ကောင်းသောအမြင်ရှိသော သုဝဏ္ဏသာမ။ ယမန်ကာလ မိနှင့်ဖကို နိစ္စမပြတ် ကျောလက်သပ်၍ သားမြတ်သည် လုပ်ကျွေးမွေး၏။ ယခု သင်သည် ပြင်းစွာမေ့လျော့ သလော။ သင်သည် သေအံ့သောအခါသို့ ရောက်လတ်သည်ရှိသော် တစ်စုံတစ်ခုသော စကားကိုမျှ မဆိုခဲ့တကား။

"ကောင်းသောအဆင်းရှိသော ချစ်သားသုဝဏ္ဏသာမ။ ပြင်းစွာငိုက်မျဉ်း သလော။ သင်သည် ယခု သေအံ့သောအခါ ရောက်သည်ရှိသော် တစ်စုံတစ်ခုသော စကားကိုမျှ ငါတို့အား မဆိုခဲ့တကား။

"ချစ်သား သုဝဏ္ဏသာမ။ ယခု အဘယ်သူသည် ငါတို့၏ မြေမှုန့်အလိမ်းလိမ်းကပ်သော, ရှုပ်ထွေးသော ဆံကျစ်ကို ရှင်းလင်းသုတ်သင်၍ ထုံးပေလတ္တံ့နည်း။ သူကန်းဖြစ်ကုန်သော ငါတို့ကို လုပ်ကျွေးမွေးပေသော ဤသုဝဏ္ဏသာမသည် သေခဲ့ပြီတကား။

"ချစ်သားသုဝဏ္ဏသာမ။ ယခု အဘယ်သူသည် တံမြက်စည်းကိုယူ၍ ငါတို့သခ်မ်း၌ တံမြက်လှည်းပေလတ္တံ့နည်း။ ကန်းကုန်သောငါတို့ကို လုပ်ကျွေးမွေးပေသော သုဝဏ္ဏသာမသည် သေခြင်းသို့ ရောက်ခဲ့ပြီတကား။

"ချစ်သားသုဝဏ္ဏသာမ။ ယခုအခါ အဘယ်သူလာ၍ ကန်းကုန်သောငါတို့ကို ရေပူ, ရေချမ်း ကမ်းပါလတ္တံ့နည်း။ ကန်းကုန်သောငါတို့ကို လုပ်ကျွေးမွေးပေသော သုဝဏ္ဏသာမသည် သေခြင်းသို့ ရောက်ခဲ့ပြီတကား။

"ချစ်သား သုဝဏ္ဏသာမ။ ယခုအခါ အဘယ်သူလျှင် တောသစ်မြစ်, တောသစ်သီးတို့ကို ဆောင်ခဲ့၍ ကန်းကုန်သော ငါတို့ကို ကျွေးမွေးပေလတ္တံ့နည်း။ ကန်းကုန်သောငါတို့ကို လုပ်ကျွေးမွေးပေသော သုဝဏ္ဏသာမသည် သေခြင်းသို့ရောက်ခဲ့ပြီတကား"ဟု သုဝဏ္ဏသာမ၏ အမိ,အဖဖြစ်သော ဒုကူလ,ပါရိကာတို့သည် ပြင်းစွာငိုကြွေး မြည်တမ်းပြီးလျှင် သုဝဏ္ဏသာမ၏ရင်၌ လက်ကိုထား၍ အငွေ့ကို စူးစမ်းလတ်သည်ရှိသော် 'ငါတို့သား သုဝဏ္ဏသာမ ရှိသေးသလျှင်ကတည်း။ အငွေ့သည် ရှိသေးသလျှင်ကတည်း။ အဆိပ်၏ အဟုန်ဖြင့် မိန်းမောခြင်းသို့ ရောက်လတ္တံ့။ အဆိပ်မရှိစိမ့်သောငှာ သစ္စာအမှုကို ပြုအံ့'ဟု ကြံ၍ သစ္စာကိုပြုကြကုန်၏။

## ၈။ သစ္စာပြုခန်း

ထိုသို့ သစ္စာပြုသောအကြောင်းကို ထင်ရှားပြတော်မူလိုသော မြတ်စွာဘုရားသည်–

'ဒိသွာန ပတိတံ သာမံ၊ ပုတ္တကံ ပံသုကုဏ္ဍိတံ၊
အဋ္ဋိတာ ပုတ္တသောကေန၊ မာတာသစ္စံ အဘာသထ။ ။

'ယေန သစ္စေန ယံ သာမော၊ ဓမ္မစာရီ ပုရေ အဟု။
ဧတေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။

'ယေန သစ္စေန ယံ သာမော၊ ဗြဟ္မစာရီ ပုရေ အဟု။
ဧတေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။

'ယေန သစ္စေန ယံ သာမော၊ သစ္စဝါဒီ ပုရေ အဟု။
ဧတေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။

'ယေန သစ္စေန ယံ သာမော၊ မာတာ ပေတ္တိဘရော အဟု။
ဧတေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။

'ယေန သစ္စေန ယံ သာမော၊ ကုလေ ဇေဋ္ဌာ ပစာယိကော။
ဧတေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။

'ယေန သစ္စေန ယံ သာမော၊ ပါဏာ ပိယတရော မမ။
ဧတေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။

'ယံကိဉ္စိတ္ထိ ကတံ ပုညံ၊ မယှဉ္စေဝ ပိတုစ္စ တေ။

သဗ္ဗေန တေန ကုသလေန၊ ဝိသံ သာမဿ ဟညတု။ ။' ဟူသော ၈ ဂါထာကို ဟောတော်မူ၏။

အဓိပ္ပာယ်ကား-

"သံသရာဘေးကို ရှုလေ့ရှိသော ချစ်သားတို့။ မြေမှုန့်အလိမ်းလိမ်းကပ်သော,မြေကြီးထက်၌လဲသော, သားဖြစ်သော သုဝဏ္ဏသာမကို မြင်၍ သား၌ဖြစ်သောစိုးရိမ်ခြင်းဖြင့် ပြင်းစွာနှိပ်စက်သည်ဖြစ်၍ သုဝဏ္ဏသာမ၏ အမိသည် သစ္စာစကားကို ဆိုလေ၏။

"အကြင်သစ္စာစကားဖြင့် ဤ ငါ့သားသုဝဏ္ဏသာမသည် ရှေး၌ ၁၀ပါးအပြားရှိသော ကုသိုလ်ကမ္မပထ တရားကို ကျင့်၏။ ထိုသစ္စာစကားဖြင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"အကြင်သစ္စာစကားဖြင့် ဤ ငါ့သားသုဝဏ္ဏသာမသည် ရှေး၌ဖြစ်သောအကျင့်ကို ကျင့်၏။ ဤသို့ မှန်သောသစ္စာစကားဖြင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"အကြင်သစ္စာစကားဖြင့် ဤ ငါ့သားသုဝဏ္ဏသာမသည် ရှေး၌ ဟုတ်မှန်သောစကားကိုသာ ဆိုတတ်၏။ ဤသို့ မှန်သောသစ္စာစကားဖြင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"အကြင်သစ္စာစကားဖြင့် ဤ ငါ့သားသုဝဏ္ဏသာမသည် အမိ,အဖတို့ကို လုပ်ကျွေးမွေးတတ်၏။ ဤသို့ မှန်သောသစ္စာစကားဖြင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"အကြင်သစ္စာစကားဖြင့် ဤ ငါ့သားသုဝဏ္ဏသာမသည် အမျိုး၌ အသက်ကြီးသောသူတို့ကို လည်းကောင်း၊ အမိ,အဖတို့ကို လည်းကောင်း ရိုသေ၏။ ဤသို့ မှန်သောသစ္စာစကားဖြင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"အကြင်သစ္စာစကားဖြင့် ဤ ငါ့သားသုဝဏ္ဏသာမကို ငါသည် ငါ၏အသက်ထက် ချစ်မြတ်နိုး၏။ ဤသို့ မှန်သောသစ္စာစကားဖြင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"ငါသည် လည်းကောင်း, ချစ်သားသုဝဏ္ဏသာမ၏အဖသည် လည်းကောင်း အမှတ်မရှိပြုအပ်သော ကောင်းမှုရှိ၏။ ထိုသို့ပြုအပ်သော ခပ်သိမ်းသောကောင်းမှုကြောင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း"

ဤသို့ သုဝဏ္ဏသာမ၏အမိသည် သစ္စာပြုသည်ရှိသော် သုဝဏ္ဏသာမသည် နံပါးတစ်ဘက်ဖြင့် ပြန်၍အိပ်၏။

ထိုသို့အိပ်သောအခါ သုဝဏ္ဏသာမ၏အဖသည် "ငါ့သား အသက်ရှင်သေး၏။ ငါသည်လည်း သစ္စာပြုအံ့"ဟု ထိုပါရိကာအတူလျှင် သစ္စာပြု၏။

ထို ဒုကူလသုခမိန်၏ သစ္စာပြုသောအကြောင်းကို ထင်ရှားပြတော်မူလိုသော မြတ်စွာဘုရားသည်-

'ဒိဿန ပတိတံ သာမံ၊ ပုတ္တကံ ပံသုကုဏ္ဍိတံ။

အဋ္ဋိတာ ပုတ္တသောကေန၊ ပိတာ သစ္စံ အဘာသထ။ ။

'ယေန သစ္စေန ယံ သာမော၊ ဓမ္မစာရီ ပုရေ အဟု။

တေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။

'ယေန သစ္စေန ယံ သာမော၊ ဗြဟ္မစာရီ ပုရေ အဟု။

တေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။

'ယေန သစ္စေန ယံ သာမော၊ သစ္စဝါဒီ ပုရေ အဟု။
တေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။
'ယေန သစ္စေန ယံ သာမော၊ မာတာပေတ္တိဘရော အဟု။
တေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။
'ယေန သစ္စေန ယံ သာမော၊ ကုလေ ဇေဋ္ဌာပစာယိကော။
တေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။
'ယေန သစ္စေန ယံ သာမော၊ ပါဏာ ပိယတရော မမ။
တေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။
'ယံကိဉ္စိတ္ထိ ကတံ ပုညံ၊ မယှဉ္စေဝ ပိတုစ္စ တေ။
သဗ္ဗေန တေန ကုသလေန၊ ဝိသံ သာမဿ ဟညတု။ ။' ဟူသော ၈ ဂါထာကို ဟောတော်မူ၏။

အဓိပ္ပာယ်ကား–

"သံသရာဘေးကို ရှုလေ့ရှိကုန်သော ချစ်သားရဟန်းတို့။ သုဝဏ္ဏသာမ၏အဖဖြစ်သော ဒုကူလသုခမိန်သည် မြေမှုန့်အလိမ်းလိမ်း ကပ်သောကိုယ်ဖြင့် ငွေပြားအဆင်းနှင့်တူသောသဲစုဠ်လဲသော သုဝဏ္ဏသာမကိုမြင်လျှင် သားဠ်ဖြစ်သော စိုးရိမ်ခြင်းဖြင့် ပြင်းစွာနှိပ်စက်သည်ဖြစ်၍ သစ္စာစကားကို ဆိုပေ၏။

"အကြင်သစ္စာစကားဖြင့် ဤ ငါ့သားသုဝဏ္ဏသာမသည် ရှေး၌ ကုသိုလ်ကမ္မပထတရား ၁၀ ပါးကို ကျင့်၏။ ထိုသို့ မှန်သောသစ္စာစကားဖြင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"အကြင်သစ္စာစကားဖြင့် ဤ ငါ့သားသုဝဏ္ဏသာမသည် ရှေး၌ မြတ်သောအကျင့်ကို ကျင့်၏။ ဤသို့ မှန်သောသစ္စာစကားဖြင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"အကြင်သစ္စာစကားဖြင့် ဤ ငါ့သားသုဝဏ္ဏသာမသည် ရှေး၌ ဟုတ်မှန်သောစကားကိုသာ ဆိုတတ်၏။ ဤသို့ မှန်သောသစ္စာစကားဖြင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"အကြင်သစ္စာစကားဖြင့် ဤ ငါ့သားသုဝဏ္ဏသာမသည် အမိ,အဖတို့ကို လုပ်ကျွေးမွေးတတ်၏။ ဤသို့ မှန်သောသစ္စာစကားဖြင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"အကြင်သစ္စာစကားဖြင့် ဤ ငါ့သားသုဝဏ္ဏသာမသည် အမျိုး၌ အသက်ကြီးသောသူတို့ကို လည်းကောင်း၊ အမိ,အဖတို့ကို လည်းကောင်း ရိုသေ၏။ ဤသို့ မှန်သောသစ္စာစကားဖြင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"အကြင်သစ္စာစကားဖြင့် ဤ ငါ့သားသုဝဏ္ဏသာမကို ငါသည် ငါ၏အသက်ထက် ချစ်မြတ်နိုး၏။ ဤသို့ မှန်သောသစ္စာစကားဖြင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"ငါသည် လည်းကောင်း, သင်ချစ်သား သုဝဏ္ဏသာမ၏အမိသည် လည်းကောင်း, အမှတ်မရှိပြုအပ်သော ကောင်းမှု ရှိ၏။ ခပ်သိမ်းသောထိုကောင်းမှုကြောင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း"ဟု သစ္စာပြု၏။

ဤသို့ ဒုကူလသုခမိန်သည် 'ယေနသစ္စေန' အစရှိသော ၇ ဂါထာတို့ဖြင့် သစ္စာပြုသည်ရှိသော် သုဝဏ္ဏသာမသည် ဤမှတစ်ပါးသော နံတောင်းဖြင့် ပြန်၍အိပ်၏။

ထိုသို့အိပ်သောအခါ ဘုရားလောင်းအား ၃ကြိမ်မြောက်အောင် သစ္စာပြုခြင်းကို ဗဟုသုန္ဒရီနတ်သမီးသည် ပြုလေ၏။

ထို ဗဟုသုန္ဒရီနတ်သမီး၏ သစ္စာပြုသောအဖြစ်ကို ပြတော်မူလိုသော မြတ်စွာဘုရားသည်–

'သာ ဒေဝတာ အန္တရဟိတာ၊ ပဗ္ဗတေ ဂန္ဓမာဒနေ။
သာမဿ အနုကမ္ပာယ၊ ဣမံ သစ္စံ အဘာသထ။ ။
'ပဗ္ဗတျာဟံ ဂန္ဓမာဒနေ၊ စိရရတ္တာ နိဝါသိနီ။
န မေ ပိယတရော ကောစိ၊ အညော သာမာ နဝိဇ္ဇတိ။ ။
'ဧတေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။
သဗ္ဗေ ဝနာ ဂန္ဓမယာ၊ ပဗ္ဗတေ ဂန္ဓမာဒနေ။
ဧတေန သစ္စဝဇ္ဇေန၊ ဝိသံ သာမဿ ဟညတု။ ။
'တေသံ လာလပ္ပမာနာနံ၊ ဗဟုံ ကာရုညသညိတံ။
ခိပ္ပံ သာမော သမုဋ္ဌာသိ၊ ယုဝါ ကလျာဏ ဒဿနော။ ။' ဟူသော ၄ ဂါထာကို ဟောတော်မူ၏။

အဓိပ္ပာယ်ကား–

"ငါသည် အခါလေးမြင့် 'ဂန္ဓမာဒန' အမည်ရှိသောတောင်၌ နေ၏။ ဤ ငါ့သားသုဝဏ္ဏသာမမှတစ်ပါး တစ်စုံတစ်ယောက်သော ချစ်မြတ်နိုးသောသူသည် မရှိ။ ဤသို့ မှန်သောသစ္စာစကားကြောင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း။

"ဂန္ဓမာဒန အမည်ရှိသောတောင်၌ ခပ်သိမ်းသောတောတို့သည် နံ့သာအတိသာ ပြီးကုန်၏။ တစ်စုံတစ်ခုသော သစ်ပင်မည်သည် မရှိ။ ဤသို့ မှန်သောသစ္စာစကားကြောင့် ငါ့သားသုဝဏ္ဏသာမအား မြားဆိပ် ပျောက်စေသတည်း"

"ချစ်သား ရဟန်းတို့။ ထို ဒုကူလ, ပါရိကာတို့၏ များစွာသောသနားခြင်းနှင့်ယှဉ်သော ငိုကြွေးခြင်းဖြင့် ငိုကြွေးကုန်စဉ်လျှင် ဗဟုသုန္ဒရီ နတ်သမီး၏ သစ္စာပြုသောအဆုံး၌ ဘုရားလောင်းသုဝဏ္ဏသာမသည် လျင်စွာထ၏။ ပဒုမ္မာကြာဖက်မှ လျှောကျသောရေကဲ့သို့ သုဝဏ္ဏသာမ၏မြားဆိပ်သည် ပြယ်လေ၏။ မြားမှန်သော အနာသည်လည်း ပြကတေ့ရှိလေ၏။ ဤအရပ်၌ ပစ်မိလေသလော, ထိုအရပ်၌ ပစ်မိလေသလော' ဟု ပစ်မိရာအရပ်သည်မျှလည်း မထင်"

ဤသို့လျှင် ဘုရားလောင်း၏ အနာမရှိသောအဖြစ်သည် လည်းကောင်း၊ မယ်တော်, ခမည်းတော်တို့၏ မျက်စိကိုရခြင်းသည် လည်းကောင်း၊ နေအရုဏ်တက်သောအခါ နတ်၏အာနုဘော်အားဖြင့် ၄ ယောက်ကုန်သော ဒုကူလ, ပါရိကာ, ပီဠိယက္ခ, သုဝဏ္ဏသာမတို့၏သစ်မ်း၌သာ ထင်ရှားစွာဖြစ်ခြင်းသည် လည်းကောင်း၊ ဤအလုံးစုံသည် တစ်ပြိုင်နက် တစ်ချက်တည်းဖြစ်၍၊ သုဝဏ္ဏသာမ၏မယ်တော်, ခမည်းတော်တို့သည် "မျက်စိကို ငါတို့ရကုန်ပြီ။ သုဝဏ္ဏသာမလည်း အနာမရှိပြီ" ဟု အတိုင်းထက်အလွန် နှစ်သက်ခြင်းဖြစ်ကုန်၏။

ထိုအခါ မယ်တော်, ခမည်းတော်တို့ကို သုဝဏ္ဏသာမသုခမိန်သည်–

'သာမော ဟ မသ္မိ ဘဒ္ဒန္တေ၊ သောတ္ထိနာမှိ သမုဋ္ဌိတော။
မာဗာဠံ ပရိဒေဝေထ၊ မဉ္ဇုနာ ဘိဝဒေထ မံ။ ။' ဟူသော ဂါထာကိုဆို၏။ အဓိပ္ပာယ်ကား –

"မယ်တော်, ခမည်းတော်တို့။ ငါသည်ကား သင်တို့သားဖြစ်သော သုဝဏ္ဏသာမ တည်း။ ချမ်းသာသဖြင့် ကောင်းစွာထမြောက်ပြီ။ ပြင်းစွာ မငိုကြွေးကြလင့်။ သာယာစွာသောစကားဖြင့် ငါ့ကို ခေါ်ကြကုန်လော့"ဟု ဘုရားလောင်းဆို၏။

## ၉။ ပီဠိယက္ခမင်းကြီးအား တရားဟောခန်း

ထိုသို့ဆိုပြီးသောအခါ ဘုရားလောင်းသည် ပီဠိယက္ခမင်းကြီးကိုမြင်၍ ပဋိသန္ထာရစကားတို့ကို ပြောဟောလိုသောကြောင့်–

'သွာဂတံ တေ မဟာရာဇ၊ အထော တေ အဒုရာဂတံ။
ဣဿရောသိ အနုပ္ပတ္တော၊ ယံ ဣဓတ္ထိ ပဝေဒယ။ ။
'တိန္ဒုကာနိ ပိယာလာနိ၊ မဓုကေ ကာသုမာရိယော။
ဖလာနိ ခုဒ္ဒကပ္ပါနိ၊ ဘုဉ္ဇ ရာဇ ဝရာဝရံ။ ။
'အတ္ထိ မေ ပါနီယံ သီတံ၊ အာဘတံ ဂိရိဂဗ္ဘရာ။
တတော ပိဝ မဟာရာဇ၊ သစေ တွံ အဘိကင်္ခသိ။ ။' ဟူသော ၃ ဂါထာကိုဆို၏။ အဓိပ္ပာယ်ကား–

"ကာသိကရာဇ် ပြည်ကြီးသခင် ဖြစ်တော်မူသော အရှင်မင်းကြီး။ အရှင်မင်းကြီး၏လာခြင်းကား ကောင်းသောလာခြင်းတည်း။ ထိုမြို့တုံ အရှင်မင်းကြီး၏လာခြင်းကား အပြစ်ကင်းသောလာခြင်းတည်း။ အစိုးရတော်မူသော အရှင်မင်းကြီးသည် အစဉ် ရောက်တော်မူ၏။ အရှင်မင်းကြီးသည် ဤအရပ်၌ အကြင် အလိုသည် ရှိ၏။ ထိုအလိုကို ဆိုတော်မူလော့။

"ကာသိကရာဇ် ပြည်သူတို့၏နှလုံးကို ပွားစေတတ်သော အရှင်မင်းကြီး။ တည်သီး, လွန်သီး, သစ်မည်စည်သီး, ထောက်ရာသီး, သရက်ဖြူသီးတို့သည် ပျားမွဲအရသာနှင့် တူကုန်၏။ ထိုမှတစ်ပါး သရက်, ပိန္နဲ, နစွဲ, မာလကာ, ဩဇာ, ရှောက်ချို, လိမ္မော်, ကျွဲကောတို့သည် ရှိကုန်၏။ အရှင်မင်းကြီး ချိုနိုးရာရာကို အလိုရှိတိုင်း စားတော်မူပါလော့။

"ကာသိကရာဇ် ပြည်သူတို့၏ အစီးအပွားကို ဆောင်တော်မူတတ်သော အရှင်မင်းကြီး။ ဂိရိဂဗ္ဘရ ဟု ဆိုအပ်သော တောင်, မြောင်, ချောက်ကြားမှစီးသော မိဂသမ္မတာမြစ်မှဆောင်ခဲ့အပ်သော ဤရေသည်လည်း အလွန်ချမ်းအေး ကြည်လင်စွာ၏။ အကယ်၍ အလိုတော်ရှိအံ့။ ထိုရေအိုးစင်မှ သောက်တော်မူလော့"

ဤသို့လျှင် ဘုရားလောင်းသည် ပီဠိယက္ခမင်းကြီးအား သာယာနာပျော်ဖွယ် အသက်ထက်ဆုံး အောက်မေ့အပ်သောစကားကို ဆို၏။

ပီဠိယက္ခမင်းကြီးသည် အံ့ဖွယ်သရဲ သေလေပြီးသောသုဝဏ္ဏသာမ ပြန်ရှင်သည်ကိုမြင်လျှင် ဘုရားလောင်းအား မေးလိုသောကြောင့်–

'သံမုယှာမိ ပမုယှာမိ၊ သဗ္ဗာ မုယှန္တိ မေ ဒိသာ။
ပေတံ တံ သာမ မဒ္ဒက္ခိံ၊ ကော နု တွံ သာမ ဇီဝသိ။ ။' ဟူသောဂါထာကို ဆို၏။ အဓိပ္ပာယ်ကား–

"အချင်း သုဝဏ္ဏသာမ။ ငါသည် ပြင်းစွာတွေဝေ၏။ အထူးထူးအပြားပြား တွေဝေ၏။ ငါ့အား အလုံးစုံသောအရပ်မျက်နှာတို့သည်လည်း တွေဝေကုန်၏။ သေလေပြီးသော သင်သုဝဏ္ဏသာမကို မြင်ပြန်ရ၏။ အချင်းသုဝဏ္ဏသာမ။ သင်ကား အဘယ်အကြောင်းကြောင့် အသက်ရှင်ပြန်သနည်း"ဟု မေး၏။

ထိုသို့ ပီဠိယက္ခမင်းကြီး ဆိုသောစကားကိုကြား၍ ဘုရားလောင်းသည် 'ဤမင်းကြီးကား ငါ့ကိုသေလေပြီဟု မှတ်ဘိ၏။ ထိုမင်းကြီးအား မသေသောအဖြစ်ကို ပြအံ့'ဟု ကြံ၍–

'အပိ ဇီဝံ မဟာရာဇ၊ ပုရိသံ ဂါဠှဝေဒနံ။
ဥပနီတမနသင်္ကပ္ပံ၊ ဇီဝန္တံ မညတေ မတံ။
အပိ ဇီဝံ မဟာရာဇ၊ ပုရိသံ ဂါဠှဝေဒနံ။
တံ နိရောဓဂတံ သန္တံ၊ ဇီဝန္တံ မညတေ မတံ။ ။' ဟူသော ၂ဂါထာကို ဘုရားလောင်းဆို၏။ အဓိပ္ပာယ်ကား–

"ကာသိကရာဇ်တိုင်းအလုံးကို အစိုးရတော်မူသော အရှင်မင်းကြီး။ အသက် ရှင်သေးလျက်လည်း ပြင်းစွာဝေဒနာနှိပ်စက်သည်ဖြစ်၍ ဘဝင်အနီးသို့ ရောက်သောစိတ်ဈရှိသော အသက်ရှင်သောယောကျ်ားကို သေလေပြီဟု အောက်မေ့တော်မူဘိ၏တကား။

"ကာသိကရာဇ်ပြည်ကြီးကို ခွေထီးဖြူဖြန့်မိုး၍ အစိုးရတော်မူသော အရှင်မင်းကြီး။ အသက်မသေဘဲလျက် လျှင် ပြင်းစွာဝေဒနာရှိသော ထွက်သက်, ဝင်သက် ချုပ်ခြင်းသို့ ရောက်သောအားဖြင့် ထင်ရှားရှိသော အံသက်ရှင်သော ထိုယောကျ်ားကို သေလေသည်ဟူ၍ လူအများတို့သည် အောက်မေ့ဘိ၏တကား"

ထိုသို့ ဘုရားလောင်းသုဝဏ္ဏသာမသည် သာယာနာပျော်ဖွယ်ရှိသောစကားကို ပြောဆိုပြီးလျှင် ပီဠိယက္ခမင်းကြီးကို အကျိုးစီးပွားနှင့်ယှဉ်စေလိုသည်ဖြစ်၍ တစ်ဖန် တရားဟောတော်မူလိုသောကြောင့်–

'ယာ မာတရံ ပိတရံဝါ၊ မစ္စော ဓမ္မေန ပေါသတိ။
ဒေဝါပိနံ တိကိစ္ဆန္တိ၊ မာတာပေတ္တိဘရံ နရံ။ ။
'ယော မာတရံ ပိတရံဝါ။ မစ္စော ဓမ္မေန ပေါသတိ။
ဣဓေဝ နံ ပသံသန္တိ၊ ပေစ္စ သဂ္ဂေ ပမောဒတိ။ ။'ဟူသော ၂ ဂါထာကိုဆို၏။

မဟာရာဇ၊ မြတ်သောမင်းကြီး။ ယောမစ္စော၊ အကြင်သတ္တဝါသည်။ မာတရံဝါ၊ အမိကိုလည်းကောင်း။ ပိတရံဝါ။ အဖကိုလည်းကောင်း။ ဓမ္မေန၊ တရားသဖြင့်။ ပေါသတိ၊ မွေးပေ၏။ မာတာပေတ္တိဘရံ၊ အမိ, အဖကို လုပ်ကျွေးပေသော။ နံနရံ၊ ထိုသူကို။ ဒေဝါပိ၊ နတ်တို့သည်လည်း။ တိကိစ္ဆန္တိ၊ ဆေးကုကုန်၏။

မဟာရာဇ၊ မြတ်သောမင်းကြီး။ ယောမစ္စော၊ အကြင်သတ္တဝါသည်။ မာတရံဝါ၊ အမိကို လည်းကောင်း။ ပိတရံဝါ၊ အဖကို လည်းကောင်း။ ဓမ္မေန၊ တရားသဖြင့်။ ပေါသတိ၊ မွေးမြူ၏။ မာတာပေတ္တိဘရံ၊ အမိ, အဖကိုမွေးမြူသော။ နံနရံ၊ ထိုသူကို။ ဣဓေဝ၊ ဤပစ္စုပ္ပန်ဘဝ၌ပင်လျှင်။ ပသံသန္တိ၊ ချီးမွမ်းကုန်၏။ ပေစ္စ၊ တမလွန်ဘဝ၌။ သဂ္ဂေ၊ နတ်ပြည်၌။ ပမောဒတိ၊ မွေ့လျော်ပျော်စံရ၏။ အဓိပ္ပာယ်ကား–

"ကာသိကရာဇ် တိုင်းကြီး၌ ထီးဖြူခွေနန်းသခင် ဖြစ်တော်မူသော အရှင်မင်းမြတ်။ မှတ်တော်မူလော့။ အကြင်သတ္တဝါသည် အမိကိုလည်းကောင်း, အဖကိုလည်းကောင်း တရားသဖြင့် လုပ်ကျွေးမွေးပေ၏။ ထို အမိ, အဖတို့ကို လုပ်ကျွေးမွေးမြူသောသူကို နတ်တို့သည်လည်း ဆေးကုပေကုန်၏။

"ကာသိကရာဇ်ပြည်ကြီးသခင် ဘုရင်တကာတို့၏အထွတ် ဖြစ်တော်မူသော အရှင်မင်းမြတ်။ တစ်ဖန် မှတ်ဦးလော့။ အကြင်သတ္တဝါသည် အမိကို လည်းကောင်း, အဖကို လည်းကောင်း တရားသဖြင့် လုပ်ကျွေးမွေး၏။ ထိုသို့ အမိ, အဖကို မွေးပေသောသူကို ပစ္စုပ္ပန်လောက ဤဘဝ၌ပင်လျှင် ခပ်သိမ်းသောသူတို့သည် ချီးမွမ်းကုန်၏။ နောင်တမလွန်ဘဝ၌လည်း ဒေဝသမ္ပတ္တိနှင့်ပြည့်စုံလျက် နတ်သက်အတိုင်း မွေ့လျော်ပျော်ပါး စံစားရ၏"ဟု ပီဠိယက္ခမင်းကြီးအား တရားဓမ္မဒေသနာဖြင့် ဟောကြားညွှန်ပြ ဆုံးမတော်မူ၏။

ထိုသို့ဆုံးမသော ဘုရားလောင်း၏တရားစကားကို ကြားလျှင် ပီဠိယက္ခမင်းကြီးသည်

"အို၊ အချင်းတို့။ အံ့ဖွယ်သရဲ ရှိစွာ့တကား။ အမိ,အဖကို လုပ်ကျွေးမွေးပေသောသတ္တဝါအား ဖြစ်သောရောဂါဝေဒနာကို နတ်တို့သည် ဆေးကုစား ပေးကုန်သတတ်။ အလွန်လျှင် သုဝဏ္ဏသာမသည် တင့်တယ်စွာ့တကား"ဟု ၅ ဖြာစုံညီလျက် လက်အုပ်ချီတောင်းပန်လိုသောကြောင့်-

'သေ ဘိယျော သံမုယှာမိ၊ သဗ္ဗာ မုယှန္တိ မေ ဒိသာ။

သရဏံ သာမ ဂစ္ဆာမိ၊ တွဥ္စ မေ သရဏံ ဘဝ။ ။' ဟူသော ဂါထာကိုဆို၏။ အဓိပ္ပာယ်ကား-

"အချင်း သုဝဏ္ဏသာမ။ အပြစ်မရှိသောသင့်အား ငါ ပြစ်မှားမိခြင်းသည် အလွန် မိုက်မဲတွေဝေ၏။ ငါသည် သင်သုဝဏ္ဏသာမကို ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။ သင်သုဝဏ္ဏသာမသည် ငါ၏ကိုးကွယ်ရာ ဖြစ်သော နတ်ပြည်သို့သွားသောခရီးကို ငါ့အား ကြားပါလော့"ဟု ဆို၏။

ထိုသို့ ပီဠိယက္ခမင်းကြီးဆိုသောအခါ ထိုပီဠိယက္ခမင်းကြီးကို ဘုရားလောင်းသည် ဤသို့ဆို၏။

"ကာသိကရာဇ်အရှင်မင်းမြတ်။ 'ဒေဝလောက'ဟုဆိုအပ်သော နတ်ပြည်သို့ အကယ်၍ သွားလိုသည်ဖြစ်အံ့။ ကြီးကျယ်စွာသော နတ်တို့၏စည်းစိမ်ချမ်းသာကို အကယ်၍ ခံစားလိုသည် ဖြစ်အံ့။ ဒသရာဇဓမ္မ ဟုဆိုအပ်သော ၁၀ပါးသော မင်းကျင့်တရားတို့၌ မမေ့မလျော့ ကျင့်တော်မူလော့"ဟု ထိုပီဠိယက္ခမင်းကြီးအား တရားဟောတော် မူလိုသောကြောင့်-

'ဓမ္မဥ္စရ မဟာရာဇ၊ မာတာပိတူသု ခတ္တိယ။ ဣဓ ဓမ္မံ စရိတွာန၊ ရာဇ သဂ္ဂံ ဂမိဿသိ။ ။

'ဓမ္မဥ္စရ မဟာရာဇ၊ ပုတ္တဒါရေသု ခတ္တိယ။ ဣဓ ဓမ္မံ စရိတွာန၊ ရာဇ သဂ္ဂံ ဂမိဿသိ။ ။

'ဓမ္မဥ္စရ မဟာရာဇ၊ မိတ္တာမစ္စေသု ခတ္တိယ။ ဣဓ ဓမ္မံ စရိတွာန၊ ရာဇ သဂ္ဂံ ဂမိဿသိ။ ။

'ဓမ္မဥ္စရ မဟာရာဇ၊ ဝါဟနေသု ဗလေသုစ။ ဣဓ ဓမ္မံ စရိတွာန၊ ရာဇ သဂ္ဂံ ဂမိဿသိ။ ။

'ဓမ္မဥ္စရ မဟာရာဇ၊ ဂါမေသု နိဂမေသုစ။ ဣဓ ဓမ္မံ စရိတွာန၊ ရာဇ သဂ္ဂံ ဂမိဿသိ။ ။

'ဓမ္မဥ္စရ မဟာရာဇ၊ ရဋ္ဌေ ဇနပဒေသုစ။ ဣဓ ဓမ္မံ စရိတွာန၊ ရာဇ သဂ္ဂံ ဂမိဿသိ။ ။

'ဓမ္မဥ္စရ မဟာရာဇ၊ သမဏေ ဗြာဟ္မဏေသုစ။ ဣဓ ဓမ္မံ စရိတွာန၊ ရာဇ သဂ္ဂံ ဂမိဿသိ။ ။

'ဓမ္မဥ္စရ မဟာရာဇ၊ မိဂပက္ခီသု ခတ္တိယ။ ဣဓ ဓမ္မံ စရိတွာန၊ ရာဇ သဂ္ဂံ ဂမိဿသိ။ ။

'ဓမ္မဥ္စရ မဟာရာဇ၊ ဓမ္မော သုစိဏ္ဏော သုခ မာဝဟတိ၊ ဣဓ ဓမ္မံ စရိတွာန၊ ရာဇ သဂ္ဂံ မိဂဿသိ။ ။

'ဓမ္မဥ္စရ မဟာရာဇ၊ ဣန္ဒာ ဒေဝါ သဗြဟ္မကာ။ သုစိဏ္ဏေန ဒိဝံ ပတ္တာ၊ မာ ဓမ္မံ ရာဇ ပမာဒ။ ။' ဟူသော ၁၀ ဂါထာကို ဆို၏။ အဓိပ္ပာယ်ကား-

"ကာသိကရာဇ်တိုင်းခွင် မြေအပြင်ကို အစိုးရတော်မူသော, ခတ္တိယအစစ်ဖြစ်တော်မူသော အရှင်မင်းကြီး။ အမိ,အဖတို့၌ လုပ်ကျွေးမွေးမြူခြင်းကို ပြုတော်မူလော့။ ဤလူ့ပြည်၌ တရားကိုကျင့်တော်မူသည်ရှိသော် အရှင်မင်းကြီးသည် နတ်ပြည်သို့ သွားရလတ္တံ့သတည်း။

"မြေကြီးသေဌ်နင်း မင်းဖြစ်တော်မူသော ကာသိကရာဇ်မင်းမြတ်။ သားမယားတို့၌ လုပ်ကျွေးမွေးမြူခြင်း တည်းဟူသော တရားကို ကျင့်လော့။ ဤပစ္စုပ္ပန်ဘဝ၌ ဓမ္မကိုကျင့်သည်ရှိသော် အရှင်မင်းကြီးသည် နတ်ပြည်သို့ ရောက်ရလတ္တံ့သတည်း။

"အာဏာလက်ရုံး ဘုန်းတော်ကြောင့် မြေအပြင်ကိုအစိုးရတော်မူသော အရှင်မင်းကြီး။ အဆွေခင်ပွန်း ဖြစ်ကုန်သော မှူးမတ်ဗိုလ်ပါ တိုင်းသားပြည်သူ လူအပေါင်းတို့၌ ပေးကမ်းစွန့်ကြဲခြင်း ဟုဆိုအပ်သော တရားကို

ကျင့်တော်မူလော့။ ဤ ပစ္စုပ္ပန်လောက၌ တစ်စမယွင်းကျင့်သော အရှင်မင်းကြီးသည် နတ်ပြည်သို့ သွားရလတ္တံ့သတည်း။

"မဟာပထဝီ မဟီတလ စိုးရခွင့်ပိုင်သော ကာသိကရာဇ်မင်းကြီး။ ဆင်, မြင်း, ဗိုလ်ပါတို့၌ တရားကို ကျင့်တော်မူလော့။ ဤလောက၌ တရားကိုကျင့်သည်ရှိသော် အရှင်မင်းမြတ်သည် နတ်ပြည်သို့ လားရလတ္တံ့သတည်း။

"ကာသိကရာဇ် တိုင်းကြီးသခင် မြေအပြင်ကို အစိုးရတော်မူသော အရှင်မင်းမြတ်။ ရွာ, နိဂုံးတို့၌ တရားကို ကျင့်တော်မူလော့။ ဤလူ့ပြည်၌ တရားကိုကျင့်သော အရှင်မင်းမြတ်သည် နတ်ပြည်သို့ သွားရလတ္တံ့သတည်း။

"ကာသိကရာဇ်ပြည်သူတို့၏နှလုံးကို ပွားစေတတ်သော အရှင်မင်းမြတ်။ ပြည်တိုင်းကားတို့၌ လည်းကောင်း, ဇနပုဒ်တို့၌ လည်းကောင်း တရားကို ကျင့်တော်မူလော့။ ဤလောက၌ တရားကိုကျင့်သည်ရှိသော် အရှင်မင်းမြတ်သည် နတ်ပြည်သို့ သွားရလတ္တံ့သတည်း။

"ကာသိကရာဇ်ပြည်သူတို့၏ အစီးအပွားကို ဆောင်တော်မူတတ်သော အရှင်မင်းမြတ်။ ရဟန်း, ပုဏ္ဏားတို့၌လည်း တရားကို ကျင့်တော်မူလော့။ ဤလူ့ပြည်၌ တရားကိုကျင့်သည်ရှိသော် အရှင်မင်းမြတ်သည် နတ်ပြည်သို့ သွားရလတ္တံ့သတည်း။

"ကာသိကရာဇ်တိုင်းခွင် မြေအပြင်ကို အစိုးရတော်မူသော အရှင်မင်းမြတ်။ သားငှက်တို့၌ တရားကို ကျင့်တော်မူလော့။ ပစ္စုပ္ပန်လောက၌ တရားကိုကျင့်သော အရှင်မင်းမြတ်သည် နတ်ပြည်သို့ သွားရလတ္တံ့သတည်း။

"ကာသိကရာဇ်ပြည်ကြီး၌ ရွှေထီးဖြန့်မိုး၍ အစိုးရတော်မူသော အရှင်မင်းမြတ်။ တရားကိုကျင့်တော်မူလော့။ ကောင်းစွာလေ့ကျက်အပ်သော တရားသည် ချမ်းသာကို ဆောင်ပေတတ်၏။ ဤလူ့ပြည်၌ တရားကို ကျင့်သော အရှင်မင်းမြတ်သည် နတ်ပြည်သို့ သွားရလတ္တံ့သတည်း။

"ကာသိကရာဇ်ပြည်ကြီး၌ ထီးဖြူရွှေနန်းကို အစိုးရတော်မူသော အရှင်မင်းမြတ်။ တရားကို ကျင့်တော်မူလော့။ ဗြဟ္မာမင်းနှင့်တကွသော သိကြား, နတ်မင်းတို့သည် ကောင်းစွာ တရားကို ကျင့်သောကြောင့် နတ်ပြည်, ဗြဟ္မာ့ပြည်သို့ ရောက်ကုန်၏။ အရှင်မင်းမြတ်။ ကျင့်ဝတ်တရားကို မမေ့မလျော့ ကျင့်တော်မူလော့"ဟု မင်းကျင့်တရား ၁၀ ပါး တို့ဖြင့် ဆုံးမ၏။

ဤသို့ ဘုရားလောင်းသည် ထို ပိဠိယက္ခမင်းကြီးအား ရာဇဓမ္မ ၁၀ ပါးကိုဟောပြီးလျှင် လွန်စွာ ဆုံးမတော်မူလို၍ ၅ ပါး သီလကို ပေး၏။

ပိဠိယက္ခမင်းကြီးသည် ဘုရားလောင်းသုဝဏ္ဏသာမ၏ အဆုံးအမကိုခံ၍ ဘုရားလောင်းကို ရှိသေစွာရှိခိုးပူဇော်ပြီး၍၊ ဗာရာဏသီပြည်သို့သွားပြီးလျှင် အလှူအစရှိသည်တို့ကိုပြု၍ အသက်၏အဆုံး၌ နတ်ပြည်သို့ လားရလေ၏။

ဘုရားလောင်းလည်း မယ်တော်, ခမည်းတော်တို့နှင့်တကွ အဘိညာဉ် ၅ ပါး[၈၄]တို့ကို လည်းကောင်း, သမာပတ် ၈ ပါး[၈၅]တို့ကို လည်းကောင်း ဖြစ်စေ၍ အသက်၏အဆုံး၌ ဗြဟ္မာ့ပြည်သို့ လားရကုန်၏။

## ၁၀။ ဇာတ်ပေါင်းခန်း

ဤသို့ မြတ်စွာဘုရားသည် 'သုဝဏ္ဏသာမ'ဇာတ်တော်၏ အတ္ထုပ္ပတ္တိအလုံးစုံတို့ကို ပြရာပြကြောင်းဖြစ်သော ဤဓမ္မဒေသနာကို ဆောင်တော်မူ၍

"သံသရာဘေးကို ရှုလေ့ရှိသော ရဟန်းတို့။ အမိ, အဖတို့ကို လုပ်ကျွေးမွေးမြူပေသော လူတို့ မည်သည်ကား ရှေး၌ ပညာရှိတို့၏ အနွယ်အဆက်လျှင်တည်း"ဟု မိန့်တော်မူပြီးလျှင် သစ္စာ ၄ပါးကို ပြတော်မူ၏။

သစ္စာ, ၄ ပါးကို ပြတော်မူသည်၏အဆုံး၌ အမိ, အဖတို့ကို လုပ်ကျွေး,မွေးမြူသော ရဟန်းသည် 'သောတာပတ္တိဖိုလ်'သို့ ရောက်လေ၏။ တရားနာပရိသတ်တို့သည် တရားအရသာကို သောက်ရကုန်၏။

ဤသို့ မြတ်စွာဘုရားသည် တရားဒေသနာကို အကျယ်ဟောတော်မူ၍ စကားဆက်ဝေးသဖြင့် ရှေးဝတ္ထုအကြောင်းရင်း ပျောက်မည် စိုးသောကြောင့်

"ချစ်သားရဟန်းတို့။ ငါ သုဝဏ္ဏသာမ ဖြစ်တော်မူသောအခါ ကာသိကရာဇ်တိုင်း၌ ဗာရာဏသီပြည်ကို အစိုးရတော်မူသော ပိဠိယက္ခမင်းကြီးသည် ယခု ငါဘုရားဖြစ်တော်မူသောအခါ ငါ၏သပိတ်, သင်္ကန်းတို့ကို ဆောင်ယူ၍ နောက်သို့ အစဉ်တစိုက်လိုက်ခြင်း စသည်တို့ဖြင့် မြတ်နိုးကြည်ညိုစွာ လိုရာမတ ရကြောင်း ကောင်းစွာ လုပ်ကျွေးခြင်းရှိလျက် ကမ္ဘာ ၁ သိန်း ဖြည့်ဆည်းပူးအပ်သော ပါရမီအားလျော်စွာ ငါဘုရား၏ ဥပဋ္ဌာကအရာ၌ ဗဟုသုတအစရှိသော ဂုဏ် ၅ပါးဖြင့် သာသနာတော်၌ ၂ယောက်မရှိ အထွတ်ဖြစ်သော ဘထွေးတော်၏သား ငါ့ညီ 'အာနန္ဒာထေရ်' ဖြစ်လာ၏။

"ငါ သုဝဏ္ဏသာမ ဖြစ်တော်မူသောအခါ ငါ့ကို မပြတ်စောင့်မလျက် ဂန္ဓမာဒနတောင်၌နေသော ဗဟုသုန္ဒရီ နတ်သမီးသည် ယခု ငါ ဘုရားဖြစ်တော်မူသောအခါ ကမ္ဘာ ၁ သိန်း ဖြည့်ဆည်းပူးအပ်သော ပါရမီအားလျော်စွာ ငါ၏တပည့်တော်မ ဘိက္ခုနီအပေါင်းတို့တွင် ဒုတိယအဂ္ဂသာဝိကာ၏အရာဖြင့် တန်ခိုးအရာ ၂ယောက်မရှိ အထွတ်ဖြစ်သော 'ဥပ္ပလဝဏ်'ဣထေရီ ဖြစ်လာ၏။

"ငါ သုဝဏ္ဏသာမ ဖြစ်တော်မူသောအခါ အလုံးစုံသော ကာမဂုဏ်အသုံးအဆောင်တို့ကို အလိုရှိတိုင်း ပြည့်စေနိုင်သော တန်ခိုးနှင့်ပြည့်စုံစွာ မျက်စိ ၁၀၀၀ အမြင်ဆောင်လျက် ငါတို့ကိုကြည့်ရှုပေသော သိကြားမင်းသည် ယခု ငါဘုရားဖြစ်တော်မူသောအခါ အလုံးစုံသော ကာမဂုဏ်စည်းစိမ်တို့ကို မရှိဟူ၍ မကြားရ၊ အလိုရှိတိုင်း ပြည့်စေနိုင်လျက် ကမ္ဘာ ၁ သိန်း ဖြည့်ဆည်းပူးအပ်သော ပါရမီသမ္ဘာရနှင့်ပြည့်စုံစွာ ဒိဗ္ဗစက္ခု အဘိညာဉ်ဖြင့် ငါ၏သာသနာ၌ ၂ယောက်မရှိ အထွတ်ဖြစ်သော, ငါဘုရား ပရိနိဗ္ဗာန် စံလွန်ပြီးသည့်နောက်တိုင်အောင်လည်း ငါ၏သာသနာတော်ကို စောင်မကြည့်ရှုလတ္တံ့ဖြစ်သော ဘထွေးတော်သား ငါ့ညီ 'အနုရုဒ္ဓါ'ထေရ် ဖြစ်လာ၏။

"ငါ သုဝဏ္ဏသာမ ဖြစ်တော်မူသောအခါ ငါ၏ခမည်းတော်ဖြစ်သော ဒုကူလသုခမိန်သည် ယခု ငါဘုရား ဖြစ်တော်မူသောအခါ မဂဓရဋ္ဌတိုင်း ဗြာဟ္မဏမဟာသာလ[၆] အမျိုး၌ဖြစ်၍၊ လက်သို့ရောက်ပြီးသောကာမဂုဏ်ကို တံတွေးပေါက်ကဲ့သို့စွန့်ပစ်လျက် ကမ္ဘာ ၁ သိန်း ဖြည့်ဆည်းပူးအပ်သော ပါရမီအားလျော်စွာ ငါဘုရား တပည့်သား တော်အပေါင်းတို့တွင် ဓုတင်[၇]အရာဖြင့် ငါ၏သာသနာတော်၌ ၂ယောက်မရှိ အထွတ်ဖြစ်သော, ငါဘုရား

ပရိနိဗ္ဗာန်စံလွန်ပြီးသည်နောက် ငါဘုရား၏သာသနာတော်ကို ချီးမြှောက်လတ္တံ့သော တတိယအဂ္ဂသာဝက 'မဟာကဿပ'ထေရ် ဖြစ်လာ၏။

"ငါ သုဝဏ္ဏသာမ ဖြစ်တော်မူသောအခါ ငါ၏မယ်တော်ဖြစ်သော ပါရိကာသည် ယခု ငါဘုရားဖြစ်တော်မူသောအခါ မဂဓရဇ္ဇတိုင်း၌ ၁၈ ကုဋေမက ကြွယ်ဝသော ဗြဟ္မဏမဟာသာလ ပုဏ္ဏားသူကြွယ်မျိုး၌ဖြစ်၍ ကာမဂုဏ်၌ အပြစ်ကိုမြင်၍ အတိုင်းမသိသော ဆင်, မြင်း, ကျွဲ, နွား, စပါး, ဆန်, ရေ, ကျွန်, ခြွေရံတို့ကို စွန့်ပစ်လျက် ကမ္ဘာ ၁ သိန်း ဖြည့်ဆည်းပူးအပ်သော ပါရမီအားလျော်စွာ ငါဘုရားတပည့်တော် ဘိက္ခုနီအပေါင်းတို့တွင် 'ဘဒ္ဒါကာပိလာနီ'ထေရီ ဖြစ်လာ၏။

"ဟိမဝန္တာ ပြဟာရည တောဝမြိုင်ခွင်၌ မိခင်,ဖခင် မျက်မမြင်ကို ချိုချဉ်သစ်သီး လုံးကြီးလုံးငယ် အသွယ်သွယ်တို့ဖြင့် လည်းကောင်း၊ သောက်ရေ,ချိုးရေတို့ဖြင့် လည်းကောင်း နေ့ညဥ့်မပြတ် လုပ်ကျွေးမွေးမြူသော သုဝဏ္ဏသာမ သုခမိန်သည်ကား ယခုအခါ ကပိလဝတ်နေပြည်တော်ကြီး၌ မဟာသမ္မတမင်းမှဆင်းသက်၍ မပြတ်သောအနွယ်ရှိသော သာကီဝင်မင်းမျိုး၌ဖြစ်၍၊ အရွယ်သို့ရောက်လတ်သော် ဘုန်းတော်ကြောင့်ဖြစ်သော ရွှေအိုးကြီး ၄လုံးနှင့်တကွ ဥတု ၃ပါးတို့၌ အချမ်း,အပူမျှသော ရွှေနန်းပြာသာဒ် ၃ ဆောင်၌ ယသောဓရာ[၉၈] ဗိမ္ဗာဒေဝီ[၉၉] အမှူးရှိသော မင်းသမီးအပေါင်း ၄သောင်း ၂ထောင်တို့ဖြင့် ခြံရံလျက် ရွှေနန်းစည်းစိမ်ကို ၂၉ နှစ်တိုင်အောင် စိုးစံတော်မူစဉ် ၄လတစ်ကြိမ်, ၄လတစ်ကြိမ် ဥယျာဉ်သို့ထွက်တော်မူရာတွင် သိကြားမင်းအမှူးရှိသော တစ်သောင်းသော စကြဝဠာ၌နေကုန်သော နတ်အပေါင်းတို့သည် ဗုဒ္ဓုပ္ပါဒ[၁၀၀] ခဏသင့်လျော် အချိန်တော်ပြီဟု တောထွက်တော်မူလိုသောစိတ်, လန့်ထိတ်ခြင်းဟူသော သံဝေဂတရားကို ရစေခြင်းငှာ သူအို, သူနာ, သူသေ, ရဟန်း ဟူသော ၄ ပါးသော အကြောင်းနိမိတ်တို့ကိုပြ၍ မြင်တည့်ရသောခဏ၌ ငါ၏ရူပသမ္ပန္န အဆင်းအင်္ဂါ လက္ခဏာသည် လည်းကောင်း၊ ဇမ္ဗုဒီပါကျွန်းအပြင်၌နေသော ၁၀၁ စင်းသော ထီးဆောင်းမင်းအပေါင်းတို့သည် ဝပ်စင်းညွတ်ပျပ် ဆက်ကပ်လာသော ရွှေ, ငွေ, ကျောက်, သံ, ပတ္တမြား, ကျွဲ, နွား, မြင်း, ဆင်, ယာဉ်, သံလျင်း, ရထား, စပါး, ဆန်, ရေ တို့သည်လည်းကောင်း၊ ဆောင်း, နွေ, ဝသန် ဟုဆိုအပ်သော ဥတု ၃ပါးတို့၌ ၄ပါးသော မဟာဘုတ်[၁၀၁]တို့ကိုမျှစေလျက် သပ္ပါယ[၁၀၂]ဖြစ်စေခြင်းငှာ စွမ်းနိုင်သော ကပိလဝတ်[၁၀၃] နေပြည်တော်နှင့်တကွ ရမ္မ[၁၀၄], သုတ[၁၀၅], သုရမ္မ[၁၀၆], အစရှိသော အတိုင်းမသိသော အဝိညာဏက, သဝိညာဏက တို့သည်လည်းကောင်း၊ တစ်သက် တစ်ဘဝ တစ်ခဏ အခိုက်အတန့်သာ ဖြစ်ချေသည်တကားဟု များစွာသော ဝတ္ထု ဘောဂက္ခန္ဓ[၁၀၇] ခနအစုတို့ကို ဟူးဟူးပြောင်းပြောင် ထိန်ထိန်လောင်သော မီးကျီးတွင်းကဲ့သို့လည်းကောင်း၊ မစင်,ဘင်ပုပ်, မြွေကောင်ပုပ်, ခွေးကောင်ပုပ်ကဲ့သို့လည်းကောင်း ကြပ်ကြပ်စွဲသုံး နှလုံးထားတော်မူ၍ သားတော် ရာဟုလာကိုဖွားမြင်တော်မူသည့်နေ့ ဖွားဖက်တော်[၁၀၈] ရင်းဖြစ်သော ဆန်, ကဏ္ဍကနှင့်တကွ တောထွက်၍ သဲဖြူသာယာ အနောမာ[၁၀၉] မြစ်နား၌ ဆံတော်ကို ပယ်ဖြတ်၍ ဃဋီကာရ[၁၁၀] ဗြဟ္မာမင်းသည် ကောင်းစွာရှေးရှု ကပ်လှူအပ်သော ကမ္ဘာတန်ဆာ ကြာသင်္ကန်းနှင့် ရဟန်းပြုတော်မူပြီးလျှင် အနုဝိယ[၁၁၁]တောတွင် သမဏသုခကို ခံစားတော်မူလျက် ၇ ရက်ပတ်လုံး ကျင့်သုံးတော်မူပြီးလျှင် ရာဇဂြိုဟ်[၁၁၂]ပြည်တွင်းသို့ ဆွမ်းခံဝင်တော်မူပြီးမှ ပဏ္ဍဝတောင်ဝှမ်း၌ ဆွမ်းဘုဉ်းတော်မူစဉ် ဗိမ္ဗိသာရ[၁၁၃]မင်းကြီး၏ တောင်းပန်ခြင်းကို ငြင်းဆန်ဖိတား

စကားပဋိညာဉ်[၁၁၄]ကို ပေးတော်မူပြီးမှ အာဋ္ဌာရ, ဥဒကရသေ့တို့ထံတွင် ဆက်ဆံခြင်းတည်းဟူသော အညမည[၁၁၅] ကျေးဇူးကို ခံစားတော်မူပြီးမှ ခပ်သိမ်းသောသူအပေါင်းတို့သည်ပြုခြင်းငှာ စွမ်းနိုင်ခဲလှသော 'ဒုက္ကရစရိယာ'အကျင့်ကို ၆ နှစ်ပတ်လုံး ကျင့်တော်မူပြီးမှ သေနနိဂုံး၌ သူဌေးသမီးသုဇာတာသည် ကောင်းစွာရှေးရှုကပ်လှူအပ်သော ဃနာနို့[၁၁၆]ဆွမ်းကို ရွှေခွက်နှင့်တကွ ခံတော်မူပြီးလျှင် နေရဉ္စရာ[၁၁၇]မြစ်သာ ချောင်းနား၌ နို့ဃနာဆွမ်းကို ဘုဉ်းပေးတော်မူပြီးမှ ထိုနေရဉ္စရာ၌ ရွှေခွက်ကိုမျှောတော်မူပြီးလျှင် နေ့သန့်စံပယ် တော်မူပြီးမှ ညချမ်းသောအခါ၌ ၈ ဥသဘ အနံကျယ်သော မဟာမဂ္ဂ[၁၁၈]နတ်လမ်းမဖြင့် ကြွတော်မူ၍၊ မဟာဗောဓိ မဏ္ဍိုင်[၁၁၉]၌ နေမဝင်မီ ဒေဝပုတ္တမာရ်ကို အောင်တော်မူ၍၊ ညဉ့်ဦးယံ၌ ပုဗ္ဗေနိဝါသဉာဏ်[၁၂၀], သန်းခေါင်ယံ၌ ဒိဗ္ဗစက္ခုဉာဏ်[၁၂၁], မိုးသောက်ယံ အရုဏ်တက်လုနီးဆဲဆဲတွင် အာသဝက္ခယဉာဏ်[၁၂၂]ကို ရတော်မူ၍ ဥဒေယျခံတရား[၁၂၃] ၅ပါးတို့ကို သူတစ်ပါးမညွှန် ကိုယ်တော်တိုင်သာလျှင် အလိုလိုသိတော်မူလျက် မရေတွက်နိုင်သော ဂုဏ်တော်အပေါင်းနှင့်တကွ သဗ္ဗညုတ[၁၂၄]အဖြစ်သို့ ရောက်တော်မူပြီးသော ငါဘုရား ဖြစ်တော်မူ၏။

**သုဝဏ္ဏသာမ ဇာတ်တော်ကြီးဝတ္ထု ဤတွင်ရွေ့ ပြီး၏။**

## နိဂုံး

၁။ ရဇ္ဇေ သုနာပရန္တမှိ၊ စကုဘိဓာနဂရေ။ သိရီပရိသပုဏ္ဏတ္တာ၊ မင်းဖူးတိ လဒ္ဓဂုါယကော။ ။

၂။ အထဝါစ နမန္တဂ္ဂ၊ ဝိလာသဋ္ဌာနဘာဝတော။ ပုရတ္ထိမေစ ရောဝတိ၊ လောဏာဝတိစ ဒက္ခိဏေ။ ပစ္ဆိမေ ဣသိပဗ္ဗာစ၊ နမန္တာပိစ ဥတ္တရေ။ ။

၃။ ဝါရိတော တေဟိ ယော တသ္မိံ၊ ထူပါရာမာဒိသောဘိတေ။ ရန်ကုန်ဘိဓာနဝေါဟာရေ၊ ဆာယူဒကသမ္ပန္နကေ။ ။

၄။ သောတာလယပဝါရမှိ၊ ကပ္ပရုက္ခူပမာလယေ။ တိဘူမကေ မနောရမ္မေ၊ ကုဋ္ဌာဂါရာဒိမဏ္ဍိတေ။ ။

၅။ ဝသန္တော ဂန္ထကာရောစ၊ သိဿာနံ ပီတိဝမုကော။ ပိဋကေသု နိရာသင်္ကော၊ သာသနေသု အာရဒ္ဓကော။ ။

၆။ ဝိသုဒ္ဓေါ သုဒ္ဓသိဿေဟိ၊ သောဘန္တော စန္ဒိမာယထာ။ ပါသာဒိကောစ နိပုဏော၊ သဗ္ဗရဇ္ဇေ သုပါကဋော။ ။

၇။ တဿာ စရိယ သေဋ္ဌဿ၊ သိဿေနိဒံ မယာ ကတံ။ သုတေသိနံ ဟိတတ္ထာယ၊ မဟာလေခဝှယာစိတော။ ပုဗ္ဗာပရသုဝိဿဋ္ဌံ၊ သောတာလင်္ကာရ ရူပမံ။ ။

၈။ တမ္ဗဒီပေ ရဋ္ဌဒေသေ၊ မာဃဝပုရာဘိဓာနေ။ ပစ္ဆိမေ ရောဝတီယာ၊ မုစလိန္ဒာ ရုဋ္ဌဟတ္ထေ။ ။

၉။ မဟိံသဒေသဝိသယေ၊ ပုညကာမာန မာဝါသံ၊ နာနာဇနေသမာကိဏ္ဏံ၊ ဣသီနံ ပဗ္ဗတေဟိစ။ ။

၁၀။ ပုဂံစစ္စာတိ ဝေါဟာရော၊ ယော တဿ ပုဗ္ဗဒိသာယံ။ မနောရမ္မံ သုကာရိတံ၊ ထူပါရာမာဒိ သောဘိတံ။ ။

၁၁။ တာလ နာဠိကေရ ဇမ္ဗူ၊ ပေါတ္ထက အမ္ဗ သမ္ပန္နံ။ စိဉ္စာယ ကပိဋ္ဌေဟိစ၊ စမ္ပကမကုလေဟိစ။ ။

၁၂။ ပဋ္ဌပဒုမသဉ္ဆန္နံ၊ ဝါရိစရသမာကုလံ။ တဋ္ဌာကေဟိစ သောဘိတံ၊ အာလယံ ဝသန္တော ကတံ။ ။

၁၃။ ဝါကျာနုသန္ဓိ မယုတ္တံ၊ မိနေတွေတ္ထ မနဿုယာ။ ဝဏ္ဏိတာ သုတသမ္ပန္နာ၊ သဇ္ဇနာ သဇ္ဇနံ ပဏ္ဍိတာ။ ။

၁၄။ ပုညေနေတေန ပပ္ပေါမိ၊ မောက္ခံ သန္တံ သုဒုဒ္ဒသံ။ န တံ ပပ္ပေါမိ ယာဝါဟံ၊ တာဝတာ ဇာတိဇာတိယံ။ ။

၁၅။ စတုဝိပတ္တိဝိဂတော၊ စတုသမ္ပတ္တိ ပါဂတော။ စတုစက္ကေဟိ သမ္ပန္နော၊ သဒ္ဓမ္မေဟိစ သတ္တဟိ။ ။

၁၆။ အဘိရူပေါ မဟိဒ္ဓိကော၊ အင်္ဂပစ္စင်္ဂသမ္ပန္နော။ အာရောဟပရိဏာဟောစ။ ဘဝါဘဝေ သံသရန္တော။ ။

၁၇။ အနန္တာ ခီဏာဘောဂေါစ၊ ဥဠာရာတုလဘောဂဝါ။ အနုပဟတဘောဂေါစ၊ ပဋ္ဌဝေရီဟိ မာဟဝေ။ ။

၁၈။ တိက္ခဂ္ဂမ္ဗိရုပညောစ၊ ဟာသဇဝနပညဝါ။ ဘူရိနိမ္မေဓပညောစ၊ သဗ္ဗပဉ္စဝိသဒ္ဓနော။ ။

၁၉။ အန္တော့သော့ဋ္ဌသဝဿသ၊ တိပိဋကဓရော ဘဝေ။ သဗ္ဗသိပ္ပေသု ကမ္မေသု၊ နိဋ္ဌင်္ဂေါ ဝေဒပါရဂူ။ ။

၂၀။ သကိံ ဒဿနမတ္တေန၊ ဒိဋ္ဌေဒိဋ္ဌေ သုတေသုတေ။ အတိဆေကော အပ္ပမတ္တော၊ယာဝ ဘဝန္တရူ ပဂါ။ ။

၂၁။ နိတ္ထိတိ ဝစနံ ဒုက္ခံ၊ ဒေတိဟိ ဝစနံ တထာ။ တသ္မာ နတ္ထိတိ ဒေဟီတိ၊ မာ မေ ဟောတု ဘဝါဘဝေ။ ။

၂၂။ သဗ္ဗံ ပရိဝသံ ဒုက္ခံ၊ သဗ္ဗံ ဣဿရိယံ သုခံ။ သဗ္ဗံ ပရဝသံ မတ္တူ၊ သဗ္ဗမိဿရိယံ ဘဝေ။ ။

၂၃။ မေဃံ ဝါတဥ္စ ရတနံ၊ ခေညံ ဝတ္တဥ္စ ဘောဇနံ။ သဗ္ဗိစ္ဆိတံ တ ဒညံပိ၊ မာပေယျံ ကမ္မဖိဒ္ဓိယာ။ ။

၁,၂,၃,၄။ သုနာပရန္တမှိ ရဋ္ဌေ၊ သုနာပရန္တတိုင်းဖြစ်သော။ စကုဘိဓာနနဂရေ၊ စကုမြို့၏အတွင်း၌။ ပုရတ္ထိမေ၊ အရှေ့မျက်နှာ၌။ ရောဝတီစ၊ ရောဝတီမြစ်သည် လည်းကောင်း။ ဒက္ခိဏော၊ တောင်မျက်နှာ၌။ လောဏာ ဝတီစ၊ ဆားပွတ်တောင်သို့ ညွတ်၍စီးရာဖြစ်သော ချောင်းမကြီးသည် လည်းကောင်း။ ပစ္ဆိမေ၊ အနောက်မျက်နှာ၌။ ဣသိပဗ္ဗာစ၊ ဘုရားမပွင့်မီက ဈာနလာဘီ ရှင်ရသေ့တို့ တောင်လျှဉ်တောင်ဝှမ်းတို့သည် လည်းကောင်း။ ဥတ္တရေ၊ မြောက်မျက်နှာ၌။ နမန္တာပိစ၊ မန်းမြစ်သည်လည်းကောင်း။ တေဟိ၊ ထို မြစ်ငယ်,မြစ်ကြီး,ချောင်းမကြီး,တောင်လျှဉ်, တောင်ဝှမ်းတို့ဖြင့်။ ဝါရိတော၊ ၄ မျက်နှာမှ ဆီးကာဝန်းလည်၍ တည်ထသော။ သိရိ ပရိသပုဏ္ဏတ္တာစ၊ ကောင်းမြတ်သော ကျက်သရေအိမ်ခြေ ပရိသတ်တို့နှင့် ပြည့်စုံသည်၏အဖြစ်ကြောင့် လည်းကောင်း။ အထဝါ၊ တစ်နည်းသော်ကား။ နမန္တဂ္ဂဝိလာသဋ္ဌာနဘာဝတောစ၊ မြစ်မသို့ ပေါင်းဆုံရာဖြစ်၍ အညွန့်အဖူး၌ တင့်တယ်စွာ တည်ထောင်အပ်သောအရပ် ဖြစ်သောကြောင့် လည်းကောင်း။ မင်းဖူးတိလဒ္ဓဝှာယကော၊ မင်းဖူးရပ်ဟု ရအပ်သော အမည်ရှိထသော။ ယောဂါမော၊ အကြင်ရွာသည်။ အတ္ထိ၊ ရှိ၏။ တသ္မိံဂါမေ၊ ထိုမင်းဖူးရွာ၌။ ထူပါရာမာဒိသော ဘိတော၊ ရွှေစေတီ, ဆုတောင်းပြည့်, ရွှေတန်ဆာ အစရှိသော ဂူကြီး, စေတီ, လိုဏ်နန်းတို့ဖြင့် တင့်တယ်စွာထသော။ မနောရမ္မေ၊ နှလုံးမွေ့လျော်ဖွယ်လည်းရှိထသော။ တိဘူမကေ၊ ဘုံ ၃ဆင့်လည်းရှိထသော။ ကုဋ္ဌာဂါရာဒိမဏ္ဍိတော၊ မှစ်, မှန်ကင်း, အမွှန်းတန်ဆာ စသည်တို့ဖြင့် တန်ဆာဆင်အပ်ထသော။ သောတာလယပဝါရမှိ၊ စာသင့်သားတို့၏ ဆန္ဒကို ဖိတ်မန်ရာလည်းဖြစ်ထသော။ ဝါ၊ စာသင်ကျောင်းတို့ဖြင့် ဝန်းလည်ခြံရံ အပ်ထသော။ ဆာယူဒကသမ္ပန္နကော၊ အရိပ်, ရေနှင့်လည်း ပြည့်စုံထသော။ ဝါ၊ ဥယျာဉ်, ရေကန်နှင့်လည်း ပြည့်စုံထသော။ ရန်ကုန်ဘိဓာနဝေါဟာရေ၊ ရန်ကုန်တိုက်ဟု ခေါ်ဝေါ်အပ်ထသော။ ဝါ၊ စေတီ, လိုဏ်နန်း, ရဟန်းသံဃာ, ရတနာအပေါင်း, ကောင်းမြတ်သော မင်္ဂလာရတနာတိုက်ဟု ခေါ်ဝေါ်အပ်ထသော။ ကပ္ပရုက္ခူပမာလယေ၊ သဒ္ဓါ, သီလ, သုတ အစရှိသော သူတော်ကောင်းဥစ္စာ ရတနာ ၇ရပ်ကို ပရိသတ်တို့ဆွတ်ယူရာ ပဒေသာသဖွယ်ဖြစ်သော ကျောင်း၌။

၅။ ဝသန္တော၊ နေတော်မူထသော။ ဂန္ထကာရော၊ ကျမ်းပို့ကျမ်းပြုဆရာလည်း ဖြစ်ထသော။ သိဿာနံ၊ တပည့်အပေါင်းတို့၏။ ပီတိဝဍ္ဍကော၊ နှစ်သက်ခြင်းကိုလည်း ပွားစေတတ်ထသော။ ပိဋကေသု၊ ပိဋကတ်တို့၌။ နိရာသင်္ကော၊ ရွံ့ရှာခြင်းကင်းတော်မူထသော။ သာသနေသု၊ ပရိယတ္တိ, ပဋိပတ္တိသာသနာတော်တို့၌။ အာရဒ္ဓကော၊ အားထုတ်တော်မူလေ့ရှိထသော။

၆။ ဝိသုဒ္ဓေါ၊ စတုပါရိသုဒ္ဓိသီလ, အာစာရ, ဂေါစရ စသည်တို့၌ အညစ်အကြေးမတင်ဖြူစင်တော်မူလျက်။ တာရာဂဏေဟိ၊ ကြယ်အပေါင်းတို့ဖြင့်။ သောဘန္တော၊ တင့်တယ်သော။ စန္ဒိမာယထာ၊ လပြည့်ဝန်းကဲ့သို့။ သုဒ္ဓသိဿေဟိ၊ စင်ကြယ်သော တပည့်အပေါင်းတို့ဖြင့်။ သောဘန္တော၊ တင့်တယ်တော်မူသည်ဖြစ်၍။ သဗ္ဗရဋ္ဌေ၊ အလုံးစုံသော မြန်မာတိုင်းနိုင်ငံ၌။ သုပါကဋော၊ ကောင်းစွာထင်ရှားထသော။ ပါသာဒိကော၊ ကိုယ်,စကားဖြင့်လည်း ကြည်ညိုဖွယ်ရှိထသော။ နိပုဏော၊ သိမ်မွေ့နူးညံ့သော နှလုံးတော်လည်းရှိတော်မူသော။ ယောအာစရိယသေဋ္ဌော၊ အကြင်ရန်ကုန်ဆရာတော်မြတ်သည်။ အတ္ထိ၊ ရှိ၏။

၇။ တဿအာစရိယသေဋ္ဌဿ၊ ထိုရန်ကုန်ဆရာတော်ကျေးဇူးရှင်ဘုရား၏။ သိဿေန၊ လက်ရင်းငယ် တပည့်လည်း ဖြစ်ထသော။ ယုဝါနကေန၊ ပထမအစ ပျိုနုသောအရွယ်လည်း ဖြစ်ထသော။ ပိယဝါကျေန၊ ချစ်ဖွယ်သောစကားကိုလည်း ဆိုတတ်ထသော။ သာသနာသိသေန–သဒ္ဓမ္မာသိသေန၊ သူတော်ကောင်းတို့၏ တရားကိုလည်း တောင့်တလေ့ရှိထသော။ ဖုလ္လကုမုဒဝိကာသိတစီရေန၊ အခါသင့်၍ပွင့်သော ကုမုဒြာကြာကဲ့သို့ ဆရာမြတ်မှရအပ်သော နည်းဥပဒေသဖြင့် ပွင့်လန်းသော ဉာဏ်ပညာလည်းရှိထသော။ မယာ၊ ငါသည်။ သုတေသီနံ၊ သုတပညာကို ရှာကုန်သောသူတို့၏။ ဟိတတ္ထာယ၊ အစီးအပွားအလို့ငှာ။ ပုဗ္ဗာပရသုဝိဿဋ္ဌံ၊ ရှေ့, နောက်စကား အထားအနေ သေခွေကျစ်လစ်ပြေပြစ်သန့်ရှင်းထသော။ သောတာလင်္ကာရရူပမ်၊ သုတကိုရှာကုန်သော သူတို့၏ ဆင်သောတန်ဆာသဖွယ်လည်း ဖြစ်ထသော။ ဣဒံဇာတကဝတ္ထု၊ ဤသုဝဏ္ဏသာမ ဇာတ်ဝတ္ထုကို။ မဟာလေခဝှယာစိတော၊ ‘မောင်သာ’အမည်ရှိသော စာရေးတော်ကြီးသည် ရိုသေစွာတောင်းပန် အပ်သည်ဖြစ်၍။ မြမ္မဘာသာယ၊ သိသာမှတ်လွယ် မိပွာယ်ထုတ်ဝေ စကားပြေဖြင့်။ ကတံ–လိခိတံ၊ ရေးစီကုံးအပ်ပြီ။

၈။ ကတ္ထဒေသေ၊ အဘယ်အရပ်၌။ လိခိတံ၊ ရေးစီသနည်း။ တမ္ဗဒီပေရဋ္ဌဒေသေ၊ တမ္ဗဒီပတိုင်းဖြစ်သော။ ဝါ၊ မြန်မာလူမျိုးတို့၏နေရာဖြစ်သော။ မာဃဝပုရာဘိဓာနေ၊ မကွေးမြို့အတွင်း၌။ ဝါ၊ မာဃဝပုရာဘိဓာနေ၊ မာဃဝလုလင်၏မြို့နယ်အတွင်း၌။ [မာဃဝမြို့ဟု ဆိုအပ်လျက် မာ၌ အာ–ကို အ ရဿပြု၍, စတုတ္ထအက္ခရာ ဃ–ကို တတိယက္ခရာ ဂ–ပြု၍, ဧ–အက္ခရာလာ၍, ဝ ‘ဧ’ ဂ ‘ဝေ’သို့ကပ်၍ ဝိသဇ္ဇနီနှင့် မဂွေး(ကွေး)မြို့ဟု ဆိုသည်။] တစ်နည်းကား– မာဃဝပုရာ ဘိဓာနေ၊ ဆင်တော်, ကင်းတော်, သဖန်းခါးတော်, သက်န်းတော်တည်း ဟူသော တော် ၄လုံးတို့၏တည်ရာဖြစ်သော မဂွေးမြို့နယ်အတွင်း၌ ဧရာဝတိယာ၊ ဧရာဝတီမြစ်၏။ ပစ္ဆိမေ၊ အနောက်ဘက်၌၊ မုစလိန္ဒာရဉ္ဇဟဗ္ဘေ၊ ကျည်းပင်တက်ရွာ၏ ကျေးလက်လည်း ဖြစ်ထသော။

၉,၁၀။ မဟိံသဒေသဝိသယေ၊ ကျွဲသိုးမြောင်ရွာ၏ ကျေးလက်လည်း ဖြစ်ထသော။ ပုညကာမာနံ၊ ကောင်းမှုကို အလိုရှိကုန်သောသူတို့၏။ အာဝါသံ၊ နေရာလည်းဖြစ်ထသော။ နာနာဇနေသမာကိဏ္ဏံ၊ အထူးထူး သောလူမျိုးတို့ဖြင့်ပြွမ်းထသော။ ဝါ၊ ချင်း, ကရင်, ကသည်း, ကုလား, တရုတ်, ရှမ်း, ယိုးဒယား, မြန်မာစသော လူမျိုးတို့ဖြင့်လည်း ပြွမ်းထသော။ ဣသီနံ၊ ရှာနလာဘီရှင်ရသေ့တို့၏။ အာဝါသေဟိ၊ နေရာဖြစ်ကုန်သော။ ပဗ္ဗတေဟိစ၊ ဥမင်, စေတီ, လိုဏ်နန်း အဆန်းအကြယ်ပြုအပ်သော မြင်သာတောင်တို့ဖြင့် လည်းကောင်း။ သောဘိတံ၊ တင့်တယ်စွာထသော။ ပုဂံစစ္စာတိဝေါဟာရော၊ ပုဂံစစ်ဟုခေါ်ဝေါ်အပ်သော။ ဝါ၊ နိဗ္ဗာန်သို့ ရောက်စေတတ်သော [ပုဝုစ္စတိ နိဗ္ဗာနံ၊ တံ ဂစ္ဆတိတိ ပုဂံ–ဟူသောဝစနတ္ထနှင့် လျော်စေသည်။] ဝါ၊ နိဗ္ဗာန်မဂ်ဖိုလ်ကို အလိုရှိကုန်သော ရဟန်းရှင်လူအပေါင်းတို့သည် မြတ်သောအကျင့်ကို ကျင့်အပ်သည်ဟု ဆိုအပ်သော [ပုဂေဟိ စရောတိ ပုဂစရော– ဟူသော ဝစနတ္ထနှင့် လျော်စေသည်။ ဤဝစနတ္ထ၏အလိုသော်ကား စရရွာဟု ဆိုလိုသည်။]

ယောဂါမော၊ အကြင်ရွာသည်။ အတ္ထိ၊ ရှိ၏။ တဿဂါမဿ၊ ထိုရွာ၏။ ပုဗ္ဗဒိသာယံ၊ အရှေ့မျက်နှာအရပ်၌။ သုကာရိတံ၊ ကောင်းစွာပြုပြင်အပ်သော။ မနောရမ္မံ၊ နှလုံးမွေ့လျော်ဖွယ်ရှိသော၊ ထူပါရာမာဒိသောဘိတံ၊ စေတီ, လိုဏ်နန်း စသည်တို့နှင့် တင့်တယ်ထသော။

၁၁,၁၂။ တာလ နာဠိကေရ ဇမ္ဗူ ပေါတ္ထက အမ္ဗသမ္ပန္နံ၊ ထန်း, အုန်း, သပြေ, ပေ, သရက်ပင်နှင့် ပြည့်စုံထသော၊ စိဉ္စာယကပိဋ္ဌေဟိစ၊ မန်ကျည်းပင်, သီးပင်တို့နှင့်လည်းကောင်း။ စမ္ပကဗဟုလေဟိစ၊ စကားပင်, ချရားပင်တို့သည် လည်းကောင်း။ သမ္ပန္နံ၊ ပြည့်စုံထသော။ သုကာရိတကမ္မေဟိစ၊ ကောင်းစွာဆောက်လုပ်သော။ ဝါ၊ ခွံနွေးသစ်သင် အခြင် ထုပ် လျောက်တို့နှင့်လည်း။ သမ္ပန္နံ၊ ပြည့်စုံထသော။ ပဥ္စပဒုမ သဥ္ဆန္နံ၊ ကြာမျိုး ၅ပါးတို့ဖြင့် ဖုံးလွှမ်းအပ်ထသော။ ဝါရိဇရသမာကုလံ၊ ရေ၌ကျက်စား သွားလာကုန်သော ဝမ်းဘဲ, ဟင်္သာ, ရေကြက်, စက္ကဝက်ငှက်တို့ဖြင့်လည်း ပြွမ်းထသော။ တဋ္ဌကေဟိစ၊ ရေကန်တို့ဖြင့်လည်း။ သောဘိတံ၊ တင့်တယ်ထသော။ အာလယံ– အာလယေ၊ ကျောင်း၌။ ဝသန္တော၊ နေစဉ်။ ကတံ–လိခိတံ၊ ရေးအပ်ပြီ။

၁၃။ တံဇာတကတ္တုံ၊ ထို သုဝဏ္ဏသာမ ဇာတ်ဝတ္ထုသည်။ အနုသယာ၊ သူတစ်ပါးတို့အား ငြူစူချုပ်ချယ်ခြင်း မရှိကုန်ထသော။ ဝဏ္ဏိတာ၊ ပညာရှိတို့ ချီးမွမ်းအပ်ကုန်ထသော။ သုတသမ္ပန္နာ၊ သုတနှင့် ပြည့်စုံကုန်ထသော။ သဒ္ဓနာ၊ သူတော်ကောင်း အစစ်ဖြစ်ကုန်ထသော။ ပဏ္ဍိတာ၊ ပညာရှိတို့သည်။ ဩွေ၊ ဤယခု အကျွန်ုပ်စီကုံးသော ဝတ္ထု၌။ ဝါကျာနုသန္ဓိ၊ ရှေ့နောက် စကားအထားအသို အဆိုအမြွက် အစပ်အဟပ် အစပ်အဆော်ကို။ မိနေတွာ၊ ပညာဖြင့်နှိုင်းချိန်၍။ သစေ အယုတ္တံ၊ အကယ်၍ မသင့်ထင်အံ့။ တံ၊ ထိုသို့ မသင့်သောအရာကို။ သဗ္ဗန္တု။ လောင်းနုတ်စီရင် ပြင်ဆင်တော် မူစေကုန်သတည်း။

၁၄,၁၅။ အဟံ၊ ငါသည်။ ဧတေန၊ ထိုသို့သဘောရှိသော။ ပုညေန၊ သုဝဏ္ဏသာမဇာတ်ကို ပြုရသော ကောင်းမှုကြောင့်။ သန္တံ၊ ငြိမ်သက်သော။ သုဒုဒ္ဒသံ၊ အလွန်မြင်နိုင်ခဲလှစွာထသော။ မောက္ခံ၊ နိဗ္ဗာန်သို့။ ပပ္ပေါမိ၊ ရောက်ရပါလို၏။ ယာဝ၊ အကြင်မျှလောက်သာ ကာလပတ်လုံး။ တံ၊ ထိုနိဗ္ဗာန်သို့။ နပပ္ပေါမိ၊ မရောက်ရသေး။ တာဝ၊ ထိုသို့ မရောက်ရသေးသမျှ။ ဇာတိ ဇာတိယံ၊ ဖြစ်တိုင်းဖြစ်တိုင်းသော ဘဝ၌။ စတုဝိပတ္တိဝိဂတော၊ ၄ပါးသောဝိပတ္တိမှ ကင်းသည်လည်းကောင်း။ စတုသမ္ပတ္တုပဂတော၊ ၄ပါးသော သမ္ပတ္တိနှင့် ပြည့်စုံသည် လည်းကောင်း။ စတုစက္ကေဟိစ၊ ၄ပါးသော စက်တို့နှင့်လည်းကောင်း။ သတ္တဟိ၊ ၇ပါးကုန်သော။ သဒ္ဓမ္မေဟိစ။ သူတော်ကောင်းတို့၏ တရားတို့နှင့်လည်းကောင်း။ သမ္ပန္နော၊ ပြည့်စုံသည်။ ဘဝါမိ၊ ဖြစ်ရပါလို၏။

၁၆,၁၇။ ဘဝါဘဝေ၊ ဘဝကြီးငယ်၌။ သံသရန္တော၊ ကျင်လည်လတ်သည်ရှိသော်။ အဘိရူပေါ၊ အလွန်အဆင်းလှသည် လည်းကောင်း။ မဟိဒ္ဓိကော၊ တန်ခိုးကြီးသည် လည်းကောင်း။ အင်္ဂပစ္စင်္ဂသမ္ပန္နော၊ ခြေ, လက်စသောအင်္ဂါနှင့် ပြည့်စုံသည် လည်းကောင်း။ အာရောဟပရိဏာ ဟောစ၊ အလုံးအရပ်နှင့် ပြည့်စုံသည် လည်းကောင်း။ အနန္တခါဓိဏာဘောဂေါစ၊ အတိုင်းမသိ သုံးဆောင်ပေးကမ်း၍ မကုန်နိုင်သော စည်းစိမ်ချမ်းသာနှင့် ပြည့်စုံသည် လည်းကောင်း။ ဥဠာရာရာတုလဘောဂဝါ၊ မြတ်သော အတုမရှိသော ရတနာစစ် ဥစ္စာနှစ် အသုံးအဆောင်နှင့် ပြည့်စုံသည် လည်းကောင်း။ ဟာဝေ–ဧကန္တေန၊ စင်စစ်သဖြင့်။ ပဥ္စဝေရီဟိ၊ ရန်သူ ၅ပါးတို့သည်။ အနုပဟတဘောဂေါစ၊ မလုယက်, မဖျက်ဆီးနိုင်သော စည်းစိမ်နှင့် ပြည့်စုံသည် လည်းကောင်း။ ဘဝေ၊ ဖြစ်ရပါလို၏။

၁၈။ သောအဟံ၊ ထိုငါသည်။ ဘဝါဘဝေ၊ ဘဝတိုင်း ဘဝတိုင်း။ တိက္ခဂမ္ဘီရပညောစ၊ ထက်မြက်သော ပညာ, နက်နဲသောပညာရှိသည် လည်းကောင်း။ ဟာသဇဝနပညဝါ၊ ရွှင်လန်းလျင်မြန်သောပညာ ရှိသည်

လည်းကောင်း၊ ဘူရိနိဗ္ဗေဓပညောစ၊ မြေကြီးအထုနှင့်တူသော ထိုးထွင်းနိုင်သောပညာ ရှိသည် လည်းကောင်း။ သဗ္ဗပဥှိသဇ္ဇနောစ၊ ခပ်သိမ်းသော အမေးပုစ္ဆာပြဿနာကို လွယ်ကာဖြေနိုင်သော ပညာနှင့်ပြည့်စုံသည် လည်းကောင်း၊ ဘဝေ။ ဖြစ်ရပါလို၏။

၁၉။ သောအဟံ၊ ထိုငါသည်။ အန္တောသောဠသဝဿဿ၊ ၁၆နှစ်အတွင်း၌။ တိပိဋကဓရော၊ ပိဋကတ် ၃ပုံကို ဆောင်နိုင်သည်လည်းကောင်း။ သဗ္ဗသိပ္ပေသု၊ ခပ်သိမ်းသောအတတ်တို့၌လည်းကောင်း။ သမ္မကမ္မေသု၊ ခပ်သိမ်းသောအမှုတို့၌ လည်းကောင်း။ ဝေဒပါရဂူ၊ ဗေဒင် ၃ပုံ၏ ကမ်းတစ်ဘက်သို့ရောက်သောအားဖြင့် လည်းကောင်း။ နိဋ္ဌင်္ဂေါ၊ အပြီးတိုင်သည်။ ဘဝေ၊ ဖြစ်ရပါလို၏။

၂၀။ သော အဟံ၊ ထို ငါသည်။ ဘဝါဘဝေ၊ ဘဝတိုင်း ဘဝတိုင်း။ သကိဒဿနမတ္တေန၊ တစ်ကြိမ်မြင်ကာမျှဖြင့်။ ဒိဋ္ဌေဒိဋ္ဌေ၊ မြင်တိုင်းမြင်တိုင်း။ သုတေသုတေ၊ ကြားတိုင်း ကြားတိုင်း။ ယာဝဘဝန္တ ရှုပဂါ၊ ဘဝတစ်ပါး လားသည်တိုင်အောင်။ အတိဆေကော၊ အလွန်တတ်သိလိမ္မာသည် လည်းကောင်း။ အပ္ပမတ္တော၊ မမေ့မလျော့သည် လည်းကောင်း။ ဘဝေ၊ ဖြစ်ရပါလို၏။

၂၁။ နတ္ထိတိဝစနံ၊ 'မရှိ'ဟုဆိုရခြင်းသည်။ ဒုက္ခံ၊ ဆင်းရဲ၏။ ဒေဟီတိဝစနံ၊ 'ပေးပါ'ဟူ၍ ဆိုရခြင်းသည်။ တထာ၊ ထို့အတူ။ ဒုက္ခံ၊ ဆင်းရဲ၏။ တသ္မာ၊ ထို့ကြောင့်။ ဘဝါ ဘဝေ၊ ဘဝတိုင်း ဘဝတိုင်း။ နတ္ထိတိဝစနံ၊ 'မရှိ'ဟူ၍ ဆိုရခြင်းသည် လည်းကောင်း။ ဒေဟီတိဝစနံ၊ 'ပေးပါ'ဟူ၍ ဆိုရခြင်းသည် လည်းကောင်း။ မေ၊ ငါ့အား။ မာဟောတု၊ မဖြစ်စေသတည်း။

၂၂။ သဗ္ဗံ၊ အလုံးစုံသော။ ပရဝသံ၊ သူ့အလိုသို့ လိုက်ရခြင်းသည်။ ဒုက္ခံ၊ ဆင်းရဲ၏။ သဗ္ဗံ၊ အလုံးစုံသော။ ဣဿရိယံ၊ အစိုးရခြင်းသည်။ သုခံ၊ ချမ်းသာ၏။ တသ္မာ၊ ထို့ကြောင့်။ ဘဝါဘဝေ၊ ဘဝတိုင်း ဘဝတိုင်း။ သဗ္ဗံ၊ အလုံးစုံသော။ ပရဝသံ၊ သူ့အလိုသို့ လိုက်ရခြင်းသည်။ မာအတ္တု၊ မဖြစ်စေသတည်း။ သဗ္ဗံ၊ အလုံးစုံသော။ ဣဿရိယံ၊ အစိုးရခြင်းသည်။ ဘဝေ၊ ဖြစ်ရပါလို၏။

၂၃။ မေဃဥ္စ၊ မိုးကို လည်းကောင်း။ ဝါတဥ္စ၊ လေကို လည်းကောင်း။ ရတနဥ္စ၊ ရတနာမြတ်ဥစ္စာကို လည်းကောင်း။ ဓညဥ္စ၊ စပါးကို လည်းကောင်း။ ဝတ္ထဥ္စ၊ အဝတ်ပုဆိုးကို လည်းကောင်း။ ဘောဇနဥ္စ၊ ဘောဇဉ်ကို လည်းကောင်း။ တံ၊ ထိုဆိုအပ်ခဲ့ပြီးသည်မှ။ အညံပိ၊ တစ်ပါးလည်းဖြစ်သော။ သဗ္ဗံ၊ အလုံးစုံသော။ ဣစ္ဆိတံ၊ အလိုရှိအပ်သောဝတ္ထုကို လည်းကောင်း။ ကမ္မဖိဒ္ဓိယာ၊ ကံကြောင့်ဖြစ်သော တန်ခိုးဖြင့်။ မာပေယျံ၊ ဖန်ဆင်းနိုင် လို၏။

ဣမဿ ပုညဿ၊ ဤကောင်းမှု၏။ ဘာဂဥ္စ၊ အဖို့ကိုလည်း။ သိနေရုတော၊ မြင့်မိုရ်တောင်မင်းထက်။ မဟာဂုဏဝတံ၊ ကြီးမြတ်သော ကျေးဇူးရှိကုန်သော။ ဇနေတ္တိ–ဇနကာနဥ္စ၊ မွေးသမိခင်, မွေးသဖခင်တို့အား လည်းကောင်း။ နိရိန္ဒဿ၊ လူတို့ကို အစိုးရတော်မူသော အရှင်ဖြစ်သော။ ဘူပတိဿစ၊ မြေကိုအစိုးရသော မြေကြီးသေဋ္ဌနင်းမင်းအားလည်းကောင်း။ သုမာနိတဗ္ဗာနံ၊ အလွန်မြတ်နိုးအပ်ကုန်သော။ သုပဟ္ဓာနံ၊ ကောင်းသော နှလုံးထားရှိကုန်ထသော။ ဝတ္ထုတ္တယမာမကာနံ၊ ရတနာ ၃ပါးကို မြတ်နိုးကုန်ထသော။ သဒ္ဓါသီလသမ္ပန္နာနံ၊ သဒ္ဓါခြင်း သီတင်းနှင့် ပြည့်စုံကုန်ထသော။ ဘဝန္တ ရဂတာနံ၊ ဘဝသစ်သို့ လှမ်းယူပြောင်းသွားလေကုန်သော။ ဉာတီနဥ္စ၊ အဆွေအမျိုးတို့အားလည်းကောင်း။ အာစရိယာနဥ္စ၊ ဆုံးမပဲ့ပြင် သွန်သင်ပြသပေးသော ဆရာမြတ်တို့အား လည်းကောင်း။ ယမရာဇာနံ၊ ယမမင်းကြီးကို။ အာဒိံကတွာ၊ အစပြု၍။ တိဘူမိယာ၊ ဘုံ ၃ပါး၌။ အဝစရာနံ၊

ကျင်လည်ကုန်သော။ သတ္တာနဥ္စ။ သတ္တဝါတို့အားလည်းကောင်း။ ဒေမ၊ ပေးဝေပါကုန်၏။ သာဓုသာဓူတိ၊ သာဓု သာဓူဟူ၍။ မောဒန္တု၊ ဝမ်းမြောက်စေကုန်သတည်း။

အေးမြက်သီတာ၊ ဂန္ဓမာတွင်၊ နံ့သာဆူဆူ၊ မွှေးမတူသား၊ မဥ္ဇူသကာ၊ ပင်ရက္ခဝယ်၊ အလှအဆန်း၊ ပွင့်သည့်ပန်းကို၊ လန်းလန်းသီရုံး၊ ဆွတ်ယူကုံး၍၊ သက်လုံးမြတ်လေး၊ ဆင်တော့ပေးသို့၊ ပျံ့အေးဂုဏ်အင်၊ သုံးလူ့ရှင်၏၊ သုံးခွင်ဒေသနာ၊ ပင်ရိပ်သာမှ၊ ဤစာသုဝဏ္ဏလျှံ၊ ဇာတ်တော်မွန်ကို၊ ဉာဏ်အမြင်နှ၊ သူတို့ရှုကြောင်း၊ ဝတ္ထုသက်သေ၊ စကားပြေဖြင့်၊ အနေကျစွာ၊ ရေးစီပါဟု၊ မောင်သာတွင်ခြင်း၊ မိတ်ဆွေရင်းလျှင်၊ ဝပ်စင်းရိုသေ၊ တောင်းပန်ထွေကြောင့်၊ ပေကိုးကြောင်းစာ[၃၂၅]၊ သုံးအင်္ဂါ[၃၂၆]ဖြင့်၊ ပညာတိက္ခ၊ နာမခေါ်ဆို၊ ပဍ္ဍင်းပျိုလျှင်၊ ကုသိုလ်မင်္ဂလာ၊ ပွားရာမှန်ဘိ၊ ဘူမိနက်သံ၊ ကြံကြံသမျှ၊ ကြွယ်ဝချမ်းသာ၊ ပြည်သာနိဗ္ဗူ၊ ဟူရာဌာန၊ သာယာလှသား၊ နာမတွင်လစ်၊ ပုဂံစစ်တွင်၊ စေတီပြင်ဝယ်၊ တင့်တယ်ထူးဆန်း၊ ကျောင်းသခ်မ်း၌၊ လေးပိုက်ဣရိယာ၊ နေသောခါလျှင်၊ သိသာစေမှု၊ ဖော်ထုတ်ပြုရှင့်၊ ဗဟုသုတ၊ ကုံလောက်စွာ၊ ပညဝါတို့၊ ဤမှာဤနိုက်၊ ဤမထိုက်ဟု၊ အဆိုက်အသွား၊ စကားရှေ့နောက်၊ နှိုင်းညှိထောက်၍၊ ကျရောက်မြူသွင်၊ အပြစ်မြင်က၊ တင်၍နှုတ်သာ၊ ကဲ့ရဲ့ပါနှင့်၊ လျင်စွာ လျောက်ကူ၊ ပြင်တော်မူရှင့်၊ အယူဒ္ဒိဟ[၃၂၇]၊ မကျနမှု၊ မောဟဆို့ပိတ်၊ ကုသိုလ်ဟိတ်ဖြင့်။ ။ ဉာဏ်စိတ် ထောက်ဆပါစေသောဝ်။

မွှေးညက်ဆီမှာ၊ ကျဥွမ်းဝါသို့၊ ရသာချိုဆိမ့်၊ နှလုံးအိမ့်၍၊ နှစ်သိမ့်စေမှု၊ ဤဝတ္ထုကို၊ ပြုရမငြိ၊ ဤကုသိုလ်ကြောင့်၊ ထိုထိုနောင်ခါ၊ သံသရာ၌၊ ဝါနာ[၃၂၈]မကုန်၊ လည်ရတုံလည်း၊ လုံးစုံပညာ၊ အင်ရှစ်ဖြာနှင့်၊ ဝိသာရဒ၊ တတ်ကုန်လျက်၊ ဗုဒ္ဓအလောင်း၊ သူတော်ကောင်းတို့၊ ကျင့်ဘောင်းထုံးနည်း၊ နိဿရည်းကို၊ ငါလည်းဤတူ၊ ရပါမူလော့၊ လူမလိမ္မာ၊ လူမိုက္ခာနှင့်၊ ကြုံလာတော်မိ၊ တွေ့ရဘိလည်း၊ ဒိဋ္ဌိပယ်ချွေး၊ စင်စွာဆေး၍၊ နည်းပေးဆရာ၊ မြောက်လိုပါ၏။ ကြမ်းစွာဒေါသ၊ ဂုဏ်မာနနှင့်၊ ပပလွှားလွှား၊ သူတို့အားလည်း၊ တရားသဖြင့်၊ တစ်ခွန်းရင့်က၊ အသင့်နှလုံး၊ ယူသုံးကြည်ညို၊ ညွတ်စေလို၏။ ထိုထိုခဲစွာ၊ ခွင့်ရေးရာ၌၊ ပညာနေဝန်း၊ ကဲ့သို့ထွန်း၍၊ ငြိစွန်းမထင်၊ နံ့သိမြင်လျက်၊ များဖြင်သတ္တ၊ ရှိသမျှကို၊ သုခတိုက်ကျွေး၊ ရန်ဘေးကင်းဖြို၊ လွတ်ရလို၏၊ ကြည်ညိုမေတ္တာ၊ လူတကာလည်း၊ ကြင်နာနှစ်သက်၊ အဆက်ဆက်လျှင်၊ တိုးတက်လျှံဖိတ်၊ ဉာဏ်နိမိတ်ဖြင့်။ ။ ပဏ္ဍိတ် မြောက်ရပါစေသောဝ်။

လေးနက်ဤစာ ပြီးသည်မှာကား၊ အဇာတသတ်၊ မင်းမြတ်ဖြိုနောက်၊ ဤနှစ်ရောက်အောင်၊ လျှံတောက်သာသနာ၊ ဒွယာတြိ၊ သဠ္ဌိနဝ[၃၂၉]၊ သချာရ၏။ ဒီဃသက္ကရာဇ်၊ ကောဇာနှစ်ကား၊ ဇော်နှင့်ဇော၊ အဌအဌာ[၃၃၀]၊ ခုသချာ၌၊ ရတနာပုရ[၃၃၁]၊ ရွှေပြည်မကို၊ နရ[၃၃၂]ထိပ်ပန်း၊ စိုးသိမ်းမြန်း၍၊ ရွှေနန်းတက်စံ၊ ဘိသိက်ခံလျက်၊ ဘုန်းလျှံတောက်ပ၊ ထွန်းသစ်စတွင်၊ လကားနယုန်၊ မေထုန်ရာသီ၊ ခါရောက်ပြီဟု၊ တိမ်နီတိမ်ဝါ၊ တိမ်ပြာတိမ်ပုပ်၊ မှိုင်းအုပ်ဆင်ကာ၊ မုန်တိုင်းလာ၍ ရောမြစ်ခွင်၊ နာဝါရှင်တို့၊ ရင်ကိုလက်တီး၊ ကြောက်အားကြီး၍၊ တုန်ရီးတုန်ရင်၊ လှေရှင်လှေသား၊ ဗျာပါများလျက်၊ လှေတက်ဆိုက်ကာ၊ နေသောအခါလျှင်၊ အာကာကောင်းကင်၊ ဝတီပြင်က၊ နတ်ရှင်မာဃ၊ ဝါသဝလျှင်၊ ရွှင်ပျအုန်းအုန်း၊ ပဇ္ဇုန်[၃၃၃]ဘုန်းဖြင့်၊ ထစ်ချုန်းရိုက်မြည်၊ မိုးဖွဲစည်လျက်၊ စိုပြည်မြေပြင်၊ ပန်းသစ်ပင်လည်း၊ ညွန့်ရှင်ဆိုင်းဆိုင်း၊ ရိပ်ညိုမှိုင်းလျက်၊ ခက်ကျိုင်းလန်းလန်း၊ မြရည်သွန်းသို့၊ ထက်ဝန်းစုံညီ၊ တိထီပြည့်၍၊ ရှစ်ရက်နေ့တွင်၊ မဇ္ဈေခင်၌၊ သိုက်မြိုက်သေချာ၊ အခါရောက်ပြီး၊ သုံးချက်တီးတွင်၊ ပြီးအောင်မြင်ရှင့်၊

သုံးခွင်သတ္တ၊ ရှိသမျှလည်း၊ တောင့်တရာရာ၊ လွယ်ကာမဆိတ်၊ ကောင်းကျိုးစိတ်ဖြင့်။ ။ ရန်မြိတ်ပျောက်ကြပါစေသောဝ်။

ဤစာရေးသား၊ အကျိုးအားကြောင့်၊ ပိုက်ဖြားလွယ်ဖူး၊ လက်ဦးဆရာ၊ မည်ထိုက်စွာသည်၊ ပုဗ္ဗာစရိယ၊ မိနှင့်ဖအား၊ ဝေဖြားအမျှ၊ ရပါစေလေ၊ သုန္ဒရေ[၃၃၄]အား၊ သက်သေထား၍၊ များသားထိုမှ၊ တေဘူမက၊ စစမကျန်၊ လျှူဝေဖန်ဟု၊ တန်တန်ရှန်းစို၊ ဤကိုယ်အတွ၊ မှုကစ၍၊ ဘဝဆက်တိုင်း၊ မယိုင်းသာသနာ၊ ကောင်းမြတ်စွာဒ္ဓ၊ ပညာဇဝန[၃၃၅]၊ ဂမ္ဘီရ[၃၃၆]နှင့်၊ တိက္ခ[၃၃၇]တွင်ဆို၊ ဟာသ[၃၃၈]ကိုလျှင်၊ မငြင်မငြို၊ ပြည့်ပါလိုသော၊ ဆုယူဩဟု၊ သဘောပန်နက်၊ သစ္စာရွက်၍၊ လေးချက်အတွ၊ မေ့သမ္ဘိဒါ[၃၃၉]၊ ပြားသည်မှာလည်း၊ မဂ္ဂါရှိယ်နှင့်၊ မြဲသဖြင့်လျှင်၊ အသင့်ကြံတွေ့၊ ပြည့်ပါစေဟု၊ အမှတ်ပြု၍၊ ဗဟုသုတ၊ အဋ္ဌာရသသိပ္ပေ၊ ဘဝေဘဝ၊ သံသရာက၊ မဂ္ဂါသမှု၊ တောင့်တပြု၍။ ။ လျင်မှုမကြာ ပြည့်စေသောဝ်။

ဤစာရေးပြု၊ မြတ်ကောင်းမှုကြောင့်၊ ယခုသာသနာ၊ တော်မြတ်စွာဒ္ဓ၊ မဂ္ဂါစတော၊ တိဟိတ်နေ၍၊ သန္ဓေစွဲမှန်၊ ဤကာယံကို၊ ဖောက်ပြန်မရှိ၊ မြင်သိအမြော်၊ သုံးဖော်ရပ်သူ၊ နတ်နှင့်လူတို့၊ ဆုယူတောင့်တ၊ များကုန်ကြသား၊ မှန်လှသမွာ၊ ငါးဖြာဧယျ၊ ဓမ္မအယူ၊ နှလုံးဖြူ၍၊ လျင်မှုမကြာ၊ သဋ္ဌာဝါသ[၃၄၀]၊ ဘုံတို့မျှလည်း၊ လွဲရမရှိ၊ သတိပါရမီ၊ အစဉ်မှီသား၊ ဘုရားရှင်တော်၊ ဖြည့်သော် ပါရမီ[၃၄၁] သုံးဆယ်စီလျှင်၊ ဖြည့်ညီအမှန်၊ စွန့်ဟန် ငါးပါး၊ တရားအကျင့်၊ အဆင့်ဆင့်ကို၊ ပွားမြင့်လေအောင်၊ ဆောင်သည့်ဘာဝနာ၊ ရှစ်ဖြာမဂ္ဂင်၊ အရှင်တို့အား၊ မြဲမှတ်သား၍၊ သုံးပါးထွတ်ချာ၊ မေတ္တေယျာဟု၊ မြတ်စွာဘုရား၊ ထင်ရှားကံ့ကော်၊ ဗောဓိကျော်ဝယ်၊ ပွင့်တော်မူခါ၊ လက်ဦးစွာက၊ စိန္တေယျလျှင်၊ ခေါ်ထ၊ ဖော်ဘိက္ခုဒုက္ခသအန္တကိရိယာယ[၃၄၂]၊ သံသာရင့်ကျူး မိန့်တော်မူသား၊ ငါ့ကိုယ်အားကို။ ။ သနားချွတ်တော် မူစေသောဝ်။

ပုဒ္ဒိအာနှင့်[၃၄၃]၊ သုံးဖြာဉာဏ၊ စိန္တေယျအား၊ မှတ်သားသတိ၊ မြဲဘိစေအောင်၊ လုံ့လဆောင်သား၊ ဘုန်းခေါင်ဘုရား၊ တိုးတက်ပွား၍၊ ။ ငါ့အားသတိ ရှိစေသောဝ်။

ဤစာရေးရ၊ ကုသလကြောင့်၊ တနသွန်သင်၊ ပဲ့ပြင်ဆရာ၊ ဉာတကာဆွေမျိုး၊ ဘိုးဘွားကစ၊ မိနှင့်ဖတို့၊ နန်းမဒေဝီ၊ မဟေသီက၊ မင်းညီမင်းသား၊ မင်းဖျားမှူးရာ၊ ပါသည်ခြွေရံ၊ မိဿံမပြား၊ မောင်းမများနှင့်၊ တိုင်ကြားသက်သေ၊ သုန္ဒရေက၊ သဗ္ဗေသတ္တာ၊ သတ္တဝါတို့ ၊မချို့စုံအင်၊ နိဗ္ဗာန်ခွင်သို့၊ ကယ်တင်ပို့မည်၊ ကျွန်ုပ်ရည်၍၊ တောင်းသည်သာပ၊ ဘုံနန်းမကို၊ စံရအောင်လျှင်၊ ဆုတောင်းဆင်သည်။ ။ လူရှင်အူအူသောင်းသောင်း အပေါင်းသာစု ခေါ်စေသောဝ်။

**သုဝဏ္ဏသာမ ဇာတ်တော်ကြီးဝတ္ထု နိဂုံး ဤတွင်ရှေ့ ပြီးပြီ။**

# သုဝဏ္ဏသာမ ဇာတ်တော်ကြီး ခက်ဆစ်များ

၁။ စွန့်ခြင်းကြီး ၅ပါး=ဓနပရိစ္စာဂ၊ ဥစ္စာကိုစွန့်ခြင်း။ ပုတ္တပရိစ္စာဂ၊ သားသမီးကိုစွန့်ခြင်း။ ဘရိယပရိစ္စာဂ၊ မယားကိုစွန့်ခြင်း။ အင်္ဂပရိစ္စာဂ၊ လက်ခြေစသောအင်္ဂါကြီးငယ်ကို စွန့်ခြင်း။ ဇီဝိတပရိစ္စာဂ၊ ကိုယ့်အသက်ကိုစွန့်ခြင်း။

၂။ ဝဋ် ၃ပါး=ကိလေသဝဋ်, ကမ္မဝဋ်, ဝိပါကဝဋ်။

၃။ သံသရာဝဋ်=ခန္ဓာကိုယ် မပြတ်မလပ် အထပ်ထပ်လည်ပတ်ခြင်း, ဖြစ်ခြင်း။

၄။ ကိလေသာ=ညစ်နွမ်းစေတတ်ပူလောင်စေတတ်သော တရား။

၅။ လောက ၃ပါး=သတ္တ, သင်္ခါရ, ဩကာသလောက။

၆။ ၈ယောက်သော အရိယာ=မဂ္ဂဋ္ဌာန် ၄ယောက်, ဖလဋ္ဌာန် ၄ယောက်။
အရိယာ=ကိလေသာ အညစ်အကြေး ကင်းဝေးမြူ စင်သော ပုဂ္ဂိုလ်။

၇။ အဇ္ဈာသယ=အလိုဆန္ဒ။

၈။ သုခသိဒ္ဓိ=ချမ်းသာပြီးမြောက်ပြည့်စုံခြင်း။

၉။ ပီတိရွှန်းဝေ=နှစ်သက်ခြင်း ပီတိတရား၏ များပြားလျှံတက်ခြင်း။

၁၀။ ရှိပန်=လက် ၁၀ ဖြာ ထိပ်မှာပန်ဆင်၍ ရှိခိုးခြင်း။

၁၁။ ဗိတာန်=ဝိတာန-မျက်နှာကြက်။

၁၂။ အမြိုက်ရည်=အမတ-မသေရာနိဗ္ဗာန်၊ဝါ-မသေစေတတ်သော အာယုဝမုနဆေးရည်။

၁၃။ ဇာတ်=ဇာတက-အဖြစ်တော်အတ္ထုပ္ပတ်ကို ဆိုရာစကားတော်။

၁၄။ သဒ္ဓါ=ယုံကြည်ခြင်း။ သီလ-ကာယကံ, ဝစီကံကို စောင့်ထိန်းသဖြင့် ကုသိုလ်ကိုတည်စေခြင်း။ သုတ-အကြားအမြင်။

၁၅။ ဥဒါဟရဏ်=ထုတ်ဖော်ပြအပ်သောစကား။

၁၆။ ကျစ်လစ်=ဖရိုဖရဲမရှိခြင်း၊ သိပ်သည်းခြင်း။

၁၇။ ဥပမာ=နှိုင်းယှဉ်ခြင်း။

၁၈။ လင်္ကာဒီပ=ဇမ္ဗူဒိပ်ကျွန်းကြီး၏ လင်းယဉ်တိုင်(ရွက်တိုင်)သဖွယ်ဖြစ်သော သီဟိုဠ်ကျွန်း။

၁၉။ သီဟိုဠ်=(သီဟလ)-သီဟကုမာရမင်း၏သားတော် ဝိဇယမင်း သိမ်းယူအပ်သောကျွန်း။ (လင်္ကာဒွီပဟုခေါ်ထားသည်)။

၂၀။ မွေတော်=ဘုရားရှင်၏အမွေအနှစ် ပရိဘောဂစေတီ၊ [မွေတော်နှင့် ဓာတ်တော်အတူတူပင် ဟူ၍လည်း ဆိုကြသည်။]

၂၁။ ဓာတ်တော်=ဘုရားရှင်ကိုယ်တော်မှဖြစ်သာ အရိုး စသော ဓာတုစေတီ။

၂၂။ မဟာစေတီ=ကြီးကျယ်မြင့်မြတ်သော ပူဇော်ရာစေတီ။

၂၃။ မဟာကရုဏာ=ကြီးမားသောသနားခြင်း။

၂၄။ မေတ္တာ=ချစ်ခင်ခြင်း။

၂၅။ သောင်းတိုက်=၄ ကျွန်း တစ်မြင်းမိုရ်သည် စကြဝဠာတစ်တိုက် ဖြစ်၏။ ထို စကြဝဠာတိုက်ပေါင်း ၁ သောင်းတည်း။

၂၆။ နိဗ္ဗူ=ကိလေသာငြိမ်းအေးရာ နိဗ္ဗာန်။

၂၇။ ၈ ပါးသောပရိသတ်=စတုမဟာရာဇ်နတ်, တာဝတိံသာနတ်, မာန်နတ်, ဗြဟ္မာ, ရဟန်း, ပုဏ္ဏား, မင်း, သူကြွယ်။

၂၈။ အနာထပိဏ်=(အနာထပိဏ္ဍိတ) ကိုးကွယ်ရာမဲ့သော သူတို့အား ထမင်းစသည်တို့ကို ပေးကမ်းစွန့်ကြဲတတ်သော သူဌေး။

၂၉။ ဝိမုတ်=(ဝိမုတ္တိ)ကိလေသာ လွတ်ကင်းခြင်း။

၃၀။ ဗျာဒိတ်=ဘုရားစင်စစ် ကေန်ဖြစ်လတ္တံ့ဟု ရှေးရှေးသောဘုရားရှင်တို့ မိန့်ကြားခြင်း။

၃၁။ ၄ ပါးသော ဣရိယာပုထ်=သွားခြင်း, ထိုင်ခြင်း, ရပ်ခြင်း, လျောင်းခြင်း။

၃၂။ ကော နုမံ ဥသုနာ ဝိဇ္ဈိ=အဘယ်သူ ငါ့ကို မြားဖြင့် ပစ်ဘိသနည်း။

၃၃။ ဇေတဝန်=ဇေတမင်းသား၏ဥယျာဉ်။

၃၄။ ကာမဂုဏ်=အလိုရှိအပ်, မြတ်နိုးအပ်သော အာရုံ ၅ ပါးတရားအစု။
၃၅။ ၅ပါးသော ရှိခိုးခြင်း=တည်ရာဌာနအပြင်၌ ခြေ ၂ဘက်ဖြင့် လည်းကောင်း, လက် ၂ဘက်ဖြင့် လည်းကောင်း, ဦးခေါင်းဖြင့် လည်းကောင်း, ၅ပါးသော အင်္ဂါတို့ဖြင့်ထိ၍ ရှိခိုးခြင်း။
၃၆။ ဥပဇ္ဈာယ်=အပြစ်ကြီး, အပြစ်ငယ်ကို ဆုံးမတတ်သောဆရာ။
၃၇။ ဝိပဿနာဓုရ=လက္ခဏာယာဉ် ၃ပါးဖြင့် ရှုဆင်ခြင်ခြင်း အမှုတာဝန်။
၃၈။ ကမ္မဋ္ဌာန်း=သမထအမှု, ဝိပဿနာအမှု ၂ပါး၏ တည်ရာ။ (ပထဝီကသိုဏ်း စသော အာရုံ, သင်္ခါရ စသောအာရုံနှင့် ၎င်းကို အာရုံပြု၍ သုံးသပ်ဆင်ခြင်သော သမာဓိ, ဉာဏ်ပြဋ္ဌာန်းသော စိတ္တုပ္ပါဒ်ကိုရ၏။
၃၉။ ပစ္စန္တရစ်=မင်းတို့စိုးပိုင်သော တိုင်းပြည်တို့၏အကြား တိုင်းစွန်တိုင်းဖျားရွာငယ်။
၄၀။ မဂ်=ကိလေသာကိုသတ်ဖြတ်လျက် နိဗ္ဗာန်သို့ရောက်စေတတ်သော တရား။
၄၁။ ဖိုလ်=မဂ်၏အခြားမဲ့ မဂ်ကြောင့်ရရှိသော အကျိုးတရား။
၄၂။ အထီးကျန်=အားကိုးရာမဲ့ ဆင်းရဲသူ။
၄၃။ အာဂန္တုက=အရပ်တစ်ပါးမှလာရောက်သော ဧည့်သည်။
၄၄။ မဟာသာဝက=ပကတိသာဝကတို့ထက် မြင့်မြတ်၍ ဘုရားရှင်စကားတော်ကို လိုက်နာသောရဟန်းတော်။
၄၅။ အဂ္ဂသာဝက=မဟာသာဝကတို့ထက်မြင့်မြတ်၍ အထွက်အထိပ်သို့ရောက်သော အရှင်သာရိပုတ္တရာ, အရှင်မောဂ္ဂလာန်။
၄၆။ မကျွတ်ထိုက်=သံယောဇဉ်နှောင်ကြိုးမှ မကျွတ်ထိုက်သူ၊ မဂ်,ဖိုလ် မရထိုက်သူ။
၄၇။ ဥပနိဿယ=မဂ်,ဖိုလ်ရရန် အားကြီးသောအကြောင်း။
၄၈။ မာတုပေါသက=အမိအဖကို လုပ်ကျွေးခြင်း။
၄၉။ စာရေးတံ=မဲချခြင်း၊ (ရှေးအခါက ဝါးတံ စသည်၌ ကမ္ပည်းလိပ်စာရေး၍ မဲချသည်။)
၅၀။ ကြွပြ၍=ကြွလို၍။
၅၁။ ဗာရာဏသီ=(ဝါနရသီသ)မျောက်ဦးခေါင်းနှင့်တူသောမြို့။ တစ်နည်း ဘုရားလောင်းမျောက်မင်း ဦးခေါင်းရှိသောမြို့။
၅၂။ ကတိကဝတ်=အညီအညွတ် တိုင်ပင်ဆွေးနွေး၍ ပြုရာကျင့်ဝတ်။
၅၃။ ဘွဲ့ဖြူပုဆိုး=ချောမွေ့နူးညံ့သောအဝတ်။
၅၄။ ဟိမဝန္တာ=ဆီးနှင်းများစွာရှိသောတောင်။ တစ်နည်း ဆီးနှင်းအန်ထွက်သောတောင်။
၅၅။ မိဂသမ္မတာ=သမင်ဟု သမုတ်အပ်သောမြစ်။
၅၆။ ပဒ္မာကမ္ဗလာ=အဖြူ အဝါရောနှော၍ ဖျော့တော့သောအဆင်းရှိသော ကမ္ဗလာနှင့်တူသော မြကျောက်ဖျာ။
၅၇။ သစ်မ်း=ရသေ့သူမွန်တို့ နေရာ။
၅၈။ ဝိသကြို(ဝိသုကမ္မ)=ဗိသုကာ ဘဝမှဖြစ်လာသော နတ်သား။ တစ်နည်း အထူးထူးအပြားပြား ဖန်ဆင်းမှု၌ လိမ္မာသောနတ်သား။
၅၉။ ပရိက္ခရာ=သင်းပိုင်, ကိုယ်ဝတ်, ဒုကုဋ်, သပိတ်, ခါးပန်း, ရေစစ်, ပဲကွပ်, အပ် ဟူသော ရဟန်းတို့ အသုံးအဆောင်။
၆၀။ ညီလာခံ=အညီအညွတ်လာရောက်၍ နာခံရာ။
၆၁။ သမာပတ်=လေ့လာဝင်စားအပ်သော ဈာန်တရား။
၆၂။ ညဥ့်သန့်စင်ရာ=ညဥ့်အခါနေရာဌာန။
၆၃။ နေ့သန့်စင်ရာ=နေ့အခါနေရာဌာန။
၆၄။ စင်္ကြံ=အညောင်းပြေ လမ်းလျှောက်ရာဌာန။
၆၅။ ကြာမျိုး ၅ ပါး=ကြာဖြူ, ကြာနီ, ကြာညို, ကြာပဒုမ္မာ, ကြာပုဏ္ဍရိက်။
၆၆။ ဒုကုဋ်=ပန်းစွန်း၌ တင်အပ်သောသင်္ကန်း။
၆၇။ သက္ကဒတ္တိယ=သိကြားမင်းပေးလှူအပ်သော ကျောင်း။
၆၈။ ဥဒါန်း=စိတ်တွင်း၌မတည်နိုင် နှစ်သက်ဝမ်းမြောက်သဖြင့် ထုတ်ဖော်မြွက်ဆိုသောစကား။
၆၉။ အင်းပျဉ်=ကုလားထိုင်။
၇၀။ ဗြဟ္မဝိဟာရ ကမ္မဋ္ဌာန်း=မေတ္တာ, ကရုဏာ, မုဒိတာ, ဥပေက္ခာ ကမ္မဋ္ဌာန်း ၄ပါး။

မင်္ဂလာဏ်ဖြင့်ပယ်ဖြတ်၍၊ သောတာပတ္တိဖိုလ်ကို ကြည်ညိုနှစ်သက် မျက်မှောက်ပြုလျက် အထက်မဂ်ကို အလိုမပြည့် မကုန်သဖြင့် လူ့ဘုံနတ်ရွာ သံသရာစက်မှ မထွက်ရသေးသော အရိယသီလဝန္တ ကလျာဏပုထုဇဉ် ဖြစ်ကြ၍ သီလဘာသနာ ပညာသုတကို နေ့ညဉ့်ဥွတ်နူး ပြုဖူးသောကုသိုလ်ကံကြောင့် ဤဗိမာန်ဘုံနန်း၌ ထူးဆန်း လျှောက်ပတ် မြင့်မြတ်သောနတ်စည်းစိမ်ကြီးမှာ အသီးသီးခံစား မွေ့လျော်ကြရသည် မှတ်တော်မူလော့"ဟု ပြန်ကြားပေ၏။

## ၃၀။ စာတုမဟာရာဇ်ဘုံကို ပြသောအခန်း

ဤသို့ မာတလိနတ်သားသည် အာကာသဌ ဗိမာန်ဘုံနန်းတို့ကို ပြန်ကြားပြီးလျှင် သုဓမ္မာသဘင် သိကြားမင်းအထံသို့သွားအံ့သောဟာ နေမိမင်းကြီးအား တိုက်တွန်းချီးပင့်ခြင်းကိုပြုလို၍ 'ဝိဒိတာနိ တေ မဟာရာဇ' အစရှိသော တစ်ဂါထာခွဲဖြင့် ဆို၏။ အဓိပ္ပာယ်ကား-

"ကရုဏာမေတ္တာဖြင့် ချမ်းသာရွှေး၍ ရန်သူတို့ကိုဆုံးမတတ်သော မဟာဓမ္မရာဇ်မင်းမြတ်။ အောက်ရပ်ငရဲရွာ၌ ၃ ဖြာသောဒုစရိုက်အပေါင်း မကောင်းမှုကိုပြုဖူးသူ လူဆိုးလူယုတ်တို့ ကြမ်းကြုတ်စွာခံရသော ဆင်းရဲအတန်တန်ကိုလည်း သံဝေဂရှိလောက်အောင် သိမြင်တော်မူရပြီ။ ဤ ကောင်းကင်နတ်ရပ်မှာလည်း ၃ ဖြာ သုစရိုက်အပေါင်း ကောင်းမှုဖြစ်ဖူးသူ လူသူတော်ကောင်းတို့ စည်းစိမ်စိုးရိမ် မယှက်သန်းသော ဘုံနန်းဗိမာန် အထူးထူးကိုလည်း ဥွတ်နူးစုံမက် နှစ်သက်ခြင်းပီတိ ယှက်ငြိစွဲကပ်၍ ရောင့်ရဲတော်မူလောက်အောင် မြင်တော်မူရပြီ။ ယခုတစ်လီ ဤဗိမာန်များထက်အထူး နတ်မှူးဝတီရှင် စံရွှင်တော်မူရာ ဝတီသာရွှေမြေ၌ ဘုန်းကျက်သရေ အတည်တည် မြို့ပြည်ဘုံနန်းအခင်းအကျင်းနှင့် နတ်မင်းတန်ခိုးကို လူမျိုးအရှင် ရှုမြင်ရအောင် ကြွတော်မူဦးလော့"ဟု ဆိုပြီးလျှင် တောင်မြင်းမိုရ်သို့ ရှေးရှုနှင်ပြန်လေသော်၊ ရွှေတောင်မြင်းမိုရ်အရံ သတ္တရဘာန်တောင်ရပ်သို့ နတ်ရထား ရောက်သောအခါ ထက်အောက်ထင်ထင် ရှုမြင်လွယ်အောင် အလယ်တောင်ထိပ်တွင်တန့်နား၍ အခြားခြားသီဒါ ခွေကာရစ်သန့်လျက် ခန့်တာယူဇနာ ကျယ်စွာဝေးဘိ လူ့မျက်စိပြကတေ့ဖြင့် တွေ့မြင်ခြင်းငှာမတန်သော တောင်ရံ ၇ လီ, သီဒါ ၇ ခွေ အနေအထားကို နတ်သား၏တန်ခိုးကျက်သရေဂုဏ်ဖြင့် ကြေးမုံမှန်အပြင် တစ်ထွာခန့်မှာ ပစ္စယာ ၇ ဆင့် မြင့်ကျယ်လှသောစေတီကြီးကို ထီးတိုင်အောင်ပြသကဲ့သို့ အဆုံးအစ မကြွင်းရအောင် တကွနတ်လင်းစေ၍ ရှင်းရှင်းမြင်သာအောင် ပြလေ၏။

ထိုအခါ နေမိမင်းကြီးသည် သီဒါအကြားချပ်၍ အထပ်ထပ်အဆင့်ဆင့် စွင့်မြင့်ကြီးကျယ်သော တောင် ၇ လုံးကိုမြင်သော် ရှုမျှော်လည်လည့် ကြည့်လေတိုင်း အံ့ဖွယ်အသွယ်သွယ် များသည်ဖြစ်၍ နှစ်သက်ရွှင်လန်း သောအားဖြင့် ရထားမှူးမာတလိနတ်သားအား "နတ်ရထားမှူးမာတလိ။ သင်သိတိုင်း ပြောပါဦး။ အထူးထူး

အဆန်းဆန်းနှင့် ပန်းနွယ်ပန်းတံ ခက်လံဖားဝေ ရွှေအဆင်းမြအဆင်း ဝိုးဝင်းထင်ယောင် ထိုတောင်ဤတောင် အဆင့်ဆင့် အထပ်ထပ် ပတ်ရစ်၍နေသောရေအဝှမ်းလည်း ချမ်းမြေ့အေးကြည်ယောင်အသွင် ကမ်းဆိပ်အပြင်, တောင်ထိပ် အပြင်၌ သဘင်သံ, သစ်ပင်သံဟု အမှန်မသိရ ညီးညိုးငြိမ့်မျှ သိမ့်သိမ့်သဲသဲ တစ်ခဲနက်အသံ ထင်ယောင်ထင်မှား ရှိခဲ့သည်။ ဤတောင်, ဤပြည်ကား အဘယ်အမည် ရှိသနည်း"ဟုမေး၏။

နေမိမင်းကြီးစကားကိုကြားလျှင် မာတလိနတ်သားသည် မိမိသိမြင်တိုင်း ညွှန်ကြားလို၍–

'သုဒဿနော ကရဝိကော၊ ဤသန္ဓရော ယုဂန္ဓရော။

နေမိန္ဓရော ဝိနတကော၊ အဿကဏ္ဏော ဂိရိ ဗြဟာ။ ။

ဧတေ သီဒန္တရေ နဂါ၊ အနုပုဗ္ဗ သမုဂ္ဂတာ။

မဟာရာဇာန မာဝါသာ၊ ယာနိ တွံ ရာဇ ပဿသိ။ ။' ဟူ၍ ၂ဂါထာဖြင့် ဆို၏။

မဟာရာဇ၊ နေမိမင်းကြီး။ သုဒဿနော၊ သုဿနတောင်။ ကရဝိကော၊ ကရဝိကတောင်။ ဤသန္ဓရော၊ ဤသန္ဓရတောင်။ ယုဂန္ဓရော၊ ယုဂန္ဓိုရ်တောင်။ နေမိန္ဓရော၊ နေမိန္ဓရတောင်။ ဝိနတကော၊ ဝိနတကတောင်။ ဗြဟာ၊ အပြင်ကျယ်သော။ အဿကဏ္ဏောဂိရိ၊ အဿကဏ်တောင်။

သီဒန္တရေ၊ သီဒါအကြား၌။ ဧတေနဂါ၊ ထိုတောင် ၇လုံးတို့သည်။ အနုပုဗ္ဗသမုဂ္ဂတာ၊ အစဉ်အတိုင်း မြင့်ကုန်၏။ မဟာရာဇာနံ၊ နတ်မင်းကြီးတို့၏။ အာဝါသာ၊ နေရာဖြစ်ကုန်၏။ ရာဇ၊ နေမိမင်းကြီး။ ယာနိပဗ္ဗတာနိ၊ အကြင်တောင်တို့သည်။ သန္တိ၊ ရှိကုန်၏။ တာနိ၊ ထိုတောင်တို့ကို။ တွံ၊ အရှင်မင်းကြီးသည်။ ပဿသိ၊ ရှုတော်မူလော့။ ဤကား အနက်။ အဓိပ္ပာယ်ကား–

"သူတစ်ပါးလည်း မှတ်သားဥပဒေ ရရစ်စေ ဟူသောနှလုံးဖြင့် မဖုံးမဝှက် အနက်သတ္တိကို မသိသော အရာထင်လျှင် လျှင်စွာဆွေးနွေး မေးမြန်းလေ့ရှိတော်မူသော နေမိမင်းမြတ်။ မှတ်နာတော်မူ ဦးလော့။ ရထားဦးကွန်းထောင်ချရာ ဤတောင်မြတ်ကား 'သုဒဿန'အမည်ခေါ်၏။ ဤမှအတွင်း သမုဒ္ဒရာပေါ်ကို မျှော်ရှုပြန်လျှင် သုဒဿနတောင်ထက် ထမ်းပိုးဆင့်၍ မြင့်ကျယ်မောက်မိုသော ထိုတောင်ဂိရိကား 'ကရဝိက' အမည်ခေါ်ဝေါ်ကြ၏။ ထိုမှအတွင်းလည်း မွေးသင်းသောရေ ရစ်ခွေအေးမြလျက် ကရဝိကတောင်ထက် ထမ်းပိုးဆင့်၍ မြင့်ကျယ်မောက်မိုသော ထိုတောင်ညီအမည်ကိုကား 'ဤသန္ဓရ'ဟုခေါ်ဆိုကြ၏။ ထိုမှအတွင်းနေ ရေကြည်မြရိပ်နှင့် ဤသန္ဓရတောင်ရိုးထက် ထမ်းပိုးတက်၍ မြင့်ကျယ်မောက်မိုသော ထိုတောင်ကြီးဖြိုးဖြိုးကား တန်ခိုးကြီးမြတ်သော နတ်မင်း ၄ ပါးတို့ပျော်ရာ နဂိုရ်မြင်းမိုရ်တောင်ခါးပန်းနှင့် ထမ်းပိုးတန်းအမျှ နေလတာရာ သွားရာခရီးခွင်နှင့်လည်း အမြင့်ထပ်တူ လူ,နတ်တို့အခေါ်အဆို 'ယုဂန္ဓိုရ်'အမည်ရှိ၏။ နောက်လှည့်တစ်ဖန် ပြန်လည်စဉ်လျှောက်၍ အောက်က တောင် ၃ ခုကို ရှုတော်မူပါဦး။ ဤသုဒဿနတောင်အောက် တစ်ဝက်လောက် နိမ့်သော ထိုတောင်အခွေကား 'နေမိန္ဓရ' အမည်တွင်၏။ ထိုတောင်ပြင်က သီဒါကိုဆီးကာပတ်ခွေလျက် နေမိန္ဓရတောင်အောက် တစ်ဝက်လောက် နိမ့်ကြုံသောနဂိုရ်ဖြင့် ထိုတောင်ဂိရိကား 'ဝိနတက' အမည်ဆို၏။

ထိုမှ အပြင်စွန်းသီဒါကို ဆီးကာပတ်ချုပ်၍ သမုဒ္ဒရာဆားငန်ကို ပြင်နံပါးထိလျက် ဝိနတကတောင်အောက် တစ်ဝက်လောက် အစောက်အနံ နိမ့်ကြုံသောနဂိုရ် ထိုတောင်အစွန်းကား 'အဿကဏ်'အမည်ရှိ၏။ ထိုတောင်စဉ် ၇ တန်သည် အဿကဏ်မှစ၍ အနံအစဉ်သင့် ၂ ပြန်ဆင့်၍ အမြင့်ကျယ်ဆောင်လျက် တောင်မြင်းမိုရ်နန်းနှင့် စောင်းတန်းလေ့ကားသွင် ဝန်းကျင်ရံပတ်သော ၇ ထပ်အခြေတွင် ၇ ခွေရေညို မှိုနိုပတ်လျှောက်၍ မြလက်ကောက်

၇ ခြည်လို အေးကြည်ချမ်းမြေ့စွာ လဲဝါဂွမ်းမွေးကိုမျှ အလေးမခံ နိုပ်နှံ့ဆွဲထုတ် မြုပ်နှစ်တတ်သောသတ္တိ ရှိသည့်ပြိုပြို 'သီဒါသမုဒ္ဒရာ'ဟု လှူ့ရှာနတ်ပြည် အမည်ထင်ရှားစွာ ဤသီဒါသမုဒ္ဒရာ ဆီးကာပတ်ရံ၍ ဤသတ္တရဘာန် တောင် ၇ လုံးသည် ဘုန်းတန်ခိုးတောက်ပလျက် လောကအစောင့်အထိန်း ခပ်သိမ်းသော နဂါး, ဂဠုန်, ကုမ္ဘဏ်, ရက္ခိုသ်တို့၏သေဌ်နင်း နတ်မင်းကြီး ၄ယောက်တို့၏နိုင်ငံ စံပျော်ရာနေရပ် ဖြစ်သည် မှတ်တော်မူလော့"ဟု ညွှန်ကြားပေ၏။

[ဤအရာ၌ ထိုဂါထာ၏အဖွင့် နေမိဇာတ်တော်အဋ္ဌကထာတွင် 'တတ္ထသုဒဿ နောတိ အယံ မဟာရာဇ ဧတေသံ သဗ္ဗာဗာဟိရော သုဒဿနော နာမ၊ တဒနန္တရေ ကရဝိကောနာမ သောသုဒဿနတော ဥစ္စတရော' စသည်ဖြင့် ဂါထာ၌လာသော တောင်မည်အစဉ်အတိုင်း သုဒဿနတောင်ကို ပြင်စွန်းပြု၍ အဿကဏ်တောင်ကို အတွင်းဆုံးပြုလျက် ဖွင့်၏။ ဝိသုဒ္ဓိမဂ်, ပါရာဇိကဏ်, အဋ္ဌသာလိနီ စသောအဋ္ဌကထာတို့၌ကား အဿကဏ် တောင်ကို ပြင်စွန်းပြု၍ ယုဂန္ဓိုရ်တောင်ကို အတွင်းဆုံးပြု၍ဆို၏။ ဤ နေမိဇာတ်တော်ပါဠိ၌ မည်သည့်တောင် ကနေ၍ ပြကြောင်းကို မဆို။ ထိုဇာတ်တော်အဖွင့် အဋ္ဌကထာ၌သာ ပြင်စွန်းကနေ၍ပြကြောင်းကို အတ္ထာပတ္တိအားဖြင့် လာ၏။ ထိုအဋ္ဌကထာလာတိုင်း သုဒဿနတောင်ကို ပြင်စွန်းပြုချေလျှင် တစ်ပါးသော အဋ္ဌကထာတို့နှင့် မညီမညွတ်ဖြစ်ခဲ့၏။ ထိုအဋ္ဌကထာ စကား ၂ ရပ်ကို ညီညွတ်အောင်ပြု၍ အချို့ဆရာတို့ ယူသည်ကား နေမိမင်းကြီး ဖြစ်တော်မူသောကာလက ပညတ်သောအမည်နှင့် ယခုပညတ်သောအမည် ကွဲသည်ဖြစ်ရာ၏။ ယခုကား ပြင်စွန်းတောင်ကို အဿကဏ်, နေမိမင်းလက်ထက်ကား ပြင်စွန်းတောင်ကို သုဒဿန၊ ဤသို့ နာမပညတ်ခြားသောကြောင့် ခေါ်ဝေါ်ပညတ်ရာ ကာလသို့လိုက်၍ဆိုသည်ဟု ယူကုန်၏။ ထိုကာလအမည် အခြားတွင်ကြောင်းကို အဋ္ဌကထာ မဖွင့်၊ အထောက်အထားနှင့်လည်းမဆို ညီစေလိုသော ဆန္ဒနှင့်သာ ကြံဆ၍ယူသော ဝါဒဖြစ်ခြင်းကြောင့် ထိုဆရာတို့၏စကားကို ဆင်ခြင်အပ်၏။

[အဘယ်သို့ ဆင်ခြင်ရာသနည်းဟူမူ အကယ်၍ နေမိမင်းဖြစ်တော်မူသောကာလ ထိုတောင်တို့သည် အမည်အထူး ရှိသည်ဖြစ်အံ့။ နေမိမင်းကြီးကာလကား ဝေးသေးသည် မဟုတ်။ ဤအန္တရကပ် အသချေ်မှ ဆုတ်၍ အနှစ် ၂သိန်းကျော်, ၃သိန်း အသက်တမ်းမျှလောက်တွင်သာဖြစ်ခြင်းကြောင့် မြတ်စွာဘုရား လက်ထက်တော်တိုင်အောင်ပင် ပြင်စွန်းတောင်ကို သုဒဿန ဟု သမုတ်အပ်သော ရှေးအမည်မပျက် ရှိရာသည်။ ထိုနေမိမင်း မဖြစ်မီကပင် တည်ထောင်သမုတ်နှင့်သော ရာဇဂြိုဟ်, မိထိလာ အစရှိသောပြည်တို့သည် ထိုတောင်တို့ကဲ့သို့ အလိုအလျောက်ရှိရသည် မဟုတ်။ ထီးနန်းအပြောင်းအလဲ အဖန်များစွာ ရှိလျက်ပင်လည်း အခွန့်ရှည်စွာ ခေါ်ဝေါ်အပ်သောအမည် မပျောက်မတိမ်နိုင် ဖြစ်တုံသေး၏။ ထို့ကြောင့် ထိုဆရာတို့၏အယူကို ဆင်ခြင်အပ်၏။

[သာရတ္ထဒီပနီ ဋီကာဆရာကား အထူးမဆုံးဖြတ်။ နေမိဇာတ်တော် အဋ္ဌကထာ, ဝိသုဒ္ဓိမဂ်, ပါရာဇိကဏ် အဋ္ဌကထာ စသောကျမ်းတို့၌ မညီမညွတ်လာကြောင်းကိုသာ သာမညဆို၏။

[ဓိနာလင်္ကာရ ဋီကာဆရာကား ခြင်္သေ့သံကဲ့သို့ ရွံ့ရှားကင်းသောစကားဖြင့် ဤသို့ဆို၏။ ဤနေမိ ဇာတ်တော်ဂါထာ၌၊ 'သုဒဿနော ကရဝိကော' စသည်ဖြင့် သင်္ဂါယနာဆရာတို့ ၃ကြိမ်တိုင်အောင် သင်္ဂါယနာတင်အပ်သော ဘုရားပါဠိတော်ဂါထာ ဖြစ်သည်။ ပါရာဇိကဏ်, အဋ္ဌသာလိနီ စသည်တို့၌လည်း 'ယုဂန္ဓရော ဤသန္ဓရော' အစရှိသော ဂါထာသည်လည်း ၃ကြိမ်တိုင်အောင် သင်္ဂါယနာတင်အပ်သောဂါထာပင် ဖြစ်သည်။ အခိုင်အခံ့ ကျမ်းချည်းပင်ဖြစ်၍ မညီမညွတ် မရှိသင့်။ ထိုစကားလည်း ထင်ရှားသိမြင်သော

စကားပင်ဖြစ်သောကြောင့် ဒိဗ္ဗစက္ခုဉာဏ်, သုတမယဉာဏ် စသည်တို့ဖြင့် သိခြင်းငှာ မခဲ။ ဤမျှခန့်သော အရာကိုမျှ ကျမ်း ၂ ကွဲ ရှိခဲ့လျှင် သိမ်မွေ့စွာသော ပရမတ္ထဒေသနာတော်၌ ညီညွတ်နိုင်တော့မည်မဟုတ်။ ထို့ကြောင့် ဗုဒ္ဓရက္ခိတ အမည်ရှိသော ငါ ဇိနာလင်္ကာရ ဋီကာဆရာသည် ထိုစကား ၂ရပ်ကို ညီညွတ်အောင် ဆုံးဖြတ်ခြင်းငှာ စွမ်းနိုင်၏။ အဘယ်သို့ ဆုံးဖြတ်ရအံ့နည်း ဟူမူကား ထိုတောင်တို့၏ ရှေးပညတ်နှင့်ခြား၍ ယခုပညတ်သောကြောင့် 'သုဒဿနော' စသည်ဖြင့် ဆိုသည်မဟုတ်။ မာတလိနတ်သားသည် အာကာသဠဗိမာန်များကို ပြပြီးသဖြင့် တောင်မြင်းမိုရ်သို့ ရှေးရှုနှင်၍ တောင်စဉ် ၇ထပ်တွင် အလယ်ဖြစ်သော သုဒဿနတောင်သို့ရောက်သောအခါ ထိုတောင်ထိပ်၌နေလျက် နေမိမင်းကြီးအား သုဒဿနတောင်မှစ၍ အထက်အထက်၌ အဆင့်အဆင့်တည်သော တောင်တို့ကိုပြလို၍ 'သုဒဿနော ကရဝိကော ဤသန္ဓရော ယုဂန္ဓရော'ဆိုပြီးမှ အောက်အောက်သော တောင်တို့ကိုပြလို၍ 'နေမိန္ဓရောဝိနတကော အဿကဏ္ဏော'ဟု ဆိုသည်။ ဤသို့ယူသည်ရှိသော် ဤနေမိဇာတ်တော်ပါဠိနှင့် တစ်ပါးသောအဋ္ဌကထာတို့သည် ညီညွတ်ခြင်းသို့ ရောက်၏။

[ထိုသုဒဿနတောင်ကို အလယ်ထား၍ ဖွင့်အပ်သည်ဖြစ်လျက် ထိုနေမိဇာတ်တော်အဖွင့်ဖြစ်သော အဋ္ဌကထာ၌ ပြင်စွန်းထား၍ဖွင့်လေသည်ကား အဋ္ဌကထာဆရာတို့ သတိမေ့လျော့၍သာ ရေးမိလေသည်။ အမှန်ရေးလို၍ ရေးသည်မဟုတ် ဟု ထိုစကားကို ဋီကာဆရာ နုတ်တော်မူသည်။ ပါဌ်သောကား-

['ယံ ပန နေမိဇာတက ဋ္ဌကထာယံ သုဒဿနောတိ အယံ မဟာရာဇ ဓေတေသံ

သဗ္ဗဗာဟိရော သုဒဿန ပဗ္ဗတော နာမာတိအာဒိ လိခိတံ၊ သတိသမ္မောသေန လိခိတန္တိ ဂဟေတဗ္ဗံ၊ ဤပါဌ်လျှင်တည်း။

[နေမိဇာတကဋ္ဌကထာယံ၊ နေမိဇာတ်တော် အဋ္ဌကထာ၌။ သုဒဿနောတိ၊ ပ၊ ပဗ္ဗတောနာမာတိအာဒိ၊ ပဗ္ဗတောနမ ဤသို့အစရှိသော။ ယံ ဝစနံ၊ အကြင်စကားကို။ အာစရိယေဟိ၊ အဋ္ဌကထာဆရာတို့သည်။ လိခိတံ၊ အက္ခရာတင်အပ်၏။ တံဝစနံ၊ ထိုစကားကို။ သတိသမ္မောသေန၊ သတိမေ့လျော့တော်မူသဖြင့်။ လိခိတန္တိ၊ ရေးအပ်သော စကားဟူ၍။ ဂဟေတဗ္ဗံ၊ ယူအပ်၏။ ဋီကာပါဌ်အနက်။

[ဤသို့ဆိုအပ်သော ဇိနာလင်္ကာရ ဋီကာဆရာ့စကားကိုပင် ငါတို့လည်း နှစ်သက်သည်ဖြစ်၍ ၎င်းဋီကာလာတိုင်း ဂါထာ၌ အဓိပ္ပာယ်ကို ဆိုလိုက်သည်။ ဘုံခန်းလက်ာ၌လည်း ဤအဓိပ္ပာယ်ကိုပင် စပ်ပြသည်။]

## ၃၁။ တာဝတိံသာဘုံ စိတ္တကူဋ်တံခါးမုခ်သို့ ရောက်ခန်း

ဤသို့ မာတလိနတ်သားသည် စာတုမဟာရာဇ်နတ်ပြည်ကို နေမိမင်းကြီးအားပြပြီးလျှင် တာဝတိံသာ နတ်ပြည်သို့ ရှေးရှုနှင်လေသော် သုဒဿနမြို့အရှေ့မျက်နှာ စိတ္တကူဋ်အမည်ရှိသော တံခါး,မုခ်,ပြ,တန်ဆောင်း၌ ထက်ဝန်းကျင်ရံ၍ထားအပ်သော သိကြားရုပ်တို့ကို နေမိမင်းကြီးအား ပြပြန်လေ၏။

ထိုအခါ နေမိမင်းကြီးသည် အလွန်တရာ ရတနာမျိုးတို့ဖြင့် ဆန်းကြယ်စွာသော ပြ, တန်ဆောင်း, တံခါးမုခ်၌ သိကြားရုပ်တို့ကိုမြင်လျှင် အလွန်ရွှင်ပျ နှစ်သက်သောနှလုံး ရှိသည်ဖြစ်၍ မာတလိနတ်သားအား 'အနေကရူပံစိယံ' အစရှိသော ၂ဂါထာဖြင့်မေး၏။ အဓိပ္ပာယ်ကား-

"နတ်ရထားမှူး မာတလိ။ မျက်စိအာရုံဖြင့် ယှဉ်၍မကုန်နိုင်အောင် အထောင်အရာမက တောက်ပသော ရောင်ခြည်ရောင်နွယ် ဆန်းကြယ်ခြင်းအထူးထူးအပြားပြားနှင့် သိကြားမင်းအရုပ်အသွင် အရှင်သဏ္ဌာန်လို ထိုရှေ့တူရူတွင် ခြသေ့်, ကျားအပေါင်းလည်း ဦးခေါင်းမျက်နှာပြင်သို့လှည့်၍ အပြည့်အနှက် ထက်ဝန်းကျင် ရံအပ်သော မဟာဝုန်တောကြီးကဲ့သို့ မြို့နန်း မုခ်တံခါး, ပြ, တန်ဆောင်းအဆောင်၌ အထောင်မက ဝန်းကျင်ပြွမ်း၍ လျှမ်းလျှမ်းတက်မျှ ကျက်သရေအသွယ်သွယ်နှင့် တင့်တယ်စွာ ငါ၏မျက်စိ၌ မကြည့်နိုင်အောင် ထင်ပြန်ဘိ၍ ပီတိနှံ့သောဓာဖြင့် အံ့သြမကုန်ဖြစ်ပြန်တုံသော ငါ့အား နတ်ရထားမှူး ပြောပါဦး။ အထူးအဆန်းသော တံခါးမုခ်နန်းကို အဘယ်အမည်ဖြင့် ခေါ်ဝေါ်ကြသနည်း"ဟု မေး၏။

နေမိမင်းကြီးစကားကိုကြားလျှင် မာတလိနတ်သားသည် သိမြင်တိုင်းကြားလို၍ 'စိတ္တကူဋောတိယံ အာဟု'အစရှိသော ၂ဂါထာခွဲဖြင့် ဆို၏။ အဓိပ္ပာယ်ကား-

"လူအပေါင်းကို အစိုးရတော်မူသော နေမိမင်းကြီး။ ညီးညီးလျှံထိန်စွာ တာဝတိံသာ နတ်မင်းရုပ်တု သဏ္ဌာန် အရာအထောင်မကများစွာဖြင့် ရံကာစောင့်ထားအပ်သော ဤတံခါးမုခ်ကို စိတ္တကုဋ် ဟူသောအမည်ဖြင့် နတ်ပြည်ဘုံသားတို့ ထင်ရှားစွာခေါ်ဝေါ်ကုန်၏။ ဤအလုံးစုံမျိုး အခင်းအကျင်းသည် အကျွန်ုပ်တို့ သခင် အရှင်သိကြားမင်းလက်ထက်တွင်မှ ဖြစ်သည်မဟုတ်။ ဖော်ထုတ်၍အမွန်အစကို ပြန်လျှောက်ပါမည်။ နာတော်မူဦး။ ကျူးလေပြီးသော ရှေးအခွန့်ရှည်စွာကာလက လူ့ပြည်မဂဓရာဇ်တိုင်း မစလရွာတွင် 'မာဃ'အမည်ရှိသော လုလင်သည် သင်းဝင်အဖော် ၃၀ကျိပ် ၂ယောက်နှင့် ဝမ်းမြောက်ရွှင်လန်းစွာ ခရီးလမ်းစောင်းတန်း လှေကား တံခါးမုခ် ဆောက်လုပ်ပြင်ဆင်ခြင်း၊ ရေတွင်း, ရေကန်, အာရမ် ဥယျာဉ်စိုက်ပျိုးပြုစုခြင်း၊ ဇရပ်, တန်ဆောင်း ဆောက်လုပ်ခြင်း စသောကောင်းမှုတို့ကို အသက်ထက်ဆုံးပြု၍-

"ထိုကောင်းမှုအကျိုးအားဖြင့် လက်သား ၃ ကျိပ် ၂ ယောက်နှင့်တကွ အစုံအညီ ဤတာဝတိံသာ နတ်ပြည်၌ သိကြားမင်းဖြစ်လာလျှင် နတ်ဘုရားဟောင်းနှင့် ဤ ၁သောင်းယူဇနာ ကျယ်စွာသော သုဒဿနမြို့ကို ၂ ဖို့ပြု၍ တစ်ခုစီစိုးအုပ်ကြသည်နှင့် ကာလမကြာမီပင် ဘုန်းကြီးသူရောက်က ဘုန်းနည်းသူပျောက်မြဲ ဖြစ်ချေသောကြောင့် မဖြောင့်သောအယူ မသူတော်ဆန္ဒနှင့် ရသကာမဂုဏ်၌ အစုံအမက်ကြူး၍ ယစ်မူးမေ့လျော့သော သိကြားဟောင်းကို အပေါင်းသဘောတူ နတ်ပရိသတ်နှင့်တကွ မာဃနတ်ဘုရင်က ဆွဲငင်တွန်းပစ်စေသဖြင့် မသေမပျောက်ဘဲ ရေထဲ မြင်းမိုရ်တောင်ခြေအဆုံး ၃ လုံးသောအထွတ်ကြား၌ ကံထားသောနေရာမှာ အသုရာပြည်ဟု တည်ထောင်ပြန်၍ စိတ်ခုစိတ်ခံနှင့် ရန်မီးစဖြစ်ကြ၍ ရှိပါသည်ကို ထိုမာဃသိကြားသစ်တွင် လူဖြစ်သောအခါက သုဓာတာ, သုဓမ္မာ, သုနန္ဒာ, သုစိတ္တာ ဟူသော ခင်ပွန်း ၄ ယောက်ရှိသည်တွင် အငယ် ၃ယောက်မှာ ဥယျာဉ်, ဇရပ်, တန်ဆောင်း ကောင်းမှု ဒါယိကာမချည်းဖြစ်ခြင်းကြောင့် နတ်မင်းနှင့်အတူ မရှေးမနှောင်းပင် တာဝတိံသာနတ်ပြည်၌ နတ်မိဖုရား ဖြစ်လာကြသည်။ သုဓာတာမိဖုရားကြီးမူကား ကောင်းမှုမှ မေ့လျော့ချေသောကြောင့် ထိုအဖြစ်မှုံစုတေ့လျှင် ဥဗျိုင်းမဖြစ်သည်နှင့် သိကြားမင်းစောင်မ၍ ဥဗျိုင်းအဖြစ်မှ စုတေ့ပြန်၍၊ လူ့ပြည်၌ သူဆင်းရဲမ ဖြစ်ပြန်သည်ကို သိကြားမင်းသိ၍ စောင်မပြန်သဖြင့် ထိုအဖြစ်မှုစုတေ့လေသော်

ချစ်ကျွမ်းဖော်ရှိရာ တာဝတိံသာသို့ကား မလား ရန်ပွားအောင်လောင်းဆင့်ပြန်၍ ရန်သူဖြစ်သောအသုရာပြည်မှာ အသုရာနတ်မင်းသမီး ဖြစ်လေသည်တွင် တာဝတိံသာနတ်ဘုရင်က မထင်မရှား အသုရာပြည်သို့သွား၍ မိမိမြောက်သားတော် သုဇာတာနတ်သမီးကို ဆောင်ယူခဲ့ပြီးလျှင် မိဖုရားကြီးတင်ထားလေသည်နှင့် ဝေပစိတ္တိ အသုရာနတ်သည် ဆင့်ထပ်ပွားကြီး သမီးနှင့်ပြည် ၂ တည်သောရန်စဖြစ်၍ နှစ်စဉ်မချွတ် သခွတ်ပွင့်ချိန်တိုင်လျှင် နိုင်နိုးပိုင်နိုး အားကိုးအန်တက် နှောင့်ယှက်လာသောကြောင့် အစောင့်အရှောက်ဖြစ်စေခြင်းငှာ ကြီးစွာသော တောဝ စုံအဖျားဦ ကျား,ခြင်္သေ့အများ မြုံးစားလျက်နေသည်ကိုမြင်လျှင် မဝင့်ဝံ့သောမုဆိုးကဲ့သို့ ရှိစေလို၍ ထိုအသုရာစစ်သည်တို့ မချဉ်းဝံ့စေကြောင်း ကောင်းစွာဖန်ဆင်း၍ မာဃသိကြားမင်း၏ရုပ်သွင်တော် များစွာအစီစီကို ဤစိတ္တကုဋ် တံခါး, မုခ်, ပြ, တန်ဆောင်းဦ လုပ်ထားစီရင်ခဲ့သည်ဖြစ်၍ ယခုတိုင်အောင် စကားဥဒါန်း မော်ကွန်းစဉ်ဆက် မပျက်မစီးတည်သည်။

"ဤသာလည်း မဟုတ်။ သုဓမ္မာဇရပ်, သုနန္ဒာရေကန်, သုစိတ္တာရေကန်, ဥယျာဉ်တို့သည်လည်း သုဓမ္မာဒေဝီ, သုနန္ဒာဒေဝီ, သုစိတ္တာဒေဝီ နတ်မိဖုရားတို့၏ ကုသိုလ်ကံအသီးသီးကြောင့် ဖြစ်ပေါ်လာသည်ဖြစ်၍ အတိုင်းထက်အလွန် ဤတာဝတိံသာနတ်ပြည်၏ တင့်တယ်ခြင်းသည် ယခုတိုင်ဖြစ်လေသည်။ ရှေးရှေးသောကာလက 'ဒေဝလောက' ဟူသောအမည်, 'ဒိဝေါသဂ္ဂ' ဟူသောအမည်, 'ဒေဝေါကာသ' ဟူသောအမည်, 'အမရာဒေဝ' ဟူသောအမည်, 'တာဝတိံသာ' ဟူသောအမည် စသည်တို့ဖြင့် ထင်ရှားသော အမည်မောင်းတွင် ဆင့်လောင်း၍ ထိုမာဃသိကြားမင်းလက်ထက်တွင် 'တိဒသ'ဟူသောအမည်, 'သုဓာသိန' ဟူသောအမည်, 'အယုဇ္ဈပုရ'ဟူသော အမည်တို့ဖြင့် တံဆိပ်မော်ကွန်း ပေါ်ထွန်းပြန်သည်။ နတ်မင်းတို့၏ အမည်မှာလည်း 'သက္က' ဟူသောအမည်, 'ဒေဝိန္ဒ' ဟူသောအမည်, 'ဣန္ဒ' ဟူသောအမည်, 'ပုရိန္ဒဒ' ဟူသောအမည်, 'ဒေဝရာဇ' ဟူသောအမည်, 'ဝဇိရပါဏီ' ဟူသောအမည်, 'ဝဇိရာဝုဓ' ဟူသောအမည်, 'သဟဿက္ခ' ဟူသောအမည်, 'ဝါသဝ' ဟူသောအမည်, 'ဘူတပတိ' ဟူသောအမည်, 'ဝတြဘူ' ဟူသောအမည်, စသည်တို့ဖြင့် တွင်းဟောင်းတွင် ဆင့်လောင်း၍ ထိုမာဃသိကြားမင်း လက်ထက်တွင်မှ 'မာဃ' ဟူသောအမည် 'သုဇမ္ပတိ' ဟူသောအမည်, 'သုရနာထ' ဟူသောအမည်, 'တိဒိဝါဓိဘူ' ဟူသောအမည်တို့ဖြင့် နောက်နောက်သော သိကြားမင်းအဆက်ဆက် ယခုလက်ထက်တိုင်အောင် အမည်ဘိသိက် တံဆိပ်ရွှေဘွဲ့ ခံယူတော်မူကြသည် မှတ်တော်မူလော့။ အရှင်မင်းကြီးသည် ဤစိတ္တကုဋ်တံခါးဖြင့် သုဒဿနမြို့တွင်းသို့ ဝင်တော်မူမိလျှင် ၇ အင်သော ရတနာအဖြာဖြာအသွယ်သွယ် အံ့ဩဖွယ်ပြီးပြောင်အရောင်ချင်းကူးလျက် အထူးထူးအဆန်းဆန်းသော ဘုံနန်းဗိမာန် ရေကန်ဥယျာဉ် စပ်ယှဉ်ဆက်ကာနှင့် ရတနာရွှေမြေအပြင်ကို မြင်တော်မူရလတ္တံ့။ ရဲဝံ့ရွှင်ပြုံး နှလုံးငြိမ်းချမ်း စိတ်ဝမ်းပျော်ပါးလျက် ဤရထားမှဆင်းသက်၍ နုညက်သော ရွှေမြေဖန်မြေ အပြင်ကို အရှင်မင်းကြီးဖဝါးဖြင့် ချသွားတော်မူရအံ့သည်"ဟု ညွှန်ကြားပြောဆိုပြီးလျှင် မာတလိနတ်သားသည် ထိုစိတ္တကုဋ်တံခါးဖြင့် မြို့တွင်းသို့ ရထားနှင့်ဝင်လေ၏။

[ဤအရာဦ 'ဧကေကနိပါတေ ကုလာဝက ဇာတကေန ကထေတဗ္ဗော'ဟု အဋ္ဌကထာ စကား ရှိသောကြောင့် အဓိပ္ပာယ်ထုတ်လိုက်သည်။]

ထိုအခါ သုဓမ္မာသဘင်ဦ စည်းဝေးလျက်နေကုန်သော နတ်ပရိသတ်အပေါင်းတို့သည် နေမိမင်းကြီးကို ဖူးမြင်လိုသောဆန္ဒနှင့် မာတလိနတ်သား၏ ရထားလာရာလမ်းကိုသာ မျှော်လင့်လျက်နေစဉ် စိတ္တကုဋ်တံခါးဝသို့

ရထားနှင့် နေမိမင်းကြီးရောက်ကြောင်းကို သိမြင်ကြလေသော် ပင်လယ်ကသစ်ပွင့် စသည်တို့ဖြင့် နတ်၌ဖြစ်သော ပန်းနံ့သာလက်စွဲလျက် သုဓမ္မာသဘင်မှသည် စိတ္တကုဋ်တံခါးမုခ်တိုင်အောင် ယူဇနာအကျယ် ၆၀ ရှိသော ရထားလမ်း ၂ ဘက်အပြည့်အနှက် စဉ်ကာဆက်၍ စုံမက်မြတ်နိုး ရှိခိုးဖူးမြော်ပူဇော်ခြင်းအသီးသီးဖြင့် ခရီးဦးကြိုဆိုလာကြကုန်၏။

မာတလိနတ်သားသည်လည်း သိန္ဓောမြင်း ၁၀၀၀ က,အပ်သောရထား၌ သိကြားမင်း၏တင့်တယ်ခြင်းဖြင့်စီးသော နေမိမင်းကြီးအား ပျော်ကြောင်းပျော်ဖွယ် ဖျော်ဖြေညွှန်ကြားလျက် များစွာသောနတ်ပရိသတ်အပေါင်း ခြံရံအပ်သော ထိုမင်းလမ်းခရီးဖြင့် သုဓမ္မာသဘင်သို့ ရှေးရှုနှင်လေ၍ ရွှေငွေဖန်ပုလဲ ကျောက်မျက်စွဲစသည်တို့ဖြင့် တောက်ပလျက်တည်သော သုဓမ္မာသဘင် နေမိမင်းကြီးမြင်ပြန်လျှင် အလွန်နှစ်သက် ကြည်လင်ရွှင်လန်းခြင်းဖြင့် မာတလိနတ်သားအား မေးလေသောအကြောင်းကို ထင်ရှားပြတော်မူလိုသော မြတ်စွာဘုရားသည် 'သဟာသ ယုတ္တံဟယဝါဟိ' အစရှိသော ဂါထာတို့ဖြင့် ဟောတော်မူ၏။ အဓိပ္ပာယ်ကား-

"ငါ၏တပည့်သားတော် အပေါင်းတို့။ ငါ နေမိမင်းကြီး ဖြစ်တော်မူသောအခါ အာဇာနည် သိန္ဓောမြင်း ၁၀၀၀ကအပ်သော ဝေဇယန္တာရထားထက် ထီးဖြူစိုက်ဆောင်း ဖြန့်မိုးအပ်သော ပလ္လင်ပေါ်၌စီးလျက် မာတလိနတ်သား၏ချီးပင့်ခြင်းဖြင့် တာဝတိံသာသို့တက်၍ သုဒဿနမြို့အဝင် မဂ်လာပြုရာတံခါးမှ ရထားလမ်းခရီးဖြင့် နတ်သဘင်သို့ရှေးရှုသွားစဉ် ပေါင်းယှဉ်အပ်သော ရတနာမျိုးတို့ဖြင့် ပြိုးပြိုးပြက်ပြက် တောက်ပသော သုဓမ္မာသဘင်ကိုမြင်လျှင် ဝမ်းမြောက်ရွှင်ပျခြင်းဖြင့် မာတလိနတ်သားအား ဤသို့မေး၏။ "အချင်းမာတလိ။ ဝင်းဝင်းညိတောက်ပသော ဤဗိမာန်ကား အဘယ်အမည် ရှိသနည်း။ ကြတ္တိကာ, အဿဝဏီ, ပုဗ္ဗာမိ ကြိုက်သောလ မုန်တိုင်းလေရိုင်းမထ မြူမှုန်မကြွသောအခါတွင်းဝယ် တိမ်တိုက်ဆီးနင်း လွတ်ကင်းသောရက်တွင် စင်ကြယ် သန့်ရှင်းသော ကောင်းကင်အသွေးသည် အဝေးကအမြင် ညိုလွင်ရွှန်းတိတ် လင်းရိပ်ရောင်ထင်သကဲ့သို့ ယခုမြင်ရသော ဗိမာန်ရောင်လည်း ကျောက်မျက်စွဲရတနာကို အရာသင့်ခြယ်လှယ် စီမံဖန်ဆင်းလေသည်မသိ ငါထင်မိလေသည်နှင့် ပီတိဖိတ်ယို ကိုယ်စံရပြီးလောက် ဝမ်းမြောက်ခြင်းရှိ၍ သိရအောင် မေးမြန်းရတော့သည်။ 'ထူးလည်ထွေပြား မှတ်သားဖွယ်အကြောင်းများကို သင်နတ်သား ကြားပါဦး'ဟုဆိုလျှင်၊ ထိုရထားမှူးမာတလိသည် သိမြင်တိုင်း နှစ်လိုစွာ ဤသို့ ညွှန်ကြားပြန်၏။

"လူအပေါင်းတို့၏သခင် ဖြစ်တော်မူသော နေမိမင်းမြတ်။ လူနတ်တို့အား အစီးအပွားများအံ့သော အကြောင်းကို သိကြားနတ်ကောင်းအပေါင်း စည်းဝေးလျက် ၃-၄လအဖို့ လူတို့အရေးအတွက် ရက်လကြာအောင် အခါပြုသဖြင့် လူ့ပြည်သို့အလွတ်အစေ ရွှေပုရပိုက်ထက် မှတ်ချက်မတင်ထိုက် ဒုစရိုက်မကောင်းမှုပြုကျင့်သူ လူမစင်မသန့်များကိုသာ ခြွင်း၍၊ အလှူ,သီတင်း,ဘာဝနာ ၁၀ ဖြာသောကုသိုလ်ကို ကြည်ညိုရွှင်လန်း ကြိုးပမ်းကျင့်ဆောင်သူ လူစင်လူသန့်ဟူသမျှကို မကြွင်းစေရဘဲ ရွှေပုရပိုက်ထက် မှတ်ချက်တင်လျက် သဘင်ဇရပ် ဖတ်ကြားနာသိ ပီတိစိတ်ချမ်း ရွှင်လန်းအံ့ချီး ကောင်းချီးသာခု အနုမောဒနာ နတ်တကာတို့ခေါ်ရာဟူ၍ လူနှင့်နတ်ကို နှံ့စပ်ဖောက်ထွင်းလျက် သတင်းကျော်စောစွာသော သုဓမ္မာဇရပ်ဆိုသည် ဤဗိမာန်ကြီးမဟုတ်လော။ အပြန့်အပြော ယူဇနာ ၃၀၀ ကျယ်စွာသောဇရပ်တွင်း၌ အခင်းဖန်မြေ စောင်းတန်းလှေကား တံခါးမုခ်အကွေ့ အထောင့်တို့၌ အစောင့်အရှောက်ထားသော သားရဲရုပ်အထူးထူးမှာလည်း ၇ ဦးသော ရတနာမျိုးသည် တိုင်ကွန်းစင် ၈ မြောင့်ချိုး အမိုးလည်သီးတို့၌ ကျောက်မျက်စွဲဝမ်းဘဲတောင်, ခေါင်အုပ်ကပတ်တို့၌ ရွှေစင်ခြင်ပိတ်,

ယနယ်လည်ညှပ် ထုပ်လျောက်တို့၌လည်း ဣန္ဒနီလာ, ထုပိကာဘုံထွတ်ဖူးမှာ ၇ ဦးသောရတနာ, ကြာသွတ်အိုးကြာခံမှာ ငွေစင်, တုရင်မှန်ကင်း အမွှမ်းတန်ဆာတို့၌ ရတနာ ၇ပါး အခြားခြားအသွယ်သွယ် ခြယ်လှယ်အပ်၏။ နတ်အရေအတွက် တစ်ရက်မလစ် ကသစ်ပွင့်အခင်း သဘင်တွင်းနေရာမှာ သုရာနာထ နတ်များတမွတ်သည် နတ်မူးနတ်မတ် ပရိသတ်နှင့် လူနတ်တို့အစီးအပွား များအံ့သောအကြောင်း ကောင်းသောတရားစကားဖြင့် ဟောကြားနာခံ ကြံစည်တိုင်ပင်ခြင်းကို ပြု၏။

သုဓမ္မာဟူသော နာမပညတ် သတ်မှတ်ဖွဲ့ချည် အမည်တွင်ခြင်းအကြောင်းမှာ ကောင်းစွာ အစီးအပွားတရားကို တိုင်ပင်ကြံစည်ရာ ဖြစ်၍လည်းကောင်း၊ အလောင်းမင်းတရား သိကြားမာဃ၏ မြောက်သားတော် ချစ်ကျွမ်းဖော် ၄ပါးတွင် မိဖုရားလတ် သုဓမ္မာဒေဝီ၏ ကောင်းမှုအာနိသင်ကြောင့် ဤသဘင်ဖြစ်ပေါ်လာသည်ကို အစွဲပြု၍ လည်းကောင်း သုဓမ္မာသဘင် ဟု အမည်ခေါ်ညွှန်း မော်ကွန်းစိုက်ထူအပ်၏။

## ၃၂။ တာဝတိံသာ နတ်သဘင်သို့ဝင်ခန်း

"ယခု နတ်အများလည်း သိကြားမင်းနတ်ဒေဝိန်နှင့် ကသစ်ပွင့်ချိန် ရာသီထူး ၂ ဦးအပျော်အရွှင် သဘင်ကာလအခိုက် ဖူးထိုက်၍ကြည်ဖြူစွာ ဇမ္ဗူလုံးသခင် အရှင်မင်းမြတ်ကို စွဲကပ်သောစိတ်နှင့် ညွတ်ညိတ်သော နှလုံး ရှိကြပါသည်။ ပယင်းရောင်အသွေးဖြင့် ရေကြည်ရောင်ပြေးသော နတ်သဘင်အတွင်း နတ်မင်းစံရာသို့ ဤမဂ်လာတံခါးဖြင့် ရထားမှဆင်းသက်၍ အရှင်မင်းကြီး ဝင်ကြွတော်မူလော့"ဟုဆိုလျက် မာတလိနတ်သားသည် သုဓမ္မာ အရှေ့မျက်နှာတံခါးသို့ အစဉ်အတိုင်းသွား၍ ရထားဦး ဆိုက်လေ၏။

ထိုအခါ နေမိမင်းကြီးသည် ဝေဇယန္တာရထားထက်မှ ဆင်းသက်၍ မျက်နှာတော်ရွှင်ရွှင်နှင့် တရားသဘင်သို့ နတ်လုလင် စည်းဝေးရံဝန်းလျက် ပန်းနံ့သာအသီးသီး ချီးမြှောက်ပူဇော်ရာ များစွာအသွယ်သွယ် တင့်တယ်သောဂုဏ်ကျက်သရေဖြင့် ရေမြေရှင်မင်းဘုရားလည်း စိတ်ထားတော်ပြကတေ့နှင့် သိမ်မွေ့နူးညံ့ တည်ကြည်စွာဝင်လျှင်၊ နတ်ဘုရင်သိကြားလည်း တရားဟောနေရာ ပလ္လင်ကိုပြင်စေပြီး၍ ခရီးဦးကြိုလင့်လျက် "လူမင်းနေရာ ဤမှာ ပြင်ဆင်ပါပြီ။ ဖြန့်ချီဖဝါး တက်သွားစံနေတော်မူပါလော့"ဟု ကြည်ဖြူနှစ်သက် နှုတ်ဆက်မေးမြန်းကာ အတ္တကာ္မယီ ခင်ပွန်းစစ်ဖြစ်သူတို့ ဝတ်မလွတ်စေရသဖြင့် မြင့်မြတ်သော ရတနာပလ္လင်ထက်၌ စံနေစေ၏ ဟူလို။

ထိုအခါ နတ်အပေါင်းတို့သည် ရွှင်ပြုံးညှသက် စုံမက်ဖွယ်ဣန္ဒြေဖြင့် ဖန်မြေကိုနင်း၍ နေမိမင်းကြီးလာသည်ကို ဖူးမြင်ရဦးကပင်လျှင်, ကြည်ရွှင်သောစေတနာဖြင့် 'သွာဂတံ တေ မဟာရာဇ' အစရှိသော ၂ဂါထာဖြင့် ဝမ်းမြောက်စကား လျှောက်ကြားဖိတ်မန်ကြကုန်၏။ အဓိပ္ပာယ်ကား–

"နတ်ဝယ်အရေအတွက် ၁၀ ရက်ကမပြု လူမှာ အနှစ် ၁၀၀၀ မြားမြောင်ရှည်ကြာမှ စိတ္တလတာ တွင်သောဥယျာဉ်တွင် တစ်ခါတစ်ခါသီးလာသော ရသာနှစ်သိမ့် ချိုဆိမ့်မျိုးအဆီ အာသာဝတီနွယ်သီးသည်

နတ်သမီးနတ်သားတို့ ဆန္ဒအားညီလျောက်အောင် ဖြစ်ပေါ်လာသည်ထက် ဤမင်္ဂလာအခါသဘင်ကဲ့သို့ ဘယ်တွင်မျှမကြိမ်စဘူး ကံထူး၍ကျေးဇူးသခင်ကို တို့အရှင်ချီပင့်သဖြင့် အသင့်ဖူးမြော် ပူဇော်ရပေသည်။ လူ့ပြည်လုံးသခင် အရှင်မင်းတရား ကိုယ်တော်အားကို ရိုသေကြည်နူး ဖူးမြင်လို၍ မြင်းမိုရ်လုံးသခင်လည်း လျင်စေမြန်စေ တမန်အခေါက်ခေါက်နှင့် ခရီးထောက်အခန့်အလျောက်ကို မျှော်လင့်လျက် မြင့်ရှည်စွာရှိပြီ။ ဤနတ်သဘင်သို့ အရှင်မင်းမြတ်ရောက်တော်မူခြင်းသည် အပြစ်ကင်းလျက် သတင်းကျေးဇူးဖြိုးအောင် အကျိုးရှိသောရောက်ခြင်း ဖြစ်ပါစေ။ နေရာတော်ထိုင်ပလ္လင်အခင်း၌ နတ်မင်းနှင့်အနီး ယှဉ်ပြိုင်ထိုင်နေတော်မူ၍ လူ့တို့အဓိပတိ မိထိလာပြည်ကြီးသခင် စံရှင်နှစ်သက် နှုတ်ဆက်မေးမြန်း စိတ်ဝမ်းရွှင်ပျော် စက်တော်မူပါ”ဟု ပျူပျူငှာငှာ မေတ္တာသဘော ဓောကုသိုလ်စိတ် မိတ်ဆွေအစစ်ဖြင့် နှစ်သိမ့်ကြစေကုန်၏။

သိကြားမင်းသည်လည်း အလွန်စုံမက် နှစ်သက်မြတ်နိုးသောအားဖြင့် ၅ ပါးသောကာမဂုဏ် စုံညီထူးမြတ်လှစွာသော တာဝတိံသာနတ်ပြည်ကို အလုံးစုံနှင်းလို၍–

‘သာဓုခေါသိ အနုပ္ပတ္တော၊ အာဝါသံ ဝသဝတ္တိနံ။

ဝသဒေဝေသု ရာဇီသိ၊ သဗ္ဗကာမ သမိဒ္ဓိသု။

တာဝတိံသေသု ဒေဝေသု၊ ဘုဉ္ဇကာမေ အမာနုသေ။ ။’ ဟူသောဂါထာဖြင့် ဆို၏။

ရာဇီသိ၊ မင်းမြတ်။ ဝသဝတ္တိနံ၊ ဝသဝတ္တီနတ်တို့၏။ ဝါ၊ မိမိအလိုသို့ ကာမဂုဏ်ကိုလိုက်စေတတ်သော သူတို့၏။ အာဝါသံ၊ နေရာသို့။ သာဓုခေါ၊ ကောင်းစွာလျှင်။ တွံ၊ သင်မင်းမြတ်သည်။ အနုပ္ပတ္တော၊ အစဉ် ရောက်လာသည်။ အသိ၊ ဖြစ်ပြီ။ ဒေဝေသု၊ နတ်တို့၌။ ဝသ၊ နေတော်မူလော့။ သဗ္ဗကာမသမိဒ္ဓိသု၊ ခပ်သိမ်းသော ကာမဂုဏ် အလိုဟူသမျှတို့နှင့် ပြည့်စုံကုန်ထသော။ တာဝတိံသေသု၊ တာဝတိံသာပြည်သူပြည်သား နတ်သမီး နတ်သားတို့၌။ အမာနုသေ၊ နတ်၌ဖြစ်ကုန်သော။ ဝါ၊ လူ့ပြည်၌ အိပ်မက်တွင်မျှ မထင်ရကုန်သော။ ကာမေ၊ ကာမဂုဏ်တို့ကို။ ဘုဉ္ဇ၊ ခံစား စံပျော်တော်မူလော့။ ဤကားအနက်။ အဓိပ္ပာယ်ကား–

“မိထိလာပြည်ကြီးသခင်ဖြစ်သော နေမိမင်းမြတ်။ ခပ်သိမ်းသော ဘောဂသမ္ပတ္တိတို့ကို ကိုယ်အလိုရှိရာသို့ လိုက်စေတတ်သော, နတ်ပြည် ၆ ထပ်တွင် ၂ဆင့်မြောက်ဖြစ်သော ဤတာဝတိံသာနတ်ပြည်သို့ အကြည်တော်ရောက်လာလျှင် ဝမ်းမြောက်ခြင်းစေတနာ ကျွန်ုပ်မှာအလီလီ မရောက်မီကပင် ဖြစ်သည်နှင့် နှစ်သက်ဖွယ်ကာမဂုဏ် စုံညီလှသော ဤတာဝတိံသာနတ်ပြည်စည်းစိမ်ကို အပ်နှင်း၍ မင်းကြီး၏အဆုံးအမကို ခံလျက် အမှုဝန်ကို အလိုတော်မညှိုးရအောင် ကိုးကွယ်ရတော့မည်။ ရှည်မှတ်တိုင်းအညီ ဤသမ္ပတ္တိကို မိထိလာပြည်ကြီးရှင်အား အကုန်အစင်အလုံးစုံ အပ်နှင်းပါ၏။

“ဤ တာဝတိံသာနတ်ပြည်သည် အတည်တည်သောဥယျာဉ်, ရေကန်,ဗိမာန်,ဘုံနန်း အဆန်းဆန်း အသီးသီး နတ်သမီးတို့အပျော်အပါးလည်း မင်းယောကျ်ားတို့စိတ်ကို ချိတ်၍ငင်သကဲ့သို့ ရွှင်ပျော်ဖွယ် ကာမဂုဏ်တို့ဖြင့်လည်း အလုံးစုံတင့်တယ်၏။ ပင်လယ်ကသစ်ပင်, တရားသဘင်သုဓမ္မာ, ပဏ္ဍုကမ္ဗလာ ကျောက်မျက်ရှင် ဤ ၃ အင် ဂုဏ်တင်သကဲ့သို့ အဘယ်ပြည်တွင် ရှိ၏ဟူ၍လည်း မသိမထင် မမြင်စဘူး။

“၂ ဦးရာသီစပ် နတ်တို့ကာလ နက္ခတ်သဘင်ကြိမ်မူ နန္ဒဝန်, စိတ္တလတာ, ဖရုသက, မိဿက, သုဓမ္မာ အစရှိသော သဘင်ဥယျာဉ်တို့သို့ လှည့်လည်လိုသောအခါလည်း ဧရာဝဏ်နတ်ဆင် အမြင့်ယူဇနာ ၁၅၀ မှာ ၃ ဂါဝုတ်, ၂ ဂါဝုတ်စီ အဝန်းရှိသော ဦးခေါင်းဦးကင်း ၃၃ လုံးတို့၏အလယ်၊ ယူဇနာ ၃၀

အဝန်းရှိသော သုဒဿနဦးကင်းမြတ်၌ ပြာသာဒ်အဝန်း ၁၂ ယူဇနာဖန်ဆင်း၍၊ အလံတိုင်အမြင့် ၁ ယူဇနာစီ ရတနာ ၇ လီ စဉ်ညီဝန်းကျင်စိုက်လွှားလျက် ပြာသာဒ်နားသတောင်းလယ်မှာ ရတနာကွန်ရက် ခြူဆည်းလည်းဆွဲ၍ နဲ့, ခရာ, ပတ်သာ, စောင်းငြင်းသံလို အဆိုအငြိမ့် လေအိမ့်တိုင်းကျူးတုံ ဘုံအလယ်ချက်တွင် ပတ္တမြားပလ္လင် ထီးဖြူ ၁ ယူဇနာ မင်းနေရာခင်းကျင်းလျက်၊ အရံဦးကင်း ၃၃ လုံးမှာ တစ်လုံးတစ်လုံး၌ အရှည် ယူဇနာ ၅၀ စီ အစွယ် ၇ ချောင်းပေါက်သော, ၂၃၁ ဖြစ်သော ထိုအစွယ် တစ်ခု တစ်ခုအပေါ်ယံတွင် ရေကန် ၇ ခု ၇ ခု အစုစု ရေကန်ပေါင်း ၁၆၁၇ ကန်၊ တစ်ကန်တစ်ကန်မှာ ပဒုမ္မာကြာပင် ၇ ရုံစီ အညီတွက်စုပေါင်း ၁၁၃၁၉ ရုံ၊ တစ်ရုံတစ်ရုံမှာ ကြာ ၇ ပွင့်စီ အညီတွက်ပေါင်း ၇၉၂၃၃ ပွင့်၊ တစ်ပွင့်တစ်ပွင့်၌ ပွင့်ချပ် ၇ ခုစီ အညီတွက်စုပေါင်း ၅၅၄၆၃၁ ချပ်၊ ပွင့်ချပ် တစ်လွှာတစ်လွှာမှာ ပတ်သာစောင်းငြင်း အမှုတ်အတီးနှင့် နတ်သမီး ၇ ယောက်စီ အညီတွက်စုပေါင်း နတ်သမီး ၃၈၈၂၄၁၇ ယောက် ဝမ်းမြောက်ရွှင်ပျ သီကတီးမှုတ်ခြင်း သဘင်အရွှင်အပျော်နှင့် အကြည်တော်နှစ်သက်ရာ နတ်သမီးကိုရွေး၍ ၄ ယောက်သော နတ်မိဖုရားကြီးတို့၏ အမည်နှင့်တူစွာ မိဖုရားကြီးအရာနှင့်တင်ထားလျက်၊ ရှေ့က သုဓမ္မာဒေဝီ, နောက်ဆီက သုနန္ဒာ, လက်ဝဲမှာ သုစိတ္တာဒေဝီ, လက်ယာတောင်ညာမှာ သုဇာတာဒေဝီ၊ ဤနတ်ပြည်၌ မင်းစဉ်မင်းဆက် မပျက်သောစံစားရိုးဖြင့် အစိုးတရပိုင်သစ္စာ စံတော်မူပါလျှင် ဇမ္ဗူကျွန်းသူ လူတို့ပြည်မှာ ဆက်ရှည်မော်ကွန်း ဥဒါန်းမဆုံးနိုင်အောင်ရှိ၍၊ ပီတိနှံ့သောကိုယ်ဖြင့် ကုသိုလ်ကောင်းမှု သုစရိုက်တရား ပွားများရာသောအကြောင်းလည်း ဖြစ်ပါသည်။

"မဟာပထဝီနှင့် စပ်လျက်တည်သော အပြည်ပြည်ဘုံနန်းတကာတို့၏ အထွတ်ဖြစ်၍ လည်းကောင်း၊ လူအပေါင်းနတ်အပေါင်းတို့၌ ကောင်းကျိုးမင်္ဂလာ ပွားများရာ သည်ကို အောက်ပြည်, အထက်ပြည် အတည်တည်နတ်ဗြဟ္မာ သုဓမ္မာသို့လာ၍ ကြည့်ရှုဆင်ခြင် တိုင်ပင်ဟောကြား တရားသဘင်ခံရာဖြစ်၍ လည်းကောင်း ပြည်တကာတို့ထက်မြတ်သော ဤနတ်ပြည်စည်းစိမ်သည် ဂုဏ်အကျင့်သတင်းအားဖြင့် မင်းတကာတို့ထက်မြတ်သော မိထိလာပြည်ကြီးရှင် မင်းမြတ်နှင့် အလွန်ထိုက်တန်၏။ လူ့ပြည်သို့မပြန်ဘဲ စိုးစံတော်မူလော့"ဟု တာဝတိံသာ ပြည်စည်းစိမ်ဖြင့် ပူဇော်ဖိတ်ကြားလေ၏။

[ဤအရာ၌ ဂါထာတွင် တာဝတိံသာနတ်ပြည်ကို 'ဝသဝတ္တိနံ'ဟု ဆိုခြင်းသည်ကား တစ်စွန်း တစ်မြိတ်သော သမုဒ္ဒရာကို မြင်ဖူးကာမျှဖြင့်၊ 'သမုဒ္ဒေါ မယာဒိဋ္ဌော၊ သမုဒ္ဒရာကို ငါမြင်ဖူး၏'ဟု ဆိုသကဲ့သို့ အထက်နတ်ပြည် ၄ ထပ်၌ဖြစ်သော ကာမဂုဏ်စည်းစိမ်ကို မိမိအလိုသို့ မလိုက်စေနိုင်သော်လည်း မိမိတို့ပြည် စာတုမဟာရာဇ် နတ်ပြည်၌ဖြစ်သော ကာမဂုဏ်စည်းစိမ်တို့ကို မိမိအလိုသို့ လိုက်စေနိုင်သောအကြောင်း တစ်စိတ်မျှကိုစွဲလျက် ဧကဒေသူပစာရအားဖြင့်တင်စား၍ သိကြားမင်း ဆိုသည်။ တစ်နည်းလည်း မိမိတန်ခိုးဖြင့် အစိုးရထိုက်သော ကာမဂုဏ်တို့ကို အလိုရှိတိုင်း ပြီးစေနိုင်သည်ဖြစ်၍ နတ်ပြည် ၆ထပ် နတ်တို့သည် ဝသဝတ္တီချည်းပင် မည်ကောင်းသောကြောင့် မိမိဂုဏ်ကို ချီးမြှောက်သောအားဖြင့် ဝသဝတ္တိနံဟု သိကြားမင်းဆိုလေသည်ဟု သိအပ်၏။]

ဤသို့ သိကြားမင်းသည် နတ်ပြည်စည်းစိမ်ဖြင့် နေမိမင်းကြီးအားဖိတ်ကြားလေသော် ဘုရားလောင်း နေမိမင်းကြီးသည် 'ကိုယ့်ဘုန်းကံ အချီးအပင့်မဟုတ်ဘဲ သူတစ်ပါးချီးမြှင့်၍ ပွင့်လန်းရသောစည်းစိမ်သည် ဏ္ဍန္ဓေမတည်ကြည်ရာ။ ငါကား လူမင်းစည်းစိမ်နှင့် သူကားနတ်ဇာတ်မျိုးနွယ် တစ်သွယ်တစ်ကြောင်း သူ့

ကောင်းမှုအကျိုးမှာ ငါ တန်ခိုးလွှမ်းမိုးနိုင်မည် မဟုတ်။ အုတ်အုတ်သဲသဲ ဤပွဲသဘင်တွင် နတ်ဘုရင်နှင့်တကွ ချီးမြှောက်ကြသော သမာန သုခမိတ္တအရာကို ငါ မလေးမလောက် အခေါက်ခေါက်ပြုရမည်လည်း ပဏ္ဍိတဂုဏ် အလုံးစုံပင် မသင့်။ အခွင့်နှင့်လျော်စွာ ဥပမာပြ၍ ဓမ္မကထာဖြင့် ညွှန်ကြားပြောဆိုရလျှင် အကြည်အညိုကုသိုလ် ထိုသူတို့လည်းမပျက် ငါနှစ်သက်ရာလည်း ပြည့်စုံအံ့သည်'ဟု ရည်ကြံတော်မူလျက်၊ 'ယထာ ယာစိတကံယာနံ၊ ယထာ ယာစိတကံ ဓနံ' အစရှိသော ၄ဂါထာဖြင့် ဆို၏။ အဓိပ္ပာယ်ကား-

"နတ်ပြည် ၂ ထပ်လုံးကို ရှေးဘုန်းရှေးကံ၏အကျိုးဆက် ခုဆက်ဆံသောတန်ခိုးဖြင့် အစိုးတရ ပိုင်သအုပ်ချုပ်လျက် အယုဇ္ဈပုရိန် ဝဇိရစိန် လက်နက်သခင်ဖြစ်သော နတ်ဘုရင်သိကြားမင်း။ အခင်းအကျင်း အပြုအနေ ကျက်သရေသမ္ပတ္တိ ဣဿရိယဘောဂ လောကစည်းစိမ် ဤဝတီ'သာ ထူးမြတ်ကြောင်းနှင့် မဟာမိတ်ကောင်း ပေါင်းဖက်လိုသော ဝတီ'ရှင်က ကြည်ရွှင်သောစိတ်ဖြင့် ဖိတ်မန်သည်မှာ လူ့ပြည်မှ နတ်ဆောင်သို့ တင်ဆောင်ချီပင့်၍ နတ်မင်းတို့ပူဇော်ရိုး မြတ်နိုးခြင်းသဘော ပြီးပြည့်စုံညီ၍ အသင့်အတင့်အခွင့်မျိုး မချွတ်မလွတ် ဝတ်ကုန်လှပေသည်။ ၃ တည်သောသမ္ပတ္တိ ပရိဘောဂ ဥပဘောဂ ဣဿရိယမျိုးကို တန်ခိုးကြီးသောနတ် ပေးအပ်ဖန်ဆင်း၍ မရနိုင်ရာ။ အနုဂါမိကဥစ္စာမျိုး တန်ခိုးကြီးသောကုသိုလ်ကံ စီမံဖန်ဆင်း ဆောင်နှင်းပေးအပ်မှသာ ရရာချေသည်။ မြေကောင်း,ရေကောင်း, အပြုအစုကောင်း အကြောင်းသင့်ပျိုးသော်လည်း မျိုးစေ့နဂိုရင်းမှ အပင် ကောင်းရာချေသည်။ ဝေဖန်တတ်သောကုသိုလ်ကံလည်း ကိုယ်လိုတိုင်းမဆောင်မသွေး သိကြားမင်း အပေးနှင့်သာ အကြွေးအငှားစည်းစိမ် ဤဝတီ'သာကို ငါလူမင်း စံရမည်မှာ ဥပမာဆိုလျှင် ကုသိုလ်ကံဆိုင်၍ မပိုင်စားရ။ သူတစ်ပါးတို့အပင့်အထောက် အမြှောက်အချီးနှင့်သာ စီးနင်းဝတ်စားစိမ့်မည်။

"ကြည်ညို၍ပင် ဆင်,မြင်း,ဆိတ်,နွား,ရထား,လှည်း,သံလျင်း,ထမ်းစင်,ဝေါ,ယာဉ်,ထီး,ကျိုင်း,ကွမ်းအုပ်, ကွမ်းခွက် စသည်အဆောင်အရွက်မျိုး၊ ပုဆိုးအဝတ် ဥစ္စာရွှေငွေ စသည့်အသုံးအဆောင်မျိုးတို့ကို ပေးငှားသဖြင့် ဝတ်စားစီးနင်းရစေကာမူ ပျောက်ရှယွင်းယို ကွဲပြိုပျက်စီးခဲ့ချေလျှင် ဥစ္စာရှင်ကြည်ဖြူသော်လည်း စီးနင်းဝတ်စား သုံးဆောင်သူအခွင့်မသိရာ ရောက်အံ့သည်ကား ဟု အငှားဥစ္စာကိုမှီ၍ အလီလီအဝဝ ကြောင့်ကြ စိုးရိမ်မကင်း နိုင်ရာသကဲ့သို့၊ ဤဝတီ'သာနတ်နန်းကို သိမ်းမြန်းစိုးစံပါဟု နတ်များဘုရင်က နှင်းအပ်သည်မှာ စေတနာ မယွန်းမထောင့် ဖြောင့်မှန်သောအယူ ကြည်ဖြူသောနှလုံး ရှိသည်ကို အသိပင်ဖြစ်သော်လည်း အတော် အသင့်သို့လိုက်၍ အခိုက်ခေတ္တမျှသာ အပိုင်အစိုးကို အကျိုးနှင့်အကြောင်း မညီတန်သဖြင့် နောင်တစ်ဖန် စိုးရိမ်ရန် ကြောင့်ကြဖွယ်အသွယ်သွယ် မကင်းနိုင်ရာထင်သောကြောင့် နောင့်ယှက်ကြောင့်ကြ နောင်တတစ်ဖန် စိုးရိမ်ရန်မရှိအောင် သမ္ပတ္တိတကာတို့၏အကြောင်းဖြစ်သော ကောင်းမှုကုသိုလ်ပွားရာ ငါတို့လူ့ပြည်သို့ဆင်း၍ သီတင်းသီလ သံယမနှင့် ဒါနကုသိုလ်ကို ဖြည့်ဆောင်လိုသောနှလုံးသာ ငါ၌ဝင်သည်။

"နတ်ဘုရင်စကား ကောင်းသော်လည်း အကြောင်းမဆုံးသေးသောကြောင့် အပေးခံ၍ စံလိုသောစိတ် မရှိ။ ရမိသည့်စည်းစိမ်၌သာ သိမ်မွေ့ငြိမ်သက်စွာ ကျင့်ရာသည့်တရား ပွားအပ်သောကုသိုလ်၌ ကိုယ်ကို အလုံအခြုံတည်စေဦး၍ ကျေးဇူးခံလူ တိုင်းသူတိုင်းသား အများသတ္တဝါအပေါင်းတို့ကိုလည်း မကောင်းသော ဥပဒ်ဘေးဒဏ် ရန်မီးရန်ဆူး မစူးမခိုက်ရအောင် ကံထိုက်၍ရသောဘုန်းဖြင့် ဖြန့်ဖုံးမိုးကာလျက် မေတ္တာ, ကရုဏာ, မုဒိတာ, ဥပေက္ခာ ဗြဟ္မစိုရ်မကင်း အချင်းချင်းအကျိုးလို ကြည်ညိုမြတ်နိုး မညှိုးမနွမ်း ရွှင်လန်းသောနှလုံးဖြင့် သုံးအပ်သောသီတင်း မကင်းအပ်သောသီလ ဆုံးမအပ်သောကိုယ်နှုတ် အားထုတ်အပ်သော

အလှူ အယူဖြောင့်မှန်ကြောင်း ကောင်းမြတ်သောတရား၌ ညွှန်ကြားဆုံးမ ပြသဆော်နှိုး၍ ကိုယ့်အကျိုး သူ့အကျိုး ပစ္စုပ္ပန်အကျိုး သံသရာအကျိုး တိုးပွားကြောင်းမျိုးစေ့ စိုက်ပျိုးရာအရပ်၌ သူမြတ်သူကောင်းအဖြစ်ကို ရခိုက် လိုထိုက်သမျှစည်းစိမ် ပြည့်စုံအောင် အားထုတ်ဦးအံ့သည်။ ဤနတ်ပြည်စည်းစိမ်ကြီး အကျိုးပြီးကိုသာ သုံးဆောင်ရာအရပ် နတ်မင်းတို့ကို ငါလူမင်း မတုသာသေး" ဟုဆို၍ နတ်စည်းစိမ်ကို လက်မခံ ပယ်တော်မူ၏။

[နတ်ပြည်၌ ဆင် စသောတိရစ္ဆာန်တို့ကား ဇာတိတိရစ္ဆာန် မဟုတ်။ နိမ္မိတတိရစ္ဆာန် ဖြစ်သည်။ ဇာတိအားဖြင့်ကား နတ်သားချည်းတည်း။ သိကြားမင်း၏တန်ခိုးကြောင့် အချို့သောနတ်သည် ဆင်, အချို့သော နတ်သည် မြင်း, အချို့သောနတ်တို့သည် ဟင်္သာ, ဝမ်းဘဲ စသည်ဖန်ဆင်း၍ သိကြားမင်းနှလုံးကို မွေ့လျော်စေလျက် အသီးသီးအစွမ်းနှင့်လျော်စွာ အမှုထမ်းရွက်ကြသည်ဟု မှတ်အပ်၏။ ဒေဝလောကေ **တိရစ္ဆနဂတာနာမ** နတ္ထိ။ ။ ဋီကာပါဌ်။ ။ ပရမတ်၌လည်း အာယတန ယမိုက် စသည်တို့မှာ ဆင်ခြင်၍ **သိရမည်။**]

ဤသို့ ဘုရားလောင်းနေမိမင်းကြီးသည် လက်သို့ရောက်ပြီးသော နတ်၏ကာမဂုဏ်ကို ဥပမာနှင့်တကွ ထုံးသက်သေရရစ်အောင်သာ ဓမ္မကထာဖြင့်ပယ်ပြီးလျှင် လူတို့၏အရေအတွက်အားဖြင့် လာသည်မှ ပြန်သည်တိုင်အောင် ၇ရက်အတိုင်းအရှည် နတ်တို့၏အရေအတွက်အားဖြင့် တစ်ပြန်နှင့်တစ်ခရာဝက်ခန့်သာ ကြာစေလျက် နတ်ပြည်၌နေသမျှကာလပတ်လုံး သိကြားမင်းအမှူးရှိသော နတ်ပရိသတ်အပေါင်းတို့အား အလှူပေးခြင်း၌အကျိုး၊ ကံ,ကံ၏အကျိုးကိုယုံကြည်ခြင်း၌ အကျိုး၊ အယူမှားခြင်း၌အပြစ်၊ သီလနှင့်ပြည့်စုံခြင်း၌ အကျိုး၊ သီလမရှိခြင်း၌ အပြစ် ဤသို့ စသောအားဖြင့် ပြားသောတရားစကားတို့ကို သာယာနာပျော်ဖွယ်ရှိသော အသံဖြင့် ဟောကြားဆုံးမခြင်းကိုလည်း ပြုတော်မူ၏။ ထို နတ်သား, နတ်သမီး, နတ်မင်းတို့၏ ပြည့်စုံသောဂုဏ် ကျက်သရေတို့ကို လည်းကောင်း၊ ထိုဂုဏ်ကျက်သရေတန်ခိုးတို့၏အကြောင်းဖြစ်သော ကောင်းမှုတို့ကို လည်းကောင်း ချီးမွမ်းအံ့ဩခြင်းဖြင့် ရွှင်လန်းဝမ်းမြောက်စေလျက် ထက်သောသဒ္ဓါ မေတ္တာစေတနာကိုလည်း ပွားစေတော်မူ၏။ အထူးသဖြင့် မာတလိနတ်သား၏ဂုဏ်ကို ချီးမွမ်းလို၍လည်း နတ်ပရိသတ်၏အလယ်၌–

'ဗဟူပကာရော နော ဘဝံ၊ မာတလိ ဒေဝသာရထိ။

ယော မေ ကလျာဏကမ္မာနံ၊ ပါပါနံ ပဋိဒံသယိ။' ဟူသော ဂါထာကိုဆို၏။

ဘဝံ၊ ရှင်သိကြား။ ဒေဝသာရထိ၊ နတ်၏ရထားမှူးလည်း ဖြစ်ထသော။ ယော မာတလိ၊ အကြင် မာတလိ နတ်သားသည်။ နော အမှာကံ၊ ငါတို့အား။ ဗဟူပကာရော၊ များစွာသောကျေးဇူး ရှိပေ၏။ သော မာတလိ၊ ထို မာတလိနတ်သား ရထားမှူးသည်။ မေ၊ ငါ့အား၊ ကလျာဏကမ္မာနံ၊ ကောင်းမှုကို ပြုကုန်သော သူတို့၏။ ဌာနာနိစ၊ ဘုံဗိမာန်စံရာ အရပ်ဌာနတို့ကို လည်းကောင်း။ ပါပါနံ၊ မကောင်းမှုကိုပြုကုန်သော သူတို့၏။ ဌာနာနိစ၊ ငရဲဝေဒနာခံရာ အရပ်တို့ကို လည်းကောင်း။ ပဋိဒံသယိ၊ သိသိသာသာ ညွှန်ပြပေ၏။ ။ ဤကား အနက်။ အဓိပ္ပာယ်ကား–

"နတ်အပေါင်းတို့၏အရှင်ဖြစ်သော သိကြားမင်း၏နတ်ပြည်နယ်အတွင်းတွင် မာတလိ နတ်သားကဲ့သို့ အဆင်းအရောင်အဝါ တေဇာရွှင်ဖြိုး တန်ခိုးကြီးသောနတ်ကိုရှာလျှင် ငင်ကာကောက်ကာပင် ရလွယ်ဖွယ် ရှိ၏။ ခွင့်သိလိမ္မာ ပညာနဂိုဖြင့် သူ့အလိုကိုယ့်အခွင့် အရှင့်အရေးကို တစ်ထွေးတည်းပါအောင် အရာကိုမြော်ရှု၍ အမှုကိုဆောင်လျှင် အထောင်သောဂုဏ်ပေါ်လျက် ကျော်စော၍မပြီး ချီးမွမ်း၍မကုန်ရာ။ ပညာနှင့် ဘုန်းကို

အသုံးတတ်ခြင်း၌ နတ်မင်းမတ်ရင်းမာတလိနှင့် ညီ၍ရွေးသော်လည်း အလေးတူ ခဲပေရာသည်။ လူ့ပြည်မှ နတ်ဘောင်သို့ ဆောင်တင်ချေကာမျှသာ စေလိုက်သောရာဇသံကို ဉာဏ်စဉာဏ်မြိတ်မရှင်သူ အယူတစ်ပင်တိုင်သာ ဖြစ်လျှင် 'တင်ဆောင်ချီပို့က ကူးတို့အမှု ကုန်တော့သည်'ဟု တရည်တည်းစိတ်နှင့် အမှုရိပ်စကားမြွက်ကို အချက်ကောင်းမရှာ အရာသင့်တင့်အောင် အခွင့်၌မကျွမ်းနိုင်၍ ဂုဏ်မပြိုင်မဝေခန့် စေရင်းဖြင့်သာ အမှုစင်ချော ရှိရာဖိမ့်သည်။

"နှစ်သိမ့်ဖွယ်ပညာနှင့် ဤမာတလိမူကား အယူအကြံ သူ့ဉာဏ်နှလုံးဝယ် အကှယ်၍ပင် အရှင်က အလျင်အမြန်ကိုသာ အလိုတော်ရှိလျှင် 'လျင်လျင်တင်ချေ။ အထွေထွေခရီးကောက်အောင် ချီးမြှောက်၍ မကြာစေနှင့်'ဟု နောက်ဆင့်၍ ပဋိသိမ်ပိတ်တော်မူလိုက်စကောင်းလျက် 'အကြောင်းနှင့်အခွင့်လျော်အောင် အတော်အသင့် ချီးပင့်ဆောင်တင်စေလိုသဖြင့် အချိန်ကိုမတွက် နေ့ရက်ကိုမခန့် ကန့်သတ်၍မှာတော်မမူ။ ဤလူမင်းလည်း အကြောင်းရင်းကံကို စိတ်သန်၍နှလုံးနူး၊ ငါ့သခင်လည်း ဝတိ ခွင်နတ်မှူး၊ ငါလည်း တမန်တွင်အထူး၊ ကျေးဇူးကိုမပြလျှင် ငါ့ကိုရွေးမှတ်၍ စေလွှတ်တော်မူမျိုး ဆံတစ်ရိုးတစ်မျှင်လောက်မျှ တွင်တော့မည် မဟုတ်'ဟု သရုပ်ကိုသိတတ်သော မာတလိနတ်မင်းသည် ဆင်းရဲအတည်တည်ဖြင့် ငရဲပြည်မှာခံရသော သတ္တဝါအပေါင်းကို မကောင်းမှုကံရင်းနှင့်တကွ မကြွင်းရအောင် ပြညွှန်းဖော်ကြား၍၊ ရထားတုံ့လည်ကာ နတ်ပြည်သို့နှင့်ပြန်လျှင် ရှင်စဖွယ်အသီးသီး နတ်သမီးနတ်သားတို့ ခံစားကြသောဘုံဗိမာန် သတ္တရာဘန် ၇ ခွေ ရေတစ်ထပ်တောင်တစ်ထပ် နတ်မင်းကြီးတို့စံရာအထူးထူးကို ကျေးဇူးရင်းကုသိုလ်ကံနှင့် မကျန်မကြွင်း ဆင်းရဲချမ်းသာခံစံရာအရပ်ကို နတ်မင်းမတ်ရင်းမာတလိသည် သိသိသာသာ သညာသရုပ် အတ္တုပ္ပတ္တိအစုံ ပုံစံဥပဒေ သက်သေမော်ကွန်း တည်ထွန်းရစ်အောင် ပြညွှန်းပေသောကြောင့် အမှောင့်ရောဂါ ကိလေသာအန္တရာယ် တစ်စွယ်တစ်စက ကျရောက်ကပ်ငြိသဖြင့် သတိ, ဝီရိယစသောကုသိုလ် ကိုယ်မအီမသာလျှင် စင်ကြာပျောက်ကင်း သန့်ရှင်းစေကြောင်း ကောင်းစွာပြညွှန်း ဖော်ကြားခြင်းထုံးသက်သေ နတ်ဆေးမျိုးအကျိုး အတိုင်းမသိကို မာတလိနတ်မင်းပေးအပ်၍ ယခုရပေသည်နှင့်အညီ ထောက်မှီစာနာ ပညာတည်းဟူသော ဆေးသမား၌ သဒ္ဓါတရားတည်းဟူသော လက်ဖြင့်သွေး၍ သင်းမွှေးပျံ့ကြူ နမ်းရှုသုတ်လိမ်းရသဖြင့် ခပ်သိမ်းသော လူအပေါင်းအား ကောင်းမှုတရား ပွားများရာအကြောင်း လမ်းကောင်းထွင်ပေသော မိတ်ကျွမ်းဝင်မာတလိသည် ဆရာ,မိဘအလား ငါတို့လူအပေါင်းအား များစွာကျေးဇူးရပ် ဆပ်၍မကုန်နိုင်အောင် ဆောင်ရွက်ပေ၏"ဟု ရထားမှူးမာတလိ ဂုဏ်ကျေးဇူးကို ဖော်ထုတ်၍ ချီးမွမ်းပြောဆိုတော်မူ၏။

ဤသို့ ဘုရားလောင်းနေမိမင်းကြီးသည် နတ်ပရိသတ်အလယ်၌ အသွယ်သွယ်တရားစကားဖြင့် ဟောကြား ပြောဆို၍ လူတို့အရေအတွက် ၇ရက်မြောက်ပြီးသော် အဖျော်ဘောဇဉ် ခဲဖွယ်နှစ်သက်ဖွယ် အမြိန်အမြတ် နတ်သုဓာကို သုံးဆောင်တော်မူရသော်လည်း၊ ကိုယ်တော်၏ကရဇကာယကို သိမ်မွေ့လှစွာသောနတ်သြဇာဖြင့် ခံစားစေခြင်းငှာ မစွမ်း၊ နေပြည်တော် နန်းမိထိလာက အာဟာရသက်လည်း ၇ ရက်တွင် အဆုံး၊ ကိုယ်တော်လည်း ခွေနုံးသဖြင့် နှလုံးတော် နေပြည်နန်းသို့လွမ်းဆွတ် တမ်းညွတ်ဟော်မူလျှင် နတ်ဘုရင်သိကြားမင်းအား "နတ်များ အထွတ်ဖြစ်သော သိကြားမင်း။ သတင်းနံ့ပျံ့ အခန့်မရှိကျော်အောင် အကြည်တော်ပင့်ချီ၍ အညီအညွတ် နတ်ပရိသတ် အပျော်အရွှင်နှင့် ဤသဘင်တွင် ဖူးမြင်တွေ့ကြုံ ကြည်ယုံမြတ်နိုး အကျိုးအကြောင်း အပေါင်းအသင်း ထုတ်လှစ် ပြောဆိုကာ မေတ္တာမိတ်ဝင်မင်္ဂလာပွဲပြု၍ ယခု ရှောင့်ရဲလောက်ကြပြီ။ တစ်လီတစ်ကြိမ် အချိန်လည်း

အခန့်တော် မျှော်လင့်ကြသော မိထိလာပြည်သူ လူအများနှင့် ငါ၏မိဖုရားကြီး, ငါ၏သားတော်, ဆွေတော်မျိုးတော်တို့ကိုလည်း ထိုနတ်ပြည်မှာ ငါ မရှည်မကြာစေဘဲ တစ်ခဏချင်းပြန်မည် မှာခဲ့သည့်အချက်အတိုင်း နေ့ကိုတွက်၍ ရောက်ချိန်ရက် ယခုတန်သဖြင့် အကြံအထွေထွေအပြားပြားနှင့် စိုးရိမ်များကြလေတော့မည်ဖြစ်၍ ယနေ့ယခုပင် လူ့ပြည်နေရပ်သို့ ပြန်ချင်တော့သည်"ဟု ဆို၏။

## ၃၃။ တာဝတိံသာနတ်ဘုံမှ ဆင်းသက်တော်မူခန်း

နေမိမင်းကြီးစကားကိုကြားလျှင် သိကြားမင်းလည်း

"မိထိလာပြည်ကြီးသခင် ဖြစ်တော်မူသောမင်းမြတ်။ ကြွတော်မူလိုတပြီးကား ကောင်းပြီ။ ကြွတော်မူပါလော့။ မာတလိနတ်ရထားမှူးကိုပင် ပို့စေရဦးတော့မည်"ဟု ဆို၍ မာတလိနတ်သားကိုခေါ်ပြီးလျှင်၊

"ရထားမှူးမာတလိ။ ငါ၏အဆွေတော် ယခု လူ့ပြည်သို့ သက်တော်မူလိုသတတ်။ နတ်မြင်း ၁၀၀၀ ဆောင်အပ်သော ဝေဇယန္တာရထားနှင့်ပင် သင် ပို့ချေဦး"ဟုဆို၏။ ရထားမှူး မာတလိနတ်သားသည်လည်း

"အရှင်မင်းကြီး။ ကောင်းပါပြီ"ဟု ဝန်ခံ၍ သိန္ဓောမြင်း ၁၀၀၀ က,အပ်သော ဝေဇယန္တာရထားကို သုဓမ္မာသဘင် အရှေ့တံခါးသို့ကပ်ပြီးသော် နေမိမင်းကြီးအား

"အရှင်မင်းကြီး။ ဝေဇယန္တာရထားကို ပြင်ဆင်၍ပြီးပြီ။ အလိုရှိတိုင်း ကြွတော်မူပါလော့"ဟု လျှောက်ကြား၏။

ထိုအခါ နေမိမင်းကြီးသည် သိကြားမင်းမှစ၍ နတ်ပရိသတ်အပေါင်းတို့အား သွားအံ့သောအခြင်းအရာကို ပန်ကြားပြောဆို ကြည်ညိုလေးမြတ်စွာ အာလာပသလ္လာပပြုတော်မူလျက် နေရာပလ္လင် သုဓမ္မာသဘင်မှထွက်ကြွ၍ ရထားထက်သို့ တက်နေစံပယ်တော်မူ၏။ သိကြားမင်းအမှူးရှိသော နတ်ပြည်သူနတ်ပြည်သားတို့လည်း နေမိမင်းကြီးကို ခြံရံပတ်ဝန်းလျက် အညီအညွတ် ဝမ်းမြောက်ဝမ်းသာပြောဆို၍ ရထားထက်သို့ တက်သည်တိုင်အောင် လိုက်ပို့ကြကုန်၏။

နေမိမင်းကြီး ရထားထက်သို့ရောက်ပြီးသော် မာတလိနတ်သားသည် သုဒဿနမြို့မှ အရှေ့တံခါးဖြင့် ထွက်၍ လူ့ပြည်သို့ရှေးရှုနှင်သဖြင့် အရှေ့ဝိဒေဟကျွန်းမှ လပြည့်ဝန်းထွက်သကဲ့သို့ အရှေ့မျက်နှာအရပ်က နတ်ရထား ထွန်းပေါ်လေ၏။

ထိုအခါ မိထိလာပြည်သားအပေါင်းတို့သည် လထွက်သည့်အခါ မဟုတ်သောအချိန်တွင် တောက်ထိန်လျှံလက် ထွက်ပေါ်လာသော ရထားစက်ကိုမြင်လျှင် "တို့အရှင်မင်းကြီး ယခု ကြွတော်မူ လာပြီ"ဟု တညီတညွတ် ဝမ်းမြောက်ဝမ်းသာ ပြောဆိုမျှော်ရှုလျက် နေကြကုန်၏။ ထိုသို့ ပြည်သူပြည်သားတို့မျှော်လင့်စဉ်ပင် နတ်မြင်း ၁၀၀၀ ဆောင်အပ်သော ဝေဇယန္တာရထားသည် မာတလိနတ်သား၏အစီအမံဖြင့် ယုဂန်ခရီးမှ အလျင်အမြန် လာလတ်၍ မိထိလာရာဇဓာနီ မင်းနေပြည်ကြီးကို လက်ယာရစ် ၃ ပတ်လှည့်ပြီးသော် နန်းတော်စမုတ်

ဤအကြံကို ကြံတော်မူဘိသလော။ အဘယ်အကြောင်းကြောင့် ရဟန်းပြုတော်မူမည် ကြံဘိသနည်း”ဟု မေးလျှောက်၏။ အိမ်ရှေ့မင်းစကားကိုကြားလျှင် ဘုရားလောင်းသည် ‘ဥတ္တမင်္ဂရုဟာမယ့်’ အစရှိသော ဂါထာဖြင့်ဆို၏။ အဓိပ္ပာယ်ကား–

“ချစ်သားအိမ်ရှေ့မင်း။ ယခု ခမည်းတော် ရဟန်းပြုမည်ကြံသည်မှာ ချစ်သား၌ လည်းကောင်း၊ မောင့်မယ်တော်၌ လည်းကောင်း၊ မှူးတော်မတ်တော်, ပြည်သူပြည်သားတို့၌ လည်းကောင်း မနှစ်လို့ဖွယ် တစ်စုံတစ်ခုသောအပြစ်မျှ မထင်။ ငါ၏ကိုယ်၌သာလျှင် မနှစ်လို့ဖွယ်သောအပြစ်ကို မြင်၏။ ထိုအပြစ်ကား တစ်ပါးမဟုတ်။ ဦးခေါင်း ဟူသော ကိုယ်အင်္ဂါအမြတ်ဆုံး၌ နှလုံးမနှစ်လို့ဖွယ် အရွယ်ယုတ်လျော့ခြင်း, မရဏမင်း၏တမန်ဆံဖြူ ယခု အမှုရှာ၍ ထင်စွာပေါက်ရောက်ခြင်းကြောင့် လူမင်းစည်စိမ်နှင့် မတန်ပြီ။ ဈာန်သမာပတ် မြတ်သောစရိယ သီလသမာဓိ ဂေါဒိဘာဝ သုခရွှင်လန်း ရဟန်းပြုချိန် တော်သည်ဖြစ်၍ ချစ်စွာသော သားသမီး,မိဖုရား ပြည်သားပြည်သူတို့ကို ဆံဖြူဝင့်ဆင်းရဲ ငင်ဆွဲထုံးဖွဲ့သဖြင့် မင့်ကွက် မခင်မင်သာပြီ”ဟု ဆိုတော်မူပြီးလျှင်၊ ကာလရဋ္ဌ အမည်ရှိသောသားတော်အိမ်ရှေ့မင်းအား ကြီးစွာသော ရာဇဘိသေကမင်္ဂလာဖြင့် အဘိသိက်သွန်း၍ ထီးနန်းအပ်နှင်းလေ၏။

ထိုသို့ အိမ်ရှေ့မင်းကို ထီးနန်းအပ်နှင်းပြီးသော် ခပ်သိမ်းသောသူအပေါင်းတို့အား အဆုံးအမကိုပေး၍ ရှေး ခမည်းတော်, ဘိုးတော်တို့ကဲ့သို့ ရဟန်းပရိက္ခရာကိုယူလျက် သရက်ဥယျာဉ်သို့ပင်လျှင် ထွက်သွားတော်မူသဖြင့် ရဟန်းပြု၍၊ ထိုသရက်ဥယျာဉ်၌နေတော်မူလျက် ဗြဟ္မဝိဟာတရား ၄ ပါးတို့ကို ပွားစေတော်မူသဖြင့် ဈာန်, အဘိညာဉ်, သမာပတ်တို့ကိုပြည့်စုံစေလျက် အသက်အာယုကပ်ပတ်လုံး ဈာန်၏စံပယ်ခြင်းဖြင့် စံပယ်ပျော်ပါးလျက်၊ အသက်အဆုံး၌ ဗြဟ္မာ့ပြည်သို့ ပြောင်းလဲ၍စံတော်မူလေ၏။

## ၃၅။ ဇာတ်တော်ကို ပေါင်းခန်း

ဤသို့ မဃဒေဝ မင်းမှစ၍ ၈ သောင်း ၄ ထောင် ကုန်သောမင်းတို့သည် သားတော်, မြေးတော် အစဉ်အဆက် မပျက် ရဟန်းပြုကြကုန်၏။ နေမိမင်း၏သားတော် ကာလရဋ္ဌမင်းတွင် အစပြု၍ကား ပဗ္ဗဇ္ဇဝင် ပြတ်လေ၏။

ဤသို့ မြတ်စွာဘုရားသည် တရားပရိသတ်တို့၏အလိုအားလျော်စွာ အကျယ်ဖြစ်သောဒေသနာဖြင့် နေမိမင်းကြီးအတ္ထုပ္ပတ္တိ မဟာဘိနိက္ခမကို ဟောကြားတော်မူပြီးလျှင် စကားဆက်ဝေး၍ ရှေးစကားရင်း မပျောက်စေခြင်းငှာ၊ ‘နိဘိက္ခဝေတ္တဒါနေဝ၊ ပုဗ္ဗေပိတထာဂတော မဟာဘိနိက္ခမန် နိက္ခန္တောယေဝ’ ဟူသော အဆုံးနိဂုံးဒေသနာဖြင့်

“ဤတရားသဘင်၌ တရားနာပရိသတ်အပေါင်းတို့။ ယခုမှသာလျှင် မဟာဘိနိက္ခမကို ပြုတော်မူသည် မဟုတ်။ ရှေးသံသရာကလည်း လာခြင်းကောင်းသောငါဘုရားသည် မြတ်သောတောထွက်ခြင်းကိုပြု၍

ရှာန်၏စံပယ်ခြင်းဖြင့် စံပယ်လျက် ဤသရက်ဥယျာဉ်၌ နေတော်မူဖူးပြီ”ဟု မိန့်တော်မူပြီးလျှင် ဤသို့ဇာတ်တော်ကို ပေါင်းတော်မူ၏။

“ငါ၏တပည့်သားတော်အပေါင်းတို့။ ထို နေမိမင်းကြီးဖြစ်တော်မူသောအခါ တာဝတိံသာနတ်ပြည်မှ မိထိလာပြည်သို့လာ၍ ငါ၏ယုံမှားခြင်းကို ပျောက်စိမ့်သောငှာ ဖြေဆိုပြောဟောလာပြီးလျှင် နတ်သဘင်သုဓမ္မာ၌ ငါ၏ဂုဏ်ကျေးဇူးကို အထူးချီးမွမ်း၍မျှ တင်းမတိမ်၊ နတ်ပြည်စီးစိမ်ကိုအပ်နှင်းသော သိကြားမင်းကား ယခု ငါဘုရားဖြစ်တော်မူသောအခါ ငါ၏ဘထွေးတော်ဖြစ်သော ဓောတောဒန သာကီဝင်မင်း၏သား အနုရုဒ္ဓါထေရ် ဖြစ်လာ၏။

“ထိုအခါ သိန္ဓောမြင်း ၁၀၀၀ က,အပ်သော ဝေဇယန္တာရထားဖြင့် ငါ့ကိုတင်ဆောင်၍ ငရဲပြည်, နတ်ပြည်တို့ကိုညွှန်ပြပေသော ရထားမှူးမာတလိကား ယခုအခါ ငါ၏ဘထွေးတော်အငယ် အမိတ္တောဒန သာကီဝင်မင်း၏သား အာနန္ဒာထေရ် ဖြစ်လာ၏။

“ထိုအခါ နေမိမင်းကြီး၏မယ်တော်ကား ယခုအခါ ငါ၏မယ်တော် သီရိမဟာမာယာဒေဝီ ဖြစ်လာ၏။

“ထိုအခါ ၈၄၀၀၀ သော ပဗ္ဗဇ္ဇဝံသ မင်းဆက်တို့တွင် မဃဒေဝမင်း, နေမိမင်း ဤမင်း ၂ ယောက်ကို ထား၍ ကြွင်းသော ပဗ္ဗဇ္ဇဝံသမင်းအပေါင်းတို့သည် ယခုအခါ ငါဘုရား၏ ရဟန်းပရိသတ်, လူပရိသတ် ဖြစ်လာကြကုန်၏။

“ထိုအခါ ပဗ္ဗဇ္ဇဝင်အနွယ်၏ အမွန်အစဖြစ်သော မဃဒေဝမင်း, ပဗ္ဗဇ္ဇဝင်အနွယ်၏ အဆုံးအကွပ် သဖွယ်ဖြစ်သော နေမိမင်းကြီးကား ယခုအခါ ခပ်သိမ်းသော ဥယျာဉ်တရားတို့ကို သိတော်မူပြီးသည်ဖြစ်၍ လောက ၃ ပါး၌ သမ္မာသမ္ဗုဒ္ဓဟု ထင်ရှားစွာအမည်ရသော ငါဘုရားလျှင်တည်း”ဟု ဇာတ်တော်ကို ပေါင်းတော်မူ၏။

[ဤဇာတ်ပေါင်း၌ ဘုံခန်းလင်္ကာမှာ ရှင်အနုရုဒ္ဓါကို, ‘ကျော်တင်ဝှန့်တက်၊ ငါ့လက်ထက်၌၊ ဖြစ်ဆက်ကြိုက်လာ၊ ယခုခါဝယ်၊ ပြင်လျာလုထွား၊ ဘထွေးသားတည့်’ဟူ၍ ဘထွေးတော် ဓောတောဒနမင်းကြီး၏ သားဖြစ်ကြောင်းကို စပ်လေသည်။ နောက် ရေးကူးသူတို့ အယူတွင်ပါ၍ အက္ခရာများယွင်းသဖြင့် ‘ပြင်လျာလုထွား၊ သူဌေးသားတည့်’ဟု စာအများပင်ရှိ၍ ဖတ်ကြလေသည်။ မသင့်။ နောက်ဆင့်ပြောင်းလွဲသူတို့ အက္ခရာ ယွင်းမှားသောကြောင့် လင်္ကာဆရာမှာ အပြစ်ခိုက်ပေသည်။ ထို့ကြောင့် ပုဂ္ဂိုလ်ရည် စကားတည်ကိုထောက်ထား၍ အမှားပင်မြင်သော်လည်း အပြစ်တင်မဦးစေနှင့်ဟု မှတ်အပ်၏။

[နေမိရာဇာ ဟူသောပုဒ်ကို ဝိဂြိုဟ်ဆိုသော်ကား။ အာဒိတော အန္တံ နေ တီတိ နေမိ။ ။ ရထားစက်ဘီး အကွပ်ရစေ။ ။ နိသေယသံမယန္တိ တေသာတိဝါနေမိ။ ။ ၎င်းရစေ။ ။ မိတောဘိန္နတော နိဂ္ဂတောတိဝါ နေမိ။ ။ ၎င်းရစေ။ ။ဝါ။ သူတော်ကောင်းတရားရစေ။ ။ နေမိဝိယာတိနေမိ။ နေမိပကာဒေတီတိဝါ နေမိ။ ။သုဂတိံ နေတီတိဝါနေမိ။ ။ ဓမ္မေနသတ္တေရဉ္ဇေတီတိရာဇာ။ ။ နေမိစသောရာဇာတိနေမိရာဇာ။ ။ မင်းကြီးရစေ။ ။ ဝိဂြိုဟ်အနက်ကား။ ။ ယံ စက္ကန္တံ၊ အကြင်ရထားစက်အကွပ်သည်။ အာဒိတော၊ အစမှ။ အန္တံ၊ အဆုံးကို။ နေတိ၊ ဆောင်တတ်၏။ ဣတိတသ္မာ၊ ထိုသို့ အစမှအဆုံးကိုဆောင်တတ်သော သတ္တိကြောင့်။ တံစက္ကန္တံ၊ ထိုရထားစက်အကွပ်သည်။ နေမိ၊ နေမိမည်၏။ ကိတ်ဝိဂြိုဟ်။ ကတ္တုသာဓန။ နီဓာတ်၊ မိ-ပစ္စည်း။ ။နီဓာတ်၏အရကား အကန့်တို့၏အဆုံး၌ဖွဲ့တတ်သော အကွပ်၏ ယဠနာကာရ သတ္တိရ၏။ မိ-

အရှေ့လေသာပြတင်း၌ နတ်မြင်း ၁၀၀၀ လှည့်ဝိုက်၍ ရထားဆိုက်လျှင် နေမိမင်းကြီးသည် ဝေဇယန္တာရထားမှူး မာတလိနတ်သားအား လေးမြတ်ကြင်နာ မေတ္တာစကားပြောဆို၍ လွှတ်လိုက်ပြီးသော် မျက်စိတဆုံးရှုမျှော်၍ မမျှော်နိုင်သောကာလမှ နန်းပေါ်သဘင်သို့ သက်ဝင်စံပယ်တော်မူလေ၏။

မာတလိနတ်သားသည် နေမိမင်းကြီးကို အရှေ့စမုတ် ပြတင်းလေသာ နေရာပလ္လင်၌ ချတင်ပြီးလျှင် "အရှင်မင်းကြီး။ အကျွန်ုပ် နတ်ပြည်သို့ ပြန်လည်အံ့"ဟု ပြောဆိုမြတ်နိုး ရှိခိုးဖူးမြော်၍ တိမ်ပေါ်ကောင်းကင်ခရီးဖြင့် တန်ခိုးကြီးသောသိကြားမင်းစံရာ တာဝတိံသာနတ်ပြည်သို့ ပြန်လေ၏။

ထိုသို့ နတ်ပြည်က နေမိမင်းကြီးရောက်တော်မူသောအခါ မိဖုရားကြီး, မိဖုရားငယ်, သားတော်, မြေးတော်, ဆွေတော်, မျိုးတော်, မှူးမတ်, မတ်တော်, ပြည်သားပြည်သူ လူအပေါင်းတို့သည် အညီအညွတ် စည်းဝေးလာလတ်၍ "အရှင်မင်းကြီး။ ကိုယ်တော်ကို နတ်ပြည်သို့ပင် အဖြော့င့်တင်ဆောင်၍ သွားလေသလော။ နတ်ပြည်ဆိုသည်ကား အသို့နည်း။ ဤမိထိလာနေပြည်တော်ကြီးထက်ပင် အနအပျို အစည်အပင် သဘင်ပွဲလမ်း ထူးဆန်းအံ့ဖွယ် အသွယ်သွယ်စည်းစိမ် သာချေဦးမည်လော။ ကျွန်ုပ်တို့ပြည် လူ့စည်းစိမ်နှင့် အသို့ထူးသနည်း။ သိခဲ့မြင်ခဲ့တော်မူတိုင်း မိန့်ကြားတော်မူပါ"ဟု မေးမြန်းလျှောက်ကြကုန်၏။

ထိုအခါ နေမိမင်းကြီးသည် မိဖုရား, သားတော်တို့မှစ၍ ပြည်သူပြည်သားအပေါင်းတို့အား နတ်သားမာတလိ တင်ဆောင်လာသည်မှစ၍ နန်းတော်သို့ ပြန်ရောက်သည့်တိုင်အောင် ချမ်းသာ,ဆင်းရဲ ငရဲပြည်, နတ်ပြည် တည်ဟန်နေဟန် ခံ,စံရသောသတ္တဝါတို့၏ အကြောင်းအရာအလုံးစုံကို အကုန်အစင် တွေ့မြင်ကြားသိခဲ့သည်အတိုင်း မကြွင်းမကျန် ပြန်ကြားပြောဆိုတော်မူဦး၍၊ အထူးသဖြင့် တာဝတိံနတ်ပြည်၏ သာယာခြင်း နတ်မင်း,နတ်မိဖုရား, နတ်သား,နတ်သမီးတို့၏ ကြီးမြတ်သောတန်ခိုးကျက်သရေ အရောင်အဝါတို့ကို ချီးမွမ်းပြောဆိုတော်မူပြီးလျှင် ခင်မင်အပ်သော နတ်၏ကာမဂုဏ်မှာ အာရုံကပ်ငြိသဖြင့် ပီတိဖြစ်လေပြီးသော ပရိသတ်အပေါင်းတို့အား

"အချင်းတို့။ ထိုသို့သောစည်းစိမ်ချမ်းသာကို ခံစားရကြကုန်သော သိကြားနတ်မင်း, နတ်မိဖုရား, နတ်သား, နတ်သမီးတို့သည် ရှေးလူဖြစ်သောအခါက ယခု သင်တို့ပြုသောကောင်းမှုကဲ့သို့သော ရှင်လန်းကြည်ညိုစွာ ကုသိုလ်တရား၌ အားထုတ်ဆောင်ရွက် လေ့ကျက်ခဲ့ဖူးလေသောကြောင့် ထိုသို့သောစည်းစိမ်ကို ရကြလေသည်။ နတ်ပြည်စည်းစိမ်နှင့် ငါတို့လူမင်းစည်းစိမ်ကိုစာသော် မင်းတို့စံရာ ရတနာမြနန်းဆောင်နှင့် သူကောင်စွန့်ပစ်ရာသုသာန် ဂုဏ်မတူတန်၍ စံမနှုန်းသင့်သကဲ့သို့ ငါတို့လူ့ဘုံမှာ ဂုဏ်ဝါသေးနုပ် သုသာန်အသွင် မနိုင်းယှဉ်သင့် ဖြစ်ချေသည်။ အထွေထွေအပြားပြား များစွာသောစည်းစိမ် တာဝတိံသာရွှေမြေရပ် နတ်မင်း, နတ်မိဖုရား, နတ်သား, နတ်သမီးအဖြစ်ကို အလိုရှိကုန်သောသူတို့သည် နှစ်လိုကြည်ဖြူ အလှူသီတင်း မကင်းသော ဘာဝနာ, မေတ္တာ, ကရုဏာ, မုဒိတာ, ဥပေက္ခာတရားတို့ကို ငါဆုံးမသည့်အတိုင်း မမေ့မလျော့ ကြိုးစားအားထုတ်ကြကုန်။ ထိုဘုံနန်းရပ်၌ မချွတ်လျှင် သင်တို့ ဖြစ်ကြကုန်လတ္တံ့"ဟု တရားစကား ဟောကြားဆုံးမတော်မူ၏။

ဤသို့ နေမိမင်းကြီးသည် မင်းဖြစ်တော်မူသည်မှစ၍ အလှူပေးခြင်း သီလဆောက်တည်ခြင်းစသော ကုသိုလ် သုစရိုက်တရားတို့၌ ကိုယ်တော်အား လည်းကောင်း၊ တိုင်းသားပြည်သူ လူအပေါင်းတို့အား လည်းကောင်း မမေ့လျော့ပျော့ပါး ကြိုးစားအားထုတ်စေဟောင်းတွင် ကောင်းမှု,မကောင်းမှုအလျောက် အကျိုး,အပြစ်ရောက်သည်ကို မျက်မှောက်ထင်စွာ မာတလိနတ်သား, သိကြားမင်းတို့ကိုမှီ၍ တွေ့ကြုံသိမြင်ခဲ့ရသည်ကို အလွန်လျှင်နှစ်သက်သဖြင့်

ကံ,ကံ၏အကျိုးကိုယုံကြည်ခြင်း သဒ္ဓါစေတနာပြဋ္ဌာန်းလျက် နတ်နန်းဝတီသာက ရောက်လာသည်မှစ၍ ဒါန, သီလ, ဘာဝနာတို့ကို အခါမပြတ်အားထုတ်တော်မူခြင်း၊ ပြည်သူပြည်သားတို့အားလည်း ဒါနကထာ, သီလကထာ, ဘာဝနာကထာတို့ဖြင့် ပုံစံဥပဒေ ထုံးသက်သေပြလျက် ဆုံးမစောင့်ရှောက်တော်မူခြင်းနှင့် ပြည့်စုံစွာ ခန္ဓာအာယုကပ်ကို ၄ ဖို့ပြု၍ တတိယတစ်စုအဆုံးတိုင်အောင် ရန်သူရန်ဖက် နှောင့်ယှက်ခြင်းကင်းသော ကေရာဇ်မင်း၏စည်းစိမ်ကို စိုးစံတော်မူလျက် လောက၏အစီးအပွားကို ဆောင်တော်မူ၏။

ထို နေမိမင်းကြီး၏ လက်ထက်တော်၌ကား ယခု ဘုရားပွင့်တော်မူသောအခါကဲ့သို့ ဘုရားလောင်း၏ အဆုံးအမ၌သာ တည်ကြကုန်သည်ဖြစ်၍ ဤဇမ္ဗူဒိပ်ကျွန်းအပြင်ဝယ် ထိုသို့သောမင်းနေပြည် မြို့, ရွာ, နိဂုံး, ဇနပုဒ်တို့၌နေကုန်သော အမျိုး ၄ပါး ပြည်သားပြည်သူ လူအပေါင်းတို့သည် သဒ္ဓါ,သီလ, သုတ, စာဂ, ပညာ, ဟိရိ, ဩတ္တပ္ပတည်းဟူသော သူတော်ကောင်းဥစ္စာ ၇ ဖြာသောတရားတို့ကို ကြိုးစားအားထုတ်လျက် မယုတ်သောအပွမာဒ ရှိကုန်၏။

## ၃၄။ နေမိမင်းကြီး တောထွက်တော်မူခန်း

နေမိမင်းကြီးသည် နှစ်ပေါင်း အသိန်းမကသော ထီးနန်းစည်းစိမ်၌ စံပျော်တော်မူ၍ တတိယအရွယ်သို့ ရောက်တော်မူသောအခါ တစ်နေ့သ၌ ဆံမုတ်ဆိတ်တော်တို့ကို ဆတ္တာသည်ပြုပြင်သည်ကာလ ဦးခေါင်းတော်၌ ဆံဖြူရောက်သည်ကိုမြင်လျှင် အထက်နန်းစဉ် အမိန့်တော်ရင်းအတိုင်း မင်းကြီးအားလျှောက်ကြားပြီးလျှင် ရွှေမွေးညှပ်ဖြင့်နုတ်ယူ၍ မင်းကြီးအား ပြဆက်လေ၏။ နေမိမင်းကြီးသည်လည်း ထိုဆတ္တာသည်အား ခမည်းတော်, ဘိုးတော်, ရှေးမင်းအဆက်ဆက်တို့ ပြုရိုးထုံးရှိသည့်အတိုင်း ကျေးစားရွာတစ်ရွာ ဆုပေးပြီးလျှင် ဆံဖြူတော်ကို လက်ဝါးပေါ်၌တင်လျက် 'ငါကား ယခု ပထမ, ဒုတိယအရွယ်နှင့်မတူ၊ အိုမှုအိုရုပ်ပေါက်သဖြင့် ရဟန်းပြုအံ့သော အရွယ်ရောက်ပြီ'ဟု ရဟန်းအဖြစ်သို့ ညွတ်သောနှလုံး ရှိတော်မူ၏။

ထိုနေမိမင်းကြီး၌ ထီးနန်းဆက်ခံလတ္တံ့ဖြစ်သော သားတော်အိမ်ရှေ့မင်းကား 'ကာလရဋ္ဌ'အမည်ရှိ၏။ ထိုသို့ 'ရဟန်းပြုအံ့' ဟု ကြံတော်မူသောအခါ နေမိမင်းကြီးသည် သားတော်အိမ်ရှေ့မင်းကို ခေါ်တော်မူ၍

"ချစ်သား။ ယခု ခမည်းတော် ရဟန်းပြုမည် အကြံရှိသည်။ ချစ်သားသည် ငါကဲ့သို့ တရား ၁၀ ပါး နှင့်အညီ ဤမိထိလာပြည်စည်းစိမ်ကို သိမ်းမြန်းဆက်ခံလျက် တိုင်းနိုင်ငံသူ လူအပေါင်းတို့၏ အစီးအပွားကို လည်းကောင်း၊ ဆွေတော်မျိုးတော်တို့၏အစီးအပွားကို လည်းကောင်း ဆောင်ရွက်စောင့်ရှောက်ရစ်"ဟု အပ်နှင်းမှာထား မိန့်ကြားဆုံးမတော်မူ၏။ နေမိမင်းကြီးစကားကို ကြားလေလျှင် သားတော်အိမ်ရှေ့မင်းသည်

"ခမည်းတော်ဘုရား။ အကျွန်ုပ်၌ လည်းကောင်း၊ မယ်တော်၌ လည်းကောင်း၊ မှူးတော်မတ်တော် ပြည်သားပြည်သူတို့၌ လည်းကောင်း တစ်စုံတစ်ခု မနှစ်လို့ဖွယ်သောအပြစ်ကို မြင်တော်မူသောကြောင့်တည်း။

ပစ္စည်း၏ အရကား။ ထိုဖွဲ့ခြင်းသတ္တိ၏တည်ရာ သတ္တိမန်ဖြစ်သော အကွပ်ရ၏။ ။ ဝါ၊ ကား။ တေသ၊ ထိုစက်အကွပ်အား။ နိယေသံ၊ အကြွင်းမဲ့။ နာဘိ အရာ၊ ပုံတောင်းအကန့်တို့သည်။ မယန္တိ၊ ပြီးတတ် ဆုံးတတ်ကုန်၏။ ဣတိတသ္မာ၊ ထိုသို့ ပုံတောင်းအကန့်တို့၏ ပြီးရာဆုံးရာဖြစ်သော သတ္တိကြောင့်။ တံ စက္ကန္တံ၊ ထိုစက်ဘီးအကွပ်သည်။ နေမိ၊ နေမိ မည်၏။ ကိတ်ဝိဂြိုဟ်၊ သမ္ပဒါနသာဓန။ နိသဒ္ဒူပပဒ မိဓာတ် ကွိ–ပစ္စည်း။ မိဓာတ်၏အရ ကတွတ္ထ ကိရိယာကား၊ ပုံတောင်းအကန့်အဆုံးတို့၏ ပတိဋ္ဌာန သတ္တိသည်မုချ။ တေသဟူသော သမ္ပဒါနတ္ထအရကား ထိုသတ္တိကိုခံတတ်သော အကွပ်၏ ပဋိဂ္ဂဟဏာကာရဘောသည် ဌာနူပစာရတ္တရ၏။ ကွိ–ပစ္စည်း အရကား၊ ထို မုချ ဥပစာရတို့ဖြင့်မှတ်အပ်သော အကွပ် ရ၏။

[ဝါ၊ ကား။ ယံစက္ကန္တံ၊ အကြွင်စက်အကွပ်သည်၊ တစ်နည်းလည်း။ ယောသဒ္ဓမ္မော၊ အကြွင် သူတော်ကောင်းတရားသည်။ မိတောဘိန္နတော၊ ပျက်စီးခြင်းမှ နိဂ္ဂတော အပဟတော၊ ကင်းစေတတ်သည်တည်း။ ဣတိတသ္မာ၊ ထိုသို့ ပျက်စီးခြင်းမှ ကင်းစေတတ်သောသတ္တိကြောင့်။ တံ စက္ကန္တံ၊ ထို စက်အကွပ်သည်။ ဝါ၊ သောသဒ္ဓမ္မော၊ ထို သူတော်ကောင်းတရားသည်။ နေမိ၊ နေမိ မည်၏။ အဗျယီဘော သမာသ်ဝိဂြိုဟ် နိပုဒ် မိပုဒ် သမာသ်ပုဒ်၏ အရကား၊ ပုံတောင်းအကန့်တို့၏ မပျက်စီးခြင်းကိုဖြစ်စေတတ်သော စက်အကွပ် ရ၏။ တစ်နည်းလည်း၊ အပါယ ဒုက္ခစသည်တို့ဖြင့် မပျက်စီးစေကြောင်းဖြစ်သော သူတော်ကောင်းတရား ရ၏။ ။ ယော ခတ္တိယော၊ အကြွင်မင်းသည်။ နေမိဝိယ၊ အစမှအဆုံးသော ဆောင်တတ်သောအကွပ်ကဲ့သို့။ ဝါ၊ ပုံတောင်းအကန့်တို့၏ ပြီးရာဆုံးရာဖြစ်သော အကွပ်ကဲ့သို့။ ဝါ၊ ပုံတောင်းအကန့်တို့ကို မပျက်စီးစေတတ်သော အကွပ်ကဲ့သို့။ ဟောတိ၊ အစဖြစ်သော မဃဒေဝမင်းမှ အဆုံးဖြစ်သောပဗ္ဗဇ္ဇဝင်ကို ဆောင်သောအားဖြင့်။ ဝါ၊ ၈သောင်း ၄ ထောင်သောပဗ္ဗဇ္ဇဝင်တို့၏ အပြီးအဆုံးအားဖြင့်။ ဝါ၊ ပဗ္ဗဇ္ဇဝင်ကို မပျက်စီးစေသောအားဖြင့် ဖြစ်စေတတ်၏။ ဣတိတသ္မာ၊ ထိုသို့သတ္တိ ၃ပါးရှိသော အကွပ်နှင့်တူသည်၏အဖြစ်ကြောင့်။ သောခတ္တိယော၊ ထိုမင်းသည်။ နေမိ၊ နေမိ မည်၏။ ။ ဥပမာတဒ္ဓိတ်၊ ဏ–ပစ္စည်း။ ဝါ၊ ကား။ ယော ခတ္တိယော၊ သည်။ နေမိ၊ သတ္တဝါတို့ကို အပါယဒုက္ခစသည်တို့ဖြင့် မပျက်စီးစေတတ်သော သူတော်ကောင်းတရားကို။ ပကာသေတိ၊ ဟောကြားညွှန်ပြတတ်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ သောခတ္တိယော၊ သည်။ နေမိ၊ နေမိမည်၏။ ။ ပကာသေတိတဒ္ဓိတ်ဝိဂြိုဟ်။

[ဝါ၊ ကား။ ယောခတ္တိယော၊ သည်။ သုဂတိ၊ သုဂတိဘဝသို့။ သတ္တေ၊ တိုင်းသားပြည်သူ လူအပေါင်းတို့ကို။ နေတိ၊ ဆောင်တတ်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ သောခတ္တိယော၊ သည်။ နေမိ၊ နေမိ မည်၏။ ။ ကိတ်ဝိဂြိုဟ်၊ ကတ္တုသာဓန၊ နီဓာတ်။ မိ–ပစ္စည်း။ နီဓာတ်အရကား၊ နေမိမင်းကြီး၏ အဆုံးအမ သီလ, စာဂ စသောဂုဏ်ကို အာရုံအလေးအမြတ် အမှီပြု၍ဖြစ်သော ပြည်သားပြည်သူတို့၏ ယောနိသော မနသိကာရ သဒ္ဓါ, ဝီရိယ, သတိ, ပညာ ပြဋ္ဌာန်းသောအားဖြင့် ဒါနမယ, သီလမယ, ဘာဝနာမယ ကိစ္စကိုပြီးစေတတ်သော မဟာကုသိုလ်ဇော စိတ္တုပ္ပါဒ်သည် မုချ။ ဒါန, သီလ စသောဂုဏ်တို့၏ အာရမ္မဏာအဓိပတိ ဥပနိဿယသတ္တိသည် ဖလူပစာရတ္တအားဖြင့် ရ၏။ မိ–ပစ္စည်းအရကား ထို မုချဥပစာရတို့ဖြင့်မှတ်အပ်သော ခန္ဓာပဉ္စက သင်္ခါန်ကိုစွဲ၍ နေမိဟု သမုတ်အပ်သောမင်း ရ၏။ ။ ယော ခတ္တိယော၊ သည်။ ဓမ္မေန၊ တရား ၁၀ပါးဖြင့်။ သတ္တေ၊ ပြည်သူ ပြည်သားတို့ကို။ ရဉ္ဇေတိ၊ တပ်စေတတ်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ သော ကတ္တိယော၊ သည်။ ရာဇာ၊ မည်၏။ ။ နေမိစ၊ နေမိ အမည်ရှိသည်လည်း။ ဟောတိ၊ ဖြစ်၏။ သော၊ ထို

နေမိသည်။ ရာဇာစ၊ ပြည်ကြီးရှင် မင်းသည်လည်း။ ဟောတိ၊ ဖြစ်၏။ ဣတိတသ္မာ၊ ထို ၂ပါးသောသတ္တိကြောင့်။ သော ခတ္တိယော၊ သည်။ နေမိရာဇာ၊ နေမိမင်း မည်၏။

[မာတလိကို ဝိဂ္ဂြိုလ်ဆိုမှုကား။ ။ မာဝိယစန္ဒော ဝိယ တလတိဂစ္ဆတိ ဒိဗ္ဗတိ တိဝါ မာတလော။ ။ နတ်ရထား ရစေ။ ။ မာတလော အဿ အတ္ထိတိ မာတလိ။ ။ဤသို့ စသည်ဖြင့်ပြုလေ။ ။ ယောရထော၊ အကြင် ဝေဇယန္တာရထားသည်။ မာဝိယစန္ဒောဝိယ၊ လပြည့်ဝန်းကဲ့သို့။ တလတိ ဂစ္ဆတိ၊ သွားတတ်၏။ ဝါ၊ ဒိဗ္ဗတိ၊ ထွန်းပတတ်၏။ ဣတိတသ္မာ၊ ထိုသို့ လပြည့်ဝန်းကဲ့သို့ သွားတတ်, ထွန်းပတတ်သောသတ္တိကြောင့်။ သော ရထော၊ သည်။ မာတလော၊ မာတလ မည်၏။ ။ အဿဒေဝပုတ္တဿ၊ ထိုနတ်သားအား။ မာတလော၊ လနှင့်တူသော ဝေဇယန္တာရထားသည်။ အတ္ထိ၊ ရှိ၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ သော ဒေဝပုတ္တော၊ သည်။ မာတလိ၊ မာတလိ မည်၏။]

**နေမိဇာတ်တော်ကြီး ပြီး၏။**

## နိဂုံး

၁။ မင်္ဂလပူရေ သတဋ္ဌာနေ၊ ဂါမေ လေသာဘိဓေယျကေ။
သီရိ ဝိဇ္ဇ ဝေါ ဒါရာမေ၊ လီနတ္ထ မေသိ ဘူမိတော။
၂။ ဂရု ဂါရဝ ဘာဝိသ္မိ၊ မဟာ ထေရဿ သီဿေန။
ဓာတိယာစ မဟာ စရိယ၊ ပါစရိယာန သေဋ္ဌေန။
၃။ သာဓေကေထ ဓာတိ ဉာတေန၊ ဥဒ္ဒါရေတွာစ ဘာသတော။
သြဘာသောတိပိ နာမေန၊ ဥဘယတ္ထံ ဝိဓာနတော။
၄။ ကုဟာကေ မဝဘာသတွာ၊ သန္တေသု ဓုကဘူသာသတော။
ဉာဏာ လောကေန ဓောတတွာ၊ ဣတိဝေါ ဟာရိ တေနစ။
၅။ မယာ မလပ ဝေါဒန္တိ၊ ကတံ ပီတိ ဝိဝဍ္ဎနံ။
သောတာ လက်ာရ ဘူတာနံ၊ ပုည ဝိဇ္ဇဝ ဗုဒ္ဓိယာ။
၆။ ဓိန စန္တေ ဖလဂ္ဂသြေ၊ သက္ကရာဇေ ပိယာဝဒေ။
သမ္ပတ္တာ သဋ္ဌမာသေစ၊ ဓုဏ္ဏေ ပဉ္စမဒိဗ္ဗဟေ။
၇။ ဖြိုဿာယံ လက္ခဏာ သမ္ပတ္တေ၊ ကညေ စန္ဒိမ သံယုတေ။
ကိစ္စာကိစ္စ မဟာပေတန္တိ၊ နိဋ္ဌင်္ဂတ မနာ ယာသာ။
၈။ ယထာမေ သဗ္ဗစိန္တာစ၊ သမိဇ္ဈာ ပတ္တိ ပတ္တိတံ။
ခိပ္ပံခိပ္ပံ သမိဇ္ဈန္တု၊ မဏိဇောတိရ သူပမံ။
၉။ မနောရထံ နော ရာဓာပိ၊ ဠပေန္တော၀ သုခေ ပဇံ။
ဓမ္မေနေ၀ သုပူရေတု၊ ဇနောစ ပုညမင်္ဂလံ။
၁၀။ ဂုရုပိ မေ ဂုဏာဓိပ္ပော၊ ရောဂါဒီဟိ ဝူပသမော။
ယထာ သုခံ တထာ ဟောတု၊ ပီတိ ပါမောဇ္ဇ သုဒ္ဓိယာ။
၁၁။ ဉာတိ မိတ္တာ တဒညာပိ၊ သုခီ အတ္တာ သတဒ္ဓနာ။
အမညမည် ပီယံ ဟောတု၊ မမပုညသ္သ တေဇသော။
၁၂။ ဣတော ယာ၀ ဘ၀သ္မိန္တိ၊ မယှံ ဂုဏေန သေဋ္ဌတံ။
ဟိတ သုခဋ္ဌ သဗ္ဗေသံ၊ တအံ ကောသလ္လေန ဝါ ဟာတံ။
၁၃။ ကာရိတာ သဂ္ဂမဂ္ဂဿ၊ စသာ မေ ပဗ္ဗယော ဟောတု။
သဗ္ဗေ သတ္တာ နုမောဒန္တု၊ အညမည် သမ်လဘော။

(ဒုတိယဂါထာဝတ္ထုသက်သက်။ ။ အကြွင်းဂါထာပဏ္ဏာဝတ္ထုချည်း။)

၁။ သတဠ္ဌာနေ၊ ၁၀၈ ကွက် ခြေစက်တော်ရာသို့ တက်ရာဆိပ်ကမ်းလည်း ဖြစ်ထသော။ မင်္ဂလာပူရေ၊ လူရှင်ရဟန်း ရွှင်လန်းကြည်ညို ကုသိုလ်မင်္ဂလာ ဖြည့်ကျင့်ရာလည်း ဖြစ်ထသော။ ဝါ၊ စေတီလိုဏ်နန်း ရဟန်းသံဃာ မင်္ဂလာအပေါင်း အကောင်းအမြတ် ကျက်သရေတို့ဖြင့်လည်း ပြည့်ထသော။ ဂါမေ၊ မင်းပူးရွာ၌။ ဝါ၊ သတဠ္ဌာနေ၊ သူတော်ကောင်းတို့နေရာဖြစ်ထသော။ မင်္ဂလပူရေ၊ မင်းပူးအမည်ရှိသော ဂါမေ၊ ရွာ၌။ ။ (ဤအလိုကား မင်္ဂလပူရ ဟုဆိုအပ်လျက် မင်္ဂလ၌ ဂလသဒ္ဒါကိုချေ၍ ပူရ၌ ရကိုချေ၍ မြန်မာဘာသာအားဖြင့် အဆုံး၌ ဝိသဇ္ဇနီသံဖြင့် မင်းပူးဟု ခေါ်ဝေါ်သည် ဟူလို)။ ။လီနတ္ထံ၊ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာတို့၌ ကွယ်ဝှက်ခဲခက်သောအနက်ကို။ သေိဘူမိတော၊ စာသင်သား တရားနာသူ လူရှင်ရဟန်းတို့၏ ရှာမှီးရာဖြစ်သောကြောင့်။ လေဘာဘိဓေယျကော၊ လေသာဟု ပညတ်ကြောင်း အနက်ရှိထသော။ သိရိဝိဗ္ဘဝေါဒါ ရာမေ၊ ကျက်သရေစည်းစိမ် ပြန့်ပွားကြောင်း ကောင်းမှုဖြင့် မွေ့လျော်ရာဖြစ်သောကျောင်းတိုက်၌။ ဝသန္တေန၊ သင်ကြားကြည့်ရှု သုတရှာဖွေနေထသော။ ။ (မယာဟူသော နောက်ပုဒ်မှာစပ်)။

၂။ ဂရုဂါရဝဘာဝိသ မဟာထေရဿ၊ အရိုအသေ အလေးအမြတ်ပြုအပ်သော သီလ, သမာဓိ, ပညာအစရှိသော ဂုဏ်တို့နှင့်ပြည့်စုံတော်မူသော မဟာထေရ်မြတ်၏။ သိဿေန၊ လက်ရင်းတပည့်လည်း ဖြစ်ထသော။ ဇာတိယာ၊ အမျိုးအားဖြင့်။ မဟာစရိယ ပါစရိယာန သေဋ္ဌေန၊ ဆရာအဆက်ဆက်အားဖြင့် မြတ်သည်ဖြစ်၍ အစဉ်ချီးမွမ်းအပ်သော ဆရာ၏တပည့်လည်းဖြစ်ထသော။

၃။ သာကေတဇာတိဉာတေန၊ ရပ်သာမြို့ အသည်ကြီးသားလည်း ဖြစ်ထသော။ ။(မယာမှာ ချည်းစပ်)။ ။ နာမေနပိ၊ အမည်အားဖြင့်လည်း။ ဥဠ္ဌါရေတွာ၊ အလျို့အဝှက် အနက်အဓိပ္ပာယ်ကို ယူလွယ်သိသာ နာပျော်ဖွယ်ဖော်ထုတ်၍။ ဘာသာတောစ၊ အစွမ်းအားလျော်စွာ ဖြေဆိုတတ်သည်၏အဖြစ်ကြောင့် လည်းကောင်း။ (ဤကား ဥသဒ္ဒါုပပဒ၊ ဘာသဓာတ် ကြံသည်)။ ဥဘယတ္ထံ၊ ကိုယ့်အကျိုး သူ့အကျိုးကို။ ဝိဇာနတောစ၊ ဆင်ခြင်နှိုင်းညို သိတတ်သည်၏အဖြစ်ကြောင့် လည်းကောင်း။ (ဤကား ဥဘသဒ္ဒါုပပဒ၊ အသဓာတ်ကြံသည်)။

၄။ ကုဟကေ၊ မဖြောင့်သော ကိုယ်,နှုတ်ဖြင့် စဉ်းလဲစဉ်းစားပြုတတ်ကုန်သော သူတို့ကို။ အဝဘာ သတ္တာစ၊ လျော်ကန်နိမ့်မြင့် အသင့်လိုက်ဖက် နှစ်သက်ရာဆိုတတ်သည်၏ အဖြစ်ကြောင့် လည်းကောင်း။ (ဤကား အဝသဒ္ဒါုပပ၊ ဘာသဓာတ်ကြံသည်)။ သန္တေသု၊ ဖြောင့်မှန်ရိုးသားစွာ စကားကိုယ်,နှုတ် ရှိကုန်သော သူတော်ကောင်းတို့၌။ ဥဇုကဘာသတောစ၊ ဖြောင့်ဖြောင့်စင်းစင်း အနင်းအကျော်ခံ၍ ကျိုးနွံစွာဆိုတတ်သည်၏ အဖြစ်ကြောင့်လည်းကောင်း။ (ဤကား ဥဇုသဒ္ဒါကို ဩအပြုကြံသည်)။ ဉာဏာလောကေန၊ ရွှင်လန်းသော ဉာဏ်ရောင်ခြည်ဖြင့်။ ဓောတတ္တာစ၊ ထွန်းပတတ်သည်၏ အဖြစ်ကြောင့်လည်းကောင်း။ (ဤကား အဝသဒ္ဒါုပပဒ၊ ဘာသဓာတ်၊ ဒိဗ္ဗတိ အနက်ကြံသည်)။ ဣတိဣမေဟိ ဝစနတ္ထေဟိ၊ ဤသို့သော ဝစနတ္ထတို့ကြောင့်။ ဩဘာသောတိ၊ ဩဘာသဟူ၍။ အာစရိယေဟိ၊ ဆရာမြတ်တို့သည်။ ဝေါဟရိတေန၊ ခေါ်ဝေါ်ပညတ် သမုတ်အပ်ထသော။

၅။ မယာ၊ ငါသည်။ မလစိတ္တာနံ၊ တစ်စုံတစ်ခု ဒုစရိုက်တည်းဟူသော မြူတင်သောစိတ် ရှိကုန်သော သူတို့၏။ မလပဝေါဒန္တံ၊ စိတ်အညစ်အကြေးကို ဖွပ်ဆေးလျှော်တတ်သည်၏ အဖြစ်ကြောင့် ခဝါရေကြည်သဖွယ် လည်း ဖြစ်ထသော။ သုဇနာနံ၊ ဒုစရိုက်တည်းဟူသော မြူမတင်သည်ဖြစ်၍ စင်ကြယ်ကုန်သောသူတို့၏။ ပီတိဝိဝဓုနံ၊ ဒေဝတာနုဿတိစသော အာရုံသို့ သက်ဝင်သည်ဖြစ်၍ ရွှင်လန်းနှစ်သက်ခြင်းကိုလည်း ပွားစေတ...

ထသော။ ယံ၀တ္ထုံ၊ အကြင် နေမိဇာတ်ဝတ္ထုကို။ သောတာ လက်ာရဘူတာနံ၊ သောတဒ္ဒါရဝီထိ၌ တန်ဆာသဖွယ်ဖြစ်၍ ဖြစ်ကုန်သောသူတို့အား။ ပုညဝိဇ္ဇာဝဟုဒ္ဒိယာ၊ ကုသိုလ် ဟူသော အနုဂါမိက စည်းစိမ်ပွား များစေခြင်းငှာ။ (ဘုန်းကျက်သရေပညာ ပြန့်ပွားစေခြင်းငှာ လည်းဟူ)။ မြန်မာဘာသာယ၊ မြန်မာဘာသာ စကားပြေဖြင့်။ ကတံ–ရစိတံ၊ ရေးစီရင် အပ်ပြီ။ တံဇာတကဝတ္ထု၊ ထို နေမိဇာတ်ဝတ္ထုသည်။ (နိဋ္ဌဂံတံမှာစပ်)

၆။ ဖလဂ္ဂဍေ၊ လောကုတ္တရာတရားတည်းဟူသော အကျိုးထူးလည်း ရှိထသော။ ဇိနစက္ကေ၊ မြတ်စွာဘုရားသာသနာတော်စက်သည်။ ဖလဂ္ဂဍေ၊ ၂၃၃၀ သို့။ ပိယာ၀ဒေ၊ လူတို့သည် အလေးအမြတ် ဖြတ်တမ်း မှတ်စာ အက္ခရာကမ္မည်းတင်၍ ဆောင်အပ်သော။ သက္ကရာဇေ၊ ကောဇာသက္ကရာဇ် ရှည်သည်။ ပိယာ၀ဒေ၊ ၁၁၄၈ သို့။ သမ္ပတ္တေ၊ ရောက်လတ်သော်။ အာသဠမာသေ၊ ဝါဆိုလ၌။ ဇုဏှေ၊ လဆန်းပက္ခဖြစ်သော။ ပဌမ ဒိဗ္ဗဟေ၊ ထိုနှစ် သက္ကရာဇ်စွန်းဖြစ်သော ၅ ရက် သောကြာနေ့၌။

၇။ ကဍေစန္ဒိမသံယုတေ၊ ကန်ရာသီ ပြုဗ္ဗာဘဒ္ဒရုဒ္ဓ်ိနက္ခတ်နှင့် စန်းယှဉ်စဉ်။ ဗြိ စ္ဓာယံ၊ ဗြိစ္ဆာရာသီသည်။ လက္ခဏာသမ္ပတ္တေ၊ လက်သို့ရောက်သည်ရှိသော်။ (နိဋ္ဌဂံတံမှာချည်းစပ်)။ ။ ကိစ္စာကိစ္စံ၊ စာပေသင်ခြင်း, ကြည့်ရှုခြင်း, ပို့ချခြင်းအစရှိသော ကိစ္စကြီးငယ်ကိုလည်း။ အဟာပေတန္တံ၊ မယုတ်စေမူ၍။ အနာယာသာ–အနာယာသေန၊ မပင်မပန်းသဖြင့်။ နိဋ္ဌ၊ ပြီးဆုံးခြင်းသို့။ ဂတံ၊ ရောက်ပြီ။ ဝါ၊ နိဋ္ဌဂံတံ၊ အပြီးဆုံး နိဂုံးကမ္မတ်သတ်ရပြီ။ ဣဒံ ဝတ္ထု၊ ဤဇာတ်ဝတ္ထုသည်။ အနာယာသာ၊ ကိုယ်,စိတ် မပင်မပန်းသဖြင့်။ နိဋ္ဌဂံတံယထာ၊ အပြီးရောက်သကဲ့သို့။

၈။ ကထာ၊ ထို့အတူ။ တေနပုညေန၊ ထိုကျမ်းပြုခြင်း ကောင်းမှုအစွမ်းကြောင့်။ မေ–မမ၊ ငါ၏။ သဗ္ဗစိန္တာစ၊ ခပ်သိမ်းကုန်သော အကြံတို့သည် လည်းကောင်း။ သဗ္ဗိစ္ဆာစ၊ ခပ်သိမ်းသော အလိုတို့သည် လည်းကောင်း။ ပတ္ထိပတ္ထိတံ၊ တောင့်တတိုင်း တောင့်တတိုင်း။ မဏိဇောတိရသူပမံ၊ မဏိဇောတိရသ် ပတ္တမြားမျက်ရှင်ကို ဆောင်ရသည်နှင့်အတူ။ အနာယာသာ– အနာယာသေန၊ မပင်မပန်းသဖြင့်။ ခိပ္ပံခိပ္ပံ၊ လျင်စွာ လျင်စွာ။ သမိဇ္ဈန္တု၊ ပြည့်စုံစေကုန်သတည်း။

၉။ နော၊ ငါတို့၏။ ရာဇာပိ၊ မဟာဓမ္မရာဇ်မင်းမြတ်သည်လည်း။ ပဇံ၊ တိုင်းသူတိုင်းသား အများသတ္တဝါအပေါင်းကို။ သုခေ၊ ငြိမ်ဝပ်ချမ်းသာခြင်း၌။ ထပေန္တော၀၊ ကရုဏာပြဋ္ဌာန်းခြင်းဖြင့် တည်စေလျက်လျှင်။ အနာယာသာ၊ မပင်မပန်း။ ဓမ္မေနေ၀၊ တရားသဖြင့်လျှင်။ မနောရထံ၊ နှလုံးအလိုသည်။ သုပူရေတု။ ကောင်းစွာ ပြည့်စေသတည်း။ ။ သုခေဋ္ဌိတော၊ ရွှင်လန်းသာယာ ငြိမ်းချမ်းခြင်း၌ တည်ပေပြီးသော။ မနောစ၊ တိုင်းသားပြည်သူ လူအပေါင်းသည်လည်း။ ပုညမင်္ဂလံ၊ ဒါနံ, သီလ အစရှိသော ကုသိုလ်မင်္ဂလာကို။ သုပူရေတု၊ ကောင်းစွာ ဖြည့်ကျင့်စေသတည်း။

၁၀။ ဂုဏောဓိပ္ပော၊ သီလ အစရှိသောဂုဏ်တို့ဖြင့် တပည့်အပေါင်းတို့၏အကြီးဖြစ်သော။ ဝါ၊ မေ၊ ငါ၏။ ဂုဏာဓိပ္ပေါ၊ ကျေးဇူးရှင်ဖြစ်သော။ ဂုရုပိ၊ ဆရာမြတ်သည်လည်း။ ရောဂါဒိဟိ၊ အနာအစရှိသော အန္တရာယ်တို့မှ။ ဂူပသမော၊ ကင်းငြိမ်းတော်မူသည်ဖြစ်၍။ ယထာ၊ အကြင်နေရာစသည်ဖြင့်။ သုခံ၊ ကိုယ်,စိတ် ချမ်းသာတော်မူ၏။ တထာ၊ ထိုနေရာ စသော ကိုယ်တော်, စိတ်တော်ချမ်းသာရာရှိခြင်းသည်။ ပီတိပါမောဇ္ဇသုဒ္ဓိယာ၊ မဟာကုသိုလ် သောမနဿသဟဂုတ် ဇောတိတ္တုပ္ပါဒ်ဖြင့် နှစ်သက်ဝမ်းမြောက်ခြင်း ရှိသည်ဖြစ်၍ နှလုံးတော်၏ စင်ကြယ်ခြင်းငှာ။ ဝါ၊ ပီတိပါမောဇ္ဇလျှင် နီးစွာသောအကြောင်းရှိသော သီလ,သမာဓိ စသောဂုဏ်တို့ဖြင့် အတိုင်းထက်အလွန် စင်ကြယ်စေခြင်းငှာ။ ဟောတု၊ ဖြစ်စေသတည်း။

၁၁။ မမပုညသ၊ ငါ ယခုပြုအပ်သော ကောင်းမှု၏။ တေဇသာ၊ အစွမ်းဖြင့်။ ဉာတီစ၊ အဆွေအမျိုးတို့သည် လည်းကောင်း။ မိတ္တာစ၊ အဆွေခင်ပွန်းတို့သည် လည်းကောင်း။ တဒညာပိ၊ ထိုမှတစ်ပါး များစွာကုန်သော သတ္တဝါအပေါင်းတို့သည် လည်းကောင်း။ သုခီအတ္တာ၊ ချမ်းသာသော ကိုယ် ရှိကုန်သည်ဖြစ်၍။ သတဒ္ဓနာ၊ သူတော်ကောင်းတို့ဥစ္စာဖြစ်သော ကုသိုလ်တရားတို့ကို ပွားစေကုန်လျက်။ အညမည်။ အချင်းချင်း။ ပိယံ၊ လေးမြတ်ချစ်ခင် ကြင်နာမြတ်နိုးခြင်းသည်။ ဟောတု၊ ဖြစ်စေသတည်း။

၁၂-၁၃။ မေ၊ ငါ၏။ သောစေတနာ၊ ဤ အလုံးစုံသော ကုသိုလ်စေတနာသည်။ ဣတော၊ ဤ ယခုနေ့မှ။ ပဋ္ဌာနယ၊ စ၍။ ယာဝဘဝသန္တံ၊ နိဗ္ဗာန်ရသော ဘဝတိုင်အောင်။ မယှံ၊ ငါ၏။ ဂုဏေန၊ ဂုဏ်ဖြင့်။ သေဋ္ဌတဥ္စ၊ ချီးမွမ်းအပ်သည်အဖြစ်ကို လည်းကောင်း။ သဗ္ဗေသံ၊ ခပ်သိမ်းသောသူတို့၏။ ဟိတသုခဥ္စ၊ စီးပွားချမ်းသာကို လည်းကောင်း။ တံကောသလ္လေန၊ ထိုသို့သော အခွင့်အရာတို့၌ လိမ္မာသောပညာဖြင့်။ ဝါဟတံ၊ ဆောင်စွမ်းနိုင်သည်၏ အဖြစ်ကို။ ကာရိတာ၊ ပြီးစေလျက်။ သဂ္ဂမဂ္ဂဿ၊ နတ်ပြည်မဂ်ဖိုလ်၏။ ဝါ၊ သယမ္ဘုဖြစ်၍ ကောင်းမြတ်သော အရဟတ္တမဂ်၏။ ပစ္စယော၊ အဆောက်အအုံသည်။ ဟောတု၊ ဖြစ်စေသတည်း။ သဗ္ဗေ၊ ခပ်သိမ်းကုန်သော။ သတ္တာ၊ သတ္တဝါတို့သည်။ မမ၊ ငါ၏။ ပုညံ၊ ကုသိုလ်အကျိုးကို။ အညမည်။ အချင်းချင်း။ သမံ၊ ငါနှင့်ထပ်တူ။ လဘော၊ လဘန္တု၊ ရစေကုန်သတည်း။ အနုမောဒန္တု၊ ဝမ်းမြောက်ဝမ်းသာ သာဓုလည်းခေါ်စေကုန်သတည်း။

"ဤသူမူကား ရထားနောက်က ထက်ကြပ်ပင်လျှင်လိုက်၏။
ထိုသို့လျက် ဤရထားကို လွှတ်သောသူလောက်မျှ ပန်းဟန်မထင်။
ကိုယ်တွင်လည်း ချွေးတစ်ပေါက်မျှ မထွက်။
ထွက်သက်ဝင်သက်လည်း မလှိုက်မဖို။
မည်သည်ကိုမျှလည်း ကြောက်လန့်ခြင်း မရှိ။
မျက်စိကြောင်ကြောင် မျက်တောင်မျှလည်း မခတ်။
ဤအတ္တုပ္ပတ်ကို ထောက်ထားသော်
သိကြားနတ် စင်စစ် ဖြစ်သည်။ လူ မဟုတ်" ဟု ဆိုပြီးလျှင်၊
သိကြားကို "သင် သိကြား မဟုတ်လော" ဟု မေး၏။

သိမ်မွေ့နက်နဲ
ခက်ခဲသောပြဿနာ၏ အနက်ကို
ကြံခြင်းဟူသည်၌
ကြောက်ရွံ့ညှိုးရသောသူ ရှိသောအရပ်၊
လူပရိသတ် ထူထပ်ရာအရပ်တို့၌
နှလုံးတုန်လှုပ်ခြင်း၊ ပျံ့လွင့်ခြင်း၊
စိတ်များခြင်း ရှိသဖြင့်
တည်ကြည်ခြင်းကို မရနိုင်။
စိတ်၏ တည်ကြည်ခြင်းကို
မရနိုင်သဖြင့်လည်း
အသင့်အမှန်ကျအောင်
လျင်စွာမဖြေဆိုနိုင်။

အရှင်မင်းကြီး။ လျှို့ဝှက်အပ်သော အမှုကို
လျှို့ဝှက်မှုသာလျှင် ကောင်း၏။ လျှို့ဝှက်အပ်သော အမှုကို
မလျှို့ဝှက်မူ၍ သူတစ်ပါးအား ပြောမှားချေသော်
နောင် မကောင်းဖြစ်တတ်၏။

မင်းသားသည်လည်း ထိုမှ ခဲဖွယ်ကိုစားလျက်နေလတ်သော်
ချိုသောအရသာ, အနံ့ဖြင့် ယင်တို့သည်လာလတ်၍ မိမိကိုယ်ကို အုံကြကုန်၏။
မင်းသားသည် ယင်မအုံစိမ့်သောငှာ လက်၌ရှိသော ခဲဖွယ်ကို အတန်ငယ်ဖဲ့ခြွေ၍
ကြမ်း၌ အစုစုအပေါက်ပေါက်ချပုံပြီးလျှင်၊ လက်၌အုံသောယင်တို့ကို လက်ဖြင့်ပုတ်ခတ်၍ ပျံ့စေ၏။
ယင်းအပေါင်းတို့သည်လည်း မင်းသား လက်၌မအုံဘဲ
ထိုကြမ်း၌ပုံသော ခဲဖွယ်ပေါက်တို့၌သာလျှင် အုံကြကုန်၏။



'ခပ်သိမ်းသော မိန်းမကောင်းတို့၏ ကြန်အင်လက္ခဏာနှင့် ပြည့်စုံ၏။ ဘုန်းရှိသော မိန်းမပေတည်း။
ဤမိန်းမ၌ အကယ်၍ မိတ်လင်ခင်ပွန်း မရှိသောမူ ငါ၏အလုပ်အကျွေး ဖြစ်ထိုက်လှ၏။' ဟု ကြံ၏။...
'ငါသည် ဤလုလင်ပျို၏ အိမ်သူဖြစ်ရလျှင် ခဏမကြာ ဥစ္စာစီးပွား များမြတ်တိုးတက် ခိုင်ဖြိုးစေလျက်
သူကြွယ်ကြီးခံရအောင်လည်း တတ်နိုင်ရာ၏။' ဟု ကြံ၏။...

"ဤသူမှကား ရထားနောက်က ထက်ကြပ်ပင်လျှင်လိုက်၏။
ထိုသို့လျက် ဤရထားကို လွှတ်သောသူလောက်မျှ ပန်းဟန်မထင်။
ကိုယ်တွင်လည်း ချွေးတစ်ပေါက်မျှ မထွက်။
ထွက်သက်ဝင်သက်လည်း မလိုက်မဖို။
မည်သည်ကိုမျှလည်း ကြောက်လန့်ခြင်း မရှိ။
မျက်စိကြောင်ကြောင် မျက်တောင်မျှလည်း မခတ်။
ဤအထွတ္ထုဗ္ဗတ်ကို ထောက်ထားသော်
သိကြားနတ် စင်စစ် ဖြစ်သည်။ လူ မဟုတ်" ဟု ဆိုပြီးလျှင်၊
သိကြားကို "သင် သိကြား မဟုတ်လော" ဟု မေး၏။

သိမ်မွေ့နက်နဲ
ခက်ခဲသောပြဿနာ၏ အနက်ကို
ကြားခြင်းဟူသည်၌
ကြောက်ရွံ့ခဲ့ညားရသောသူ ရှိသောအရပ်,
လူပရိသတ် ထူထပ်ရာအရပ်တို့၌
နလုံးတုန်လှုပ်ခြင်း, ပျံ့လွင့်ခြင်း,
စိတ်မှားခြင်း ရှိသဖြင့်
တည်ကြည်ခြင်းကို မရနိုင်။
စိတ်၏ တည်ကြည်ခြင်းကို
မရနိုင်သဖြင့်လည်း
အသင့်အမှန်ကျအောင်
လျင်စွာမပြောဆိုနိုင်။

အရှင်မင်းကြီး၊ လျို့ဝှက်အပ်သော အမှုကို
လျို့ဝှက်မှုသာလျှင် ကောင်း၏။ လျို့ဝှက်အပ်သော အမှုကို
မလျို့ဝှက်မူ၍ သူတစ်ပါးအား ပြောမှားချေသော်
နောင် မကောင်းဖြစ်တတ်၏။

မင်းသားသည်လည်း ထိုမှ ခဲဖွယ်ကိုစားလျက်နေလတ်သော်
ချိုသောအရသာ, အနံ့ဖြင့် ယင်တို့သည်လာလတ်၍ ဗိဗိကိုယ်ကို အုံကြကုန်၏။
မင်းသားသည် ယင်မအုံစိမ့်သောငှာ လက်၌ရှိသော ခဲဖွယ်ကို အတန်ငယ်ဖဲ့ခွဲ၍
ကြမ်း၌ အစုစုအပေါက်ပေါက်ချပုံပြီးလျှင်၊ လက်၌အုံသောယင်တို့ကို လက်ဖြင့်ပုတ်ခတ်၍ ပျံစေ၏။
ယင်းအပေါင်းတို့သည်လည်း မင်းသား လက်၌မအုံဘဲ
ထိုကြမ်း၌ပုံသော ခဲဖွယ်ပေါက်တို့၌သာလျှင် အုံကြကုန်၏။



'ခပ်သိမ်းသော မိန်းမကောင်းတို့၏ ကြန်အင်လက္ခဏာနှင့် ပြည့်စုံ၏။ ဘုန်းရှိသော မိန်းမပေတည်း။ ဤမိန်းမ၌ အကယ်၍ မိတ်လင်ခင်ပွန်း မရှိသောမူ ငါ၏အလုပ်အကျွေး ဖြစ်ထိုက်လှ၏။' ဟု ကြံ၏။...
'ငါသည် ဤလုလင်ပျို၏ အိမ်သူဖြစ်ရလျှင် ဓဏမကြာ ဥစ္စာစီးပွား များပြတ်တိုးတက် မိုင်ဖြိုးစေလျက် သူကြွယ်ကြီးခံရအောင်လည်း တတ်နိုင်ရာ၏။' ဟု ကြံ၏။...

# မဟောသဓဇာတ်တော်ကြီး

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

## ပဏာမ

မဟန္တ ဉာဏောသဓ နိမ္ဗိသံသံ၊ သဒ္ဓမ္မ သံဃပ္ပရိဝါရိတံ တံ။
မဟံ ဂရုံ ဉာဏုပိတံ နမံ မံ၊ တေဇ္ဇေ့ တေသံ နုဘာဝါ ပသံသံ။ ။
[ဣန္ဒဝဇိရာ ဥပေန္ဒဝဇိရာ ၂ပါးရောသော ဥပဇာတိဂါထာ။]

အဟံ၊ အကျွန်ုပ်သည်။ မဟန္တဉာဏောသဓ နိမ္ဗိသံသံ၊ အရှင်ပစ္စေကဗုဒ္ဓါ သာဝကတို့ထက် ကဲလွန်သော မဂ်ဉာဏ်, ဖိုလ်ဉာဏ် သဗ္ဗညုတဉာဏ်တည်းဟူသော သုဒ္ဓိနတ်ဆေးကို ရပြီးသည်ဖြစ်၍ ဝေနေယျတို့၏သန္တာန်၌ ကိလေသာတည်းဟူသော အဆိပ်အတောက်ကို ဖျောက်ပယ်ငြိမ်းအေး ပေးတော်မူလျက် အတုမရှိသောဂုဏ်ကျေးဇူး အပေါင်းတို့၏စုဝေးရာလည်း ဖြစ်တော်မူထသော။ 'သဒ္ဓမ္မသံဃပ္ပရိဝါရိတံ၊ သွာက္ခတကတာ' အစရှိသော ဂုဏ်တော်တို့ဖြင့် ချီးမွမ်းအပ်သော ၁၀ ပါးသောတရားတော်, သုပ္ပဋိပန္နတာ အစရှိသော ဂုဏ်တော်တို့ဖြင့် ချီးမွမ်းအပ်သော ၈ယောက်သော ပရမတ္ထသံဃာတော်, သမ္မုတိသံဃာတော် သန့်ရှင်းစင်ကြယ်သော သာဝက ပရိသတ် မြတ်သောအခြံအရံလည်း ရှိတော်မူထသော။ တံ တာဒိသံ၊ ထိုသို့သောဂုဏ်ဖြင့် ၃ ဘုံမှန်ကင်း တရားမင်းဖြစ်တော်မူသော မြတ်စွာဘုရားကို။ နမံ–နမာမိ၊ ရိုသေစွာ ရှိခိုးပါ၏။ နမဿိတွာ၊ ရှိခိုးပြီး၍။ ဉာဏုပိတံ၊ ပရိယတ္တိ၌မွေ့ ရွှံ့ရှာခြင်းကင်းသော ဝိသာရဒဉာဏ်နှင့်လည်း ပြည့်စုံတော်မူထသော။ မဟံ–မဟန္တံ၊ စင်ကြယ်စွာသောပဋိပတ္တိနှင့် ပြည့်စုံသည်ဖြစ်၍ ပူဇော်ထိုက်သော မဟာထေရ်ကြီးလည်း ဖြစ်တော်မူထသော။ ဝါ၊ မေ၊ အကျွန်ုပ်၏။ ဉာဏုပိတံ၊ အသိဉာဏ်ကိုလည်း ပျိုးစေတော်မူတတ်ထသော။ ဂရုမ္ပိ၊ ကျေးဇူးရှင်ဆရာမြတ်ကိုလည်း။ နမံ–နမာမိ၊ ရိုသေစွာရှိခိုးပါ၏။ တေသံဗုဒ္ဓါဒိရတနဂရူနံ၊ ထို ရှိခိုးအပ်ပြီးသော ဘုရား, တရား, သံဃာ, ဆရာ ကျေးဇူးရှင်တို့၏။ အာနုဘာဝါ–သေဋ္ဌဗလာ၊ မြတ်သောအစွမ်း အာနုဘော်တော်တို့သည်။ မံ–မမ၊ အကျွန်ုပ်၏။ ဉာဏဗလံ၊ ဉာဏ်အစွမ်းကို။ ပသံသံ–ပသံသန္တာ၊ ချီးမြှောက်တော်မူကုန်လျက်။ တေဇ္ဇေ့၊ မဟောသမိဇ္ဈာ စင်ခွာပယ်ဖျက် ထက်ကြောင်း သွေးတော်မူစေကုန်သတည်း။

ဤဂါထာ၌ မဟံ ဟူသော ပုဒ်, ဉာဏုပိတံ–ဟူသောပုဒ်တို့ကို အနက် ၂ နည်းပေးသည်ကား အဘိန္နပဒဝါကျ သိလေသနည်း ရသင့်သောကြောင့်ပေတည်း။ ၄ ပါဒတို့၏ အဆုံးအဆုံး၌ ၂လုံးသော အက္ခရာကို အစုံထား၍ ဖွဲ့အပ်သောကြောင့် ပါဒန္တက္ခရ ယမကဂါထာဟု အလင်္ကာနည်း ယူအပ်၏။ ဤဂါထာသည်– ရဝါကာသဂ္ဂိယုတ္တာပိ၊ မဟာသမ္ပတ္တိ ကာယောန္တိ။ ။ဟူ၍ ဆန်းဋီကာလာသည်နှင့် အညီ နေနတ်သားစောင့်သော 'ဇ'ဂိုဏ်းနှင့် အာကာသစိုးနတ်သားစောင့်သော 'တ'ဂိုဏ်း မိတ်သဟာယချင်း ယှဉ်၍ ဖွဲ့အပ်သောကြောင့်

မဟာသမ္မတ္တိကို ပြီးစေတတ်သောအားဖြင့် ရန်ဆူးရန်ငြောင့် နှောင့်ယှက်ပိတ်ပင်ခြင်း မရှိ၊ မငြိမတွယ်သွားတတ်သော သိကြားမင်း၏ ဝဇိရစိန်လက်နက်နှင့် တူသည်ဖြစ်၍ ဝဇိရဂါထာ ဟု ဝုတ္တောဒယဆရာ မှည့်အပ်၏။ 'ဇ'ဂိုဏ်းသည် ပုနဗ္ဗသျှုနက္ခတ်နှင့်ယှဉ်ရကား ဤဂါထာကိုဖွဲ့တတ်သော ဆရာ၏ လည်းကောင်း, ဖွဲ့အပ်သော နေ့၏လည်းကောင်း ထိုနက္ခတ်သည် ဝရစုတ် ကြိမ်သည်ဖြစ်၍ ကဗျာဗန္ဓ ဖွဲ့တတ်ကုန်သောကဝိတို့၏ ငြူစူနှောင့်ယှက်ခြင်းအပြစ်တို့မှ လွတ်စေခြင်းငှာလည်းကောင်း၊ ၁၁ လုံးဘွဲ့ဖြစ်၍ မတိုမရှည် ရွတ်လွယ် ဖတ်လွယ်ခြင်း အကျိုးငှာလည်းကောင်း ဤ ဥပဇာတိဂါထာဖြင့် အာသီသပုဗ္ဗ ကန္ဓာရမ္ဘကို ဆိုသတည်း။ ထိုဂါထာ၏ အတ္ထနယ, သဒ္ဒနယ, ဆန္ဒနယ စသည်တို့ကိုဆိုလျှင်ကား များစွာ၏။ စကားလိုရင်းကို မရောက်နိုင်သဖြင့် နားထောင်သူငြီးငွေ့၍ ကုသိုလ်မင်္ဂလာ သဒ္ဒါတရား မပွားအံ့စိုးသောကြောင့် မဆိုပြီ။]

## နိဒါန်း

ဘုန်းတော် ၆ ပါးနှင့် ပြည့်စုံတော်မူလျက် ရန်သူတကာတို့၏မာန်[၁]ကို ပယ်နှိမ့်ဖြတ်ချိုး၍ ၉ပါးသော အမြိုက်ရေဖြင့် ဝေနေယျ[၂]တို့အား သနားလေးမြတ် ဖျန်းဆွတ်ငြိမ်းဆေး ပေးတော်မူတတ်သော မြတ်စွာဘုရားသည် ကာသိတိုင်း[၃], ကောသလတိုင်း[၄]တို့၏အစွန်ဆက်ရာ မြို့ ရွာ ခရိုင် ၈ သောင်းတို့ဖြင့် တန်ဆာဆင်လျက် အစိရဝတီ[၅] မြစ်ကြီး၏နဖူး၌ အထူးထူးသော အသုံးအဆောင်တို့နှင့်ပြည့်စုံစွာ မြို့တွင်းမြို့ပြင်နေ အိမ်ခြေ ၅သန်း ၇သိန်းတို့ဖြင့်ပြည့်လျက် သာဝတ္ထိ[၆]အမည်ရှိသော ရာဇဌာနီ မင်းနေပြည်ကြီး၏မနီးမဝေး ကုလ ၄ဘာ ၅၀၀ ခန့်လောက် အနောက်တောင်ထောင့်ခပ်ယွန်း ဦးစွန်းသဖွယ်ဖြစ်သော မြေအချက်အချာ၌ အနာထပိဏ်[၇]သူဌေးကြီး ဆောက်လုပ်ကပ်လှူအပ်သော ဇေတဝန်[၈]ကျောင်းတော်၌ နေတော်မူသောအခါ ပညာပါရမီ[၉]တော်ကိုအကြောင်းပြု၍ 'ပဉ္ဉာလော သဗ္ဗသေနာယ' အစရှိသောဂါထာတို့ဖြင့် တန်ဆာဆင်အပ်သော ဤ'မဟောသဓပဏ္ဍိတ' ဇာတ်တော်ကြီးကို ဟောတော်မူ၏။

အကြောင်းကား တစ်နေ့သ၌ ရဟန်းတို့သည် တရားသဘင်အစည်းအဝေး ဖြစ်သောအခါ မြတ်စွာဘုရား၏ပညာတော်ကို ဤသို့ ချီးမွမ်းကြကုန်၏။

"အရှင်တို့။ လာခြင်းကောင်းသောမြတ်စွာဘုရားသည် ကြီးမြတ်သောမဟာပညာ, မြေကြီးအထုနှင့်တူသော ပုထုပညာ, ရွှင်လန်းသော ဟာသပညာ, လျင်မြန်သော ဇဝနပညာ, ဝဇိရစိန် လက်နက်ကဲ့သို့ ထက်မြက်လှစွာသော တိက္ခပညာ, ခဲခက်နက်နဲသော ဂမ္ဘီရပညာ, ယုံမှားသက်ာ မိစ္ဆာအထုံးအဖွဲ့ကိုဖြည်နိုင်သော နိဗ္ဗေဓိတပညာ, သူတစ်ပါးတို့၏မိစ္ဆာအယူကို နှိမ်နင်းနိုင်သော ပရပ္ပဝါဒမဒ္ဒန ပညာ ဤသို့သော ပညာတော်အပေါင်းတို့နှင့်လည်း ပြည့်စုံတော်မူ၏။ ထိုပညာတော်၏အစွမ်းဖြင့် ကူဋဒန္တ[၃၀]အစရှိသော ပုဏ္ဏား, သဘိယသစ္စက[၃၁]အစရှိသော ပရိဗိုဇ်[၃၂], အာဠဝက[၃၃]အစရှိသော ဘီလူး, သိကြား[၃၄]အစရှိသော နတ်, ဗက[၃၅]အစရှိသော ဗြဟ္မာ ဤသို့ လောက၌ထင်ရှားကုန်သော ပုဏ္ဏား, ပရိဗိုဇ်, ဘီလူး, နတ်, ဗြဟ္မာတို့၏မာန်စွယ်ကို နုတ်ပယ်ချိုးဖြတ်လျက် မြတ်သောအဆုံးအမတော်ကို ပေးသဖြင့် အဆိပ်အတောက်မရှိသည်ကို ပြုတော်မူ၏။ များစွာကုန်သော လူအပေါင်းတို့အားလည်း ရှင်ရဟန်းအဖြစ်ကို ပေးတော်မူ၍ မဂ်ဉာဏ်[၃၆],ဖိုလ်ဉာဏ်[၃၇]၌ တည်စေတော်မူ၏။ ဤသို့ ချီးမွမ်း၍မကုန်နိုင်သော ပညာရှိတော်မူ၏"ဟု နှစ်သက်ရွှင်လန်း ချီးမွမ်းလျက်နေကြကုန်၏။

ထိုအခါ မြတ်စွာဘုရားသည် ကြွတော်မူလတ်၍ "ရဟန်းတို့။ ယခု ငါလာတော်မူသောအခါ အဘယ်စကားဖြင့် သင်တို့ အစည်းအဝေးဖြစ်ကြကုန်သနည်း"ဟု မေးတော်မူ၏။ ရဟန်းတို့လည်း "အရှင်ဘုရား။ ကိုယ်တော်၏ပညာပါရမီတော်ကို ချီးမွမ်းကြပါကုန်သည်"ဟု လျှောက်လျှင်၊ မြတ်စွာဘုရားသည် "ရဟန်းတို့။ ယခုအခါကား ငါဘုရားသည် သဗ္ဗညုတဉာဏ်[၃၈]၏အထွတ်အမြတ်သို့ ရောက်ပြီးဖြစ်၍ ပညာတော်ကိုချီးမွမ်းခြင်း၌

အံ့ဖွယ် မဖြစ်လွန်းသေး။ ရှေးပါရမီ မရင့်မီကာလ ဘဝကပင်လျှင် သဗ္ဗညုတဉာဏ်ကိုရှာသော ငါဘုရား၏ အလောင်းတော်သည် အလွန် ပညာရှိဖူးသည်သာ ဖြစ်၏”ဟု မိန့်တော်မူပြီးလျှင် ဖလသမာပတ်[၁၉]ကို ဝင်စားတော်မူလျက်နေ၏။ ထိုအခါ ရဟန်းတို့သည်

“ဘုန်းတော် အလွန်တရာကြီးမြတ်တော်မူလှသော အရှင်ဘုရား။ ရှေးပါရမီ မရင့်မီကာလ ဘဝက ပညာရှိဖူးတော်မူသောအဖြစ်ကို ဖွင့်လှစ်ဟောကြားတော်မူပါမှ သတ္တဝါအပေါင်းတို့ ချမ်းသာကြောင်း ဖြစ်ပါမည်”ဟု လျှောက်ထားတောင်းပန်ကြလတ်သော်၊ မြတ်စွာဘုရားသည် အတိတ်ကိုဆောင်၍ ဤ မဟောသဓပဏ္ဍိတ ဇာတ်ကို ဟောတော်မူ၏။

# မဟောသဓ ဇာတ်တော်ကြီးဝတ္ထု

## ၁။ မဟောသဓ ဖွားတော်မူခန်း

လွန်လေပြီးသောအခါ ဝိဒေဟရာဇ်တိုင်း[၂၀]မိထိလာပြည်[၂၁]၌ ဝေဒေဟ အမည်ရှိသောမင်းသည် မင်းပြု၏။

[ထိုမင်းသည် 'ဝေဒဟ'အမည်တွင်သည်ကား 'ဝိဒေဟေ ဋ္ဌသရော ဝေဒေဟော'ဟူသော ဝိဂြိုဟ်နှင့်အညီ ဝိဒေဟရာဇ်တိုင်းကို အစိုးရသောကြောင့် 'ဝေဒေဟ'ဟု အမည်တွင်သတည်း။]

ထိုဝိဒေဟရာဇ်မင်းကြီးအား အကျိုးအကြောင်း ကောင်း,မကောင်း ရာ, မရာကို ဆုံးမညွှန်ပြတတ်သော မင်းတိုင်ပင်အမတ်သုခမိန်ကား–သေနက အမည်ရှိသော အမတ်, ပက္ကုသ အမည်ရှိသောအမတ်, ကာမိန္ဒ အမည်ရှိသောအမတ်, ဒေဝိန္ဒ အမည်ရှိသောအမတ် ဟူ၍ သုခမိန်အမတ်ကြီး ၄ ယောက် ရှိ၏။

ထိုဝိဒေဟရာဇ်မြို့မှ မနီးမဝေး ၄ မျက်နှာအရပ်တို့၌ အရှေ့က ပါစီနယဝ မဇ္ဈဂုံးရွာ[၂၂], တောင်က ဒက္ခိဏယဝ မဇ္ဈဂုံးရွာ[၂၃], အနောက်က ပစ္ဆိမယဝ မဇ္ဈဂုံးရွာ[၂၄], မြောက်က ဥတ္တရယဝ မဇ္ဈဂုံးရွာ[၂၅]ဟူ၍ ညဉ့်နံနက်ဈေး သူဌေးသူကြွယ်, ကုန်သွယ်,လယ်လုပ် အုတ်အုတ်ကျက်ကျက်သောအိမ်ဈေးတို့ဖြင့်နေ၍ ပျော်ဖွယ်ဖြစ်သော ရွာကြီး ၄ ရွာတို့သည် ရှိကုန်၏။

ထို ရွာကြီး ၄ ရွာတို့တွင် မြို့မှ အရှေ့မျက်နှာ ပါစီနယဝမဇ္ဈဂုံးရွာ၌ သိရိဝဍ္ဎန[၂၆]အမည်ရှိသော သူဌေးကြီးသည် သူဌေးငယ်, သူကြွယ်, ဆွေမျိုးများစွာတို့နှင့် ပြည့်စုံစွာနေ၏။ သူဌေးမကား သုမနဒေဝီ အမည်ရှိ၏။ ထိုအခါ ဘုရားလောင်းသည် တာဝတိံသာ[၂၇]နတ်ပြည်မှ စုတေခဲ့၍ သိရိဝဍ္ဎနသူဌေးကြီး၏ မယား သုမနဒေဝီအမည်ရှိသော သူဌေးမဝမ်း၌ ပဋိသန္ဓေ[၂၈]ယူ၏။ ဘုရားလောင်းနတ်သားနှင့် တပေါင်းတဖော်တည်းဖြစ်သော နတ်သား ၁၀၀၀ တို့သည်လည်း ဘုရားလောင်းနှင့်အတူပင်လျှင် တာဝတိံသာနတ်ပြည်မှ စုတေခဲ့၍ သိရိဝဍ္ဎန သူဌေးကြီး၏ အပေါင်းအဖော် ဆွေတော်မျိုးစပ်ဖြစ်သော သူဌေးငယ်တို့၏အိမ်တို့၌ အသီးသီး ပဋိသန္ဓေ ယူကြကုန်၏။

ဘုရားလောင်း ပဋိသန္ဓေယူသည်နှင့် တစ်ပြိုင်နက်ပင်လျှင် ဝိဒေဟရာဇ်မင်းကြီး၏ ဤသို့သောအိပ်မက်မြင်မက်၏။

'မင်းအား ညီလာခံရာမြေအပြင်၌ပင်လျှင် ၄ ထောင့်သောအရပ်တို့၌ မြို့တံတိုင်းခန့်အမြင့်ရှိသော မီးပုံကြီး ၄ ပုံတို့သည် ထလတ်၍ တလျှပ်လျှပ်တထိန်ထိန် အရှိန်အဝါနှင့်တောက်ပကုန်၏။ ထို မီးပုံကြီး ၄ ခုတို့၏ အလယ်၌ပင်လျှင် ပိုးစုန်းကြူးခန့်ပမာဏရှိသော မီးပုံငယ်သည် ထလတ်ပြန်၍ အလျှံကဲမိုးသဖြင့် ထို မီးပုံကြီး ၄ ခုတို့ကိုလွှမ်းလျက် အထက်ဗြဟ္မာပြည်တိုင်အောင်တက်၍ စကြဝဠာတိုက်[၂၉]အလုံး၌ ဖုံးကွယ်တတ်သော အမိုက်မှောင်ကို အရောင်အဝါဖြင့်ပျောက်စေ၍ တောက်ပလျက်တည်၏။

'ထို မီးပုံငယ်သည် ကောင်းကင်၌ထွန်းလင်းပြီး၍ မြေသို့တစ်ဖန် ကျလတ်ပြန်သော် မုန်ညင်းသီး ပမာဏခန့်သာ ထင်၏။ နတ်ပြည် ၆ ထပ်၌ရှိကုန်သော နတ်ပရိသတ်, လူ့ပြည်၌ ရှိကုန်သော လူပရိသတ်အပေါင်းတို့သည်လည်း ထိုမီးပုံငယ်ကို ပန်းနံ့သာစသည်တို့ဖြင့် ပူဇော်ကုန်၏။ မီးလျှံအတွင်း၌ လူအပေါင်းတို့သည် သွားလာကြကုန်၏။ ထို လူတို့သည်လည်း မွေးတွင်းမျှ ပူရှိန်သောမည်သည်ကို မရှိ။ ချမ်းငြိမ်းစွာလျှင် သွားလာကြကုန်၏။'

ဤသို့သော အိပ်မက်ကို မင်းကြီး မြင်မက်သတည်း။

ဝိဒေဟရာဇ်မင်းကြီးသည် ဤသို့ အိပ်မက်ကို မြင်ပြီးလျှင် ကြောက်လန့်တကြားနိုးလတ်သဖြင့် ထ၍ 'ငါ့အား အဘယ်သို့ဖြစ်လတ္တံ့သည် မသိ'ဟု ကြံမိသောစိတ်ဖြင့် အိပ်မပျော်နိုင် ထိုင်လျက်ပင်လျှင် နေအရုဏ်တက်၍ ၄ ချက်တီးကျော်အချိန်ရှိလျှင် သုခမိန်အမတ်ကြီး ၄ယောက်တို့သည် ရှေ့နောက်အစဉ်သင့် မင်းခွင့်မင်းရေး မေးလျှောက်တိုင်ပင် ဆင်ခြင်စုံစမ်းမြဲအတိုင်း နန်းတော်သို့ဝင်၍ မင်းကြီးအား ခစားကြလျက် "အရှင်မင်းကြီး။ ယနေ့ညဥ့် ကိုယ်စိတ်ချမ်းသာစွာ စက်တော်ခေါ်၍ ပျော်မွေ့ငြိမ်းအေးတော်မူပါ၏လော"ဟု သာရဏီယကထာ[၁၁] စကား လျှောက်ထားကြကုန်၏။ ဝိဒေယရာဇ်မင်းကြီးသည် "သုခမိန်အမတ်ကြီးတို့။ ယနေ့ အဘယ်မှာ ချမ်းသာစွာအိပ်ရအံ့နည်း။ ဤသို့သော အိပ်မက်ကို ပြက်ပြက်ထင်ထင်ငါ မြင်မက်တော်မူ၏"ဟု မြင်မက်တိုင်းအလုံးစုံသော အိပ်မက်ကို သုခမိန်တို့အား ပြန်ကြားလေ၏။

ထိုအိပ်မက်ကိုကြားလျှင် သေနကသုခမိန်သည် ဤသို့ဖတ်၏။

"အရှင်မင်းကြီး။ မည်သည်ကိုမျှ စိုးရိမ်တော်မမူပါလင့်။ မြင်မက်သော အရှင်မင်းကြီး အိပ်မက်တော်သည် မင်္ဂလာ[၁၂]ရှိသော အိပ်မက်တည်း။ အရှင်မင်းကြီးအား များမြတ်သောစီးပွားချမ်းသာ ဘုန်းကျက်သရေတော် တိုးတက်ရာသောအကြောင်း ဖြစ်ပါသည်"ဟုလျှောက်၏။

"အရှိန်လျှံညီး မီးတောက်ကိုစင် မြင်မက်သည်ဖြစ်လျက် အဘယ်ကြောင့် ချမ်းသာရာဖြစ်မည်ဟု သင်ဖတ်သနည်း။ အကြောင်းအကျိုးစပ်၍ အတပ်သိသာအောင် ဖတ်လော့"ဟု မင်းကြီး ဆို၏။

သေနကသုခမိန်သည်

"အရှင်မင်းကြီး။ မီးတောက်မီးလျှံဟူသည်ကား ဉာဏ်ပညာ ဘုန်းကျက်သရေပင် ဖြစ်ပါသည်။ အိပ်မက်တော်၌ မီးပုံကြီး ၄ ပုံကို မြင်တော်မူသည်ကား အကျွန်ုပ်တို့ အမတ်ကြီးသုခမိန် ၄ ယောက်တို့သည် တိုင်းရေး, နိုင်ငံရေး, အရှင့်အရေးတော်တို့၌ မှေးယုက်မိုက်မှောင်ကင်းလျက် ထွန်းလင်းသောပညာဖြင့် စိပ်ဖြာ ခွဲခြမ်း ဝေဖန်စီရင်တတ်သော အမတ်ကြီးများ ဖြစ်ကြသည်နှင့်လျော်စွာ အကျွန်ုပ်တို့ သုခမိန် ၄ယောက်တို့ကိုရည်၍ မြင်မက်တော်မူပါသည်။ ထို မီးပုံကြီးတို့အလယ်၌ ပိုးစုန်းကြုးခန့် ပမာဏရှိသော မီးပုံငယ်ကို မြင်တော်မူသည်မှာ ပါရမီတော် ဘုန်းတော်ကြောင့် အသစ်ပညာရှိတစ်ယောက် ပေါ်ထွန်းမည့်အကြောင်း ဖြစ်ပါသည်။ ထိုပညာရှိသည် အကျွန်ုပ်တို့ သုခမိန် ၄ယောက်တို့ကိုလွှမ်း၍ နတ်နှင့်တကွသောလူ၏ အတုမရှိ, မိမိကျေးဇူး ပညာဂုဏ်ဖြင့် ကျော်စောထင်ရှားစွာဖြစ်မည်ကား မချွတ်ရာပြီ"ဟု အိပ်မက်ကို ဖတ်ကြားလျှောက်ထား၏။

ဝိဒေဟရာဇ်မင်းကြီးသည် သေနကသုခမိန်စကားကိုကြားလျှင် နှစ်သက်ဝမ်းမြောက်ခြင်းဖြင့်

"အမတ်ကြီး သုခမိန်။ ယခု သင်ဖတ်သော ပညာရှိသုခမိန်သည် အဘယ်မှာရှိမည်နည်း"ဟု မေး၏။

သေနကအမတ်ကြီးသည် မိမိသင်အပ်သော ဗေဒင်ကျမ်း[၃၃], နေမိတ္တကကျမ်း[၃၄]တို့၌ ထွက်သည့်အတိုင်း နတ်မျက်စိကိုရသကဲ့သို့ မဖောက်မပြန် ဟုတ်မှန်သည့်အတိုင်းမြင်၍ "အရှင်မင်းကြီး။ ယခု ဤပညာရှိသည် ပဋိသန္ဓေယူဆဲသော်လည်း ဖြစ်ရာသည်။ ဖွားဆဲသော်လည်း ဖြစ်ရာသည်"ဟု လျှောက်၏။

ဝိဒေဟရာဇ်မင်းကြီးသည် ထိုအိပ်မက် မြင်သည့်နေ့မှစ၍ သေနကအမတ်ကြီးစကားကိုသာလျှင် တစ်နေ့မပြတ် အောက်မေ့လျက်နေ၏။

သုမနဒေဝီသူဌေးမသည်လည်း ကိုယ်ဝန်ဆောင်ခြင်းဖြင့် ၁၀ လ မြောက်လတ်သော် ဘုရားအလောင်းကို ဖွားမြင်၏။ ထိုဘုရားလောင်း ဖွားမြင်သောခဏ၌ပင်လျှင် သိကြားမင်းသည် လူ့ပြည်ကို ရှုကြည့်လတ်သော် ဘုရားလောင်းသတို့သား ဖွားမြင်သောအဖြစ်ကိုသိမြင်လတ်၍ 'သတို့သားဘုရားအညွှန့်ကို နတ်နှင့်တကွသော လူ၌ ငါသည် ထင်ရှားစေခြင်းကို ပြုထိုက်လှ၏'ဟု မထင်ရှားသောကိုယ်ဖြင့် လာလတ်၍ ဘုရားလောင်းဖွားစ ခဏဝယ် တစ်ခုသောဆေးတုံးကို ဘုရားလောင်းသတို့သား၏ လက်ပေါ်၌ထားပြီးလျှင် မိမိနေရာ တာဝတိံသာနတ်ပြည်သို့ သွားလေ၏။

ဘုရားလောင်းသည် ထိုနတ်ဆေးတုံးကို လက်ဖြင့်ကိုင်ဆုပ်လျက် နေ၏။ မယ်တော် သုမနဒေဝီ၌လည်း တစ်ပါးသောသူတို့ကဲ့သို့ သားဖွားခြင်းဆင်းရဲသည် တစိုးတစိမျှ မရှိ။ ဓမကရိုဏ်ရေစစ်[၃၅]မှထွက်သောရေကဲ့သို့ သန့်ရှင်းစင်ကြယ်စွာ ချမ်းသာသဖြင့် ဖွား၏။ မယ်တော်သုမနဒေဝီသည် သတို့သားငယ်၏လက်၌ ဆေးတုံးကိုမြင်လျှင် "ချစ်သား။ အဘယ်မှ ရသနည်း"ဟုဆို၏။ ဘုရားလောင်းသတို့သားငယ်သည်

"မိခင်။ ဤကား နတ်ဆေးတုံးတည်း။ မိခင် ယူလော့။ တစ်စုံတစ်ခုသောအကြောင်းဖြင့် မကောင်းသော အနာရောက်၍ မပျောက်နိုင်ကုန်သောသူတို့အား ဤဆေးကိုသွေး၍ လိမ်းစေလော့"ဟုဆိုလျက် မယ်တော်လက်ပေါ်၌ ထား၏။ မယ်တော်သုမနဒေဝီလည်း ထိုအကြောင်းကို သူဌေးကြီးအား ဝမ်းမြောက်ဝမ်းသာ ပြော၏။

ထို သိရီဝမုနသူဌေးကား ၇ နှစ်ရှိပြီးသော ဦးယဉ်းခေါင်းခဲနာသည် ရှိ၏။ သူဌေးကြီးသည် သုမနဒေဝီသူဌေးမ စကားကိုကြားလျှင် အလွန်ဝမ်းမြောက်ဝမ်းသာလျက် ဤ ငါ၏သားငယ်သည် အမိဝမ်းမှ ဖွားစကပင်လျှင် ဆေးတုံးကို ကိုင်၍ဖွား၏။ ဖွားပြီးလျှင်လည်း အမိနှင့် စကားပြော၏။ 'ဤ သို့သော အခြင်းအရာသည် သူတစ်ပါး ဘုန်းနည်းသောသူတို့၌ မဖြစ်ရာ။ ငါ့သားငယ်၏ပါရမီကြောင့် ဘုန်းတန်ခိုးကြီး ကုန်သော သူတို့သည် ဤဆေးတုံးကို ပေးသည်ဖြစ်ရာ၏။ ဤဆေးတုံးသည်လည်း အာနုဘော်[၃၆]ရှိရာ၏'ဟု ယုံကြည်သဖြင့် ထိုဆေးတုံးကို ကျောက်ပျဉ်၌သွေး၍ အတန်ငယ် မိမိနဖူးပြင်၌ လိမ်း၏။ ထို လိမ်းသောခဏ၌ပင်လျှင် ၇နှစ် စွဲရောက်၍ မပျောက်နိုင်သော ဦးယဉ်းခေါင်းခဲနာသည် ပဒုမ္မာကြာရွက်[၃၇]မှ လျှောကျသောရေပေါက်ကဲ့သို့ ပျောက်ကင်း လွတ်ငြိမ်းခြင်းသို့ ရောက်လေ၏။

သူဌေးကြီးသည် မိမိအနာပျောက်လျှင် 'ဤဆေးတုံးသည် အလွန်အာနုဘော်ရှိစွ'ဟု လွန်စွာနှစ်သက် ဝမ်းမြောက်ခြင်းဖြစ်၍ ဘုရားလောင်းသတို့သား၏ ဆေးတုံးကိုကိုင်လျက်ဖွားသောအဖြစ်သည် ဇနပုဒ်[၃၈]မြို့ရွာ ဂ မျက်နှာသောအရပ်တို့၌ ကျော်စောထင်ရှားခြင်း ဖြစ်၏။ မည်သည့်အနာမဆို ခပ်သိမ်းကုန်သော လူအပေါင်းတို့သည် မိမိတို့၌ စွဲရောက်လျှင် သူဌေးကြီးအိမ်သို့သာ ဆေးတောင်းသွားကြကုန်၏။ သိရီဝမုန သူဌေးကြီးသည်လည်း ထိုရောက်လာကုန်သော သူနာတို့အား ဆေးတုံးကို ကျောက်ပျဉ်၌သွေးပြီးလျှင်

များစွာသောရေ၌ ဆေးရည်အငွေ့ အနံ့မျှ ဖျော်၍ပေး၏။ ထိုနတ်ဆေးကို အတန်ငယ်မျှ ရှူ၍, လိမ်းရကုန်သော သူနာတို့သည် အနာမရှိ ပကတိသောကိုယ်အဖြစ်သို့ ရောက်သဖြင့် "သိရီဝဍ္ဎနအမည်ရှိသော ရှင်သူဌေးအိမ်၌ ဆေးတုံးသည် အလွန်အာနုဘော်ရှိပေစွ"ဟု ဝမ်းမြောက်ဝမ်းသာ ချီးမွမ်း၍ သွားကြလေကုန်၏။

ဘုရားလောင်းသူဌေးသားအား အမည်မှည့်အံ့သောနေ့၌ ခမည်းတော်သူဌေးကြီးသည် 'ငါ့သားအား တစ်ပါးသောသားတို့မှာကဲ့သို့ အဘိုး၏အမည်စသည်ဖြင့် အမည် မမှည့်ထိုက်။ ဖွားစကာလ၌ ဆေးတုံးကိုကိုင်၍ ဖွားသောကြောင့် ထိုဆေး၏အမည်ဖြင့်ပင်လျှင် ငါ့သား၏အမည်ကိုဖြစ်စေအံ့'ဟု ကြံလျက်၊ 'မဟောသဓ[၃၉] သတို့သား ဟူသောအမည်ကို မှည့်၏။

သိရီဝဍ္ဎနသူဌေးအား ဤသို့သောအကြံသည်လည်း ဖြစ်၏။ 'ငါ့သားသည် ဘုန်းအာနုဘော်ရှိသော သားတည်း။ တစ်ယောက်တည်းသာ ဖြစ်ရာသည်မဟုတ်။ ငါ့သားနှင့်အတူ ဖွားဖက်တော် သူငယ်တို့သည်လည်း ရှိရာ၏'ဟု အကြံဖြစ်၍ ရှုကြည့်မေးမြန်းစေသော် ၁၀၀၀ ကုန်သော သူဌေးသားတို့ကိုလည်း မဟောသဓသတို့သားနှင့် ဖွားဖက်တော်၏အဖြစ်ကိုသိပြီးလျှင် ထိုသတို့သားငယ် ၁၀၀၀ တို့အား အထိန်း တစ်ယောက်စီနှင့်တကွ ဆင်ရန် တန်ဆာအစုံပေး၍ "ငါ့သားမဟောသဓ၏ အခြံအရံအလုပ်အကျွေး သူငယ်ဖော် ဖြစ်စေကုန်လော့"ဟု သူငယ်ဖော် ၁၀၀၀ နှင့်တကွ ဘုရားလောင်းအား မင်္ဂလာရှိရာအရပ်၌ အတင့်အတယ် ခံခြင်းမင်္ဂလာကို ပြုစေ၏။ နေ့တိုင်းနေ့တိုင်း မဟောသဓသတို့သားကို တန်ဆာဆင်၍ ထိုမင်္ဂလာပြုရာအရပ်၌ ထား၏။ အထိန်းတို့သည်လည်း ဖွားဖက်ဖြစ်သော သူငယ် ၁၀၀၀ တို့ကို တန်ဆာဆင်၍ မဟောသဓ၏ အခြံအရံအလို့ငှာ ဆောင်ခဲ့ကြကုန်၏။

ဘုရားလောင်း မဟောသဓကုမာရ[၄၀]သူဌေးသားသည် ဤဖွားဖက်သူငယ်တော် ၁၀၀၀ တို့နှင့် ကစားရွှင်ပျော်လျက် ကြီးလတ်၍ ၇နှစ်အရွယ်သို့ရောက်လတ်သော် ရွှေဆင်းတုကဲ့သို့ ရှုချင်ဖွယ်သော အရောင်အဆင်းနှင့် ပြည့်စုံသည်ဖြစ်၏။ ဘုရားလောင်း မဟောသဓကုမာရ သူဌေးသားသည် ဖွား၍ ၇နှစ်မြောက်သောအခါ ရွာလယ်၌ ကစားရာဖြစ်သော မြေတလင်းသည် ဆင်, မြင်း, ကျွဲ, နွား သွားလာခြင်းဖြင့် ပျက်၏။ လေ နေပူ တံလှပ်ခတ်သဖြင့်လည်း သတို့သားငယ်တို့သည် ပင်ပန်းကုန်၏။

တစ်နေ့သ၌ သူငယ်ဖော် ၁၀၀၀ တို့နှင့် ဘုရားလောင်းသည် ကစား၍ နေစဉ် တိမ်ထပ်,တိမ်လိပ် ရိပ်ညိုထစ်ကြိုး မိုးကြီးတက်လတ်သဖြင့် ဘုရားလောင်းသည် ဆင်ပြောင်ကြီး၏အားနှင့် တူသောအားဖြင့် လျင်စွာပြေး၍ တစ်ဆောင်သောဇရပ်သို့ ဝင်၏။ ဖွားဖက်သူငယ်တော် ၁၀၀၀ တို့သည်လည်း ဘုရားလောင်း၏ နောက်မှ တစ်ယောက်ကိုတစ်ယောက် လွန်မြောက်အောင်မပြေးနိုင်ကြသဖြင့် အချင်းချင်းတိုက်မိ၍ ဦးစိုက်နောက်ပြန် နံစောင်းတချို့ မြေ၌လဲခြင်းကြောင့် ဆောင့်မိသည်ဖြစ်၍ ပုဆစ်, ဒူး, နဖူး, တင်သား, ပါး, ကျော, နံရိုးစသည်တို့၌ ကွဲပြတ်စုတ်ရှ ပွန်းတီးခြင်းသို့ ရောက်ကုန်၏။

## ၂။ ဇရပ်ဆောက်ခန်း

ထိုအခါ ဘုရားလောင်းသည် ဤသို့သောအကြံ ဖြစ်၏။

'ငါတို့ပျော်ပါးကစားရာဖြစ်သော မြေတလင်းသည် ဆင်, မြင်း, ကျွဲ, နွား စသည် သွားလာခြင်းကြောင့် ဖြောင့်ခလုတ်သည် ထူထပ်၏။ လေ, နေပူ, တံလှပ်တို့ ခတ်သဖြင့်လည်း ငါတို့ ပင်ပန်းကုန်၏။ မိုးရွာသဖြင့်လည်း ရွံ့နှင့်မကင်း တလင်းမသန့် ပြန့်ပြန့်ပြူးပြူး မြူးထူးပျော်ပါး မကစားရသည်လည်း ဖြစ်ကုန်၏။ ထိုသို့ဖြစ်၍ ဤအရပ်၌ ကစားရန် ဇရပ်ဆောက်အံ့သောငှာ အပ်၏'ဟု ကြံပြီးလျှင်၊ ဖွားဖက်ရွှေဖော် သူငယ် ၁၀၀၀ တို့ကို

"အချင်းတို့။ ဤအရပ်၌ ငါတို့ ယခုကစားရသည်ကား မိုး, လေ, နေပူ, တံလှပ်လာလတ်သော် အလွန်ပင်ပန်းကြကုန်၏။ ထိုဘေးရန်အပေါင်းတို့ကို တားမြစ်စေခြင်းငှာ ငါတို့ကစားရာ ဇရပ်ဆောက်ရသော် ကောင်း၏။ ဇရပ်ဆောက်လုပ်ရန် တစ်ယောက်လျှင် အသပြာ တစ်ကျပ်စီ ဆောင်ယူစုပေါင်းကြလော့"ဟုဆို၏။

ဖွားဖက်တော် ၁၀၀၀ တို့လည်း ဘုရားလောင်းဆိုတိုင်းပင်လျှင် မိမိတို့အိမ်မှ တစ်ကျပ်စီ ဆောင်ယူ စုပေါင်းကြသဖြင့်၊ အသပြာ ၁၀၀၀ စုမိပြီးသော် ဘုရားလောင်းသည် ဗိသုကာမှု အစီအရင်၌ ကျွမ်းကျင်လိမ္မာ ထင်ရှားစွာသော ဗိသုကာ ဆရာကြီးကိုခေါ်စေ၍၊ ရောက်လျှင် "ဆရာကြီး။ ဤအသပြာ ၁၀၀၀ ကိုအခပေးအံ့။ လက်ခဥစ္စာနှင့် တန်အောင် ဤအရပ်၌ ဇရပ်တစ်ဆောင်ကို ဆရာကြီးဆောက်လော့"ဟုဆို၍ အသပြာ ၁၀၀၀ကို လက်သမားကြီးအား ပေး၏။ ဗိသုကာကြီးလည်း "ကောင်းပြီ၊ ဆောက်အံ့"ဟု ဝန်ခံ၍ အသပြာ ၁၀၀၀ကို ယူပြီးလျှင် ဇရပ်ဆောက်ရာမြေအရပ်၌ ဆူးဖြောင့်ခလုတ်တို့ကို နုတ်ပယ်လျက် ညီညွတ်စွာညှိပြီးသော် မိမိတတ်သမျှသော ပညာအစွမ်းဖြင့် ဆန်းဆန်းကြယ်ကြယ် တင့်တယ်လျောက်ပတ်ကြောင်း ကောင်းစွာတံမျဉ်းကြိုးကိုခင်း၏။

မဟောသဓသတို့သားသည် ဗိသုကာကြီး၏တံမျဉ်းကြိုးအခင်းကို မနှစ်သက်သည်ဖြစ်၍ "ဆရာကြီး။ ဤသို့ မခင်းလင့်။ အသစ်ပြင်၍ ခင်းဦးလော့"ဟုဆို၏။ လက်သမားကြီးလည်း "အရှင့်သား။ ဤတံမျဉ်းကြိုး အခင်းကား ကျွန်ုပ်တတ်သမျှ ပညာစွမ်းဖြင့်စီရင်အပ်သော အခင်းပင်ဖြစ်သည်။ ဤထက်လွန်၍ ဆန်းကြယ် လျောက်ပတ်သော အရာကို ကျွန်ုပ် မတတ်ပြီ"ဟု ဆို၏။

ထိုအခါ မဟောသဓသတို့သားသည် "ဆရာကြီး။ ဤမျှလောက်သော ဗိသုကာအတတ်ဖြင့် ငါတို့ဥစ္စာ ၁၀၀၀ ကိုယူလျက် ဇရပ်ကိုဆောက်အံ့ဟု ဝန်ခံလေသည်။ အဘယ်သို့ သင် ဖြစ်အံ့နည်း"ဟု ဆိုပြီးလျှင်၊ "တံမျဉ်းကြိုးကို ယူချေ။ ငါ ခင်း၍ပေးအံ့"ဟု ဘုရားလောင်း အသစ်ပြင်၍ တံမျဉ်းကြိုးကိုခင်းပြန်၏။ ထိုအခင်းသည် ဝိသုကြံနတ်သားခင်းသကဲ့သို့ အဆန်းတကြယ် တင့်တယ်စွာဖြစ်၏။

ထိုသို့ တံမျဉ်းကြိုးခင်းပြီးသော် ဗိသုကာကြီးကို "ဆရာကြီး။ သင် ဤသို့ ခင်းနိုင်ပါအံ့လော"ဟုဆို၏။ ဗိသုကာကြီးလည်း "အရှင့်သား။ ကျွန်ုပ် မတတ်" ဟုဆိုလျှင်၊ ဘုရားလောင်းသည် ဤတစ်ခုတည်းသော ဇရပ်တွင်ပင်

"ဤအရပ်၌ ကိုးကွယ်ရာမရှိကုန်သော ခရီးသွားဧည့်သည်တို့၏ နေရာ ဖြစ်စေ။ ဤအရပ်၌ ကိုးကွယ်ရာမရှိကုန်သော ခရီးသွား ကိုယ်ဝန်ဆောင်မိန်းမတို့၏ သားဖွားရာ ဖြစ်စေ။ ဤအရပ်၌ အာဂန္တုက[၅၁]ဖြစ်သော ရဟန်း, ပုဏ္ဏားတို့၏နေရာ ဖြစ်စေ။ ဤအရပ်၌ ခရီးသွားလူဧည့်သည်တို့၏နေရာ ဖြစ်စေ။ ဤအရပ်၌ လှည်းကုန်သည် ခြေကုန်သည်တို့၏ ဘဏ္ဍာ[၅၂]ထားရာဖြစ်စေ။ ဤအရပ်၌ ငါတို့ကစားရာတလင်း ဖြစ်စေ။ ဤအရပ်၌ တရားစီရင်ရာသဘင်ဖြစ်စေ"ဟု အလုံးစုံသောအရာတို့ဖြင့် ပြင်သို့ တံခါးဝထား၍သာလျှင် ၂ရက်, ၃ရက်ဖြင့်ပြီးအောင် ဗိသုကာကြီးကို ဆောက်လုပ်စေ၏။

ဇရပ်ဆောက်လုပ်ပြီးသော် ဆေးခြယ်, ဆေးရေးအတတ်၌ထင်ရှားကုန်သော ပန်းချီသမားတို့ကိုခေါ်၍ ‘ဤအရပ်၌ ဤမည်သောဆေးဖြင့် ဤမည်သောအရုပ် ခြူးပန်း, ခြူးနွယ်, ပန်းအိ, ပန်းထပ်စသည်တို့ကိုထားလော့’ ဟု ဘုရားလောင်းသည်သာလျှင်စီရင်၍ အလုံးစုံသောဇရပ်ကို ဆေးခြယ်စေ၏။ ထိုဇရပ်သည် တာဝတိံသာနတ်ပြည်၌ သုဓမ္မာ[၄၃]ဇရပ်ကဲ့သို့ လျောက်ပတ်ဆန်းကြယ် အလွန်တင့်တယ်စွာ ဖြစ်၏။ ‘ဤသို့ ဆောက်လုပ် စီရင်ပြီးသောဇရပ်သည် ဤမျှဖြင့် မတင့်တယ်သေး။ ဇရပ်အနီး၌ ရေကန်ကြီးတစ်ခုတူးရသော် သာ၍ တင့်တယ်ဖွယ် ရှိသေး၏’ဟု ကြံလျက် ဘုရားလောင်းသည် ဇရပ် အနီး ၄ ထောင့်ကန်ကြီးကို တူးစေပြီးသော် ပန်းရန်အမှု၌ လိမ္မာသော ပန်းရန်ဆရာကြီးကိုခေါ်၍ ဘုရားလောင်းသည်သာလျှင် စီရင်လျက် အကောက် ၁၀၀၀, ရေဆိပ် ၁၀၀ရှိသော ရေကန်ကြီးကို ပြုစေ၏။ ထိုရေကန်သည် တာဝတိံသာနတ်ပြည်၌ ကြာမျိုး ၅ပါးတို့ဖြင့် လွှမ်းအပ်သော နန္ဒာရေကန်[၄၄]ကဲ့သို့ နှစ်လိုဖွယ်ဖြစ်၏။

ထိုရေကန်နား ထက်ဝန်းကျင်အရပ်တို့၌လည်း အသီးအပွင့်တို့ကို ဆောင်ကုန်သော သစ်ပင်တို့ကို စိုက်ပျိုးစေသဖြင့် ဥယျာဉ်ပြုစေ၏။ ထိုဥယျာဉ်သည် တာဝတိံသာနတ်ပြည်၌ နန္ဒဝန်ဥယျာဉ်[၄၅]ကဲ့သို့ နှလုံးမွေ့လျော် ပျော်ဖွယ်ရာဖြစ်၏။ ထိုဇရပ်သို့ရောက်လာကုန်သော တရားစောင့်သော ရဟန်း, ပုဏ္ဏားတို့အားလည်းကောင်း၊ ညွှံ့သည်ဖြစ်သော လူတို့အားလည်းကောင်း ထိုသူတို့နှင့်လျော်စွာသော ဒါနဝတ်[၄၆]ကိုလည်း ဖြစ်စေ၏။ ဤသို့စီရင်အပ်သော ဘုရားလောင်း၏ အမှုအရာ ကောင်းစွာသောဂုဏ်သတင်းသည် အရပ်ထက်ဝန်းကျင်တို့၌ ကျော်စောထင်ရှားသည်ဖြစ်၏။ ထိုထိုသို့သော ရွာ, နိဂုံး[၄၇], မြို့တို့၌ နေကုန်သော လူအပေါင်းတို့သည်လည်း ဇရပ်, ရေကန်, ဥယျာဉ်, သူဌေးသား၏အမှုအရာတို့ကို ကြည့်ရှုဖူးမြင်ခြင်းငှာ လာလတ်ကုန်၏။

ဘုရားလောင်းသည်လည်း ထိုဇရပ်၌နေလျက် ရောက်လာကုန်သောသူတို့အား အကြောင်းအကျိုးနှင့်စပ်သော စကားကိုလည်းကောင်း၊ သင့်သည်, မသင့်သည်ကိုလည်းကောင်း ကောင်းစွာ ဆုံးဖြတ်ပြောဟော၏။

ထိုအခါ ဝိဒေဟရာဇ်တိုင်းသည် ဘုရားပွင့်တော်မူသောအခါကဲ့သို့ များသောအားဖြင့် ဟုတ်မှန်သော တရားအကျင့် တို့၌သာ တည်ကုန်၏။

[ဤကား ဘုရားလောင်းမဟောသဓ သတို့သားသည် ၇ နှစ်အရွယ် ရောက်ဦးကပင်လျှင် ကောင်းသောပညာ ကျေးဇူးအထူးဖြစ်သည်ကို ဆိုသောစကားတည်း။]

## ၃။ အိပ်မက်အရ ပညာရှိကိုရှာခန်း

ဝိဒေဟရာဇ်မင်းကြီးသည်လည်း ထိုအိပ်မက်မြင်သည်မှ ၇ နှစ်ရှိပြီးသော် ဤသို့ အကြံဖြစ်၏။ ‘ငါ၏အမတ် သုခမိန် ၄ ယောက်တို့သည် မိမိတို့ကိုလွန်၍ ၅ယောက်မြောက်သော ပညာရှိသည် ပေါ်လတ္တံ့ဟု ငါ၏အိပ်မက်ကို ဖတ်ကြားလျှောက်ထားကြကုန်၏။ ထိုပညာရှိသည် ယခု အဘယ်အရပ်၌ ရှိလိမ့်အံ့နည်း’ဟု အောက်မေ့လျက် အမတ် ၄ ယောက်ကိုခေါ်၍၊ “ငါ၏အိပ်မက်ကို သုခမိန်အမတ်တို့က ‘ပညာရှိပေါ်မည်’ဟု

ဖတ်ကြားကြကုန်သည်။ သင်တို့ ယခုထိုသုခမိန်တို့ဖတ်သော ပညာရှိကို အရပ် ၄ မျက်နှာတို့၌ အသီးသီးရှာကြရမည်”ဟု တစ်ယောက်စီ တံခါး ၄ မျက်နှာတို့မှ စေလွှတ်လိုက်၏။

ထိုအမတ်ကြီး ၄ ယောက်တို့တွင် တောင်, မြောက်, အနောက် ၃မျက်နှာတို့၌ ရှာကုန်သော အမတ်တို့သည် ပညာရှိကို မတွေ့ကုန်။ အရှေ့တံခါးမှထွက်၍ ရှာသောအမတ်သည် ပါစီနယဝ မဇ္ဈဂုံးရွာအလယ်၌ ဘုရားလောင်းသည် စီရင်အပ်သော ဇရပ်ကိုမြင်လတ်သော် ‘ဤဇရပ်ကို ဆောက်လုပ်စီရင်သော သူသည် မချွတ်လျှင် ပညာရှိဖြစ်လတ္တံ့’ဟု ကြံလျက်၊ “ဤဇရပ်ကို အဘယ်ဗိသုကာဆောက်သနည်း”ဟု မေး၏။

လူအပေါင်းတို့သည် “ဤဇရပ်ကို လက်သမားဗိသုကာတို့ ဆောက်လုပ်စီရင်သည် မဟုတ်။ သိရိဝဍ္ဎနသူဌေးကြီးသား မဟောသဓသုခမိန်သည် ဆရာအမှီမရှိဘဲ မိမိပညာအစွမ်းဖြင့် စီရင်အပ်သော ဇရပ်တည်း”ဟု ဆိုကြကုန်၏။

ထိုစကားကိုကြားလျှင် အမတ်လည်း “မဟောသဓသုခမိန်သည် အဘယ်မျှနှစ်အရွယ် ရှိပြီနည်း”ဟု မေး၏။ ရွာသားတို့လည်း “မဟောသဓသုခမိန်သည် ယခု ဤလတွင် ၇နှစ် အသက်စေ့ပြီ”ဟု ဆိုကုန်၏။ ထိုစကားကိုကြားလျှင် အမတ်သည် မင်းကြီးအိပ်မက်သော နှစ်လရက်များကို မှတ်သားရသည်နှင့် လျော်စွာ မင်းကြီးအိပ်မက်သည့် နေ့မှ ထိုလတိုင် နှစ် လ ရက် ပေါင်းကိုချင့်တွက်သော် သူဌေးသားအရွယ် အသက်နှင့် အိပ်မက်သည် နှစ် လ ညီကြသည်ဖြစ်၍ ‘သုခမိန်ဟူသည်ကား ဤသတို့သားပင်တည်း’ဟု အတပ်သိပြီးလျှင် မိဘနေရပ် အတ္တုပ္ပတ္တိအသွယ်သွယ်နှင့် အရွယ်အသက်ကို လျှောက်ချက်တင်၍

“အရှင်မင်းကြီး။ ပါစီနယဝမဇ္ဈဂုံးရွာနေ သိရိဝဍ္ဎနသူဌေးကြီးသား မဟောသဓသုခမိန်အမည်ရှိသော သတို့သားငယ်သည် မည်သည့်နှစ်,လ,ရက်က ဖွား၍ ၇နှစ်အရွယ်မျှသာရှိသေးလျက် ဤသို့သဘောရှိသော ဇရပ်ကိုဆောက်ပြီးလျှင်၊ ဤသို့သော သဘောရှိသော ရေကန်, ဥယျာဉ်ကို မိမိပညာအစွမ်းဖြင့် စီရင်၏။ ထိုသတို့သားသည် အိပ်မက်တော်မူသော နှစ်, လနှင့်ထောက်ချင့်သော် အညီပင်ဖြစ်၍ ဘုန်းတော်ကြောင့် ပေါ်ထွန်းလာသော ပညာရှိဧကန် မှန်ပါသည်။ ယခု ဆောင်ယူတော်မူလျှင် သင့်မည်ထင်ပါသည်”ဟု မင်းချင်း တစ်ယောက်ကိုစေ၍ လျှောက်ထားစေ၏။

ဝိဒေဟရာဇ်မင်းကြီးသည် ထိုစကားကိုကြားလျှင် အလွန်နှစ်သက်ဝမ်းမြောက်ခြင်း ဖြစ်သဖြင့် သေနကသုခမိန်အမတ်ကြီးကို ခေါ်စေ၍ ထိုအကြောင်းကိုပြောဆိုပြီးလျှင် “ဆရာအမတ်ကြီး။ ထိုသုခမိန်ကို ယခု ဆောင်ယူရသော် ကောင်းမည်မဟုတ်လော”ဟု တိုင်ပင်မေးမြန်း၏။

သေနကအမတ်သည် ဝန်တိုပိတ်ပင်ခြင်း ရှိသည်ဖြစ်၍ “အရှင်မင်းကြီး။ ဤမျှလောက်သောဇရပ်ကို ဆောက်လုပ်စီရင်တတ်ကာမျှနှင့် သုခမိန် မမြောက်သေး။ ဤမျှလောက်သောဇရပ်ကို သူခပ်သိမ်းတို့ပင် စီရင်နိုင်သည်ချည်းဖြစ်၍ ချီးမြှောက်လောက်အောင် ဂုဏ်ကျေးဇူး မရှိ” ဟုဆို၏။

ဝိဒေဟရာဇ်မင်းကြီးလည်း သေနကအမတ်ကြီးစကားကိုကြားလျှင် ‘ငါ၏အမတ်ကြီးသည် အကြောင်းထူးရှိသေးသောကြောင့် ဆိုသည်ဖြစ်မည်’ဟု သေနကအမတ်ကြီးစကားကို မပယ်ဘဲ ပါစီနယဝမဇ္ဈဂုံးရွာ၌ ဘုရားလောင်းကိုတွေ့သော အမတ်သို့သာလျှင် “သင်သည် ပါစီနယဝ မဇ္ဈဂုံးရွာ၌ နေလျက် မဟောသဓ သတို့သား၏ အမူအရာ ပညာရှိ, မရှိကို သိသာအောင် စူးစမ်းဆင်ခြင်လေဦး”ဟု မင်းချင်းတစ်ယောက်ကို စေလွှတ်လိုက်၏။

ထိုအမတ်သည်လည်း မင်းကြီးစကားကိုကြားလျှင် ထိုပါစိနယဝမဇ္ဈဂုံးရွာ၌နေလျက် ဘုရားလောင်း၏ အမူအရာပညာရှိ မရှိကို မပြတ်လျှင်စူးစမ်းဆင်ခြင်၏။

ထိုအမတ် စူးစမ်းဆင်ခြင်ရာ၌ ဤဆိုလတ္တံ့သည်ကား ဥဒါန်း[၁၉]အစဉ်တည်း။

'မံသံ ဂေါဏော ဂန္ထိသုတ္တံ၊ ပုတ္တံ ဂေါတော ရထေနစ။

ဒဏ္ဍော သီသံ အဟိ စေဝ၊ ကုက္ကုဋော မဏိ ဝိဇာယနံ။

သြဒနံ ဝါလုကဥ္စပိ၊ တဠာကုယျာန ဂဒြဘော မဏီတိ။ ။'

မံသဥ္စ၊ အမဲတရား လည်းကောင်း။ ဂေါဏောစ၊ နွားတရား လည်းကောင်း။ ဂန္ထိစ၊ လည်ရွဲတရား လည်းကောင်း။ သုတ္တဥ္စ၊ ချည်ထွေးတရား လည်းကောင်း။ ပုတ္တဥ္စ၊ သားတရား လည်းကောင်း။ ဂေါတောစ၊ ဂေါတကာလ၏ မယားခိုးတရား လည်းကောင်း။ ရထေနစ၊ ရထားလုတရား လည်းကောင်း။ ဒဏ္ဍောစ၊ ရှားလှံတံပြဿနာ လည်းကောင်း။ သီသဥ္စ၊ ဦးခေါင်းခွံပြဿနာ လည်းကောင်း။ အဟိစေဝ၊ မြွေပြဿနာ လည်းကောင်း။ ကုက္ကုဋောစ၊ ကြက်ပြဿနာ လည်းကောင်း။ မဏိစ၊ ပတ္တမြားပြဿနာ လည်းကောင်း။ ဇာယနဥ္စ၊ သားဖွားပြဿနာ လည်းကောင်း။ သြဒနဥ္စ၊ ထမင်းပြဿနာ လည်းကောင်း။ ဝါလုကဥ္စာပိ၊ သဲလွန်ပြဿနာ လည်းကောင်း။ တဠကဥ္စ၊ ရေကန်ပြဿနာလည်းကောင်း။ ဥယျာနဥ္စ၊ ဥယျာဉ်ပြဿနာ လည်းကောင်း။ ဂဒြဘောစ။ မြည်းပြဿနာ လည်းကောင်း။ မဏိစ၊ ပတ္တမြားကိုထုတ်ယူခြင်း လည်းကောင်း။ ဣတိဣဒံ၊ ဤ ၁၉ပါးသည်ကား။ ဝီမံသနဒါနံ၊ ပညာရှိလက္ခဏာကို စူးစမ်းခြင်းအကြောင်းတည်း။

## ၄။ အမဲသားတစ်ကို ချစေခန်း

ဤ ၁၉ပါးသော ဥဒါန်းအစဉ်တို့တွင် 'အမဲဟင်းမျိုးကို ဆောင်ယူခြင်းဟူသည် အဘယ်နည်း'ဟူမူကား

တစ်နေ့သ၌ မဟောသဓသေတို့သားသည် ဖွားဖက်ရွှေဖော် ၁၀၀၀ ခြံရံလျက် ကစားရာဇရပ်အတွင်း မြေတလင်းသို့ သွားလေသည်ရှိသော် စွန်ရဲတစ်ကောင်သည် ဈေးမှ အမဲသားတစ်တစ်ခုကိုချီလျက် ပျံလာသည်ကို မြင်ကြလေလျှင် ဖွားဖက်ရွှေဖော် ၁၀၀၀ တို့သည် ထိုသားတစ်ကို ချစိမ့်သောငှာ လိုက်ကြကုန်၏။ စွန်သည်လည်း အောက်က သူငယ်များ ဟစ်ကြွေးသောအသံဖြင့် ရွံ့ကြောက်၍ တောင်မြောက်လူးလာ ဘယ်ညာယက်တင် ကောင်းကင်သို့ ပျံ၍ပြေး၏။ သူငယ်တို့သည်လည်း စွန်ကိုမျှော်ကြည့်လျက်လိုက်ခြင်းကြောင့် တွင်း၊ ချောက်၊ ခလုတ်စသည်တို့၌ ချော်၍လဲသဖြင့် ပင်ပန်းကြကုန်၏။

ထိုအခါ မဟောသဓသေခမိန်သည် "အချင်းတို့။ ထိုစွန်ချီသောသားတစ်ကို ယခုပင် ချစေအံ့။ သင်တို့ မြင်လိုကြသလော"ဟု ဆို၏။ ဖွားဖက်ရွှေဖော်အပေါင်းတို့လည်း "အရှင့်သား။ မြင်လိုပါသည်"ဟု ဆိုကြလတ်သော် "ထိုသို့တပြီးကား သင်တို့ရှုကြကုန်လော့"ဟုဆို၍ ဘုရားလောင်းသည် ကောင်းကင်သို့မကြည့်ဘဲ

လေ၏လျင်ခြင်းဖြင့် လျင်စွာပြေးလတ်ပြီးလျှင် စွန်၏အရိပ်ကိုနင်းလျက် လက်ခုပ်တီး၍ ပြင်းစွာသောအသံဖြင့် ဟာစ်၏။ ထို ဟာစ်သောအသံသည် ဘုရားလောင်း၏အာနုဘော်ကြောင့် စွန်၏ရင်တွင်း၌နေ၍ ဟာစ်သကဲ့သို့ တစ်တစ်ချင်ချင် ကောင်းကင်သို့ ဝုန်တက်လျက် စွန်ငှက်၏ နားပွင့်အံ့သကဲ့သို့ဖြစ်၏ စွန်သည် ဘုရားလောင်း၏ အသံဖြင့် ရွံ့ကြောက်ခြင်းဖြစ်၍ သားတစ်ကို လွှတ်၏။ ဘုရားလောင်းသည် ကောင်းကင်သို့ မမျှော်မကြည့်ဘဲ သာလျှင် သားတစ်ကျလာသော အဖြစ်ကိုသိ၍ မြေသို့မကျစေရ၊ လက်ဖြင့် သားတစ်ကို ခံလင့်၏။ ထိုသို့သော အခြင်းအရာကို များစွာကုန်သော လူပရိသတ်အပေါင်းတို့သည် မြင်ကြလတ်သော ရင်သပ်ရှုမော သောသော အုရွှာအုတ်ရုတ်ရုတ်သဲသဲ အံ့အဲချီးမွမ်း လက်ပန်းပေါက်ခတ်လျက် လက်ဖျစ်ရိုက်တီး ငြီးငြီးသံလေး ဟာစ်ကြွေးကျူးကျော်ကြကုန်၏။

[ဤသည်ကား ဘုရားလောင်းအား ကောင်းချီးမင်္ဂလာ ရှေးဦးစွာဖြစ်ခြင်းတည်း။]

ဤသို့သောအခြင်းအရာကို ရှုမျှော်စောင့်နေရသော အမတ်သည် အတပ်သိလေသော်၊ အလုံးစုံသော အခြင်းအရာကို လျှောက်စာတင်၍ လုလင်မင်းချင်းတစ်ယောက်ကို အလျှောက်အထား မင်းကြီးထံသို့ စေလိုက်၏။

ဝိဒေဟရာဇ်မင်းကြီးသည် ထိုစကားကိုကြားလျှင် သေနကအမတ်ကြီးကိုခေါ်၍ "ဆရာအမတ်ကြီး။ မဟောသဓ သုခမိန်ကို သိမ်းဆောင်ချိန် အခွင့်တော်သင့်ပြီမဟုတ်လော"ဟု မေးတော်မူ၏။ ဝိဒေဟရာဇ်မင်းကြီး တိုင်ပင်သော စကားကို သေနကအမတ်ကြီးကြားလျှင် ဤသို့ အကြံဖြစ်၏။ 'မဟောသဓသတို့သားသည် ဤနန်းတော်သို့ ရောက်သည်ရှိသော် ထိုသူရောက်သောအခါမှစ၍ ငါတို့ပညာ ကျေးဇူးဂုဏ်သည် တစ်စုံတစ်ခုသောအခွင့်တွင်မျှ မပွင့်မလန်း ညှိုးနွမ်းယုတ်လျော့စွာ အရာမဝင်သည် ဖြစ်လတ္တံ့။ မင်းကြီးသည်လည်း ထိုမဟောသဓ ရောက်သည်ရှိသော် ငါတို့ရှိမှန်းကိုမျှ မသိလတ္တံ့။ ထို့ကြောင့် မဟောသဓကို မသိမ်းမဆောင်စေခြင်းငှာ မင်းအား လျှောက်ကြားအံ့'ဟု လာဘ်ပူဇော်သက္ကာ[၁၀] ဂုဏ်ပညာတို့၌ ဝန်တိုခြင်းဖြင့် "အရှင်မင်းကြီး။ ဤ စွန်ချီသောသားတစ်ကို ချစေနိုင်ခြင်းသည် အနည်းငယ်မျှသာတည်း။ ဤမျှလောက်သော အခြင်းအရာဖြင့် ပညာရှိသုခမိန် မခန့်လောက်သေး။ ဆင်ခြင်တော်မူဦးလော့"ဟု လျှောက်၏။

ဝိဒေဟရာဇ်မင်းကြီးသည် သေနကအမတ်ကြီးစကားကိုကြားလျှင် စိတ်လျစ်လျူဖြစ်ပြန်၍ တစ်ဖန် အမတ်ထံသို့ 'မဟောသဓ သတို့သားကို စုံစမ်းလေဦး'ဟု စေလိုက်ပြန်၏။

## ၅။ နွားတရား စီရင်ခန်း

နွားတရားဟူသည်ကား ပါစီနယဝ မဇ္ဈိုးရွာသားတစ်ယောက်သည် မိုးကျလျှင် လယ်လုပ်အံ့ဟု ရွာတစ်ပါးမှ နွားတစ်ရှဉ်းကိုဝယ်၍ မိမိအိမ်သို့ ဆောင်ယူခဲ့၏။ မိုးသောက်သောနေ့၌ ထိုနွားတစ်ရှဉ်းကို မြက်ကောင်းရာ အရပ်သို့သွား၍ နွားကျောက်ကုန်းပေါ်၌စီးလျက် ကျောင်းပြီးလျှင် ညောင်းညာငိုက်မျဉ်းသည်ဖြစ်၍ နွားပေါ်မှဆင်းပြီးသော် အရိပ်ကောင်းသောသစ်ပင်အောက်၌ အိပ်၏။ ထိုနွားရှင် အိပ်ပျော်စဉ်

သူခိုးတစ်ယောက်သည်လာလတ်၍ ထိုနွားတစ်ရှဉ်းကို ခိုးဆောင်ပြေးလေ၏။ နွားရှင်နိုး၍ နွားကိုကြည့်လျှင် မမြင်သဖြင့် ထိုမှဤမှ မျှော်ကြည့်လတ်သော် သူခိုးဆောင်ယူပြေးသွားသည်ကို မြင်၍ လျင်စွာလိုက်လျက်၊ မီလတ်သော်

"သင် အဘယ့်ကြောင့် ငါ့နွားတစ်ရှဉ်းကို ခိုးယူသနည်း"ဟုဆို၏။ ထိုစကားကိုကြားလျှင် နွားခိုးသည် "ဟယ်-ယောကျ်ား။ နင် ဘယ်က လူနည်း။ နှုတ်ရိုင်းစော်ကား မပြောငြားနှင့်။ ငါ့နွားကို ငါ လိုရာဆောင်သွားမည်။ ငါ့အားအဘယ့်ကြောင့် သူခိုးဟု ယိုးစွပ်ဘိသနည်း"ဟု ဆို၏။ ဤသို့ နွားရှင်၊ နွားခိုးတို့သည် ငြင်းခုံကြလျက် ပါစီနယဝ မဇ္ဈဂုံးရွာသို့ ရောက်လာကုန်သဖြင့် လူအပေါင်းတို့သည် ထိုသူ ၂ယောက်တို့ ခိုက်ရန်စကားကို နားထောင်ကြည့်ရှုအံ့သောငှာ လာကြကုန်၍ အုတ်အုတ်ကျက်ကျက်ဖြစ်၏။

ထိုအသံကို မဟောသဓသေုခမိန် ကြားလေသော် "ငါ၏ဇရပ်တံခါးဝ လမ်းမခရီး၌ အဘယ့်ကြောင့် ဤသူ ၂ ယောက်တို့ အငြင်းအခုံ ဖြစ်ကြသနည်း။ ထိုသူ ၂ ယောက်တို့ကို ခေါ်စေ"၍ နွားရှင်နှင့် နွားခိုးတို့ရောက်လျှင် ထိုသူ ၂ ယောက်တို့၏ အမူအရာလက္ခဏာကို ဆင်ခြင်ထောက်ရှု၍ 'ဤသူကား နွားရှင်၊ ဤသူကား နွားခိုးတည်း'ဟု အတပ်အမှန် သိငြားသော်လည်း၊ 'သူတစ်ပါးလည်း ထင်ရှားစွာသိမှ အဂတိသို့ မငြိမစောင်း ကောင်းစွာအစီအရင် ထင်ရှားသည်ဖြစ်၍ အပြစ်တင်လွတ်ရာချေသည်'ဟုကြံလျက် "သင်တို့ ၂ ယောက် အဘယ့်ကြောင့် အငြင်းအခုံ ဖြစ်ကြသနည်း"ဟုမေး၏။ နွားရှင်က ရှေးဦးစွာ

"အရှင့်သား။ ဤမည်သောရွာနေ ဤမည်သောသူ၏လက်မှ ဤနွားတစ်ရှဉ်းကို ဤမျှအဖိုးနှင့်ဝယ်ခဲ့၍ အိမ်၌ တစ်ညဉ့်မျှသာ ရှိပါသေးသည်။ ထိုဝယ်သည့်နောက် ယခုနေ့ မိုးသောက်ထ နံနက်ကပင် မည်သည့်အရပ် မြက်ကောင်းရာ၌ နွားတစ်ရှဉ်းကိုလွှတ်ကျောင်း၍ အရိပ်ကောင်းရာ အကျွန်ုပ်အိပ်ပျော်ငိုက်မျဉ်းစဉ် ဤသူသည် ကျွန်ုပ်နွားတစ်ရှဉ်းကို ခိုးယူဆောင်သွားသည့်နောက် အိပ်ရာမှနိုး၍ ကျွန်ုပ်ကြည့်မျှော်လျှင် ဤမသူတော် ခိုးသူယူသွားသည်ကိုမြင်သဖြင့် လျင်စွာ ကျွန်ုပ်လိုက်နိုင်သောကြောင့်သာ ဤနွားခိုးကို ဘဏ္ဍာနွားတစ်ရှဉ်းနှင့် လက်ပူးလက်ကြပ်မိပါသည်။ အကျွန်ုပ်စကားကို အရှင့်သား ယုံတော်မမူပါလျှင် ဤနွားတစ်ရှဉ်းကို ဝယ်ရာ ရွာသား မည်သူ မည်သူတို့ အသိအရှိ အမြင်အကြားဖြစ်ပါသည်။ ထို သိ,ကြားသူတို့ခေါ်၍ စစ်မေးတော်မူလျှင် စီရင်သာအောင် သိရပါလိမ့်မည်"ဟု ဆို၏။

မဟောသဓသေုခမိန်သည် ထိုစကားကိုကြားလျှင် နွားခိုးကို "အချင်းယောကျ်ား။ တစ်ဦးက စကားကုန်ခန်းအောင် သက်သေနှင့်တကွ ဆိုပြီ။ သင်က ဟုတ်မှန်တိုင်းကို ဆိုလော့"ဟုဆို၏။ နွားခိုးသည်

"အရှင့်သား။ အကျွန်ုပ်ခြံပေါက် ဤနွားတစ်ရှဉ်းကို ကျွန်ုပ်လိုရာအရပ်သို့ ဆောင်သွားပါစဉ် ဤသူသည် အနိုင်အထက် မင်းမျက်မင်းဒဏ်သင့်အောင် အခွင့်မဟုတ်ဘဲ ကျွန်ုပ်ကို နွားခိုးဟုယိုးစွပ်၍ မအပ်မရာ ပြုကျင့်သည့် အမှုသာ ဖြစ်ပါသည်။ ထိုသူ့နွား မဟုတ်"ဟု ဆို၏။

ဤသို့ အမှုသည် ၂ဦး၏စကားကိုကြားလျှင် ဘုရားလောင်းသည် ထိုသူတို့အမှုတရား မပွားများရအောင် ဟုတ်မှန်တိုင်းစီရင်လို၍

"သင်တို့ ၂ ယောက် ငါ ကောက်ယူဆုံးဖြတ်ချက်ကို နှစ်သက်စွာပြီးကြမည်လော"ဟု မေး၏။

"အရှင့်သား။ ပြီးပါမည်"ဟု အမှုသည် ၂ ဦးဆိုလျှင် ဇရပ်တွင်ရှိသမျှပရိသတ်တို့အား ထင်ရှားစွာ ဖြစ်စေခြင်းငှာ ဤသို့ဆို၏။

"သင်တို့စကား ၂ရပ်ပင် လက်သပ်မကွာ မွေးကျွေး၍ထားသောနွားဖြစ်ဟန် အမှန်အတပ် ဆိုကြပေသည်တွင် တရားသူကြီးတို့ဆင်ခြင်ရန် စကားမကုန်သေးသည်ဖြစ်၍ မဆုံးမဖြတ်သာသေး။ စစ်မေးရဦးမည်။ သင်တို့ ဟုတ်မှန်တိုင်း ပြောလော့"ဟု ဆိုပြီးလျှင်၊ ခိုးသူကို ရှေးဦးစွာ "အချင်းယောကျာ်း။ ဤနွားတစ်ရှဉ်းကို သင့်ခြံပေါက်ဖြစ်သည် ဟု ဆိုပြီ။ အဘယ်အစာကို အသင် ကျွေးမွေးသနည်း"ဟု မေး၏။ နွားခိုးသည်

"အရှင့်သား။ နှမ်းဖတ်နှင့် ပဲမှော်ကိုသာ စားစေလျက် ရက်မန်းရည် ယာဂုကိုသာ သောက်စေ၏" ဟု ဆို၏။ ထို့နောက် နွားရှင်ကို မေးပြန်လျှင်

"အရှင့်သား။ အကျွန်ုပ်ကား လယ်လုပ်သားဖြစ်၍ အလွန်ဆင်းရဲ၏။ အဘယ်မှာ ယာဂု ရနိုင်ပါမည်နည်း။ မြက်ကိုသာ ကျွေးရ၏"ဟု ဆို၏။

ထိုသူ ၂ယောက်တို့စကားကို အလုံးစုံသောပရိသတ်အပေါင်းတို့အား မှတ်သားစေပြီးသော် ဘုရားလောင်းသည် သျှိသျှားရွက်ကို ဆောင်ယူစေပြီးလျှင် ညက်စွာထောင်းပြီးမှ ရေနှင့်ဖျော်၍ နွားတစ်ရှဉ်းကို တိုက်စေ၏။ ထိုအခါ နွားတို့သည် ဝမ်းသက်ကုန်လတ်သော် မြက်ဖတ်သာလျှင် ပါကုန်၏။

ဘုရားလောင်းသည် လူအပေါင်းတို့အား "သင်တို့ ဤနွားချေးကို ရှုကြကုန်လော့"ဟု ပြပြီးလျှင်၊ သူခိုးကို "အချင်းယောကျာ်း။ 'သင့်နှုတ်ကကား နွားခိုး မဟုတ်။ သင့်နွားကကား နွားခိုးဖြစ်သည်'ဟု ယခု ပရိသတ်အလယ်၌ အထင်အရှားပြ၍ ရှိချေပြီ။ သင် နွားခိုးဟုတ်၏လော, မဟုတ်၏လော"ဟုမေး၏။

ခိုးသူလည်း လွှဲဖယ်၍ မပြောသာရကား "အရှင့်သား။ ခိုးမိချေ၏"ဟု ဝန်ခံ၏။

ထိုအခါ ဘုရားလောင်းသည် "အချင်းယောကျာ်း။ အရှေ့မဇ္ဈိုင်ရွာ၌ သူဌေးကြီးသား မဟောသဓသည် သူတစ်ပါးတို့ လျှို့ဝှက်သောအမှုကို တစ်ခုမကျန် ဉာဏ်အစွမ်းဖြင့် သိမြင်တတ်သည်ဟူ၍ သင် မကြားဘူးသလော။ မုသာဝါဒ[၁]ကို အဘယ့်ကြောင့် သင်ပြောဆိုသနည်း။ ယနေ့မှစ၍ အသက်ရှည်သော ကာလပတ်လုံး ဤကဲ့သို့အမှုကို ပြုကျင့်မည် မကြံလေနှင့်"ဟုဆုံးမ၏။

ဘုရားလောင်း ဖွားဖက်ရွှေဖော် ၁၀၀၀ တို့သည် ထို နွားခိုးသောယောကျာ်းကို ခြေဖြင့် ယမ်းခတ်ခြင်း, လက်ဖြင့် ထောင်းထုခြင်းဖြင့် တစ်သက်လုံးအရှက်ရအောင် နာကျင်စွာ ဒဏ်ပေးကြကုန်၏။ ဘုရားလောင်းသည် သူငယ်ဖော်တို့ ထောင်းခတ်၍ မှတ်လောက်အောင် ထိုသူနာကျင်ပြီးသော် သူငယ်ရွှေဖော်များကို တားမြစ်၍ ထိုနွားခိုးအား "အချင်းယောကျာ်း။ သင်သည် သူ့ဥစ္စာကို ခိုးယူခြင်းအပြစ်ကြောင့် မသေမီကပင် နာကျင်ပြင်းပြစွာသော ဆင်းရဲကို ခံရပြီ။ သေလွန်သည်ရှိသော်ကား ယခုခံရသော ဆင်းရဲထက် အဆ အထောင် အသောင်းမက ပြင်းပြပူပန်စွာ ၄ ဖြာသောအပါယ်[၁]၌ ကိုးကွယ်ရာမရ ဒုက္ခမလွဲ ဆင်းရဲကို ခံရလတ္တံ့။ အပါယ်ဆင်းရဲကို သင် ဆင်ခြင်ကြောက်လန့်လျက် အသက်ထက်ဆုံး ဤကဲ့သို့သောအမှုကို ယခုငါ့ထံက စွန့်ပစ်၍ အသစ်တရား ၅ ပါးသောသီလ၌ နေ့ည တည်စေလော့"ဟု ပဉ္စင်္ဂသီလ[၁]ဖြင့် အဆုံးအမ ပေးလိုက်၏။

ထိုအခါ ဘုရားလောင်းကို စုံစမ်းလျက်နေသောအမတ်သည် ထိုအကြောင်းကိုသိလျှင် ရှေးနည်းဖြင့် အလုံးစုံကို စာတင်၍ ဝိဒေဟရာဇ်မင်းကြီးအား လျှောက်ကြားစေ၏။

ဝိဒေဟရာဇ်မင်းကြီးသည် ထိုစကားကိုကြားသော် သေနကအမတ်ကြီးကိုခေါ်၍ အလုံးစုံကို ပြန်ကြားပြီးလျှင် ဆရာအမတ်ကြီး မဟောသဓသူခမိန်ကို ဆောင်ယူချိန် အခွင့်သင့်ပြီမဟုတ်လောဟု မေးမြန်းတိုင်ပင်၏။ သေနကအမတ် သူခမိန်သည်

"အရှင်မင်းကြီး။ တရားစီရင်ရာ လွှတ်သဘင်၌ အမတ်တရားသူကြီးတို့သည် မပြတ်လျှင် ခိုးမှုယိုးမှု အစုစုပေါ်ပေါက်လာသည့် တရားကိုပင် ဆင်ခြင်မျှော်ရှုလျက် အမှုသည်တို့ လျှို့ဝှက်ကုန်ငြားသော်လည်း သိသာအောင် စစ်ဆေးမေးမြန်း၍ တရားလမ်းရိုး ရှိတိုင်း စီရင်နိုင်ကြသည်ချည်းပင် ဖြစ်ပါသည်။ ထိုမျှသာ တရားကို စီရင်နိုင်ကာမျှနှင့် သုခမိန်မခေါ်လောက်သေးဖြစ်၍ ငံ့လင့်နေတော်မူဦးလော့"ဟု လျှောက်၏။

သေနကအမတ်ကြီးစကားကို ကြားလျှင် မင်းကြီးသည် လျစ်လျူဖြစ်ပြန်၍၊ တစ်ဖန် အမတ်ထံသို့ "စုံစမ်းလေဦး" ဟု စေလိုက်ပြန်၏။

ဤလည်း ဘုရားလောင်းအား ကောင်းသောမင်္ဂလာ တစ်ကြိမ်ဖြစ်ခြင်းတည်း။

## ၆။ လည်ရွဲတရား စီရင်ခန်း

လည်ရွဲတရားဟူသည်ကား သူဆင်းရဲမတစ်ယောက်သည် ကြွယ်ဝသောမိန်းမများကဲ့သို့ ရွှေငွေကျောက်မျက် ခြယ်လှယ်အပ်သော လည်ရွဲဘယက်တို့ကို မဆင်ရသဖြင့် အနီ၊ အဝါ၊ အပြာ၊ အစိမ်း စသောချည်မျိုးတို့ဖြင့် ထိုးချုပ်စီရင်အပ်သော ချည်လည်ရွဲကိုသာ ဆင်ရ၏။ ထိုမိန်းမသည် ထိုချည်လည်ရွဲကို လည်မှချွတ်၍ အပေါ်ရုံအင်္ကျီတဘက်ပေါ်၌ ထားပြီးလျှင် ဘုရားလောင်းစီရင်အပ်သော ရေကန်သို့ ရေချိုးအံ့သောငှာ ဆင်းသက်လတ်သော် မိန်းမငယ်တစ်ယောက်သည် ထိုလည်ရွဲကိုမြင်၍ လိုချင်သောစိတ်ဖြင့် ထိုလည်ရွဲကို အင်္ကျီတဘက်ပေါ်မှ ကောက်ယူပြီးလျှင် "အမယ်။ ဤလည်ရွဲသည် အလွန် တင့်တယ်လျောက်ပတ်၏။ အဘယ်မျှ ချည်ကုန်သနည်း။ ဤလည်ရွဲကဲ့သို့ ကျွန်ုပ်လည်း ထိုးချုပ်ချင်ပါသည်"ဟုဆိုလျက် လည်၌စွပ်ပြီးသော် "ခဏမျှ အတုယူပါရစေ"ဟု ဆို၏။ လည်ရွဲရှင်မိန်းမလည်း သဘောဖြောင့်ဖြောင့်ဆိုသည်ထင်၍ "ကောင်းပြီ၊ ကြည့်ပါလော့"ဟုဆိုလတ်လျှင် ထိုမိန်းမငယ်သည် လည်ရွဲကိုဆင်၍ လျင်စွာပြေးလေ၏။

ထိုလည်ရွဲရှင်မိန်းမသည် ထိုမိန်းမငယ် ခိုးယူသွားသည်ကို မြင်လျှင် လျင်စွာ ကန်မှတက်လျက် အဝတ်အင်္ကျီ ထမီတဘက်ဝတ်ပြီးသော် လျင်စွာလိုက်၍ "အဘယ်ကြောင့် ငါ့လည်ရွဲကို ယူ၍ပြေးဘိသနည်း"ဟု မိန်းမငယ်၏တဘက်ကို ဆွဲကိုင်၏။ မိန်းမငယ်လည်း "ငါ့လည်ရွဲကို ငါဆင်၍ ခရီးသွားရာ အဘယ့်ကြောင့် ရှင်မ လည်ရွဲခိုး ဟုယိုးစွပ်၍ ဆွဲငင်အံ့သနည်း"ဟုဆို၏။

ထိုသို့ အချင်းချင်း ငြင်းခုံကြ၍ ကြည့်ရှုနားထောင်အံ့ဟု လာကုန်သော ရွာသူရွာသားအပေါင်းတို့ ဝန်းရံလျက် ဘုရားလောင်းကစားရာ ဇရပ်တံခါးဝ လမ်းမခရီးအနီးသို့ လာလတ်ကုန်၏။

ဘုရားလောင်းသည် ထိုငြင်းခုံကြသောအသံကို ကြားလတ်သော် "အဘယ်အသံနည်း"ဟုမေးလျှင် ထိုသူ ၂ ယောက်တို့ကို ခေါ်စေ၍၊ ရောက်သောအခါ ထိုသူ ၂ယောက်တို့၏ အမူအရာလက္ခဏာကိုမြင်လျှင် 'ဤသူကား ခိုးသူမ၊ ဤသူကား ဥစ္စာရှင်'ဟု အတပ်သိပြီးလျှင်၊ သူခပ်သိမ်းလည်း သိစေခြင်းငှာ "သင်တို့

အဘယ့်ကြောင့် ငြင်းခုံကြသနည်း”ဟု မေးလျှင်၊ ၂ ဦးစလုံးကပင် အသီးအသီး မိမိတို့ဥစ္စာဖြစ်ကြောင်းကို ပြောဆိုကြလတ်သော်၊ ဘုရားလောင်းသည် “သင်တို့စကား ၂ ရပ်ကို ကြားသိရပြီ။ ငါဆုံးဖြတ်သည့်အတိုင်း သင်တို့ ပြီးကြမည်လော”ဟု မေး၏။ “အရှင့်သား။ ပြီးပါမည်”ဟု ဝန်ခံကြလျှင်၊ ဘုရားလောင်းသည် “သင်တို့သည် ဟုတ်မှန်တိုင်း ပြောလော့”ဟုဆို၍၊ ခိုးသူမကို ရှေးဦးစွာ “သင်၏လည်စွဲကို အဘယ်နံ့သာရည်ဖြင့် မပြတ် လိမ်းသုတ်သနည်း”ဟုမေး၏။

ခိုးသူမလည်း “အရှင့်သား။ အလုံးစုံသော အမွှေးမျိုးတို့ဖြင့် ပေါင်းနှော၍လုပ်အပ်သောကြောင့် သဗ္ဗသာဟာရက^[၁]အမည်ရှိသော နံ့သာပေါင်းဖြင့် နေ့တိုင်းအမြဲ လိမ်းသုတ်ပါသည်”ဟု ဆို၏။ ထို့နောက် လည်စွဲရှင် မိန်းမကြီးကို မေးပြန်သော် “အရှင့်သား။ ဆင်းရဲသောအကျွန်ုပ်အား သဗ္ဗသာဟာရကနံ့သာ အဘယ်မှာ ရပါအံ့နည်း။ အကျွန်ုပ်သည် ဤလည်စွဲကို သျှိသျှားပွင့်ဖြင့်သာလျှင် နေ့တိုင်းမပြတ် လိမ်းသုတ်ရ၏”ဟုဆို၏။

ဘုရားလောင်းသည် ထိုသူ ၂ယောက်တို့စကားကို ပရိသတ်တို့အား မှတ်သားစေပြီးလျှင် တစ်ခုသော ရေခွက်ကို ဆောင်ယူစေ၍ ထိုရေခွက်၌ လည်စွဲကိုနှစ်ပြီးသော် ဂန္ဓာရုံ^[၂]၌ကျွမ်းကျင်သော လူတစ်ယောက်ကိုခေါ်၍ မည်သည့်အနံ့ နံ့သည်ဟုသိရအောင် နမ်းစေ၏။

ထိုသူသည် လည်စွဲကို နမ်းလတ်သော် သျှိသျှားပွင့်နံ့သာ ရှိသည်အဖြစ်ကိုသိပြီး၍—

‘သဗ္ဗသာဟာရကော နတ္ထိ၊ သုဒ္ဓကင်္ဂု ပဝါယတိ။

အလိကံ ဘာသတိ ယံ ဓုတ္တိ၊ သစ္စမာဟ မဟလ္လိကာ။ ။’ ဟု ကေနိပါတ် ကျမ်း၌လာသော ဂါထာဖြင့်ဆို၏။

အနက်ကား။ ။ ပဏ္ဍိတ၊ သုခမိန်။ သဗ္ဗသာဟာရကော၊ သဗ္ဗသာဟာရက နံ့သာနံ့သည်။ နတ္ထိ၊ မရှိ။ သုဒ္ဓကင်္ဂု၊ သျှိသျှားပွင့်နံ့ သက်သက်သာ။ ပဝါယတိ၊ လှိုင်၏။ အယံဓုတ္တိ၊ ဤမိန်းမငယ်သည်။ အလိကံ၊ မမှန်သောစကားကို။ ဘာသတိ၊ ဆို၏။ မဟလ္လိကာ၊ မိန်းမကြီးသည်။ သစ္စံ၊ မှန်သောစကားကို။ အာဟ၊ ဆို၏။ အဓိပ္ပာယ်ကား—

“အရှင့်သား။ ဤလည်စွဲ၌ သဗ္ဗသာဟာရက နံ့သာနံ့ မရှိ။ သျှိသျှားပွင့်နံ့သာ သက်သက်လှိုင်၏။ မိန်းမငယ် စကားမမှန်။ မိန်းမကြီးစကားသာလျှင် ဆိုတိုင်းမှန်ပေသည်ဟု လည်စွဲကို နမ်းသောသူသည် ဘုရားလောင်းအား ပြန်ကြား၏။

ဘုရားလောင်းသည် “သင်တို့ကြည့်ရှုကြကုန်လော့”ဟု ပရိသတ်အပေါင်းတို့အား သိစေပြီးလျှင် ခိုးသူမကို “သင့်ဥစ္စာဟု သင်ဆိုသည်။ လည်စွဲက သင့်ကို ခိုးသူမ ဟု ပြ၍ရှိချေပြီ။ သင် အသို့နည်း။ လည်စွဲခိုး မဟုတ်လော”ဟု မေး၏။ ခိုးသူမလည်း လွှဲ၍ပြောခွင့်မရသောကြောင့် “အရှင့်သား။ အကျွန်ုပ်ခိုးယူမိသည် မှန်ပေ၏”ဟု ဝန်ခံ၏။ ထိုအခါ ဘုရားလောင်းသည် ရှေးနည်းဖြင့် ‘နောင် ဤကဲ့သို့ မကျင့်လေနှင့်’ဟု အဆုံးအမပေး၏။

ဖွားဖက်သူငယ် ၁၀၀၀ တို့သည်လည်း ရှေးနည်းဖြင့် ထောင်းထုခြင်းဒဏ် နာကျင်စွာပေးကြကုန်၍ လွှတ်လိုက်၏။

ထိုအကြောင်းကို အမတ်သိလျှင် အလုံးစုံကိုရေးသျှောက်စာတင်၍ မင်းကြီးကို ကြားလျှောက်စေ၏။

ဝိဒေဟရာဇ်မင်းကြီးသည် ထိုစကားကိုကြားလျှင် သေနကအမတ်ကြီးကိုခေါ်၍ စကားအလုံးစုံကို ပြန်ကြားပြီးသော် “မဟောသဓသုခမိန်ကို ဆောင်ချိန် မသင့်သေးသလော”ဟု မေးမြန်းတိုင်ပင်တော်မူပြန်၏။

သေနကအမတ်ကြီးလည်း "အရှင်မင်းကြီး။ ဤမျှသောအရာနှင့် သုခမိန် မခန့်လောက်သေး။ ငံ့တော်မူဦးလော့" ဟုလျှောက်၏။ မင်းကြီးသည် သေနကအမတ်ကြီး စကားကိုကြားလျှင် စိတ်လျှစ်လျူဖြစ် ပြန် တစ်ဖန် အမတ်ထံ "စုံစမ်းလေဦး"ဟု စေလိုက်ပြန်၏။

ဤလည်း ဘုရားလောင်း၏ ကောင်းသောကျေးဇူးဂုဏ်သတင်း ကျော်စောခြင်း တစ်ကြိမ် ဖြစ်ခြင်းတည်း။

## ၇။ ချည်ထွေးတရား စီရင်ခန်း

ချည်ထွေးတရား ဟူသည်ကား ဝါခင်းစောင့်သော မိန်းမတစ်ယောက်သည် ထိုဝါခင်း၌စောင့်နေရင်း ဝါပေါက်စင်စင်ကို ချည်ချောဝင့်ပြီးလျှင် အစာတင်ပြီးမှ ကောင်းစွာလုံး၍ထား၏။

ထိုမိန်းမသည် တစ်နေ့သ၌ ချည်လုံးကို ရင်၌ပိုက်၍ မိမိအိမ်သို့ လာလတ်သော် 'ဘုရားလောင်း၏ရေကန်၌ ရေချိုးအံ့'ဟု ချည်လုံးကို မိမိအင်္ကျီပေါ်၌ထား၍ ရေကန်တွင်းသို့ ရေချိုးဆင်းလေ၏။ ထိုအခါ မိန်းမတစ်ယောက်သည် ထိုချည်လုံးကိုမြင်လေသော် လိုချင်သောစိတ် ဖြစ်လာလတ်၍ 'ချည်ချောပေစွ၊ ကောင်းပေစွ'ဟု ချီးမွမ်းလျက် ကိုင်ယူပြီးလျှင်၊ "အမယ်။ ဤချည်ကို အမယ်ပင် ဝင့်ပေသလော။ ဖြစ်ခဲပေစွ"ဟု လက်ခုပ်တီး၍ ကြည့်ဟန်ပြုလျက် ရင်ခွင်၌ပိုက်၍ ပြေးလေ၏။

ချည်လုံးရှင်မိန်းမသည်လည်း ရေးနည်းဖြင့် အလျင်တဆော ရေမှတက်၍လိုက်လျက် "သင် အဘယ့်ကြောင့် ချည်လုံးကို ခိုးယူပြေးသနည်း"ဟု အင်္ကျီစကို လက်ဖြင့်ကိုင်ဆွဲ၏။ ခိုးသူမလည်း "ငါ့ချည်လုံးကို ငါယူ၍ ငါအလိုအလျောက် ခရီးသွားရာ သင် အဘယ့်ကြောင့် ချည်လုံးခိုးစွပ်စွဲ၍ ငါ့အင်္ကျီစကို ဆွဲကိုင်ဘိသနည်း။ ဆုတ်လော့။ ကောင်းစွာသွားပါရစေ" ဟုဆို၏။

ဤသို့ အချင်းချင်း အငြင်းအခုံဖြစ်၍ လူအပေါင်းဝန်းရံကုန်လျက် ဘုရားလောင်းကစားရာ ဇရပ်တံခါးဝ ခရီးမသို့ ရောက်လာကြကုန်၏။

ဘုရားလောင်းသည် ရေးနည်းဖြင့် ထိုမိန်းမ ၂ ယောက်ကိုခေါ်စေ၍၊ ရောက်လတ်သော် ထိုသူတို့၏ အမူအရာလက္ခဏာကို ဆင်ခြင်သဖြင့် ဤသူကား 'ခိုးသူမ။ ဤသူကား ချည်လုံးရှင်'ဟု အမှန်အတပ် သိငြားသော်လည်း၊ သူတစ်ပါးတို့အား သိစေခြင်းငှာ အကြောင်းအရာကိုမေး၍ ၂ ဦးလုံးကပင် ဥစ္စာရှင်ချည်း ဖြစ်ဟန်စကားဖြင့် ပြောဆိုချေလဲပြီးသော်၊ ဘုရားလောင်းသည် "သင်တို့ ငါဆုံးဖြတ်တိုင်း ပြီးကြမည်လော"ဟု မေး၏။ ထိုမိန်းမ ၂ယောက်တို့လည်း 'ပြီးပါမည်'ဟု ဝန်ခံကြကုန်၏။

ထိုအခါ ဘုရားလောင်းသည် ခိုးသူမကို "ချည်လုံး၏အတွင်း၌ အဘယ်ကိုထည့်ခံ၍ လုံးသနည်း"ဟု မေး၏။ ခိုးသူမလည်း "အရှင့်သား။ ဝါစေ့ကိုထည့်၍ လုံးပါသည်"ဟုဆို၏။ ထို့နောက် ချည်လုံးရှင်ကို မေးမြန်းလတ်လျှင် "အရှင့်သား။ တည်စေ့ကိုထည့်၍ လုံးပါသည်"ဟုဆို၏။

ထိုမိန်းမ ၂ယောက်တို့၏စကားကို ပရိသတ်တို့အား မှတ်သားစေပြီး၍ ချည်လုံးကို ဖြည်ဖွင့်ကြည့်ရှုစေလတ်သော် တည်စေ့ကို တွေ့လေ၏။ ထိုအခါ ဘုရားလောင်းသည် ဆိုအပ်ပြီးသောနည်းဖြင့် ခိုးသူအဖြစ်ကို ဝန်ခံစေပြီးလျှင် ထိုခိုးသူမအား အဆုံးအမပေး၍ လွှတ်လိုက်လေ၏။ ဤအကြောင်းကို အမတ်သိလတ်သော် အလုံးစုံကို မင်းကြီးအား လျှောက်ထားစေပြန်၏။ မင်းကြီးလည်း ရှေးနည်းအတူ သေနကအမတ်ကြီးကို တိုင်ပင်၍၊ သေနကအမတ်ကြီး ဖျက်ပြန်လေသော် စိတ်လျစ်လျူဖြစ်သဖြင့် 'စုံစမ်းလေဦး'ဟု စေတော်မူလိုက်ပြန်၏။

ဤလည်း ဘုရားလောင်းအား ကောင်းချီးမင်္ဂလာ တစ်ကြိမ်ဖြစ်ခြင်းတည်း။

## ၈။ သားတရား စီရင်ခန်း

သားတရား ဟူသည်ကား တစ်နေ့သ၌ မိန်းမတစ်ယောက်သည် မိမိသားကို ပိုက်ချီလျက် ရေချိုးအံ့သောငှာ မဟောသဓ သုခမိန် စီရင်သောရေကန်သို့ လာလတ်၍၊ ထိုရေကန်၌ သားငယ်ကိုရေချိုးပြီးသော် မိမိရေချိုးအံ့သောငှာ သားငယ်ကို အဝတ်ပေါ်၌ သိပ်ထားပြီးလျှင် ရေကန်နားသို့ ဆင်းသက်လေ၏။

ထိုအခါ ဘီလူးမတစ်ယောက်သည် ထိုသူငယ်ကို မြင်လျှင် စားချင်သောစိတ် ရှိသဖြင့် မိန်းမအသွင်ဖန်ဆင်းလျက် လာလတ်၍ "အဆွေမ။ ဤသူငယ်သည် ချစ်ဖွယ် သနားဖွယ်ရှိ၏။ သင့်သားပေလော"ဟု မေး၏။ သူငယ်အမိလည်း "အဆွေမ။ ကျွန်ုပ်သားပင်တည်း"ဟု ဆိုလတ်သော် ဘီလူးမသည် "သူငယ်ကိုချီ၍ နို့တိုက်စမ်းပါရစေ"ဟု ဆို၏။

သူငယ်အမိလည်း သဘောရိုးထင်၍ "တိုက်ပါတော့"ဟုဆိုလျှင် ဘီလူးမသည် သူငယ်ကိုပိုက်၍ နို့တိုက်ယောင်ဟန် အတန်ငယ်ရွှင်စေ၍ ဆောင်ယူပြေးလေ၏။ သူငယ်အမိလည်း "ငါ့သားကိုယူ၍ အဘယ်သို့ သွားမည်နည်း"ဟု လိုက်လျက် ဘီလူးမကို ကိုင်ဆွဲ၏။ ဘီလူးမသည်လည်း "သင့်သား အဘယ်မှာရှိသနည်း။ ဤသူငယ်ကား ငါ့သားတည်း"ဟုဆို၏။ ဤသို့ငြင်းခုံကြလျက် ဘုရားလောင်းကစားရာ ဇရပ်တံခါးဝသို့ ရောက်ကြလေ၏။

ဘုရားလောင်းသုခမိန်သည် ဆိုခဲ့ပြီးသောနည်းဖြင့် မေးမြန်းပြီးလျှင် ထိုမိန်းမ ၂ ယောက်ကို ခေါ်စေ၍ ရောက်သောအခါ "သင်တို့ အဘယ့်ကြောင့် ခိုက်ရန်ဖြစ်ကြသနည်း"ဟု မေး၏။ ဘီလူးမသည် "အရှင့်သား။ ကျွန်ုပ်သားကို ကျွန်ုပ်ရင်၌ပိုက်ချီ၍ အလိုအလျောက် ခရီးသွားပါသည်။ ဤမိန်းမသည် ကျွန်ုပ်ကိုမျှ မသိမကျွမ်းပါဘဲလျက် သူ့သားကို ယူဘိသည်ဟု ယိုးစွပ်ခဲ့သည်"ဟု ဆို၏။ သူငယ်အမိကလည်း "အရှင့်သား။ ထိုသို့မဟုတ်ပါ"ဟုဆို၍ အလုံးစုံကို ဟုတ်တိုင်းပြန်ကြားလေ၏။

ဘုရားလောင်းသည် စကား ၂ ရပ်ကို ကြားပြီး၍ ထိုမိန်းမတို့ အမူအရာ လက္ခဏာ[၁]ကို ဆင်ခြင်လတ်သော် "ဤမိန်းမကား မျက်တောင်လည်းမခတ်၊ မျက်ထောင့်လည်း နီ၏။ ရဲလည်း ရဲရင့်၏။ ဘီလူးမတည်း။ ဤမိန်းမကား သူငယ်အမိတည်း"ဟု အဟုတ်အမှန်သိပြီး၍ "သင်တို့ ငါ့အဆုံးအဖြတ်၌

"မင်းကြီး။ ထက်ဝန်းကျင်သော သမုဒ္ဒရာရေတို့ဖြင့် ဝန်းရံအပ်သည်ဖြစ်၍ ဤဇမ္ဗူဒိပ်ကျွန်းသည် မဟာသမုဒ္ဒရာ၏ နားတောင်းသဖွယ်လည်း ဖြစ်၏။ ရတနာ ၃ ပါး, ၇ ပါး, ရတနာ ၁၀ ပါးတို့၏ တည်ရာလည်း ဖြစ်၏။ တိုင်းကြီး ၁၆ တိုင်း, တိုင်းငယ် အရာမက များလှစွာသော မြို့,ရွာ,ခရိုင်တို့ဖြင့်လည်း တင့်တယ်၏။ ထိုသို့တင့်တယ်စွာ မဟာသမုဒ္ဒရာလျှင်အဆုံးရှိသော ဤဇမ္ဗူဒိပ်ကျွန်းအပြင်၌ အောင်အပ်ပြီးသော စစ်မြေပြင်ရှိသည်ဖြစ်၍ တိုင်းကြီးပြည်ကြီး ထီးဆောင်းမင်းအပေါင်းတို့ကို သိမ်းရုံးစိုးအုပ်လျက် ကေရာဇ်မင်း စည်းစိမ်ဖြင့် များစွာသော မင်းပရိသတ် မိုလ်ပါအပေါင်းခြံရံလျက် မင်းကြီးသည် ဇမ္ဗူဒိပ်ကျွန်းသူ လူအပေါင်းတို့၏ အထွတ် ဖြစ်တော်မူသည် မဟုတ်လော။

"ယင်းသို့ ကေရာဇ်မင်း ဖြစ်သည်နှင့်အညီ အရာမကသော တိုင်းကြီးပြည်ကြီး မြို့ရွာဇနပုဒ်တို့မှစ၍ အရည်အဆင်းလှပကုန်သော သမီးကညာရတနာတို့ကို အသီးအသီး ပို့ဆက်ကြရသဖြင့် ဤနန်းတော်၌ ၁ သောင်း ၆ ထောင်ကုန်သော မောင်းမတို့သည်လည်း ပတ္တမြား,ပုလဲ,ကျောက်မျက်ရွဲစသော မျက်မြက်ရတနာတို့ဖြင့် စီအပ်သော ရွှေနားတောင်း, ရွှေလက်ကောက် စသည်တို့ဖြင့် တန်ဆာဆင်အပ်သည်ဖြစ်၍ နတ်သမီးတမျှ တင့်တယ်ကြကုန်၏။

ထို နတ်စည်းစိမ်နှင့်တူစွာသော ကာမဂုဏ်စည်းစိမ်ကို ဆင်းရဲပင်ပန်းခြင်းမရှိ စိုးရိမ်ကြောင့်ကြမဲ့ စိုးစံတော်မူရသော ကေရာဇ်မင်းဖြစ်၍-'သုခိတာနံ ပိယံ ဒီဃံ ဇီဝိတံ'ဟူသော ရှေးပညာရှိ သူဟောင်းတို့ စကားနှင့်အညီလျော်စွာ ကိုယ်,စိတ်ချမ်းသာကုန်သောသူတို့သည် မိမိ၏အသက်ရှည်ခြင်းကို ချစ်အပ်သည်ဖြစ်လျက် မိမိ၏အသက်ကိုမချစ်ဘဲ ရေစောင့်ဘီလူးအား ပေး၍၊ မဟောသဓသေ့ခမိန်ကိုကား အဘယ့်ကြောင့် မပေးသနည်း။ မဟောသဓသေ့ခမိန်၏ ဂုဏ်ကျေးဇူးအထူး မည်သို့ရှိသည်ဟု သိမြင်သောကြောင့်တည်း မင်းကြီး မပေးသလော"ဟု ဆို၏။

ဘေရီပရိဗိုဇ်မစကားကိုကြားလျှင် စူဠနီဗြဟ္မဒတ်မင်းသည် မဟောသဓာသေ့ခမိန်၏ဂုဏ်ကို ပြလို၍ 'ယတောပိ အာဂတော အယျေ' အစရှိသော ၃ ဂါထာတို့ဖြင့် ဆို၏။ အဓိပ္ပာယ်ကား-

"အရှင်မ ။ မဟောသဓသေ့ခမိန်သည် အကျွန်ုပ်နိုင်ငံသို့ ရောက်သည်နေ့မှ ယခုနေ့တိုင် အဏုမြူ[၃၃]လုံးမျှ အကျွန်ုပ်အား ကိုယ်, နှုတ်ဖြင့် ပြစ်မှားခြင်းမည်သည်ကို မပြုစဖူးပေ။ ယင်းသို့ အပြစ်မရှိဘဲလျက် အဘယ့်ကြောင့် ရေစောင့်ဘီလူးအား ပေးထိုက်အံ့နည်း။ အရှင်မ။ တစ်ကြောင်းမှာလည်း ဤမဟောသဓသေ့ခမိန်သည် အတိတ်,အနာဂတ်, ပစ္စုပ္ပန်ဖြစ်သော ကာလ ၃ ပါးတို့၌ အကျိုးစီးပွားများ မြတ်အံ့သော အကြောင်းကိုလည်း သိမြင်နိုင်၏။ သူတစ်ပါး တို့အား ကံ ၃ပါး[၃၅]တို့ဖြင့် ပြစ်မှားခြင်းကိုလည်း မပြုတတ်။ မဟောသဓသေ့ခမိန် မသေမီ အကျွန်ုပ်သေရလျှင် သားတော်အစဉ် မြေးတော်အဆက်တိုင်အောင် မဟောသဓသေ့ခမိန်သည် စောင့်ရှောက်ရစ်သဖြင့် အကျွန်ုပ်အားလည်း ကောင်းသောသေရခြင်း ဖြစ်ပါသည်။ သူခပ်သိမ်းတို့အားလည်း ပစ္စုပ္ပန်,သံသရာတို့၌ စီးပွားချမ်းသာ ရရာသောအကြောင်း ဖြစ်ပါသည်။ ယင်းသို့ ဂုဏ်ကျေးဇူးအထူး ရှိပေသောသူဖြစ်ပေသောကြောင့် ရေစောင့်ဘီလူးအား အသက်ကိုအသေခံ၍ အကျွန်ုပ်ကိုယ်ကိုသော်လည်း ပေးထိုက်လှ၏။ မဟောသဓသေ့ခမိန်ကိုကား မပေးထိုက်"ဟု စူဠနီဗြဟ္မဒတ်မင်းသည် လပြည့်ဝန်းကို ချီ၍ပြသကဲ့သို့ ဘုရားလောင်း၏ဂုဏ်ကို ချီးမြှောက်၍ ဘေရီပရိဗိုဇ်မအား ပြောဆို၏။

ထိုသို့ မင်းကြီးစကားဖြင့် ဘုရားလောင်းအား မင်းကြီး နှလုံးသွင်း အခြားမရှိဘူးသည်ကိုသိရပြီးသော် ဘေရီပရိဗိုဇ်မသည် ဤသို့ ကြံပြန်၏။ 'ဤမျှသောစကားနှင့် မဟောသဓသေ့ခမိန်ဂုဏ် မထင်ရှားသေး။ ပြည်သား

ပြည်သူ လူအပေါင်းတို့၏အလယ်၌ ဤပြဿနာကိုပင်မေး၍ မင်းကြီးကို ဤနည်းအတူဖြေစေရသော် မဟာသမုဒ္ဒရာအပြင်၌ များစွာသောဆီကို လောင်းသွန်းဘိသကဲ့သို့ အများအပြားပျံ့နှံ့ခြင်းဖြစ်၍ မဟောသဓ သုခမိန်၏ဂုဏ်ကျေးဇူးသည် အထူးသဖြင့် ထင်ရှားလတ္တံ့.' ဟုကြံပြီးလျှင်၊ မင်းကြီးကိုခေါ်ခဲ့၍ နန်းတော်မှ ဆင်းသက်ပြီးသော် မင်းရင်ပြင်မြေတလင်း၌ နေရာခင်းကျင်းစေပြီးမှ မိမိတို့နေရာ၌နေကြ၍ မှူးတော် မတ်တော်, ပြည်သူပြည်သားအပေါင်းတို့ကို ထိုမြေတလင်း၌ စည်းဝေးစေပြီးလျှင် ဘေရီပရိဗိုဇ်မသည် စူဠနီဗြဟ္မဒတ် မင်းကြီးအား ရှေးနည်းအတူပင်လျှင် ရေစောင့်ဘီလူးပြဿနာကို မေးပြန်၏။ စူဠနီဗြဟ္မဒတ် မင်းကြီးသည် ပရိဗိုဇ်မမေးတိုင်း အစမှစ၍ အဆုံးတိုင်အောင် ရှေးနည်းအတူပင်လျှင် ဖြေလျှောက်ပေ၏။

ဤသို့ ပြည်သားပြည်သူလူအပေါင်းတို့၏အလယ်၌ ဘုရားလောင်း၏ဂုဏ်ကို ထင်ရှားစေပြီးလျှင် ရတနာ ၇ ပါးတို့ဖြင့်ပြီးသော ရွှေနန်းရွှေအိမ်၌ ပတ္တမြားမျက်မြတ်ကို အထွတ်တပ်သကဲ့သို့ ဘေရီပရိဗိုဇ်မသည် မိမိတစ်ဖန် အထွတ်တပ်လိုပြန်၍–

'ဣဒံ သုဏာထ ပဉ္စာလာ၊ စူဠနေယျဿ ဘာသိတံ။
ပဏ္ဍိတံ အနုရက္ခန္တော၊ ပါဏံ စဇတိ ဒုစ္စဇံ။ ။
'မာတု ဘရိယာယ ဘာတုစ၊ သခိနော ဗြဟ္မဏဿစ။
အတ္တနောစာပိ ပဉ္စာလော၊ဆန္နံ စဇတိ ဇီဝိတံ။ ။
'ဧဝံ မဟိဒ္ဓိကာ ပညာ၊နိပုဏာ သာဓု စိန္တိတာ၊
ဒိဋ္ဌေ ဓမ္မေ ဟိတတ္ထာယ၊ သမ္ပရာယေ သုခါယစ။ ။'ဟူသော ၃ ဂါထာတို့ဖြင့် ပြည်သူပြည်သားတို့အား ကြားသိစေပြန်၏။

အနက်ကား။ ၊ဘောန္တော ပဉ္စာလာ၊ အိုး ပဉ္စာလရာဇ် ပြည်သားပြည်သူတို့။ စူဠနေယျဿ၊ စူဠနီ ဗြဟ္မဒတ်မင်း၏။ ဘာသိတံ၊ဆိုအပ်သော။ ဣဒံဝစနံ၊ ဤစကားကို။ သုဏာထ၊ နာကြကုန်လော့။ ပဏ္ဍိတံ၊ မဟောသဓသုခမိန်ကို ။ အနုရက္ခန္တော၊ အစဉ်စောင့်ရှောက်လျက်။ ဒုစ္စဇံ၊ စွန့်ဝံ့ခဲသော။ ပါဏံ၊ မိမိအသက်ကို၊ စဇတိ၊ စွန့်ဘိ၏။

ပဉ္စာလော၊ ပဉ္စာလရာဇ်မင်းသည် ။ မာတုစ၊ မယ်တော်၏လည်းကောင်း။ ပရိယာယစ၊ မိဖုရားကြီး၏ လည်းကောင်း။ ဘာတုစ၊ ညီတော်၏လည်းကောင်း။ သခိနောစ၊ သူငယ်ဖော်၏လည်းကောင်း။ ဗြာဟ္မဏဿစ၊ ပုရောဟိတ်၏လည်းကောင်း။ အတ္တနောစ၊ မိမိ၏လည်းကောင်း။ ဣတိ၊ ဤသို့။ ဆန္နံ၊ ၆ ယောက်ကုန်သော သူတို့၏။ ဇီဝိတံ၊ အသက်ကို။ စဇတိ၊ စွန့်၏။

ဝေလံ္ကမိနာဝုတ္တနယေန၊ ဤသို့ဆိုအပ်ပြီးသော နည်းဖြင့်။ ပညာ၊ပညာသည်။ မဟိဒ္ဓိကာ၊ ကြီးသော တန်ခိုးလည်းရှိ၏။ နိပုဏော၊ သိမ်မွေ့စွာ၏။ သာဓုစိန္တိတာ၊ သူတော်ကောင်းတို့သည်သာ ကြံအပ်၏။ ဒိဋ္ဌေဓမ္မေစ၊ ဤပစ္စုပ္ပန်မျက်မှောက်၌လည်း။ ဟိတတ္ထာယ၊ စီးပွားဖြစ်ခြင်းငှာ။ သမ္ပရာယေစ၊ တမလွန်၌လည်း။ သုခါယ၊ ချမ်းသာခြင်းငှာ။ ဟောတိ၊ ဖြစ်၏။ အဓိပ္ပာယ်ကား–

"ပဉ္စာလရာဇ် ပြည်သူလူအပေါင်းတို့။ ယခု မင်းကြီးဆိုအပ်သောစကားကို ကြားကြပြီးလော။ အလွန် ချစ်ခင်လေးမြတ်အပ်သော မိမိမယ်တော်, မိဖုရားကြီး နန္ဒာဒေဝီ, ညီတော် တိခိဏမန္တီမင်းသား, သူငယ်ဖော် ဓနုသေခ, ပုရောဟိတ်ဖြစ်သော ကေဝဋ်အမတ်, မိမိကိုယ်နှင့် တကွ ထို ၆ယောက် သားတို့၏ အသက်ကိုကား မရေတွက်မူ၍ စွန့်နိုင်ခဲသောအရာဖြင့် ရေစောင့်ဘီလူးအား စွန့်မည်ဟု ဆို၏။ ယခုမှ ဤပြည်သို့

ရောက်လာစသာဖြစ်သော မဟောသဓသေခမိန်ကိုကား ပညာဂုဏ်တန်ခိုးကြောင့် မြတ်နိုးခြင်းဖြစ်၍ ရေစောင့်နတ်အား မပေးဘဲ ကောင်းစွာစောင့်ရှောက်ခြင်းကို ပြု၏။

"ထို့ကြောင့် ပရိသတ်အပေါင်းတို့။ ပညာဟူသည်ကား အလိုရှိအပ်သော အရာခပ်သိမ်းကို ပြီးစေတတ်သော မဏိဇောတိရသ် ပတ္တမြားကဲ့သို့ သွားလေရာရာ ဥစ္စာပစ္စည်းရှေ့သို့ ချဉ်းရောက်စေသည်ဖြစ်၍ အလွန်တန်ခိုးကြီး၏။ ဒုစရိုက် ၁၀ပါး[235]ကို မကျင့် , အသင့်အားဖြင့် နှလုံးသွင်းတတ်သော သူတော်ကောင်းတို့ သည်သာလျှင် ကြံအပ်၏။ ပညာသည်သာလျှင် ပစ္စပ္ပုန်၌ ကိုယ့်စီးပွား,သူတစ်ပါးတို့၏စီးပွား ၂ ပါးသော အကျိုးကိုဆောင်၍ နောင်တမလွန်၌လည်း မနုဿဂတိ[236], ဒေဝဂတိ[237]ဟုဆိုအပ်သော ချမ်းသာ, မြင့်မြတ်သော ဂတိ တို့သို့ ပို့ဆောင်လျက် မဂ်, ဖိုလ်, နိဗ္ဗာန်, ချမ်းသာကိုလည်း ရွက်ဆောင်နိုင်၏"ဟု ဘေရီပရိဗိုဇ်မသည် ရတနာ ၇ ပါးဖြင့်ပြီးသော ရွှေနန်းရွှေအိမ်၌ ပတ္တမြားတုံးကို တစ်လုံးတည်း အထွတ်တင်ဘိသကဲ့သို့ ဘုရားလောင်း၏ ပညာဂုဏ်ကိုချီးမွမ်း၍ ပရိသတ်တို့အား သောတဒွါရဝီထိ၌ အထွတ်တင်လေ၏။

ဤကား ဆင်ရတနာ, မြင်းရတနာ, ကျောက်မျက်ရွဲ ပုလဲ ,ပတ္တမြားစသော မျက်မြတ်ရတနာတို့၌ အဖိုးထိုက်မထိုက်ကိုသိတတ်သော ရာပြတ်[238]ကဲ့သို့ စူဠနီဗြဟ္မဒတ်မင်းသည်လည်း ခပ်သိမ်းသောသူတို့၏ အထိုက်အလိုက်ကိုသိတတ်သော ပညာရှိဖြစ်သည် တစ်ကြောင်း။

ဒီပင်္ကရာ မြတ်စွာဘုရားခြေတော်ရင်း၌ ဘုရားလောင်းကို ဗျာဒိတ်[239]ပေးတော်မူသောအခါ လက်ယာရံ ပထမသာဝကအရာဖြင့် တံဆိပ်မှတ်ချက် တင်းတတ်မူလိုက်သော ပုဂ္ဂိုလ်ဖြစ်သည်နှင့်အညီ အနောမဒဿီ မြတ်စွာဘုရားခြေတော်ရင်းမှစ၍ ပထမသာဝကဆုကိုပန်တော်မူလျက် အဆက်ဆက်သော သံသရာတို့၌ မေတ္တာချင်းနှောကြိတ်၍ တစ်စိတ်တည်းကဲ့သို့ နှစ်လိုအပ်သော အကျိုးစီးပွားကို ၂ ပါးလုံးပင် ဆောင်ဖူးကြသဖြင့် သူ့ကျေးဇူးကိုသိတတ်သော သဘောအလေ့ ရှိတော်မူသည်တစ်ကြောင်းဖြစ်၍ ဘုရားလောင်းအား ဤဇမ္ဗူဒိပ်ကျွန်းအပြင်၌ ၂ ယောက် မရကောင်းသော ပညာရှိဖြစ်ပေသည်ဟု ဂုဏ်အထူးကို သိသည်နှင့်လျော်စွာ သူ့ပြည်သူ့နိုင်ငံသို့ ရောက်သည်ဟူ၍ မညှိုးမငယ်စေ။ ကိုယ့်ရပ်ကိုယ့်ပြည်မှာ စိုးစံရသော စည်းစိမ်ထက် ၂ ဆတက်၊ ၃ ဆတက် ချင့်တွက်၍မဆုံးနိုင်အောင် ကေရာဇ်မင်း၏စည်းစိမ်နှင့် အခြားမရှိပြုလျက် အသက်ရှည်သမျှ ကာလပတ်လုံး ဘုန်းကျက်သရေတို့ဖြင့် တင့်တယ်ပွင့်လင်းစေ၏။

စူဠနီဗြဟ္မဒတ်မင်းသည် ဘုရားလောင်းအား ဂုဏ်နှင့်ထိုက်လျောက်စွာ ချီးမြှောက်ကြောင်း။ ဘေရီ ပရိဗိုဇ်မသည်လည်း ဒုတိယသာဝိကာအဖြစ်ဖြင့် ဒီပင်္ကရာ မြတ်စွာဘုရား၏ နှုတ်တော်တံဆိပ် ဗျာဒိတ်တော်ဝင် ဖြစ်သည်နှင့်အညီ ပဒုမုတ္တရာဘုရားရှင်ခြေတော်ရင်း၌ လက်ဝဲရံရဟန္တာမိန်းမဆုကို ပန်ပြီးမှ ဘုရားလောင်းနှင့် တွေ့ကြိမ်သမျှ ဘဝအဆက်ဆက်တို့၌ သဗ္ဗညုတဉာဏ်၏ရင့်ခြင်းကို ထောက်ပံ့ဖော်ဖြစ်၍ အဘိုးအနဂ္ဃ[240]ထိုက်သော ပတ္တမြားမျက်မြတ်ကို မထိုက်မလိုက်သောနေရာတို့၌ မထားမချစေဘဲ ရတနာကြုတ် ၇ ထပ်မှ လှပ်ကာ လှာကာ အသာအညင်း ဖွင့်လှစ်ထုတ်ယူလျက် ဇမ္ဗူရာဇ်ရွှေကို ကလပ်ပေါ်၌တင်ထား၍ အများထင်ရှားအောင် ပြသကဲ့သို့ ဘုရားလောင်းအား ဂုဏ်နှင့်ထိုက်လျောက်စွာ ပဥ္စာလရာဇ်မင်းမှူးမတ် ပရိသတ်တို့၏အလယ်၌ ပညာရှိဂုဏ်ကျေးဇူးကို အထူးသဖြင့်ချီးမြှောက်၍ ထင်ရှားစေကြောင်းကို ပြခြင်းတည်း။

## ၄၇။ ဇာတ်တော်ပေါင်းခန်း

ဤသို့ မဟောသဓသေုခမိန်သည် ထို ရေစောင့်ဘီလူးပြဿနာပွဲ ဖြစ်သည့်နေ့မှစ၍ ဇမ္ဗူဒိပ်ကျွန်းအပြင်၌ ကျော်စောထင်ရှားစွာ ရောဇ်မင်း၏စည်းစိမ်နှင့် ထီးနန်းမှတစ်ပါး ထပ်တူဖြစ်သောစည်းစိမ်ကို စိုးစံလျက် အသက်အာယုကပ်ပတ်လုံး မင်း၏အကျိုးစီးပွားကို လည်းကောင်း၊ ပြည်သူပြည်သားတို့၏အကျိုးစီးပွားကို လည်းကောင်း ဘုရားပွင့်တော်မူသောအခါကဲ့သို့ တစ်နေ့မပြတ် ဆုံးမပြဩန်၍ အသက်၏အဆုံး၌ တာဝတိံသာ နတ်ပြည်သို့ ဘဝပြောင်းလဲ စံတော်မူလေ၏။

ဘုရားလောင်း၏အဆုံးအမ၌တည်ကုန်သော ပြည်သားပြည်သူ လူအပေါင်းတို့သည်လည်း ဘဝအဆုံး၌ ဘုရားလောင်းစံရာ တာဝတိံသာနတ်ပြည်သို့ချည်း ပြောင်းလဲကြကုန်၏။ ဘုရားလောင်း၏အဆုံးအမ၌ မတည်၊ ၁၀ မည်သောဒုစရိုက်ဖြင့် သူမိုက်ကို အဆွေခင်ပွန်းပြုကုန်သော ပါပကာရီ, ပါပမိတ္တဖြစ်သူ လူအပေါင်းတို့သည်ကား ဘဝအဆုံး၌ မိမိတို့ကမ္မနိမိတ် တံဆိပ်မှတ်ချက်ချရာ မဟာပထဝီမြေထဲ ငရဲကြီး ၈ ထပ်တို့သို့ ပြောင်းလဲကြရကုန်၏။ ထို့ကြောင့်–

'ဗောဓိသတ္တဿ ပရိသာ၊ သဂ္ဂံ ဂစ္ဆန္တိ ဥတ္တမံ။
အတ္တဓမ္မန္တိနော စေကေ၊ ပတန္တိ နိရယံ အဓော။ ။'ဟူသော ဂါထာကို ဟောတော်မူ၏။ အနက်ကား–

ဗောဓိသတ္တဿ၊ ဘုရားလောင်း၏။ ပရိသာ၊ ပရိသတ်ဖြစ်ကုန်သော။ အတ္တ ဓမ္မ မန္တိနော၊ အကျိုးအကြောင်းကို ကြံလေ့ရှိကုန်သော သူတို့သည်။ ဥတ္တမံ၊ မြတ်သော။ သဂ္ဂံ၊ နတ်ပြည်သို့။ ဂစ္ဆန္တိ၊ သွားလေကုန်၏။ ဧကေ၊ အချို့သော သူတို့သည်။ အဓောနိရယံ၊ အောက်ငရဲသို့။ ပတန္တိ ၊ ကျလေကုန်၏။

[ဤဂါထာတို့၌ 'အချို့ ငရဲသို့ကျ၏' ဟူသော်လည်း ငရဲသို့ကျသောသူ အနည်းငယ်မျှသာ ဖြစ်ရာ၏။ ဘုရားလောင်း၏ အဆုံးအမ၌တည်၍ နတ်ပြည်သို့လားရသောသူသာ များရာ၏။ အဘယ်ကိုထောက်၍ သိရသနည်းဟူမူ ဧကေ–ဟူသော သဒ္ဒါဖြင့်ပြသောကြောင့် ငရဲသို့သွားသူ နည်းကြောင်းကို သိရသည်။ အပရေသဒ္ဒါ, တ္တတရေသဒ္ဒါတို့ဖြင့် ပြချေမူကား ထပ်တူပင် ယူသင့်၏။]

ဤသို့ မြတ်စွာဘုရားသည် ဝေနေယျတို့၏အလိုကို သိတော်မူသောအားဖြင့် ဤမဟောသဓာ သုခမိန် ပဏ္ဍိတဇာတ်၌ အတ္ထုပ္ပတ္တိမကြွင်းမကျန်ရအောင် ဟောတော်မူပြီးလျှင် စကားဆက်ဝေး၍ အကြောင်းရင်း ပျောက်မည်စိုးတော်မူသောကြောင့် သစ္စာ ၄ ပါးကို ပြတော်မူပြီးသည်၏အဆုံး၌ 'နဘိက္ခဝေ ဣဒါနေဝ' အစရှိသောပါဠိတော်ဖြင့် စကားစကို ဖော်ပြတော်မူ၏။ အဓိပ္ပာယ်ကား–

"သံသရာဘေးကို ရှုလေ့ရှိကုန်သော ငါ၏ တပည့်သားတော် အပေါင်းတို့။ ယခု သဗ္ဗညုတဉာဏ် အထွတ်အမြတ်သို့ ရောက်တော်မူမှသာလျှင် ငါ ပညာရှိတော်မူသည် မဟုတ်။ သဗ္ဗညုတဉာဏ်ကိုရှာ၍ သံသရာ၌ ကျင်လည်လျက် ရှေးပါရမီ မရင့်မီဘဝကပင်လည်း ဤ ဟောတော်မူအပ်သော ဒေသနာအစဉ်ဖြင့် ကြီးကျယ်သော ပညာ ရှိတော်မူသည်သာဖြစ်၏"ဟု မိန့်တော်မူ၍–

'ဘေရီ ဥပ္ပလဝဏ္ဏာသိ၊ ပိတာ သုဒ္ဓေါဒနော အဟု။
မာတာ အသိ မဟာမာယာ၊ အမရာစ ဗိမ္ဗာဒေဝီ။ ။

'သေနကော ဂဿပေါအာသိ၊ အမ္ဗဋ္ဌော အသိ ပက္ကုသော။
ကာမိန္ဒော ကုဋ္ဌဒန္တော စ၊ ဒေဝိန္ဒော စ ပိလောတိကော။ ။
'သုဝေါ အဟောသိ အာနန္ဒော၊ သာရိပုတ္တော စ ရူဠှီ။
ဒေဝဒတ္တော စ ကေဝဋ္ဌော၊ ပဉ္စာလစန္ဒီ သုန္ဒရီ။ ။
'မလ္လိကာ သာလိကာ အဟု၊ ဥဒုမ္ဗရာ ဒိဋ္ဌမင်္ဂလိကာ။
ဝေဒေဟော ကာဠု ဒါယီစ၊ အဟံ ဗုဒ္ဓေါ မဟောသဓော။ ။' ဟူသော ၄ ဂါထာတို့ဖြင့် ဇာတ်ကို ပေါင်းတော်မူ၏။ အဓိပ္ပာယ်ကား-

"ယခု အစည်းအဝေးဖြစ်ကုန်သော တပည့်သားတော်အပေါင်းတို့။ ငါ မဟောသဓသုခမိန် ဖြစ်တော်မူသောအခါ ပဉ္စာလရာဇ်မင်းအား ဒကရက္ခသပြဿနာကိုမေး၍ ချီးမြှောက်သော 'ဘေရိပရိဗိုဇ်မ'သည် ယခု ငါဘုရားဖြစ်တော်မူသောအခါ သာဝတ္ထိပြည်၌ ကုဋေ ၈၀ ဥစ္စာကြွယ်သော သူဌေး၏သမီးဖြစ်၍၊ ကြာညို ပွင့်အဆင်းနှင့်တူသော အဆင်းရှိခြင်းကြောင့် ဥပ္ပလဝဏ်ဏ အမည်တွင်လျက် ကမ္ဘာ ၁ သိန်းပတ်လုံး ဖြည့်ဆည်းပူး အပ်သော ပါရမီနှင့်လျော်စွာ ငါဘုရား၏အထံတော်၌ လက်ဝဲရံ ဒုတိယ အဂ္ဂသာဝိကာ၏ အရာအထူးဖြင့် ရဟန်းဖြစ်ပြီး၍၊ သာဝတ္ထိပြည်၌ ကဏ္ဍမ္ဗအမည်ရှိသော သရက်ပင်ကိုအမှီပြု၍ ငါဘုရားသည် ယမကပါဋိ ဟာရိယ^{၁၂}ဖြင့် တိတ္ထိတို့၏မာန်စွယ်ကို နုတ်ပယ်ချိုးဖြတ်တော်မူခါနီး၌ ငါ့ထံလာ၍ 'အရှင်ဘုရား။ ပြာဋိဟာ ပြတော်မမူပါနှင့်။ အကျွန်ုပ်သည် အလျား ၁၂ ယူဇနာ, အနံ ၁၂ ယူဇနာ, အဝန်း ၃၆ ယူဇနာ ဗိုလ်ထုနှင့်တကွ စကြာမင်းအဟန်ဖန်ဆင်း၍ ခြေတော်အစုံကို ဦးခိုက်ပါမည်'ဟု လျှောက်ရာတွင် 'ဧတဒဂ္ဂံဘိက္ခဝေ မမသာဝိကာနံ ဣဒ္ဓိမန္တာနံ ယဒိဒံ ဥပ္ပလဝဏ္ဏာ' ဟု တန်ခိုးကြီးသောအရာဖြင့် ငါဘုရား ချီးမွမ်းတော်မူအပ်သော ဥပ္ပလဝဏ်ထေရီ ဖြစ်လာ၏။

"ဘိက္ခဝေ၊ ရဟန်းတို့။ ဣဒ္ဓိမန္တာနံ၊ တန်ခိုးကြီးကုန်သော။ မမသာဝိကာနံ၊ ငါဘုရား၏ တပည့်တော်မ ဖြစ်ကုန်သော ဘိက္ခုနီတို့တွင်။ ယဒိဒံ-ယာအယံ ဥပ္ပလဝဏ္ဏာ၊ အကြင် ဥပ္ပလဝဏ်ထေရီသည်။ အတ္ထိ၊ ရှိ၏။ ဧတံ-သော ဥပ္ပလဝဏ္ဏာ၊ ထို ဥပ္ပလဝဏ်ထေရီသည်။ အဂ္ဂံအဂ္ဂါ၊ အထွတ်အမြတ်တည်း။

"ငါ မဟောသဓသုခမိန် ဖြစ်တော်မူသောအခါ မိထိလာပြည်၌ အရှေ့မဗျူဂုံးရွာစားဖြစ်သော ငါ၏ ခမည်းတော် 'သိရီဝဍ္ဎန' သူဌေးကြီးသည် ယခု ငါဘုရားဖြစ်တော်မူသောအခါ ဥက္ကာမုခမင်းမှ သားတော် မြေးတော်မပျက် ဆင်းသက်၍ဆက်ခံသော သာကီဝင်မင်းမျိုး ကပိလဝတ်ပြည်ကိုအစိုးရသော ငါဘုရား၏ ခမည်းတော်'သုဒ္ဓေါဒန'မင်းကြီး ဖြစ်လာ၏။

"ငါ မဟောသဓသုခမိန်ဖြစ်သောအခါ မိထိလာပြည် အရှေ့မဗျူဂုံးရွာစား မင်း၏မိဖုရားဖြစ်သော ငါ၏ မယ်တော်'သုမနဒေဝီ 'သည် ယခု ငါဘုရားဖြစ်တော်မူသောအခါ သာကီဝင်မင်းမျိုး ဒေဝဒဟပြည်ကို အစိုးရတော် မူသောအခါ အဥ္စနမင်းကြီး၏သမီး၊ ငါ့ဘုရား၏မယ်တော်'မဟာမာယာဒေဝီ' မိဖုရားကြီး ဖြစ်လာ၏။

"ထိုအခါ မဟောသဓသုခမိန်၏မိဖုရားကြီးဖြစ်သော 'အမရာဒေဝီ'သည် ယခုအခါ ဒေဝဒဟပြည်ကို အစိုးရသော ငါ၏ဦးရီးတော် သုပ္ပဗုဒ္ဓမင်းကြီးသမီး ဇမ္ဗူရာဇ်ရွှေစင်ကို ရှုချင်ဖွယ်ပုံသွန်းဘိသကဲ့သို့ အတုမရှိတင့်တယ်သော အဆင်းအရည်ဖြင့် 'ဗိမ္ဗာဒေဝီ' ဟူသော အမည်, 'ဘဒ္ဒကစ္စာနာ'ဟူသော အမည် တင်ပြီးမှ ဖွားမတော်၏အမည်ဖြင့် 'ယသောဓရာဒေဝီ' ဟုထင်ရှားစွာ ငါ၏မြောက်သားတော်ဖြစ်၍၊

ကပိလဝတ်ပြည်၌ ရွှေနန်း ၃ ဆောင်[၃၂၂]ကို အတူစိုးစံခဲ့ပြီးမှ ငါဘုရား၏သာသနာတော်၌ ရဟန်းပြုပြီး၍၊ အာသဝေါကင်းပြီးသော ခေမာ, ဥပ္ပလဝဏ် အစရှိသော ရဟန်းမိန်းမဟူသမျှတို့သည် အလွန်အားဖြင့် ကမ္ဘာ ၁ သိန်းသာမြင်နိုင်သော အဘိညာဉ်ရှိကုန်မြဲဖြစ်လျက် ရဟန်းမိန်းမတို့ မြင်နိုင်ရိုးတမ်းထက်လွန်ကဲစွာ တစ်ကြိမ်တည်းမျှ ဆင်ခြင်ကာဖြင့် ၄ သင်္ချေနှင့် ကမ္ဘာ ၁ သိန်းတိုင်အောင်မြင်နိုင်သော အဘိညာဉ်နှင့် ပြည့်စုံခြင်းကြောင့်– 'ဧတဒဂ္ဂံ ဘိက္ခဝေ မမ သာဝိကာနံ မဟာ ဘိညာပတ္တာနံ ယဒိဒံ ဘဒ္ဒကစ္စာနာ။'ဟု အလွန်ကြီးမြတ်သော အဘိညာဉ်အရာဖြင့် ငါဘုရား ချီးမွမ်းတော်မူအပ်သော ရာဟုလာမိခင်'ဗိမ္ဗာထေရီ'ဖြစ်လာ၏။

"ဘိက္ခဝေ၊ ရဟန်းတို့။ မမသာဝိကာနံ၊ ငါ၏ တပည့်တော်မဖြစ်ကုန်သော။မဟာဘိညာ ပတ္တာနံ၊ကြီးမြတ်လွန်ကဲစွာ မဟာအဘိညာဉ်သို့ ရောက်ကုန်သော ဘိက္ခုနီတို့တွင်။ ယဒိ ဒံ–ယာအယံ ဘဒ္ဒကစ္စာနာ၊ အကြင် ဘဒ္ဒကစ္စာနာ ငယ်မည်ရှိသော ရာဟုလ မာတာထေရီသည်။ အတ္ထိ၊ရှိ၏။တေ–သောထေရီ၊ ထို ရာဟုလမာတာ ထေရီသည်။ အဂ္ဂံ–အဂ္ဂေါ၊ အမြတ်အထွတ်တည်း။

[ထို့ကြောင့် 'မိန်းမမြတ်တကာတို့၏ မြင်ရိုးတမ်းကိုဖျက်သည်ကား ယသောဓရာတည်း'ဟု သာသနာတော်၌ ထင်ရှားစွာဖြစ်၏။]

"ရာဂီမစင်သေးသောရွှေလျှင် စံဖက်ရှိမှ ဇမ္ဗူရာဇ်ရွှေစင်သည် ထူး၍ဂုဏ်ထွန်းသကဲ့သို့ ထိုအခါ မိထိလာပြည်၌ မဟောသဓသုခမိန်၏ပညာဂုဏ်ကို ထွန်းစေတတ်သော 'သေနက'အမတ်ကြီးသည် ယခုအခါ မဂဓရာဇ်တိုင်း၌ 'ဗြာဟ္မဏမဟာသာလ'မျိုးဖြစ်၍၊ လက်သို့ရောက်ပြီးသော ကာမဂုဏ်စည်းစိမ်ကြီးကို တံတွေးပေါက်ကဲ့သို့စွန့်ပစ်သဖြင့် ငါ၏ထံ၌ ရဟန်းပြုပြီးသော် မဟာသာဝကတို့၏အကြီး'တတိယသာဝက' အဖြစ်သို့ရောက်လျက် အသက်ထက်ဆုံး ၁၃ ပါးသော ဓုတင်[၃၂၃]ကို တစ်နေ့မပြတ် အခါခပ်သိမ်းဆောင်၍ သူတစ်ပါးတို့ကိုလည်း ဓုတင်ဖြင့် ဆုံးမညွှန်ပြတတ်သောကြောင့်–'ဧတဒဂ္ဂံ ဘိက္ခဝေ မမ သာဝကာနံ ဓုတင်္ဂ ဝါဒါနံ ယဒိဒံ မဟာကဿပေါ။'ဟုဓုတင်ကိုဆောင်ခြင်း, ဓုတင်ကို ဆုံးမညွှန်ပြတတ်ခြင်း တည်းဟူသော ဂုဏ်ဖြင့် ငါဘုရား ချီးမွမ်းတော်မူအပ်သော 'မဟာကဿပ'ဖြစ်လာ၏။

"ဘိက္ခဝေ၊ ရဟန်းတို့။ မမသာဝကာနံ၊ ငါ၏တပည့်သားဖြစ်ကုန်သော။ ဓုတင်္ဂ ဝါဒါနံ၊ ဓုတင် ၁၃ ပါးတို့ကို ကျင့်ဆောင်တတ်, ဆုံးမတတ်ကုန်သောရဟန်းတို့တွင်။ ယဒိဒံ–ယောအယံ မဟာကဿပေါ။ အကြင် မဟာကဿပသည်။အတ္ထိ၊ ရှိ၏။ တေ–သော မဟာကဿပေါ၊ ထို မဟာကဿပသည်။ အဂ္ဂံ– အဂ္ဂေါ၊ အထွတ်အမြတ်တည်း။

[ဤအရာ၌ နဒီ,ဂယာ,ဥရုဝေဠ,ကုမာရသဒ္ဒါတို့ကို အစထား၍မဆို၊ ကဿပဟူ၍သာ သာမည ဆိုခြင်းကြောင့် အရှင်မဟာကဿပပင် ဖြစ်သည်ဟု အဓိပ္ပာယ်ဆိုလိုက်ပေသည်။]

"ထိုအခါ ဝိဒေဟရာဇ်မင်းကြီး၏ သုခမိန်တစ်ယောက်ဖြစ်သော 'ပက္ကုသ'အမတ်သည် ယခုအခါ 'အမ္ဗဋ္ဌလုလင်' ဖြစ်လာ၏။

"ထိုအခါ ဝိဒေဟရာဇ်မင်းကြီး၏ သုခမိန်တစ်ယောက်ဖြစ်သော 'ကာမိန္ဒ'အမတ်သည် ယခုအခါ မဂဓရာဇ်တိုင်း၌ 'ပုဏ္ဏားသူကြွယ်'ဖြစ်၍၊ ယဇ်တွင်း၌ ဆိတ်, ဝက်, ကြက်တို့ဖြင့် ယဇ်ပူဇော်အံ့ဟု စီရင်စဉ် ငါဘုရားနှင့်တွေ့ကြိမ်ရသဖြင့် 'ငါကား ယခု စူဠယညကိုသာ သိ၏။ ရဟန်းဂေါတမကား မဟာယညကို သိရာလိမ့်မည်'ဟု ငါ့ထံလာ၍ မေးလျှောက်သောကြောင့် ရှေး၌ သူတော်ကောင်းတို့စီရင်ဖူးသော အလှူပေးခြင်း,

သတ္တဝါတို့ကိုသနားခြင်း တည်းဟူသော မဟာယညကိုဟောတော်မူရာတွင် မိစ္ဆာကွန်ရက်ပြတ်၍ ငါဘုရား၏ သောတာပတ္တိ အမြိုက်ရေစင်ကို ချိုးသောက်ရသော 'ကုဋဒန္တပုဏ္ဏား'ဖြစ်လာ၏။

"ထိုအခါ 'ဒေဝိန္ဒ'သုခမိန်သည် ယခုအခါ 'ပိလောတိကလုလင်'ဖြစ်လာ၏။

[ဤအမ္ဗဋ္ဌလုလင်, ပိလောတိက လုလင်တို့ကား မထင်ရှားလွန်းသောသူဖြစ်၍ အကျယ်တဝန်း အဓိပ္ပာယ် မဆိုလိုက်သည်။]

"ထိုအခါ ခက်ခဲစွာသော မဟောသဓသုခမိန်၏အမှုအခွင့်၌ ညီညာရွက်ဆောင်ဖော်ရပေသော 'ကျေးသား'သုခမိန်သည် ယခုအခါ ကပိလဝတ်ပြည်၌ ငါ၏ဘထွေးတော် အမိတ္တောဒနသား ငါဘုရားနှင့် တစ်ရက်တည်းဖွား များစွာသောစည်းစိမ်ကိုစံပြီးမှ ငါ့ထံ၌ရဟန်းပြုပြီးသော် စကြာမင်းတို့ဘဏ္ဍာစိုး ရွှေတိုက်ဝန်ကဲ့သို့ မိမိကိုယ်ကျိုးကိုမငဲ့ ငါ၏အဆုံးအမတော် သာသနာမြင့်ရှည် တည်အံ့သည်ကိုသာ ငဲ့လျက် ငါဘုရား ဟောကြားတော်မူအပ်သော ပိဋကတ် ၃ ပုံတို့ကို မယိုမယွင်းရအောင် သင်ကြားလေ့ကျက် ဆောင်ရွက်ခြင်းတည်း ဟူသော ဗဟုသုတဂုဏ်။ နိဒါန်း,ဝတ္ထု,ပုဂ္ဂိုလ် စသည်တို့နှင့်တကွ ငါဟောတော်မူအပ်သော တရားတော်ကို တစ်ပါးသောသာဝကတို့ထက် သာလွန်၍ မှတ်သားခြင်းတည်းဟူသော သတိဂုဏ်။ တစ်ဖဝါးလှမ်းကာမျှ၌ ပုဒ် ၆ သောင်း, ဂါထာပေါင်း ၁ သောင်း ၅ ထောင်တို့ကို ခဏချင်းပီပြင်စွာ ရွတ်အံနိုင်ခြင်း တည်းဟူသော နှုတ်ကောင်းခြင်း ဂတိဂုဏ်။ ငါ၏တရားတော်ကို သင်ကြားခြင်း,ရွတ်အံခြင်း, ငါ့အား နေ့ညဥ့်မပြတ် ဝတ်ကြီး ဝတ်ငယ်ဖြင့်လုပ်ကျွေးခြင်းတို့၌ တစ်ပါးသောသာဝကတို့ထက် သာလွန်စွာ လုံ့လပြုခြင်းတည်း ဟူသော ဓိတိဂုဏ်။ မေဃိယ, နာဂိတ စသော တစ်ပါးသောသာဝကတို့ လုပ်ကျွေးငြားသော်လည်း ငါဘုရား၏ နှလုံးကို ကျိုးဘိသကဲ့သို့ မသိကြကုန်။ ဤသူသည်သာ ငါဘုရား၏နှလုံးကို ကျိုးဘိသကဲ့သို့ သိလျက် နေ့ညဥ့်မပြတ် ရှိသေစွာလုပ်ကျွေးခြင်းတည်းဟူသော ဥပဋ္ဌာကဂုဏ်။ ဤဂုဏ် ၅ ပါးနှင့် ပြည့်စုံခြင်းကြောင့် 'ဧတဒဂ္ဂံ ဘိက္ခဝေ မမ သာဝကာနံ ဗဟုဿုတာနံ သတိမန္တာနံ ဂတိမန္တာနံ ဓိတိမန္တာနံ ဥပဋ္ဌာကာနံ ယဒိဒံ အာနန္ဒော'ဟု ၅ သွယ်သော ဂုဏ်ဖြင့် ၅ ကြိမ် ၅ ခါ ငါဘုရား ချီးမွမ်းတော်မူအပ်သော ငါ၏ညီတော် 'အာနန္ဒာထေရ်' ဖြစ်လာ၏။

"ဘိက္ခဝေ၊ ရဟန်းတို့။ မမ သာဝကာနံ၊ ငါဘုရား၏ တပည့်သားတော်ဖြစ်ကုန်သော။ ဗဟုဿုတာနံ၊ အကြားအမြင်များကုန်သော ရဟန်းတို့တွင်။ သတိမန္တာနံ၊ သတိရှိကုန်သော ရဟန်းတို့တွင်။ ဂတိမန္တာနံ၊ အရွတ်အဖတ်လျင်မြန်သော ရဟန်းတို့တွင်။ ဓိတိမန္တာနံ၊ လုံ့လကြီးကုန်သော ရဟန်းတို့တွင်။ ဥပဋ္ဌာကာနံ၊ ငါဘုရားအား လုပ်ကျွေးကုန်သောရဟန်းတို့တွင်။ ယဒိဒံ-ယောအယံ အာနန္ဒော၊ အကြင်အာနန္ဒာသည်။ အတ္ထိ၊ ရှိ၏။ ဧတံ-ဧသော အာနန္ဒော၊ ထိုအာနန္ဒာသည်။ အဂ္ဂံ၊ အဂ္ဂေါ၊ အထွတ်အမြတ်တည်း။

"ထိုအခါ ပဉ္စာလရာဇ်ပြည်၌ မဟောသဓသုခမိန်အား မိမိကိုယ်နှင့်ထပ်တူပြု၍ ကြီးစွာသောစည်းစိမ်ဖြင့် ချီးမြှောက်ပေသော ဇမ္ဗူဒိပ်ကျွန်းလုံးဘုရင်'စူဠနီဗြဟ္မဒတ်'မင်းသည် ယခုအခါ မဂဓတိုင်း နာလကရွာ၌ ဗြဟ္မဏ မဟာသာလမျိုး ဥပတိဿရွာသူကြီးသား များစွာသော စည်းစိမ်အခြံအရံဖြင့် ကြီး၍ ၁၆ နှစ်မြောက်သောအခါ တောင်ထိပ်သဘင်ကစားရာတွင် သံဝေဂ[34]ဖြစ်သဖြင့် ပရိဗိုဇ်ရဟန်းပြုလျက် အမြိုက်တရားကိုရှာလျှင်-

'ယေဓမ္မာ ဟေတုပ္ပဘဝါ၊တေသံ ဟေတုံ တထာဂတော။

အာဟ တေသဉ္စ နိရောဓော၊ ဧဝံ ဝါဒီ မဟာသမဏော။ ။'ဟူသော ဂါထာကို အဿဇိထေရ် ဟောရာတွင် ယေဓမ္မာမှသည် အာဟ-တိုင်ရုံသော ဂါထာဝက်ဖြင့်ပင် ဒိဋ္ဌိ, ဝိစိ ကိစ္ဆာ ၅ ဖြာသော

သံယောဇဉ်ကင်းသော အမြိုက်ရေကို သောက်ချိုးပြီးမှ မိမိအခြံအရံ ၂၅၀ နှင့်တကွ ငါ့ထံလာ၍ 'ပေဟိဘိက္ခု ဥပသမ္ပဒ' ရဟန်းပြုလျက် ၁၅ ရက်မြောက်သည့်နေ့၌ ငါဘုရားနှင့် ဂိဇ္ဈကုဋ်တောင်ယံ၌နေစဉ် ဒီဃနခအား ဟောကြားအပ်သောတရားကို ငါ့အားယပ်ခတ်ရင်း ကြားနာရပြန်သဖြင့် အထက်မဂ် ၃ တန်ကို ဘဝင်မခြား တန့်နားခြင်းမရှိ ကိလေသာကွန်ရက်ကို ၃ ချက်ဆင့်ကာဖွင့်ဖြတ်၍ အရဟတ္တဖိုလ်အထွတ်အထိပ် အဘိသိက်အမြိုက်ရေကို သွန်းချိုးပြီးမှ ဩဝါဒပါတိမုက်ပြရာ သံဃာ ၁ ထောင် အရေအတွက်နှင့် ငါဘုရား၏ ပထမအစည်းအဝေး၌ အမိကိုစွဲ၍ဖြစ်သောအမည်ဖြင့် စကြာမင်း၏ သားကြီးရတနာကဲ့သို့ ငါဘုရား၏ တပည့်ကြီးလက်ယာရံ'အဂ္ဂသာဝက'အရာ၌ ထားတော်မူပြီးလျှင်

'ဂင်္ဂါမြစ်ထဲ၌ သဲလုံးအပေါင်းတို့ကို ရေတွက်နိုင်ရာ၏။ သာရိပုတ္တရာ၏ပညာကို မရေတွက်နိုင်ရာ မဟာသမုဒ္ဒရာ၌ လှိုင်းတံပိုး, ရေပွက်တို့ကို ရေတွက်သော် ရေတွက်နိုင်ရာ၏။ သာရိပုတ္တရာ၏ပညာကို မရေတွက်နိုင်ရာ။ ဟိမဝန္တာ တော ၃ ထောင် မဟာသမုဒ္ဒရာ ၄ စင်း၌ ရှိသော သဲမြေမှုန့်တို့ကို တစ်ခုမကျန် ရေတွက်သော် ရေတွက်နိုင်ရာ၏။ သာရိပုတ္တရာ၏ပညာကို မရေမတွက်နိုင်။ ငါဘုရားကိုထား၍ ဤလောက၌ ပညာရှိသူ လူ, နတ်,ဗြဟ္မာ, ရဟန္တာအပေါင်းတို့၏ပညာကို တစ်ပေါင်းတည်းစု၍ သာရိပုတ္တရာ၏ ပညာနှင့် နှိုင်းယှဉ်သော်လည်း ထိုသတ္တဝါတို့ ပညာအစုသည် သာရိပုတ္တရာ၏ ပညာကို ၁၆ စိတ်စိတ်၍၊ တစ်စိတ်ကို တစ်ဖန် ၁၆ စိတ်စိတ်ပြန်၍၊ ထိုအစိတ်အဝက်သောပညာကိုလည်း မတူမျှနိုင်ရာ'ဟု အခါခါအထပ်ထပ် ငါ ထောမနာပြုတော်မူလျက်-'ဧတဒဂ္ဂံ ဘိက္ခဝေ မမ သာဝကာနံ မဟာပညဝန္တာနံ ယဒိဒံ သာရိပုတ္တော။'ဟု ဘုရားမှတစ်ပါး ပညာရှိကုန်သော သူတို့တွင် အထွတ်တပ်၍ ငါချီးမွမ်းတော်မူအပ်သော 'ဓမ္မ သေနာပတိ သာရိပုတ္တရာ' ထေရ်ဖြစ်လာ၏။

[ဧတဒဂ်ထားတော်မူသော ပါဌ်အနက် လွယ်ပြီ။]

ယခင်ဂါထာ၏ အနက်ကား။ ။ယေဓမ္မာ၊ အကြင်ခန္ဓာ ၅ ပါးတရားတို့သည်။ ဟေတုပ္ပဘဝါ၊ အကြောင်းသာလျှင် အမွန်ဖြစ်ကုန်၏။ တေသံ၊ ထိုခန္ဓာ ၅ ပါးတို့၏။ ဟေတုံ၊ အကြောင်းကို ။ တထာဂတော၊ လာခြင်းကောင်းသော ငါတို့ဆရာ မြတ်စွာဘုရားသည်။ အာဟ၊ ဟောတော်မူပြီ။ တေသဉ္စ၊ ထိုအကြောင်းတရား တို့၏လည်း။ နိရောဓော၊ ချုပ်ရာချုပ်ကြောင်းဖြစ်သော နိဗ္ဗာန်သည်။ အတ္ထိ၊ရှိ၏။ ဝေါ၊ဤအကြောင်းတရားကို စွဲ၍သာလျှင် ခန္ဓာ ၅ ပါး ဖြစ်၏။ အကြောင်းတရားတို့၏ ချုပ်ကြောင်းသည်လည်း ရှိ၏ဟူ၍။ မဟာသမဏော၊ ရဟန်းတကာတို့၏ အထွတ်အမြတ်ဖြစ်တော်မူသော ငါတို့ဆရာ မြတ်စွာဘုရားသည်။ ဝါဒီ၊ အယူတော်ရှိ၏။

[ဤဂါထာ၌ ယေဓမ္မာဟူသောပါဌ်ဖြင့် ဒုက္ခသစ္စာကို ပြတော်မူ၏ ဟေတုပ္ပဘဝါယူသော ပါဌ်ဖြင့် သမုဒယ သစ္စာကို ပြတော်မူ၏။ နိရောဓောဟူသော ပါဌ်ဖြင့် နိရောဓသစ္စာကို ပြတော်မူ၏ ။ ထိုသဒ္ဒါ၏ အစွမ်းဖြင့် နိဗ္ဗာန်သို့ ရောက်ကြောင်းဖြစ်သော မဂ္ဂသစ္စာကို ပြတော်မူ၏။]

"ထိုအခါ ပဉ္စာလရာဇ်မင်းအား အကျိုးအကြောင်းကို ပြည့်စွန်တတ်သော'ကောဝဋ္ဋ'ပုဏ္ဏားသည် ယခုအခါ ဒေဝဒဟပြည်၌ ငါ၏ ဦးရီးတော် သုပ္ပဗုဒ္ဓမင်းကြီးသား ငါဘုရား၏အထံ၌ ရဟန်းပြု၍ လောကီဈာန်အဘိညာဉ်ကို ရပြီးမှ ပစ္စုပ္ပန်၌ အမျိုး၏ချစ်ခင်နှစ်သက်ခြင်းကို သံသရာရန်ငြိုးအဆက်ဆက် နှိပ်စက်နိုင်နင်းသဖြင့် ကြည်ညိုခြင်း ပြတ်၍ အဇာတသတ်ကိုအမှီပြုလျက် အလီလီအဝဝ ၉ လပတ်လုံး အသက်ဆုံးကြောင်း မကောင်းသော လုံ့လဖြင့် မြင်းမိုရ်တောင်ကို လက်ဆုပ်ပြသကဲ့သို့ ငါ့အား အန္တရာယ်ပြု၍ မဖြစ်နိုင်လျှင် သံကို သံချေးဖျက်သည်နှင့် အတူ မိမိကိုယ်ကို မိမိပင်နှိပ်စက်ရာတွင် ဂယာသီသ၌ တစ်ယောက်တည်း အထီးကျန်လျက် အသက်မကုန်မီ

ငါ့ထံ အဖူးအမြင်ရောက်သောအခါ မဟာပထဝီမြေထဲ ငရဲသို့မဆင်းမီ ငါ့အား လက်အုပ်ချီ၍ ကန်တော့စဉ် 'နောင်အခါ၌ ပစ္စေကဗုဒ္ဓါ ဖြစ်လတ္တံ့'ဟု ငါ၏အမိန့်တော်တံဆိပ် ဗျာဒိတ်တော်ကိုခံရသော 'ဒေဝဒတ်'ဖြစ်လာ၏။

"ထိုအခါ ဝိဒေဟရာဇ်မင်းကြီး၏မိဖုရားကြီး 'ပဉ္စာလစန္ဒီ ဒေဝီ' ယခုအခါ သာဝတ္ထိပြည်၌ အဆင်းနှင့် ပြည့်စုံသော သတို့သမီးဖြစ်၍၊ တိတ္ထိတို့သည် ငါ့အားစွပ်စွဲအံ့သောငှာ ဖြားယောင်းသော စကားနှင့် တံစိုးကို စားလျက် ပြစ်မှားမိသောကံကြောင့် မိမိကို ထိုတိတ္ထိတို့ပင်သတ်၍ အကောင်ကို ငါ၏ကျောင်းတော် တံမြက်ချေး စွန့်ရာ၌ ပစ်ထားခြင်းကိုခံရလေသော 'သုန္ဒရီ' အမျိုးသမီး ဖြစ်လာ၏။

[စလာကာ ထုလ္လနန္ဒရီ ဟူ၍ စလာကဒေဝီသည် ထုလ္လနန္ဒာဘိက္ခုနီ ဖြစ်လာသောအကြောင်းကို အချို့စာ၌ ရှိသည်။ အချို့စာ၌ မရှိ။ ဤပါဒကို နိဿယဆရာလည်း အနက်မပေး။ ဤပါဒကို သွင်းချေလျှင်လည်း ဤဒုတိယဂါထာ၌ တစ်ပါဒ လွန်ရာသည်။ ဆန်းဂိုဏ်းအားဖြင့်လည်း မသင့်၊ ထို့ကြောင့် စလာကာ ထုလ္လနန္ဒရီ ဟူသောပါဌ်ကို အဓိပ္ပါယ် မဆိုလိုက်သည်။]

"ထိုအခါ စူဠနီဗြဟ္မဒတ်မင်းကြီး၏ အိပ်ရာစောင့်ဖြစ်သော 'သာလိကာမ'သည် ယခုအခါ သာဝတ္ထိပြည်၌ ပသေနဒီ ကောသလမင်း၏ စစ်သူကြီးဖြစ်သော ဗန္ဓုလအမတ်၏မိဖုရား ဆင်ပြောင် ၅ စီးအားကိုဆောင်လျက် မဟာလ္လတာတန်ဆာကိုဆင်နိုင်သော 'မလ္လိကာဒါယိကာမ'ဖြစ်လာ၏။

"ထိုအခါ မဟောသဓသေုခမိန်၏နှမ ဝိဒေဟရာဇ်မင်းကြီး၏မိဖုရားကြီး 'ဥဒုမ္ဗရဒေဝီ'သည် ယခုအခါ သာဝတ္ထိပြည်၌ 'ဒိဋ္ဌမင်္ဂလိက' အမည်ရှိသောအမျိုးသမီး ဖြစ်လာ၏။

"ထိုအခါ မဟောသဓသေုခမိန်၏ခမည်းတော်ဘုရားဖြစ်သော ဝိဒေဟရာဇ်မင်းကြီးသည် ယခုအခါ သာဝတ္ထိပြည်၌ 'သူကြွယ်သား'ဖြစ်၍၊ သာသနာတော်၌ သဒ္ဓါခြင်းဖြင့် ငါဘုရားထံ ရဟန်းပြုပြီးလျှင် ကိုယ်,နှုတ် လျှပ်ပေါ်သဖြင့် ငါ အကြိမ်ကြိမ်အဖန်ဖန် မောဃပုရိသတင်၍ ကဲ့ရဲ့ရခြင်းကြောင့် ငါထင်ရှားရှိစဉ် မင်္ဂဖိုလ်ကို မရ။ ငါ ပရိနိဗ္ဗာန်လွန်မှ ရလတ္တံ့သော 'ကာဠုဒါယီထေရ်'ဖြစ်လာ၏။

"ထိုအခါ အဝီစိငရဲမှ အထက်ဘဝဂ်တိုင်အောင် လောကီပညာဖြင့် ၂ ယောက်မရကောင်းသော 'မဟောသဓ'သုခမိန်သည်ကား ယခုအခါ ကပိလဝတ်ပြည်၌ မဟာသမ္မတမင်းမှဆင်းသက်၍ မပျက်သော အနွယ်ရှိသော သာကီဝင်မင်းမျိုး၌ဖြစ်၍ အရွယ်ရောက်လတ်သော် ဘုန်းကြောင့်ဖြစ်သော ရွှေအိုးကြီး ၄ လုံး[၂၄၅]နှင့် တကွ ဥတု ၃ ပါးတို့၌ အပူအချမ်းမျှသော ရွှေနန်း ၃ ဆောင်ပေါ်၌ သာကီဝင်မင်းသမီးအပေါင်း ၄ သောင်း ၂ ထောင်တို့၏အကြီးဖြစ်သော မြောက်သားမင်းသမီးနှင့် ၂၉ နှစ်အရွယ်တိုင်အောင် စိုးစံပြီးမှ ရာဟုလာသတို့သားကို ဖွားမြင်သောနေ့၌ နိမိတ် ၄ ပါး[၂၄၆]ကို မြင်သဖြင့် လောကီစည်းစိမ်ကိုစွန့်ပစ်၍ အနောမာမြစ်နား၌ ရဟန်းပြုပြီးလျှင် ၆ နှစ်ပတ်လုံး ဒုက္ကရစရိယာကျင့်[၂၄၇]ပြီး အဆုံးမှ သေနနိဂုံးရွာ၌ သုဇာတာ၏ နို့ဃနာဆွမ်းကို ဘုဉ်းပေးတော်မူလျက်၊ ကဆုန်လပြည့်နေ့ ညချမ်းအခါ မဟာဗောဓိပင်[၂၄၈]ရင်း၌ ဒေဝပုတ္တမာရ်ကို ပယ်လှန်ပြီးလျှင် မိုးသောက်ယံ နေအရုဏ်တက်လုနီး၌ ၄ သင်္ချေနှင့် ကမ္ဘာ ၁ သိန်းကာလပတ်လုံး မပြတ် ဖြည့်ဆည်းပူးအပ်သော ပါရမီအပေါင်း ရင့်ခြင်းသို့ရောက်သဖြင့် သူတစ်ပါး မပြညွှန် ကိုယ်တော်တိုင်သာလျှင် ဉေယျခံတရား ၅ ပါး[၂၄၉]ကို သိတော်မူလျက် မရေမတွက်နိုင်သော ဂုဏ်တော်အပေါင်းနှင့်တကွ သဗ္ဗညု အထွတ်သို့ ရောက်တော်မူပြီးသော 'ငါဘုရား' ဖြစ်တော်မူ၏။

[ဤတွင်ရှေ့ကား စေက နိပါတ်ကျမ်း၊ စတုက္က နိပါတ်ကျမ်း၊ ပဉ္စက နိပါတ်ကျမ်း၊ ဒသက နိပါတ်ကျမ်း၊ ဒွါဒသက နိပါတ်ကျမ်း၊ ဝီသတိ နိပါတ်ကျမ်းတို့၌လာသော အစုစုအရပ်ရပ် ပြဿနာခန်းနှင့်တကွ -'ပဉ္စာလော သဗ္ဗ သေနာယ'အစရှိသော ဂါထာ ၁ ထောင်တို့ဖြင့် တန်ဆာဆင်အပ်သော မဟောသဓ ပဏ္ဍိတ ဇာတ်တော် အဆုံးသတ်တည်း။]

ထိုဇာတ်ကိုပေါင်းရာ၌ ဘုရားလောင်းသည် သာကီဝင်မင်းမျိုး၌ အဘယ်သို့ ဖြစ်တော်မူသနည်း ဟူမူကား ၄ သင်္ချေနှင့် ကမ္ဘာ ၁ သိန်းပတ်လုံး ပါရမီကိုဖြည့်တော်မူပြီးသော ငါတို့မြတ်စွာဘုရား အလောင်းတော်သည် ဝေဿန္တရာမင်းအဖြစ်မှ စုတေတော်မူလျှင် တုသိတာနတ်ပြည်၌ ဖြစ်တော်မူ၏။

ထိုဘုရားလောင်း တုသိတာနတ်ပြည်၌ စံတော်မူစဉ် လူ့ပြည်တွင် မဟာသမ္မတမင်း[၃၃၀]မှ အမျိုးအနွယ်မပျက်ဆင်းသက်၍ဆက်ခံသော သီဟဟနုမင်း၏သားတော် သုဒ္ဓေါဒနမင်းကြီးသည် ဒေဝဒဟမင်းကြီး၏ နှမတော် မဟာမာယာဒေဝီ၊ မဟာပဇာပတိဂေါတမီ၊ ဤ မင်းသမီးညီအစ်မကို မိဖုရားကြီးအရာ၌ ထား၍ ကပိလဝတ်ပြည်၌ ထီးနန်းစိုးစံ၏။

ဒေဝဒဟပြည်၌လည်း ထို မဟာမာယာဒေဝီ၏မောင်တော် သုပ္ပဗုဒ္ဓမင်းကြီးသည် သုဒ္ဓေါဒနမင်းကြီး၏ နှမတော် အမိတ္တာဒေဝီကို မိဖုရားကြီးအရာ၌ထား၍ ထီးနန်းစိုးစံ၏။

ထိုအခါ လူ့ပြည်၌ ဘုရားပွင့်လတ္တံ့ဟု ကျော်စောခြင်း ကောလာဟလသည်လည်း အနှစ် ၁ သိန်းရှိပြီးသတည်း။ ဤသို့ကျော်စောခြင်း နှစ်ရှည်စွာ ဖြစ်သဖြင့် စကြဝဠာ ၁ သောင်း၌ နေကုန်သော နတ်မင်းကြီး ၄ ပါး ၊ သိကြား၊ သုယာမ၊ သန္တုသိတ၊ သုနိမ္မိတ၊ ဝသဝတ္တီ၊ မဟာဗြဟ္မာအစရှိသော နတ်မင်း၊ ဗြဟ္မာမင်းအပေါင်းတို့သည် နတ်မျက်စိဖြင့် ဘုရားဖြစ်အံ့သောသူကို ရှာကြည့်လတ်သော် ဤစကြဝဠာတိုက် တုသိတာနတ်ပြည်၌ နတ်သက်စေ့၍ စုတေခါနီးသောဘုရားလောင်းကို မြင်ကြလတ်လျှင် ဘုရားလောင်းရှိရာ အညီအညွတ်စည်းဝေးလာကြ၍-

"အချင်းနတ်မင်း။သင်သည် အဆက်ဆက်သော ဘဝတို့၌ ပါရမီကိုဖြည့်သော်လည်း လောကီစည်းစိမ်ကို တောင့်တ၍မဖြည့်။ သံသရာဝဲ၌ တပြောင်းပြန်ပြန် နစ်မွမ်းမျောပါကုန်သော သတ္တဝါအပေါင်းတို့ကို နိဗ္ဗာန်သို့ ထုတ်ဆယ်လျက် သဗ္ဗညုတအထွတ်သို့ ရောက်ခြင်းငှာသာလျှင် ဖြည့်၏။ ထိုပါရမီတို့ကို ဖြည့်ကျင့်သည်နှင့် လျော်စွာ သင်နတ်သားအား ယခု ဘုရားဖြစ်အံ့သောအခါ တန်ပြီ။ လူ့ပြည်သို့ ပဋိသန္ဓေအားဖြင့် ဆင်း၍ ဘုရားဖြစ်တော်မူပါ"ဟု တောင်းပန်ကြကုန်၏။

ထိုအခါ ဘုရားလောင်းနတ်သားသည် ထိုနတ်မင်းတို့အား ပဋိညာဉ်ကိုမပေးဦးဘဲ ဘုရားလောင်းတို့ ဓမ္မတာအားဖြင့် 'ကာလ,ဒီပ,ဒေသ, ကုလဇနေတ္တိ, အာယုပရိစ္ဆေဒ'အားဖြင့် ၅ ပါးသော ကြည့်ခြင်းကြီးတို့ကို ကြည့်ဆင်ခြင်တော်မူ၏။ အဘယ်သို့ ကြည့်ဆင်ခြင်တော်မူသနည်း ဟူမူကား ထို ၅ ပါးတို့တွင်-ကာလကို ရှေးဦးစွာ 'ငါသည် ယခု ဘုရားဖြစ်အံ့သောအခါ တန်ပြီလော, မတန်သေးလောဟု ကြည့်လတ်လျှင်၊ လူတို့၏ အာယုကပ် ကစ်သိန်းတမ်းမှ အနှစ် ၁၀၀ တမ်းတိုင်အောင်သောကာလသည် ဘုရားပွင့်အံ့သောကာလတည်း။ ယခုလည်း လူတို့အသက် အနှစ် ၁၀၀ တမ်းဖြစ်သောကြောင့် ငါ့အား ဘုရားဖြစ်အံ့သောအခါ တန်ပြီ'ဟု မြင်တော်မူ၏။

[ဤအရာ၌ ဘုရားလောင်းတို့သည် အလွန်အားဖြင့် လူတို့အသက် အနှစ် တစ်သိန်းတမ်းမှ အထက်ကို အဘယ့်ကြောင့် ပွင့်တော်မမူသနည်းဟူမူကား-

[‘တဒါဟိ သတ္တာနံ ဇာတိ ဇရာ မရဏာနိန ပညာယန္တိ’အစရှိသော အဋ္ဌကထာပါဠိနှင့်အညီ ထို တစ်သိန်းထက် အသက်ရှည်သောကာလတို့၌ လူတို့မှာ အသက်ရှည်ခြင်းကြောင့် ဇာတိ,ဇရာ,မရဏ တရားတို့သည် မထင်ကုန်။ မြတ်စွာဘုရားတို့၏တရားတော်သည်လည်း လက္ခဏာယာဉ် ၃ ပါးမှလွတ်သောမည်သည် မရှိ။ ထို ဇာတိ, ဇရာ, မရဏ မထင်ကုန်သောသူတို့အား လက္ခဏာယာဉ် ၃ ပါးနှင့်ယှဉ်သော တရားတော်ကို ဟောကြားသော်လည်း– အနိစ္စ ဟူသည်ကား အဘယ်နည်း။ ဒုက္ခ ဟူသည်ကား အဘယ်နည်း။ အနတ္တ ဟူသည်ကား အဘယ်နည်း။ ဟူ၍သာ နားကြားရုံမျှ နှလုံးမမူ နေကြကုန်၏။ထိုသို့ နှလုံးမသွင်းကုန်သောသူတို့အား သဒ္ဓါ တရားမဖြစ်, ထိုသဒ္ဓါ တရားမဖြစ်ကုန်သော သူတို့အား ဒါန, သီလ, ဘာဝနာ တရားမဖြစ်။ ထို ဒါန, သီလ, ဘာဝနာ မဖြစ်ကုန်သောသူတို့အား အကျွတ်တရားကို မရနိုင်ရာ။ ထိုသို့ အကျွတ်တရားကို မရနိုင်ရှိခဲ့သော် မြတ်စွာဘုရားတရားတော်သည် နိယျာနိက စင်စစ်မှန်လျက် အနိယျာနိက ဖြစ်ခဲ့ရာ၏။ထို့ကြောင့် အနှစ် တစ်သိန်းထက် အသက်ရှည်သော ကာလသည် ဘုရားပွင့်တော်မူသောအခါ မဟုတ်သတည်း။

[အနှစ် ၁၀၀ အောက် အသက်တိုသောကာလ၌ကား အဘယ့်ကြောင့် ဘုရားမပွင့်သနည်းဟူမူကား– ‘တဒါသတ္တာ ဥဿန္နကိလေသာ၊ ဥဿန္နကိလေသာနဉ္စ ဒိန္နောဝါဒေါ ဩဝါဒဋ္ဌာနေ နတိဋ္ဌတိ၊ ဥဒကေ ဒဏ္ဍရာဇိဝိယ ခိပ္ပံဝိဂစ္ဆတိ ’ဟူသော အဋ္ဌကထာပါဠိနှင့် အညီ အနှစ် ၁၀၀ အောက် အသက်တိုသော ကာလတို့၌ သတ္တဝါတို့သည် များသောကိလေသာ ရှိကုန်၏။ ကိလေသာများကုန်သော သူတို့အားလည်း ပေးအပ်သော ဘုရားရှင်တို့၏အဆုံးအမတော်သည် ရေ၌ အရေးသားသကဲ့သို့ ရှည်လျားစွာမတည်၊ ခဏချင်း ချုတ်ယွင်းရာ၏။ အဆုံးအမမတည် ချုတ်ယွင်းသောသူတို့အားလည်း အကျွတ်တရား မရနိုင်ရာ။

[ထိုသို့ မရနိုင်ရှိခဲ့သော် မြတ်စွာဘုရားရှင်တို့၏ တရားတော်သည် နိယျာနိက စင်စစ်မှန်လျက် အနိယျာနိက ဖြစ်ခဲ့ရာ၏။ ထို့ကြောင့် အနှစ် ၁၀၀ အောက် အသက်တိုသောကာလသည်လည်း ဘုရားပွင့်တော်မူသော ကာလ မဟုတ်သတည်း။]

ဤသို့ ကာလကို ကြည့်ပြီးလျှင် ‘ဘုရားလောင်းသည်။ ငါကား ယခု ဘုရားဖြစ်အံ့သောအခါ တန်ပြီ။ အဘယ်၌ ဖြစ်ရအံ့နည်း’ဟု ကျွန်းငယ် ၂ ထောင်နှင့် တကွ ကျွန်းကြီး ၄ ကျွန်းကို ကြည့်လတ်သော်၊ တစ်ပါးသော ကျွန်းတို့၌ ရှေးရှေးသောဘုရားတို့ ဖြစ်တော်မမူ။ အဝန်းအားဖြင့် ၁ သောင်းယူဇနာရှိသော ဇမ္ဗူသပြေပင်ရောက်ရာ ကျွန်းကြီး၌သာ ဖြစ်ကုန်မြဲဟု ဤဇမ္ဗူဒိပ်ကျွန်းကို မြင်လေ၏။ ဤသို့ ကျွန်းကိုကြည့်ပြီးလျှင် ‘ထိုဇမ္ဗူဒိပ်ကျွန်းတွင် အဘယ်အရပ်၌ ရှေးဘုရားတို့ ဖြစ်ကုန်သနည်း’ဟု ဒေသကို ကြည့်လတ်သော်– ဇမ္ဗူဒိပ်ကျွန်း၏အလယ် အရှေ့သို့လားလျှင် ဇင်္ဂလနိဂုံးရွာ၏အရှေ့ အင်ကြင်းပင်ကြီး၊ အရှေ့တောင်သို့လားသော် သလ္လာဝတီမြစ်၊ တောင်သို့လားသော် သေတကဏ္ဏိက နိဂုံးရွာ။ အနောက်သို့လားသော် ထူဏ မည်သော ပုဏ္ဏားရွာ၊ မြောက်သို့လားသော် ဥသိရဓဇတောင်။

‘ဤနိမိတ် ၅ ပါးတို့ဖြင့် မှတ်အပ်သော အလျား ယူဇနာ ၃၀၀, အနံ ယူဇနာ ၁၅၀, အဝန်း ယူဇနာ ၉၀၀ ရှိသော မဇ္ဈိမဒေသအရပ်သည် ဘုရား, ပစ္စေကဗုဒ္ဓါ, အဂ္ဂသာဝက, အသီတိမဟာသာဝက, စကြာမင်း, ခတ္တိယမဟာသာလ, ဗြာဟ္မဏ မဟာသာလ, ဂဟပတိ မဟာသာလတို့၏ဖြစ်ရာ ဖြစ်၏။ ထို မဇ္ဈိမဒေသအရပ်တွင် ကပိလဝတ်ပြည်၌ ငါဖြစ်ရသော် ကောင်း၏’ဟု ဒေသကို မြင်လေ၏။

ဖြစ်ရာဒေသကိုကြည့်ပြီးလျှင် ထိုကပိလဝတ်ပြည်၌ အဘယ်အမျိုးမှာ ဖြစ်ရအံ့နည်းဟု ကြည့်ပြန်လတ်သော်၊ ‘သူကြွယ်မျိုး,သူဆင်းရဲမျိုးတို့၌ ရှေးဘုရားတို့ ဖြစ်တော်မမူကုန်။ မင်းမျိုး, ပုဏ္ဏားမျိုးတို့၌သာ ဖြစ်တော်မူကုန်၏။

ထို အမျိုး ၂ ပါးတွင် ယခုအခါ လူတို့သည် မင်းမျိုးကို အမြတ်ဆုံးဟု သမုတ်ကြကုန်၏။ ထို့ကြောင့် မဟာသမ္မတမင်းမှ ဆင်းသက်၍ အမျိုးမပြတ် ထီးနန်းဆက်ခံသော သုဒ္ဓေါဒန မင်းကြီး၏သားတော် ဖြစ်ရသော် ကောင်း၏'ဟု အမျိုးကို မြင်လေ၏။

ဤသို့ အမျိုးကိုကြည့်ပြီးလျှင် 'သုဒ္ဓေါဒနမင်းကြီးနန်းတော်ဝယ် အာယ်မိဖုရားဝမ်း၌ ဖြစ်ရအံ့နည်း'ဟု ကြည့်လတ်သော် ဘုရားလောင်းတို့အမိသည်ကား လျှပ်ပေါ်လော်လည်ခြင်း, ကာမဂုဏ်ကြူးခြင်း မရှိ။ ကမ္ဘာ တစ်သိန်းပတ်လုံး ဖြည့်အပ်သောပါရမီလည်း ရှိ၏။ ဖွားသည်မှ စ၍လည်း ၅ ပါးသောသီလတို့ကို မကျိုးမပြတ်ရအောင် စောင့်ရှောက်လေ့ရှိ၏။ ပထမအရွယ်, မဇ္ဈိမအရွယ်, ပစ္ဆိမအရွယ်အားဖြင့် အရွယ် ၃ ပါးတွင် မဇ္ဈိမအရွယ်ကို ၃ စုစု၍ တတိယအစုသို့ရောက်မှသာလျှင် ကိုယ်ဝန်ဆောင်ကုန်မြဲတည်း။

'ယခု သုဒ္ဓေါဒနမင်းကြီး၏ မဟာမာယာဒေဝီသည်။ ဆိုအပ်ပြီးသောဂုဏ်နှင့်လည်း ပြည့်စုံ၏။ အရွယ်အားဖြင့်လည်း မဇ္ဈိမအရွယ်တွင် တတိယအရွယ်စုသို့ ရောက်ပြီ။ အသက်အပိုင်းအခြား အားဖြင့်လည်း ယနေ့မှသည် ၁၀ လနှင့် ၇ ရက်သာ အသက်ကြွင်း ရှိတော့သည်။ ထို မဟာမာယာဒေဝီ၌ ပဋိသန္ဓေယူရသော် ကောင်း၏' ဟု အသက်အရွယ်နှင့်တကွ မယ်တော်ကို မြင်လေ၏။

[ဤအရာ၌ ဘုရားလောင်းတို့သည် အဘယ့်ကြောင့် မယ်တော်၏အရွယ်ပထမပိုင်း၌ ပဋိသန္ဓေ မနေကုန်သနည်း ဟူမူကား-

['ပထမဝယသ္မိံ ဟိသတ္တာနံ အတ္တဘာဝေါ ဆန္ဒရာဂေါ ဗလဝါ ဟောတိ။ တေန သဇ္ဈာတဂ္ဂတ္တိ ဂဗ္ဘိအနုရက္ခိ တုံနသက္ကောတိ၊ ဂဗ္ဘော ဗဟွာဗာဓောဟောတိ'-ဟူသော သုတ်မဟာဝါ အဋ္ဌကထာပါဠိနှင့် အညီ ပထမအရွယ်၌ သတ္တဝါတို့၏အတ္တဘောသည် ဆန္ဒရာဂအား ကြီးသည်ဖြစ်၍၊ ထို ဆန္ဒရာဂအားကြီးခြင်းကြောင့် ပထမအရွယ်၌ ကိုယ်ဝန်ဆောင်သောမိန်းမတို့သည် မိမိတို့ကိုယ်ဝန်ကို စောင့်ရှောက်နိုင်ခဲ၏။ ကိုယ်ဝန်တည်ပြီးမှ ပျက်စီးသည်သာ များ၏။ ထို့ကြောင့် ဘုရားလောင်းတို့သည် မယ်တော်၏ အရွယ်ပထမပိုင်း၌ ပဋိသန္ဓေ မနေကုန်။

[မဇ္ဈိမအရွယ်ကို ၃ စုစု၍ တတိယအစု၌ကား ကိုယ်ဝန်တည်ရာတိုက်ခင်းသည် ကောင်းစွာစင်ကြယ်သည် ဖြစ်၍ ထို သန့်ရှင်းသောကိုယ်ဝန်တိုက်၌ ပဋိသန္ဓေနေကုန်သောသူငယ်တို့သည် အနာမရှိ ချမ်းသာသည်သာ ဖြစ်၏။ ထို့ကြောင့် ဘုရားလောင်းတို့မယ်တော်တို့သည် ပထမအရွယ်၌ ကာမဂုဏ်စည်းစိမ်ကို ခံစား၍ မဇ္ဈိမ အရွယ်ကို ၃ စုစုလျှင် တတိယအစု၌ ဘုရားလောင်းကို ပဋိသန္ဓေဆောင်ပြီးမှ ဖွားမြင်၍ ၇ ရက်မြောက်၌ စုတေကုန်မြဲ ဓမ္မတာတည်း။]

ဤသို့ ကြည့်ခြင်းကြီး ၅ ပါးတို့ဖြင့် ကြည့်တော်မူပြီးလျှင် စကြဝဠာတိုက် ၁ သောင်းမှ တောင်းပန် လာကုန်သော နတ်မင်းဗြဟ္မာမင်းတို့ကို "အချင်းတို့။ ကောင်းပြီ။ သဗ္ဗညုတဉာဏ်ကိုရှာသော ငါသည် ယခု လူ့ပြည်သို့ဆင်း၍ ပဋိသန္ဓေ နေအံ့"ဟု ပဋိညာဉ်ပေး၍ လွှတ်လိုက်ပြီးသော်၊ တုသိတာနတ်ပြည်၌ရှိသော နတ်အပေါင်းခြံရံလျက် ထို တုသိတာနတ်ပြည် နန္ဒဝန်ဥယျာဉ်သို့ ဝင်လေ၏။

['သဗ္ဗဒေဝလောကေသု ဟိ နန္ဒနဝနံ အတ္ထိယေဝ' ဟုဆိုသောကြောင့် နတ်ပြည် ၆ ထပ်လုံးမှာပင် နန္ဒာဝန်ဥယျာဉ် ရှိသည်ဟု မှတ်အပ်၏။]

ထိုအခါ ကပိလဝတ်ပြည်၌လည်း ဝါဆိုလပြည့်နေ့၌ အာသဠ္ဌိနက္ခတ်သဘင် ကြိမ်သည်ဖြစ်၍ များစွာကုန်သော ပြည်သူပြည်သားအပေါင်းတို့သည် သဘင် ကစားကြကုန်၏။ မဟာမာယာဒေဝီ မိဖုရားကြီးသည်

လည်း လမပြည့်မီ ၇ရက်ကစ၍ နက္ခတ်သဘင်ကစားလျက် ၇ ရက်စေ့သော် ထိုလပြည့်နေ့ နံနက်ကပင်လျှင် နံ့သာရည်တို့ဖြင့် ရေချိုးခြင်း, တန်ဆာဆင်ခြင်း, ကောင်းမြတ်သော ခဲဖွယ်ဘောဇဉ်တို့ကို စားသောက်ခြင်း ကိစ္စ ပြီးပြီးသော် အလှူဇရပ် ၄ ဆောင်တို့၌ တစ်သိန်းသောဥစ္စာတို့ကို ထုတ်၍ ကြီးစွာသောအလှူကို ပေးပြီးလျှင် အင်္ဂါ ၈ ပါးနှင့် ပြည့်စုံသော ဥပုသ်သီလကို ကောင်းစွာဆောက်တည်လျက် ညဉ့်အခါ တန်ဆာဆင်ခြင်းနှင့် စပ်သော ကျက်သရေတိုက်သို့ဝင်၍၊ မြတ်သောသလွန် စက်မွေ့ရာအပြင်၌လျောင်းလျက် အိပ်ပျော်ခြင်းသို့ ရောက်လေ၏။

ထိုအခါ မဟာမာယာဒေဝီမိဖုရားကြီးသည် ဤသို့သောအိပ်မက်ကို မြင်လေ၏။ နတ်မင်းကြီး ၄ ယောက်တို့သည် လာလတ်သဖြင့် မိဖုရားစက်ရာ သလွန်ညောင်စောင်းနှင့်တကွ မိဖုရားကို ဟိမဝန္တာ[၃၃]သို့ ချီဆောင်၍ အနောတတ်အိုင်၏အနီး အမြင့် ၇ ယူဇနာရှိသော အင်ကြင်းပင်ကြီးအောက် အပြင် ၇ ယူဇနာရှိသော ဆေးဒန်းမြင်းသီလာကျောက်ဖျာပေါ် မြတ်သောနတ်အိပ်ရာ၌ သိပ်ထားပြီးလျှင် မိမိတို့သင့်ရာအရပ်သို့ ဖယ်၍ နေကြကုန်၏။

ထိုအခါ နတ်သမီးအပေါင်းတို့လာလတ်၍ မဟာမာယာဒေဝီကို အနောတတ်အိုင်သို့ဆောင်လျက် မသန့်မရှင်းသော လူနံ့ အညစ်အကြေးတို့ကို စင်ကြယ်စေခြင်းငှာ အနောတတ်ရေဖြင့်ချိုး၍ နတ်၏ အဝတ်တန်ဆာ ပန်း, နံ့သာတို့ကို ဝတ်စားလိမ်းဆင်စေပြီးသော်၊ အနောတတ်အိုင်၏အနီး၌ကား တစ်ခုသော ငွေတောင်သည်လည်း ရှိ၏။ ထိုငွေတောင်၏အတွင်း၌လည်း တစ်ခုသောရွှေဗိမာန်သည် ရှိ၏။ ထို ရွှေဗိမာန်သို့ ဆောင်ပြီးလျှင် မြတ်သောအိပ်ရာပေါ်၌ အရှေ့သို့ဦးခေါင်းပြုလျက် အိပ်စေကုန်၏။

ထိုအခါ ဘုရားလောင်းသည် တုသိတာနတ်ပြည် နန္ဒဝန်ဥယျာဉ်၌ နိမိတ် ၅ ပါးထင်လျက် စုတေခြင်းသို့ ရောက်လေ၏။ ထို စုတေသောအခါ ဘုရားလောင်းသည် ကိုယ်လုံးကျွတ်ဖြူသော ဆင်ပြောင်ကြီးအယောင်ကဲ့သို့ ဖြစ်လျက် မဟာမာယာဒေဝီနေသော ငွေတောင်၏အနီး တစ်ခုသောရွှေတောင်ထွတ်သို့တက်ပြီးလျှင် ထို ရွှေတောင်ပေါ်မှဆင်းသက်၍ ငွေတောင်သို့တက်ပြန်သဖြင့် ငွေပန်းဆိုင်းနှင့်တူစွာသော နှာမောင်းဖျား၌ ကြာဖြူပွင့်ကို ကိုင်စွဲလျက် ကြိုးကြာသံနှင့် တူစွာသောအသံကိုပြု၍၊ မြောက်မျက်နှာမှ ရွှေဗိမာန်သို့ဝင်ပြီးသော် မယ်တော်၏ အိပ်ရာကို လက်ယာရစ် ၃ ပတ်လှည့်ပြီးမှ လက်ယာနံတောင်းကိုဖောက်၍ ဝမ်းထဲသို့ဝင်သည်နှင့် တူစွာကဲ့သို့ပင် မြင်မက်လေ၏။

[ ဤသို့ ဘုရားလောင်းသည် ဝါဆိုလပြည့်နေ့ ညဉ့် ဥတ္တရာသဠ်နက္ခတ်နှင့် ယှဉ်သောအခါ မယ်တော်ဝမ်း၌ ပဋိသန္ဓေ ယူတော်မူလေ၏။]

မဟာမာယာဒေဝီသည်လည်း ထိုအိပ်မက်မြင်သည့်ညဉ့်မှ ' နံနက်မိုးသောက်ရောက်လတ်သော် မင်းကြီးထံ သွား၍ ထိုအကြောင်းကို လျှောက်ကြား၏။ သုဒ္ဓေါဒနမင်းကြီးသည် မိဖုရားစကားကိုကြားလျှင် ထိုအိပ်မက်ကို ဖတ်စိမ့်သောငှာ ပုဏ္ဏားအပေါင်းတို့တွင် ပါမောက္ခ[၃၄]ချည်းဖြစ်ကုန်သော ပုဏ္ဏားဆရာကြီး ၆ ကျိပ် ၄ ယောက်တို့ကို ခေါ်စေ၍–နွားချေးစိုတို့ဖြင့် အပြေအပြစ်လိမ်းကျံလျက် ပန်းပေါက်ပေါက်စသည်တို့ဖြင့် ကြဲဖြန့်၍ထားအပ်သော မင်္ဂလာပြုရာမြေအပြင်၌ မြတ်သောသူတို့သာ နေခြင်းငှာထိုက်သော နေရာတို့ကိုခင်းစေသဖြင့် ထိုနေရာ၌ ထို နိမိတ်ဖတ်ဆရာ ပါမောက္ခ ၆ ကျိပ် ၄ ယောက်တို့ကိုနေစေပြီးလျှင် ထောပတ်, ပျား, သကာတို့ဖြင့် စီရင်အပ်သော နို့ဃနာသောဇဉ်ကို ရွှေခွက်, ငွေခွက်တို့ဖြင့်ထည့်၍၊ ထိုဆရာပုဏ္ဏားတို့အား တည်ကျွေးပေ၏။ ဆွေတော်မျိုးတော်,

မှူးတော်မတ်တော်တို့အိမ်မှ အသီးသီးဆောင်ခဲ့ကြကုန်သော ထောပတ်, နို့ဃနာ, ခဲဖွယ်ဘောဇဉ်တို့ဖြင့်လည်း ရောင့်ရဲစေ၏။

ထိုသို့ကျွေးမွေးပြီးသော် သုဒ္ဓေါဒနမင်းကြီးမြင်မက်သောအိပ်မက်ကို ပါမောက္ခဆရာတို့အား ပြန်ကြား၍ "ဤအိပ်မက်ကား အကြောင်းအသို့ဖြစ်မည်နည်း"ဟုမေး၏။ ပုဏ္ဏားတို့သည်လည်း ထိုအိပ်မက်ကို ကြားလျှင် "အရှင်မင်းကြီး။ စိုးရိမ်တော် မမူနှင့်။ ဤ အရှင်မိဖုရားကြီးဝမ်း၌ ယနေ့ ကိုယ်ဝန်တည်ခြင်းသို့ ရောက်၏။ ထိုကိုယ်ဝန်သည် မိန်းမ မဟုတ်။ ယောကျာ်းတည်း။ ထိုယောကျာ်းသည်လည်း ဘုန်းနည်းသောသူ မဟုတ်။ ယခု ရှင်မိဖုရားကြီးဝမ်း၌ ပဋိသန္ဓေနေသောယောကျာ်းသည် အိမ်ရာထောင်သော လူ၏ဘောင်၌ အကယ်၍ နေသည်ဖြစ်မူ ကျွန်းငယ်၂ ထောင်နှင့် တကွ ၄ ကျွန်းလုံးကိုအစိုးရသော စကြာမင်း ဖြစ်လတ္တံ့။ အကယ်၍ ရဟန်းပြုသည်ဖြစ်မူ မချွတ်လျှင် လောက၌ ဝဋ် ၃ ပါးတရားကို ဖြတ်တတ်သော ဘုရားဖြစ်လတ္တံ့"ဟုအိပ်မက်ကို ဖတ်ကြားလျှောက်ထားကြကုန်၏။

ထို ဘုရားလောင်း ပဋိသန္ဓေ နေတော်မူသည်နှင့်တစ်ပြိုင်နက်လျှင်– တစ်သောင်းသော လောကဓာတ်သည်လည်း ပြင်းစွာတုန်လှုပ်လေ၏။ ခပ်သိမ်းကုန်သော ပုဗ္ဗနိမိတ်တို့သည်လည်း ထင်ရှားဖြစ်လေကုန်၏။ တစ်သောင်းသောလောကဓာတ်တို့၌ အလျှံအရောင်တို့သည်လည်း ထက်ဝန်းကျင် နှံ့ကုန်၏။ ထိုအခါ မျက်စိ မရှိကုန်သောသူတို့သည်လည်း မျက်စိကို ရလေကုန်၏။နားမရှိကုန်သော သူတို့သည်လည်း နားကို ရလေကုန်၏။ သူအ, သူဆွံ့တို့သည်လည်း မအ,မဆွံ့ ပြကတေ့ဖြစ်လေကုန်၏။ ကုန်းခြင်း, ကွခြင်း, ခွင်ခြင်း,ကောက်ခြင်း ရှိကုန်သောသူတို့သည်လည်း ပြကတေ့ ဖြစ်လေကုန်၏။ အနှောင်အဖွဲ့သင့်ကုန်သော သူတို့သည်လည်း အနှောင်အဖွဲ့မှ လွတ်လေကုန်၏။ အလုံးစုံသော ငရဲကြီး,ငရဲငယ်တို့၌ မီးလျှံတို့သည်လည်း ငြိမ်းလေကုန်၏။ ပြိတ္တာတို့၌လည်း ရေစာငတ်မွတ်ကုန်သော ပြိတ္တာတို့သည် ရေစာကို သောက်စားကြကုန်၏။ တိရစ္ဆာန်အပေါင်းတို့သည်လည်း ဘေးရန်မရှိခြင်းသို့ ရောက်လေကုန်၏။

ခပ်သိမ်းကုန်သော သတ္တဝါတို့သည်လည်း အနာမရှိခြင်းသို့ ရောက်လေကုန်၏။ ရန်သူဖြစ်သော သတ္တဝါတို့ပင်လည်း အချင်းချင်း ချစ်ခင်ကြကုန်သည်ဖြစ်၍ ချိုသော,နှစ်သက်သောစကားဖြင့် နှစ်သိမ့်ဝမ်းမြောက်ကြလေကုန်၏။ ခပ်သိမ်းကုန်သော စည်,စောင်း, ငြင်း, နှဲ, ခရာ စသော တီးမှုတ်မျိုးတို့သည်လည်း လူ မတီးမမှုတ်ဘဲ အလိုလိုသာလျှင် သဘင်သည်တို့ တီးသကဲ့သို့ သာယာစွာမြည်ကုန်၏။ ခပ်သိမ်းကုန်သောလူတို့၏ အဝတ်တန်ဆာ အဆောင်အရွက်တို့သည်လည်း အရောင်အဝါ ထွက်လေကုန်၏။

အရပ် ၈ မျက်နှာတို့သည်လည်း အလွန်ကြည်လင်ခြင်းသို့ ရောက်လေကုန်၏။ သတ္တဝါတို့၏ချမ်းသာကို ဆောင်တတ်သော လေပြည်လေညင်းတို့သည်လည်း ကိုယ်တွင်းငြိမ့်မျှ လာကုန်၏။ မိုးကြီးတို့သည်လည်း သည်းထန်စွာ ရွာကုန်၏။ မြေထဲမှ ရေကြောင်းတို့သည်လည်း ပေါ်ထွက်၍ အလျဉ်ထန်စွာ စီးကုန်၏။ ငှက်တို့သည်လည်း ကောင်းကင်ပျံခြင်းကို စွန့်ကုန်၏။ မြစ်ရေအလျဉ်တို့သည်လည်း အရှင်ဝေါက်၍ ကြောက်ရွံ့သဖြင့် မသွားဝံ့သောကျွန်ကဲ့သို့ တန့်ရပ်ကုန်၏။ ဆားငန်သမုဒ္ဒရာရေသည်လည်း ဂင်္ဂါရေကဲ့သို့ ချိုလေကုန်၏။ အရပ် ၁၀ မျက်နှာတို့၌ ကြာမျိုး ၅ ပါး ဖုံးလွှမ်းသကဲ့သို့ ဖြစ်လေကုန်၏။ ကြည်းပန်း,ရေပန်း, သစ်ခွပန်း, သစ်ခက်ပန်း, နွယ်ပန်းတို့သည်လည်း တစ်ပြိုင်နက် ပွင့်လေကုန်၏။ကျောက်ဖျာ အပြင်တို့မှထွင်းဖောက်၍ အထပ် ၁၀၀ ပဒုမ္မာကြာရိုးတို့သည်လည်း အပွင့်နှင့်တကွ ပေါ်ထွက်ကုန်၏။ ကောင်းကင်၌ ပန်းဆိုင်းဆွဲသကဲ့ကို ပဒုမ္မာကြာပွင့်တို့သည်လည်း ဦးစောက် တည်လေကုန်၏။ ထက်ဝန်းကျင် ပန်းမိုးတို့သည်လည်းရွာကုန်၏။

ကောင်းကင်၌ နတ်တို့၏ စည်,စောင်း, ငြင်း တီးမှုတ်မျိုးတို့သည်လည်း အလိုလိုသာလျှင် မြည်လေကုန်၏။ စကြဝဠာအပေါင်း တစ်သောင်းသောလောကဓာတ်သည် အထူးထူးသော ပန်းတို့ဖြင့် စီရင်အပ်သော ပန်းဆိုင်း, ပန်းပုံတောင်း စသည်တို့ကဲ့သို့ ပန်းနံ့သာအခိုးအထုံ အရောင်မျိုးတို့ဖြင့် တစ်ကောင်းကင်လုံး တစ်စပ်တည်းဖြစ်၍ တင့်တယ်ခြင်းသို့ ရောက်လေ၏။

ဤသို့ ပဋိသန္ဓေနေတော်မူသော ဘုရားလောင်းအား မယ်တော်၏ လည်းကောင်း, ကိုယ်တော်၏ လည်းကောင်း အန္တရာယ်ပြုခြင်းငှာ မြင်းမိုရ်တောင်လုံးနှင့်ပင် နှင်းဖိငြားသော်လည်း အသက်အန္တရာယ် မဖြစ်နိုင်ရာ။ ယင်းသို့ဖြစ်သော်လည်း ဘုန်းရှိသောသူတို့၏အာနုဘော်တန်ခိုးကြောင့်– စကြဝဠာ တစ်သောင်း၌ ရှိကုန်သော စာတုမဟာရာဇ် နတ်မင်းကြီး ၄ ယောက်တို့သည် မယ်တော်၏အိပ်ရာ တံခါးဝမှစ၍ အရပ် ၄ မျက်နှာတို့၌ တစ်ယောက်စီ သန်လျက်စွဲလျက် ဖွားတော်မူသည်တိုင်အောင် ၁၀ လပတ်လုံး ဘေးရန်အဆီးအတားအလို့ငှာ စောင့်ရှောက်ကြကုန်၏။ ဤ စကြဝဠာတိုက်သား နတ်မင်းကြီး ၄ ယောက်တို့ကား အိပ်ရာတိုက်တံခါးဝ ခပ်သိမ်းသော စာတုမဟာရာဇ်နတ်တို့၏အတွင်း၌ နေ၍ စောင့်ရှောက်ကြကုန်၏။

ဘုရားလောင်း ပဋိသန္ဓေနေသည်မှစ၍ ဓမ္မတာအားဖြင့် မယ်တော်သည်လည်း ယောကျ်ားတို့၌တပ်မက်ခြင်း ရာဂစိတ် မရှိ။ တစ်ပါးမိန်းမတို့ကဲ့သို့ ကိုယ်ဝန်ဆောင်ခြင်း၌လည်း ပင်ပန်းခြင်းမရှိ။ ပြကတေ့အားဖြင့်သာလျှင် များစွာသောအခြံအရံတို့နှင့် ချမ်းသာစွာနေ၏။ ပတ္တမြားနီ၏အတွင်း၌ သီအပ်သောပိုးဖြူကြိုးကို ပြင်ကမြင်သကဲ့သို့ ဝမ်း၌ အမိကျောကို တံကဲပြု၍ ရှေ့သို့မျက်နှာမူလျက် ထက်ဝယ်ဖွဲ့ခွေနေတော်မူသော ဘုရားလောင်းကိုလည်း မယ်တော်သည် ပြင်ကကြည့်သဖြင့် မြင်ရ၏။ ဘုရားလောင်းတို့၏ နေပြီးသောကိုယ်ဝန်တိုက်သည်လည်း စေတီအိမ်ကဲ့သို့ ဖြစ်၏။ တစ်ပါးသောသတ္တဝါတို့ နေခြင်း, သုံးဆောင်ခြင်းငှာ မထိုက်ကုန်။

ဤသို့ ပဋိသန္ဓေကိုဆောင်၍ ၁၀ လစေ့လတ်သော် ဘုရားလောင်းတို့သည် ဓမ္မတာအားဖြင့် တောအရပ်သာ ဖွားမြဲဖြစ်၍၊ ထို ၁၀ လစေ့သော် ကဆုန်လပြည့်နေ့၌ မယ်တော်မဟာမာယာဒေဝီသည် မိမိမယ်တော်,ခမည်းတော်တို့စံရာ ဒေဝဒဟပြည်သို့ သွားလိုသောစိတ် ရှိသဖြင့်၊ သွားရမည့်အကြောင်းကို မင်းကြီးအား လျှောက်ကြားလေ၏။

မင်းကြီးလည်း "ကောင်းပြီ။ သွားချေတော့"ဟုဆို၍ ကပိလဝတ်ပြည်မှသည် ဒေဝဒဟမြို့တိုင်အောင် မိဖုရားသွားအံ့သော မင်းလမ်းခရီး၌ သဲဖြူးခြင်း၊ တံခွန်, မုလေးပွား, ကုက္ကား, ပုဆိုးဖြူ စိုက်လွှားခြင်း စသည်တို့ဖြင့် တန်ဆာဆင်စေပြီးသော်၊ အမတ် တစ်ထောင်ထမ်းဆောင်ရသော ရွှေဝေါပေါ်၌စီးစေလျက် များစွာသောအခြံအရံနှင့်တကွက ဒေဝဒဟပြည်သို့ ပို့စေ၏။ ကပိလဝတ်ပြည် ဒေဝဒဟပြည်တို့၏အကြား၌ ထို ၂ ပြည်သောမင်းတို့၏ကစားရာ လုမ္ဗိနီအမည်ရှိသော မင်္ဂလာဥယျာဉ်သည်လည်း အင်ကြင်းပင်ပျိုတို့ဖြင့် တင့်တယ်စွာရှိ၏။ ထို ကဆုန်လပြည့်နေ့၌လည်း အင်ကြင်းပင်ပျိုတို့သည် ပင်လုံးကျွတ် ပွင့်ကြကုန်၏။ သစ်ခက်ကြား ပန်းပွင့်ကြားတို့၌ ပိတုံးအပေါင်းတို့သည်လည်း ရစ်ကာဝဲကာ ချိုသာသောအသံတို့ဖြင့် ရင့်ရှူကျူးအေးကြကုန်၏။ အခါကောင်း လာဖြစ်၍ အလုံးစုံသောလုမ္ဗိနီဥယျာဉ်သည် တာဝတိံသာနတ်ပြည်၌ စိတ္တလတာဥယျာဉ်ကဲ့သို့ နလုံး မွေ့လျော်ဖွယ် ဖြစ်၏။

မဟာမာယာဒေဝီသည်လည်း များစွာသောအခြံအရံနှင့်တကွ ထွက်လာလတ်သော် ထိုအရပ်သို့ ရောက်၍၊ ဥယျာဉ်၏တင့်တယ်ခြင်းကိုမြင်လျှင် ဥယျာဉ်ကစားလိုသဖြင့် အမတ်တို့သည် မိဖုရားကိုဆောင်လျက် ဥယျာဉ်သို့ ဝင်ကြလေကုန်၏။ မဟာမာယာဒေဝီသည်လည်း ဥယျာဉ်ထဲသို့ရောက်သောအခါ ရွှေဝေါထက်မှ ဆင်း၍

မင်္ဂလာရှိသောအင်ကြင်းပင်ရင်းသို့ ညီမတော် မဟာပဇာပတိဂေါတမီမိဖုရားနှင့်တကွ ကိုယ်လုပ်တော်တို့ကို လက်ဝဲ,လက်ယာတွဲ၍ ထက်ဝန်းကျင်ခြံရံလျက်သွားသဖြင့် ထိုအင်ကြင်းပင်သို့ ရောက်သောအခါ တစ်ကိုင်းလုံးကျွတ်ပွင့်သော အင်ကြင်းခက်ကိုဆွဲအံ့ဟု လက်ယာလက်ကို မြှောက်ချီလေ၏။

ထိုအခါ အင်ကြင်းခက်သည် မီးအုံးသောကြိမ်ညွန့်ကဲ့သို့ ပျောင်းကာညွတ်၍ မိဖုရားကြီး၏ လက်တွင်းသို့ ရောက်လာ၏။ မဟာမာယာဒေဝီမိဖုရားကြီးသည် အင်ကြင်းခက်ကို လက်တစ်ဖက်ဖြင့်ဆွဲလျက် တစ်ဖက်သော နံပါးက ညီမတော်မိဖုရားကို ဖက်တွဲ၍ရပ်နေလေ၏။ ထိုအခါ သားဖွားခြင်း၏ အကြောင်းဖြစ်သော ကမ္မဇလေသည် နေရာမငြိမ်သဖြင့် ဣန္ဒြေထုံးခြင်းသို့ရောက်လေသော် နန်းတွင်းသူ အပျိုတော်အပေါင်းတို့သည် ရွှေတင်းတိမ် ထက်ဝန်းကျင်ကာရံလျက်၊ မှူးမတ်အပေါင်းတို့ကိုလည်း ဖယ်ခွာစေ၏။

ထိုအခါ ရွှေခွက်၌တည်သော ခြင်္သေ့ဆီကို ရွှေခွက်တစ်ခုသို့ တိမ်းကာငဲ့စောင်း လောင်းသွန်ဘိသကဲ့သို့ လည်းကောင်း, တရားဟောပလ္လင်မှဆင်းသက်သော ဓမ္မကထိကပုဂ္ဂိုလ်ကဲ့သို့ လည်းကောင်း, မယ်တော်ဝမ်း၌ ထက်ဝယ်ဖွဲ့ခွေ နေတော်မူရာမှစ၍ အရိအမြွေး ညစ်ကြေးမတင် စင်ကြယ်စွာအစုံသော ခြေတော်စက်ဖြင့် ရပ်လျက် ခြေဖွား ဖွားတော်မူလေ၏။ ထိုခဏ၌ အကနိဋ္ဌပြဟ္မာမင်း ၄ ယောက်တို့သည်လာလတ်သဖြင့် မိဖုရားကြီး၏ရှေ့၌ ရွှေကွန်ရက် တစ်ထောင့်စီကိုင်၍ဖြန့်လျက် ဘုရားလောင်းကို ခံလင့်ကြကုန်၏။

မယ်တော်အားလည်း "မိဖုရားမြတ်။ သင်၏ သားတော်ကား တန်ခိုးကြီးသော ယောကျ်ားမြတ်ပေတည်း။ နှစ်လို့ဝမ်းသာခြင်းကို ဖြစ်စေလော့"ဟု ထိုပြဟ္မာမင်း ၄ ယောက်တို့ ဆိုကြကုန်၏။ ဘုရားလောင်းသည်လည်း အညစ်အကြေးမတင် သန့်စင်စွာ ကာသိကရာဇ်တိုင်းဖြစ်ပုဆိုးပေါ်၌ ပတ္တမြားမျက်ရှင်ကို တင်ထားဘိသကဲ့သို့ ထွန်းလင်းလျှံညီးသော ကိုယ်ရောင်ကိုယ်ဝါဖြင့် ပြဟ္မာမင်းလောက်ရှိ ထင်စေလျက် မယ်တော်ဝမ်းမှဖွားမြင်ပြီးလျှင် ပြဟ္မာမင်းတို့ခံသော ရွှေကွန်ရက်ပေါ်သို့ ကြွသွားတော်မူ၏။

ဘုရားလောင်းအား လည်းကောင်း, မယ်တော်အား လည်းကောင်း ချမ်းမြေ့သော ဥတုကို ယူစေခြင်းငှာ ကောင်းကင်မှ လက်ဝဲ, လက်ယာ ရေအလျဉ်တို့သည်လည်း ယိုစီး၍ကျကုန်၏။ ထိုပြဟ္မာမင်းတို့၏လက်မှ စာတုမဟာရာဇ်နတ်မင်းကြီး ၄ ယောက်တို့သည် နူးညံ့သိမ်မွေ့သောအတွေ့ရှိ၍ မင်္ဂလာရှိသည်ဟု သမုတ်အပ်သော သစ်နက်ရေကို တစ်ထောင့်စီကိုင်၍ ဖြန့်လျက်ခံကြကုန်၏။

ထို စာတုမဟာရာဇ်နတ်မင်းကြီးတို့လက်မှ နန်းတွင်းသူကိုယ်လုပ်တော်တို့သည် နူးညံ့လှစွာသော ဘွဲ့ဖြူပုဆိုးဖြင့် ခံလင့်ကြကုန်၏။ ထို ဘွဲ့ဖြူပုဆိုးပေါ်မှ မြေသို့ဆင်း၍ရပ်တော်မူလျက် 'ဤလောက၌ ငါ့ထက်မြတ်သူ ရှိလေသေး၏လော'ဟု အရှေ့မျက်နှာသို့ ရှုကြည့်တော်မူလျှင် ထိုသို့သောစကြဝဠာ တစ်သောင်းတို့ကို ထုတ်ချင်းလျှိုထွင်း၍ အကြွင်းမဲ့ မြင်တော်မူလေ၏။

ထိုသို့ စကြဝဠာသား, နတ်ပြဟ္မာ အပေါင်းတို့သည်လည်း "ယောကျ်ားမြတ်။ ဤလောက၌ သင်နှင့်တူသောသူ တစ်ယောက်မျှမရှိဘဲလျက် သင့်ထက်မြတ်သောသူ အဘယ်မှာ ရှိနိုင်ပါအံ့နည်း"ဟု ဆိုကြကုန်လျက် ပန်းနံ့သာစသည်တို့ဖြင့် ပူဇော်ကြကုန်၏။

ဤသို့သောနည်းဖြင့် အရပ် ၁၀ မျက်နှာတို့ကိုလှည့်လည်၍ ကြည့်ရှုတော်မူသဖြင့် ကိုယ်တော်နှင့်တူသောသူ တစ်ယောက်ကိုမျှ မြင်တော်မမူလျှင် ထိုရပ်သောနေရာမှ မြောက်သို့ရှေးရှု ၇ လှမ်းတိုင်အောင် ပြဟ္မာမင်း၏ အရောင်အဝါဖြင့် ရွှေစက်ဖဝါး ကြွသွားတော်မူ၏။

ထိုကြွသွားတော်မူစဉ် ဖြဟ္မာမင်းတို့သည်လည်း ထီးဖြူဖြင့် မိုးကာကြကုန်၏။ သုယာမနတ်သားသည်လည်း စာမရီသားမြီးယပ်ဖြင့် လေညင်းသွင်းလျက် ပူဇော်၏။ သိကြားမင်းမှစ၍ ခပ်သိမ်းကုန်သော နတ်တို့သည် နတ်၌ဖြစ်သောတီးမှုတ်မျိုး, ပူဇော်မျိုးတို့ဖြင့် ထက်ဝန်းကျင် တီးမှုတ်ပူဇော်ကြကုန်၏။

ဘုရားလောင်းသည် ၇ လှမ်းစေ့သောဖဝါး၌ ရပ်တော်မူလျက် 'အဂ္ဂေါ ဟမသ္မိ လောကဿ။ သေဋ္ဌော ဟမသ္မိ လောကဿ။ ဇေဋ္ဌော ဟမသ္မိ လောကဿ။'ဟု ၃ ခွန်းသောအသံဖြင့် ကြုံးဝ မြွက်ဆိုတော်မူ၏။ ဤဖွားတော်မူသောအခါ၌လည်း ပဋိသန္ဓေနေတော်မူသောအခါကဲ့သို့ မြေလှုပ်ခြင်း စသော ၃၂ ပါးသော ပုဗ္ဗနိမိတ်တို့သည်လည်း ထင်ရှားဖြစ်ကုန်၏။

ထို ဘုရားလောင်း ဖွားတော်မူသည်နှင့် မရှေးမနှောင်းပင်လျှင် ဘထွေးတော် အမိတ္တောဒနအိမ်၌ အာနန္ဒာမင်းသားကို ဖွားမြင်လေ၏။ဒေဝဒဟပြည်၌ သုပ္ပဗုဒ္ဓမင်းကြီး၏သမီးတော် ဘဒ္ဒကစ္စာနာကိုလည်း ဖွားမြင်လေ၏။ ကပိလဝတ်ပြည်၌ ဆန္နအမတ်, ကာဠုဒါယီအမတ်, ကဏ္ဍကမြင်းတို့ကိုလည်း ဖွားမြင်လေကုန်၏။ သုဒ္ဓေါဒနမင်းကြီး၏ နန်းတော်၌လည်း ရွှေအိုးကြီး ၄ လုံးတို့သည် တစ်ပြိုင်နက် ပေါ်လေကုန်၏။ ဇမ္ဗူဒိပ်ကျွန်း၏အလယ်ချက်မ ဘုရားတကာတို့ပွင့်ရာဖြစ်သော မြေအရပ်၌လည်း မဟာဗောဓိပင်အလို့ငှာ ညောင်ဗုဒ္ဓဟေပင် ပေါက်လေ၏။ [ဤ ၇ပါးကား ဘုရားလောင်း၏ ဖွားဖက်တော်တည်း။]

ဤသို့ ဘုရားလောင်းကိုဖွားမြင်ပြီးသော် ကပိလဝတ်ပြည်, ဒေဝဒဟပြည်တို့၌နေကုန်သော ၂ ပြည်ထောင်မင်း, ဆွေတော်မျိုးတော်, မှူးတော်မတ်တော်, ပြည်သူလူထု အပေါင်းတို့သည် ထို လုမ္ဗိနီဥယျာဉ်မှ သုဒ္ဓေါဒနမင်းကြီးနန်းတော်သို့ မိဖုရားကြီးကို ပို့ဆောင်ကြလေကုန်၏။ ထို ဘုရားလောင်းဖွားသည့်နေ့၌ပင်လျှင် သိကြားမင်းမှစ၍ တာဝတိံသာနတ်ပြည်၌ နတ်အပေါင်းတို့သည် ဝမ်းမြောက်ဝမ်းသာ ရွှင်ပျော်ကခုန် မြူးထူးကြကုန်၏။

ထိုအခါ သုဒ္ဓေါဒနမင်းကြီးဆရာ သမာပတ်၈ပါး[၂၃၃]နှင့်ပြည့်စုံသော ကာဠဒေဝိလ အမည်ရှိသော ရှင်ရသေ့သည် ထိုလပြည့်နေ့နံနက် ဆွမ်းစားပြီးလျှင် တာဝတိံသာသို့သွား၍ ရာနေ့၏မွေ့လျော်ခြင်းဖြင့် နေလတ်သော်၊ နတ်တို့၏မြူးထူးခြင်းကိုမြင်လျှင် "အဘယ့်ကြောင့် သင်တို့ အခါတစ်ပါးထက်ထူး၍ မြူးထူးရွှင်ပျကြသနည်း"ဟု မေး၏။ "သုဒ္ဓေါဒနမင်းကြီး၌ ဘုရားလောင်းဖြစ်သော သားတော်ကို ယနေ့ ဖွားတော်မူ၏။ ထိုသူသည် မချွတ်လျှင် ဘုရားဖြစ်သဖြင့် 'ဘုရား၏တင့်တယ်ခြင်းကိုလည်း အကျွန်ုပ်တို့ မြင်ဖူးရကုန်အံ့။ ဓမ္မစကြာတရား ဟောတော်မူသည်ကိုလည်း ကြားနာရလတ္တံ့.'ဟု ဝမ်းမြောက်ဝမ်းသာရှိကြ၍ မြူးထူးရွှင်ပျကြသည်"ဟု ဆိုကြကုန်၏။

ကာဠဒေဝိလ ရှင်ရသေ့သည် နတ်တို့စကားကိုကြားသဖြင့် တာဝတိံသာမှ အလျင်စာဆော ဆင်းသက်ခဲ့ပြီးသော် မင်းကြီးနန်းတော်သို့သွား၍ ခင်းအပ်သောနေရာ၌နေလျက် "မင်းကြီး။ သင်၏သားတော် ယနေ့ ဖွားမြင်သည်ဟု ငါကြားသည်။ အဘယ်မှာနည်း။ ငါ ရှုလို၏"ဟုဆိုလျှင် သုဒ္ဓေါဒနမင်းကြီးသည် တန်ဆာဆင်အပ်သောဘုရားလောင်းကို ပိုက်ချီဆောင်ယူစေပြီးသော် ရှင်ရသေ့အားရှိခိုးစိမ့်သောငှာ ဦးခေါင်းရှေးရှု၍ ရှင်ရသေ့၏အနီးသို့ ကပ်လေ၏။ ထိုအခါ ဘုရားလောင်း၏ခြေတော်အစုံသည် ဦးခေါင်းထားရာ ပြန်လည်လျက် ရှင်ရသေ့၏ဆံကျစ်နား၌ တည်လေ၏။

[ထိုစကားသည် မှန်၏။ ပစ္ဆိမဘဝိက[၂၃၄] ဖြစ်သော ဘုရားလောင်းတို့ ရှိခိုးခြင်းငှာထိုက်သောသူ မည်သည်မရှိ။ ဂုဏ်အထူးကို မသိကုန်သည်ဖြစ်၍ဘုရားလောင်း၏ဦးခေါင်းကို အကယ်၍ ရှင်ရသေ့ခြေရင်း၌ ထားငြားအံ့။ ရှင်ရသေ့ဦးခေါင်းသည် ၇ စိတ် ကွဲရာ၏။]

ရှင်ရှသေ့သည်လည်း ဘုရားလောင်း၏အခြင်းအရာကို မြင်လျှင် မိမိနေရာမှထ၍ လက်အုပ်ချီလျက် ဘုရားလောင်းအား ရှိခိုး၏။ ဤသို့သောအံ့ဖွယ်ကိုမြင်လျှင် မင်းကြီးသည်လည်း သားတော်ဘုရားလောင်းအား ရှိခိုး၏။

ရှင်ရသေ့သည်ကား လွန်လေပြီးသောကမ္ဘာ ၄၀, လာလတ္တံ့သောကမ္ဘာ ၄၀ အားဖြင့် ကမ္ဘာ ၈၀ တို့ကို အောက်မေ့နိုင်သော အဘိညာဉ်ရှိသည်ဖြစ်၍ ဘုရားလောင်း၏လက္ခဏာနှင့်ပြည့်စုံခြင်းကို မြင်သဖြင့် 'ဘုရားဖြစ်အံ့လော။ မဖြစ်အံ့လော'ဟု ဆင်ခြင်လတ်သော်၊ 'မချွတ်လျှင် ဘုရားဖြစ်လတ္တံ့'ဟုသိပြီးလျှင်၊ 'ဤသို့သော ယောကျ်ားမြတ်ကား အလွန်အံ့ဖွယ်ရှိပေစွ'ဟု နှစ်သက်ခြင်းဖြစ်၍ ရွှင်ပြုံးခြင်းကိုပြု၏။

ထို့နောင် 'ငါသည် ဤသူ ဘုရားဖြစ်သောအခါ ဖူးတွေ့ရအံ့လော့, မတွေ့ရအံ့လောဟု ဆင်ခြင်ပြန်လျှင် ဤသူ ဘုရားမဖြစ်မီပင် စုတေသဖြင့် ဘုရားအရာ, ဘုရားအထောင် ပွင့်တော်မူ၍မျှ မတွေ့ရကောင်းသော အရူပဘုံ၌ ဖြစ်အံ့သည်ကိုသိလတ်သော် ဤသို့သော ယောကျ်ားမြတ်ကို တွေ့ရပါလျက် ဘုရားအဖြစ်ဖြင့် ငါ မဖူးမမြင်ရဘဲ ကြီးစွာသောရှုံးခြင်းသို့ ရောက်ခဲ့ပြီးတကား'ဟု နှလုံးမသာ ရှိပြန်သဖြင့် ငိုဘိ၏။

မှူးမတ်အပေါင်းတို့သည်လည်း ရှင်ရသေ့၏အမူအရာကိုမြင်လျှင် "အရှင်ဘုရား။ ဤသတို့သား၏ အန္တရာယ်ဖြစ်အံ့သည်ကို မြင်တော်မူသလော။ အဘယ့်ကြောင့် ရွှင်ပြုံးခြင်း, ငိုကြွေးခြင်းကို ပြုတော်မူသနည်း"ဟု မေးလျှောက်ကြကုန်၏။ ရှင်ရသေ့လည်း မိမိ ရယ်ခြင်း, ငိုခြင်းအကြောင်းကို အမတ်တို့အား ပြန်ကြားပြီးလျှင် တစ်ဖန် 'ဤသတို့သား ဘုရားဖြစ်သောအခါ ငါပင် မဖူးမတွေ့ရသော်လည်း ငါ၏အဆွေအမျိုး တစ်စုံတစ်ယောက် ဖူးတွေ့ရပါမည်လော'ဟု ဆင်ခြင်ပြန်လတ်သော်၊ 'ငါ၏တူ နာလကသတို့သားသည် ဖူးတွေ့ရလတ္တံ့'ဟု မြင်သဖြင့် နန်းတော်မှဆင်းသက်ခဲ့၍၊ နှမအိမ်သို့သွားပြီးလျှင် "သင်၏သား နာလက အဘယ်မှာနည်း။ ခေါ်ချေ"ဟုဆို၍ နာလကသတို့သားကို ခေါ်စေသဖြင့် မိမိထံသို့ ရောက်လျှင် "နာလက။ ယခု သုဒ္ဓေါဒနမင်းကြီးမှာ ဘုရားအညွန့် ဖြစ်သောသားတော်ကို ဖွားပြီ။ ထိုသားတော်သည် ယခုနှစ်မှ နောက် ၃၅ နှစ်လွန်လျှင် ဘုရားဖြစ်လတ္တံ့။ သင်သည် ထိုဘုရားကို ဖူးမြင်ရလတ္တံ့။ ယခုပင် သင် ရဟန်းပြုလော့"ဟုဆို၏။

ဦးရီးရှင်ရသေ့စကားကို ကြားလျှင် ကုဋေ ၈၀ ကြွယ်သော အမျိုးသားနာလက သတို့သားသည် 'ငါ၏ ဦးရီး ရှင်ရသေ့သည် ငါ့အား အကျိုးမရှိသောအရာကို မတိုက်တွန်းရာ'ဟုကြံလျက် ထိုခဏ၌ပင်လျှင် အိမ်ဈေးတို့၌ ရဟန်းပရိက္ခရာတို့ကိုဝယ်၍ ဆံမုတ်ဆိတ်တို့ကိုပယ်ရိတ်စေပြီးသော် ဘုရားလောင်းရှိရာသို့ လက်အုပ်ချီ၍ ရှိခိုးလျက် "ဤလောက၌ အကြင်ပုဂ္ဂိုလ်ကို အထွတ်အမြတ်ဟု သမုတ်အပ်၏။ ထို အထွတ်အမြတ်ဟုသမုတ်အပ်သော ပုဂ္ဂိုလ်ကိုရည်မှတ်၍ အကျွန်ုပ် ရဟန်းပြုပါမည်" ဆိုပြီးလျှင်၊ ရဟန်းပြုသဖြင့် ဟိမဝန္တာသို့ဝင်၍ ရဟန်းတရားကို ပွားစေလျက်နေ၏။ [ထို နာလကရဟန်းသည် ဘုရားဖြစ်တော်မူသောအခါ မောနေယျ[၃၃]အကျင့်ကို ကျင့်ဆောင်တော်မူသော အရှင် နာလကထေရ်ပင်တည်း။]

ဘုရားလောင်းဖွားတော်မူ၍ ၅ ရက်မြောက်။ အမည်မှည့်အံ့သောနေ့၌ ကြီးစွာသောအခင်းအကျင်း အကျွေးအမွေးပွဲသဘင်တို့ကိုဖြစ်စေလျက် လက္ခဏာကျမ်း စသည်တို့နှင့်တကွ ဗေဒင် ၃ ပုံတို့ကို အာဂုံဆောင်ရွက်နိုင်ကုန်သော ပုဏ္ဏား ၁၀၈ ယောက်တို့ကိုပင့်ဖိတ်၍၊ ကျွေးမွေးပြီးလျှင် ဘုရားလောင်း၏ လက္ခဏာတို့ကို ဖတ်စေ၏။ ထို ပုဏ္ဏား ၁၀၈ ယောက်တို့တွင် ယာမ,ဓဇ, လက္ခဏ, ဇာတိမန္တီ, ယတိ, သုဂေါစ, သုယာမ,

သုဒတ္တ၊ ဤ ၈ ယောက်သောပုဏ္ဏားတို့သည် ဆဠင်္ဂဗေဒင်ကို တတ်ကြကုန်သည်ဖြစ်၍ အလုံးစုံသော လက္ခဏာတို့ကို သိကုန်၏။ ပဋိသန္ဓေ နေတော်မူစကလည်း ဤ ၈ ယောက်တို့ပင်လျှင် ဖတ်ကုန်၏။

ထို ၈ ယောက်တို့တွင် ၇ ယောက်သော ပုဏ္ဏားတို့သည် 'လူဖြစ်လျှင် စကြာမင်း ဖြစ်လတ္တံ့။ ရဟန်းဖြစ်လျှင် ဘုရားဖြစ်လတ္တံ့.'ဟု လက် ၂ ချောင်းပြ၍ ဖတ်ကြကုန်၏။ အမျိုးအားဖြင့် ကောဏ္ဍညတွင်သော အငယ်ဆုံးသုဒတ္တ ပုဏ္ဏားသည်ကား "ဤမင်းသားသည် အိမ်ရာထောင်သော လူ၏ဘောင်၌ နေအံ့သော အကြောင်းမရှိ။ မချွတ်လျှင် ဘုရားဖြစ်လတ္တံ့."ဟု လက်ညှိုး တစ်ချောင်းသာ ပြ၍ ဖတ်၏။

ထိုနေ့၌ပင်လျှင် ဘုရားလောင်းအားလည်း 'သိဒ္ဓတ္ထ'[၃၃၆] ဟူသောအမည်ကို မှည့်ကုန်၏။ သုဒ္ဓေါဒန မင်းကြီးသည်လည်း အမတ်တို့အား "အချင်းတို့။ ငါ့သားသည် ရဟန်းပြု၍ ဘုရားဖြစ်လတ္တံ့.ဟုဆိုသော် အဘယ့်ကြောင့် ရဟန်းပြုလတ္တံ့.နည်း"ဟု မေး၏။ အမတ်တို့လည်း "အရှင်မင်းကြီး။ ရဟန်းပြုခြင်း၏ အကြောင်းသည်ကား သူအို,သူနာ,သူသေ, ရဟန်း၊ ဤ ၄ ပါးတို့တွင် တစ်ခုခုကိုမြင်သဖြင့် ရဟန်းပြုလတ္တံ့."ဟု လျှောက်ကြကုန်လျှင်၊ သုဒ္ဓေါဒနမင်းကြီးသည် "အချင်းတို့။ ယင်းသို့တပြီးကား ငါ့သားအား ထို ၄ ပါးတို့ကို မမြင်စေနှင့်။ စကြာမင်းစည်းစိမ်ဖြင့် တင့်တယ်စွာစိုးစံသော ငါ့သားကို ငါမြင်လိုသည်"ဟု ဆို၍၊ ဘုရားလောင်းအား မမြင်စေရဘဲ မြို့ထက်ဝန်းကျင် အရပ် ၄ မျက်နှာတို့၌လည်း ထို ၄ ပါးကို ဆီးတားစိမ့်သောငှာ တစ်ဂါဝုတ်မျှ လောက်သောအရပ်၌ အစောင့်အရှောက်ထား၏။

သာကီဝင်မင်းမျိုး ဖြစ်ကုန်သော ဆွေတော်မျိုးတော်တို့သည်လည်း ၈ သောင်း ရှိကုန်၏။ ထို ၈ သောင်းသော ဆွေတော်မျိုးတော်တို့သည် အညီအညွတ် မင်းကြီးထံစည်းဝေးကြ၍ "အရှင်မင်းကြီး။ ဤ သိဒ္ဓတ္ထမင်းသားသည် စကြာမင်းဖြစ်လည်း ဖြစ်စေ, ဘုရားဖြစ်လည်း ဖြစ်စေ၊ သိဒ္ဓတ္ထမင်းသားနှင့်အတူ အခြံအရံဖြစ်စေခြင်းငှာ အကျွန်ုပ် တို့က သားတစ်ယောက်စီ ပေးအပ်ပါအံ့"ဟု လျှောက်ကြားကြ၍၊ သိဒ္ဓတ္ထမင်းသား၏အခြံအရံ သားတစ်ယောက်စီထားကြသဖြင့် ၈ သောင်းကုန်သော သာကီဝင်မင်း အပေါင်းခြံရံလျက် ဘုရားလောင်းသည် မရေမတွက်နိုင်သော စည်းစိမ်အခြံအရံဖြင့် ကြီးတော်မူရ၏။ မယ်တော် မဟာမာယာဒေဝီသည်လည်း ဖွား၍ ၇ ရက်စေ့သောနေ့၌ ဘဝပြောင်းလဲသဖြင့် တုသိတာနတ်ပြည် 'သန္တုသိတ'နတ်သား ဖြစ်လေ၏။

ဘုရားလောင်းသည် သာကီဝင်မင်းသားအပေါင်း ၈ သောင်းခြံရံလျက်ကြီး၍၊ ၁၆ နှစ် မြောက်လတ်သော် သုဒ္ဓေါဒနမင်းကြီးသည် ဘုရားလောင်း၏စံရာအလို့ငှာ ဥတု ၃ ပါးနှင့်လျော်ပတ်သော နန်း ၃ ဆောင်တို့ကို စီရင်စေပြီးလျှင်၊ နတ်သမီးကဲ့သို့အဆင်းလှပသော သာကီဝင်မင်းသမီး ၄ သောင်းအခြံအရံ ကိုယ်လုပ်မောင်းမတို့နှင့် တကွ သုပ္ပဗုဒ္ဓမင်းကြီး၏သမီးတော် ယသောဓရာမင်းသမီးနှင့် ထိမ်းမြားလျက် ဘုရားလောင်းအား ဘိသိက်သွန်း၍ ထီးနန်းအပ်နှင်းလေ၏။

ဘုရားလောင်းသည်လည်း မြောက်သားတော်မင်းသမီးကို မိဖုရားကြီးအရာ၌ထား၍ များစွာသော အခြံအရံဖြင့် ထီးနန်းစိုးစံလျက် ၂၉ နှစ်တိုင်အောင်မင်းပြုတော်မူပြီးမှ ရဟန်းပြု၍ သဗ္ဗညုတအဖြစ်သို့ ရောက်တော်မူလေ၏။

ဤသို့ ဘုရားလောင်း မဟောသဓသုခမိန်သည် ယခုအခါ သာကီဝင်မင်းမျိုး၌ဖြစ်၍ ဘုရားဖြစ်တော် မူသတည်း။

ဤ မဟောသဓဇာတ်၌ စန္ဒကုမာရဇာတ်, ဝေဿန္တရာဇာတ် စသောဇာတ်တော်များမှာ 'သေသပရိသာ ဗုဒ္ဓပရိသာ အဟေသုံ။ ။'ဟု အကြွင်းပရိသတ်ကို သိမ်းသကဲ့သို့ ဇာတ်ပေါင်းခဲ့ပြီးသော်သူတို့မှ ကြွင်းကုန်သော သူတို့ကို သိမ်း၍မဆိုသောကြောင့် ဖွားဖက် တစ်ထောင် အစရှိသောသူတို့သည် ယခုအခါ ဘုရား၏ပရိသတ်ဖြစ်လာ ဟန်မရှိ။ဤဇာတ်တော်သည် ဤကမ္ဘာတွင်း၌ အထူးသဖြင့် ပါရမီဖြည့်တော်မူသော ဇာတ်တော်တို့ကိုပြရာ စရိယာပိဋကတ်ကျမ်း၌ မပါမဝင်သော်လည်း၊ ကုသမင်းအား သိကြားမင်းပေးသောပတ္တမြားကို ဝိဒေဟရာဇ်မင်း လက်ထက်တိုင်အောင် ဆက်ခံရသေးသည်ကိုထောက်လျှင် ကုသမင်းသည် ကုသာဝတီပြည်၌ ဥက္ကာကရာဇ်မင်း၏ သားဖြစ်သောကြောင့် မဟောသဓသုခမိန် ဖြစ်သော်လည်း ဤကမ္ဘာတွင်ပင်ဖြစ်သည်ဟု ယူဖွယ်ရှိပေသည်။ ဤကျမ်းဂန်တွင် အထူးမဆို။ ဤကား ဇာတ်ပေါင်း၏ အတ္ထုပ္ပတ္တိကို ပြခြင်းတည်း။

## ကျမ်းပြီးနိဂုံး

'ရဋ္ဌေ သူနာပရန္တမှိ၊ စကုဘိဓာန နဂရေ။
သိရိပရိသ ပုဏ္ဏတ္တာ၊ မင်းပူးတိလဒ္ဓဝှါယကော။ ။
'အထဝါစန မန္တ ဂူ၊ ဝိလာသဠာန ဘာဝတော။
ပုရတ္ထိမေစ ဇေရာဝတီ၊ လောဏဝတီစ ဒက္ခိဏေ။
ပစ္ဆိမေ ပဋ္ဌိသိပဏ္ဍာ၊ နမန္တာပိစ ဥတ္တရေ။ ။
'ဝါရိတော တေဟိယော တသ္မိံ၊ ထူပါရာမာဒိသောဘိတေ။
လေသာဘိဓေယျလဥ္ဆမှိ၊ လီနတ္ထ မေသိဠာနတော။ ။
'သောတာလယပဝါရမှိ၊ ကပ္ပရုက္ခု ပမာလယေ။
တိဘူမကေ မနောရမ္မေ၊ ကူဋာဂါရာဒိမဏ္ဍိတေ။ ။
'ဝသန္တော ဂန္ထကာရောစ၊ သိဿာနံ ပိတိဝဍ္ဎနော။
ပိဋကေသု နိရာသင်္ကော၊ သာသနေသု ဝိရာလယော။ ။
'ဝိသုဒ္ဓေါ သုဒ္ဓသိဿေဟိ၊ သောဘန္တော စန္ဒိမာ ယထာ။
ပါသာဒိကော စ နိပုဏော၊ သဗ္ဗရဋ္ဌေ သုပါကဋော။ ။
'တဿာ စရိယသေဋ္ဌဿ၊ သိဿေနိဒံ မယာကတံ။
သုတေသီနံ ဟိတတ္ထာယ၊ ဥပနိဿာ ဝှယာစိတော။ ။
'ပုဗ္ဗာပရ သုဝိညဒံ၊ သောတာ လက်ာရ ဂူပမံ။
ဖုလ္လရိဇေ သသာသိသော၊ ပိယဝါစေ ယုဝါနကေ။ ။
'အမရ ပုရိန္ဒဘူပါလ၊ ရာဇကာလေဝ သမ္ဘဝေ။
ကာဠပက္ခေ စ ကတ္တိကေ၊ ပုဏ္ဏေ ဒွိကေပိ သုက္ကာဟေ။ ။
'စန္ဒိမေ ပြိဿရာသိမှိ၊ ကတ္တိကာယ နိယုတ္တေစ။
မိန္နေလဂ္ဂန သမ္ဘွေ၊ နိဋ္ဌင်္ဂတံဝသမ္ပုဏ္ဏံ။ ။
'ဝါကျာနုသန္ဓိမယုတ္တံ၊ မိနေတွေတ္ထ မနုဿယာ။
ဝဏ္ဏိတာ သုတသမ္ပန္နာ၊ သဒ္ဒနာ သဒ္ဒန္တု ပဏ္ဍိတာ။ ။
'တေန ပုညေန သံသာရေ၊ ဘဝါမဟံ တိဟေတုကော။
ဂဏ္ဍိပဠေသု ပညာတော၊ ကုဟာကေသွာဘိဘူ သမ္မာ။ ။
'သဗ္ဗကိစ္စေသု သံမိတ္တော၊ကူဋမန္တေသု ပါကဋော။
ဘိသနုပဒ္ဒဝါ ပန္ထေ၊ ဉာဏဗ္ဗလေန နိဗ္ဗုဒေါ။ ။

မန်းရွှေပြည့်စာအုပ်တိုက်

'ဒုလ္လဘော သုဇ္ဈိတော ဠီတော၊ ဓမ္မေန သုခဂါဟကော။
ပိယာယိကော ပဏ္ဍာမိတ္တော၊ မမ ဝါစာယ ဓမ္မတော။ ။
'ဉာဏဗ္ဗလံ ပရေသံပိ၊ မမ ဉာဏာနုယာယိကော။
သာမိကဿ ယထာ ဒါသော၊ သဗ္ဗေသံပိ သုခါဝဟော။ ။
'ဉာတိမိတ္တေသု ဝိရောဓော၊ သဗ္ဗဋ္ဌာနေ ဝိသာရဒေါ။
ကတဝေဒီ ပဋိက္ကာရော၊ အဘေဇ္ဇ ဝုဒ္ဓိ ဘောဂဝါ။ ။
'ကလျာဏမိတ္တ သမာနေဟိ၊ သမာဂမော အနာကုလော။
ဉာဏံ ဝဓေတွာ ဝရံ လဒ္ဓေါ၊ ပဏ္ဍိမေ မဟောသဓော ယထာ။ ။'ပတ္တနာ ဂါထာပေါင်း ၁၇ ဖြင့် ကမ္ပည်းချုပ်လိုက်သည်။

သူနာပရန္တ မိုရဋ္ဌေ၊ သူနာပရန္တ တိုင်းဖြစ်သော။စကုဘိဓာန နဂရေ၊ စကုမြို့၏ နယ်အတွင်း၌။ပုရတ္ထိမေ၊ အရှေ့မျက်နှာ၌။ ရောဝတီစ၊ ရောဝတီ အမည်ရှိသောမြစ်သည် လည်းကောင်း။ ဒက္ခိဏေ၊ တောင်မျက်နှာ၌။ လောဏဝတီစ၊ ဆားပွတ်တောင်သို့ညွှတ်၍စီးရာဖြစ်သော ချောင်းမကြီးသည် လည်းကောင်း။ ပစ္ဆိမေ၊ အနောက်မျက်နှာ၌။ ပဉ္စသိပဗ္ဗာစ၊ ဘုရားမပွင့်မီက ရှာနလာဘီရှင်ရသေ့ ၅ ဦးတို့ နေရာဖြစ်သော တောင်လျှဉ်တောင်ဝှမ်းတို့သည် လည်းကောင်း။ ဥတ္တရေ၊ မြောက်မျက်နှာ၌။ နမန္တာစ၊ မန်းမြစ်သည် လည်းကောင်း။ တေဟိ၊ ထို မြစ်ငယ်၊ မြစ်ကြီး,ချောင်းကြီး,တောင်လျှဉ်တို့ဖြင့်။ ဝါရိတော၊ ၄ ရပ်မျက်နှာ ဆီးကာဝန်းလည်၍ တည်ထသော။ သီရိပရိသ ပုဏ္ဏတ္တာစ၊ ကောင်းမြတ်သော ကျက်သရေအိမ်ခြေပရိသတ်တို့နှင့် ပြည်စုံသည်၏ အဖြစ်ကြောင့် လည်းကောင်း။

အထဝါ၊ တစ်နည်းသော်ကား။ နမန္တဂ္ဂဝိလာသ ဋ္ဌာနဘာဝတောစ၊ မြစ်မသို့ပေါင်းဆုံရာ မန်းမြစ်၏ အညွန့်အဖူး၌ တင့်တယ်စွာတည်ထောင်အပ်သော အရပ်ဖြစ်သောကြောင့် လည်းကောင်း။ မင်းပူးတိ လဒ္ဓဝှာယကော၊ မင်းပူး ဟု ရအပ်သောအမည် ရှိထသော။ ယော ဂါမော၊ အကြင်ရွာသည်။ အတ္ထိ၊ရှိ၏။တသ္မိံ ဂါမေ၊ ထိုမင်းပူးရွာ၌။ ထူပါရာမာဒိသောဘိတေ၊ ရွှေစေတီ,ဆုတောင်းပြည့်, ရွှေတန်းဆာ အစရှိသော စေတီလိုဏ်နန်းတို့၏တည်ရာ စေတီယတောင်စသည့်တို့ဖြင့် တင့်တယ်ထသော။ မနောရမ္မေ၊ နှလုံးမွေ့ လျော်ဖွယ်လည်းရှိထသော။ တိဘူမကေ၊ ဘုံ ၃ ဆင့်လည်း ရှိထသော။ ကုဋာဂါရာ ဒိမဏ္ဍိတေ၊ မုခ် မှန်ကင်း, အမွှန်းတန်ဆာ စသည်တို့ဖြင့် ဆင်အပ်ထသော။

သောတာလယပဝါရမှိ၊ စာသင်သားတို့၏ဆန္ဒကို ဖိတ်မန်ရာလည်း ဖြစ်ထသော။ ဝါ၊ စာသင်ကျောင်း တို့၏ ခြံရံဝန်းအပ်ထသော။ လီနတ္ထံ၊ ပါဠိ,အဋ္ဌကထာ, ဋီကာတို့၌ ကွယ်ဝှက်ခက်ခဲသောအနက်ကို။ ဒေသိဌာနတော၊ စာသင်သားတို့၏ ရှာမှီးရာဖြစ်သောကြောင့်။လေသာဘိဓေယျလဒ္ဓမှိ၊ လေသာ ဟူ၍ဟောအပ်သော အမည် တံဆိပ်လည်း ရှိထသော။ ကပ္ပရုက္ခူပမာလယေ၊ သဒ္ဓါ,သီလ, သုတ အစရှိသော သူတောင်ကောင်းဥစ္စာ ရတနာမြတ် ၇ ရပ်ကို ပရိသတ်တို့ဆွတ်ယူရာ ပဒေသာပင်သဖွယ်ဖြစ်သော ကျောင်းမြတ်၌။

ဝသန္တော၊ နေတော်မူထသော။ ဂန္ထကာရော၊ ကျမ်းပို့, ကျမ်းပြုဆရာလည်း ဖြစ်ထသော။ သိဿာနံ၊ တပည့်အပေါင်းတို့၏။ ပီတိဝမုနော၊ နှစ်သက်ခြင်းကိုလည်း ပွားစေတတ်ထသော။ ပိဋ္ဌကေသု၊ ပိဋကတ်တို့၌။ နိရာသင်္ကော၊ ရွံ့ရှားခြင်းလည်း ကင်းတော်မူထသော။ သာသနေသု၊ ပရိယတ္တိ, ပဋိပတ္တိ, ပဋိဝေဓ သာသနာတော် တို့၌။ ဝီရာလယော၊အားထုတ်တော်မူလေ့ရှိထသော။

ဝိသုဒ္ဓေါ၊ စတုပါရိသုဒ္ဓိသီလ , အာစာရ, ဂေါစရ စသည်တို့၌ အညစ်အကြေးမတင် ဖြူစင်တော်မူလျက်။ တာရကာဂဏေဟိ၊ ကြယ်အပေါင်းတို့ဖြင့်။ သောဘန္တော၊ တင့်တယ်သော။ စန္ဒိမာယထာ၊ လပြည့်ဝန်းကဲ့သို့။ သုဒ္ဓသီသေဟိ၊ စင်ကြယ်စွာကုန်သော တပည့်အပေါင်းတို့ဖြင့်။ သောဘန္တော၊ တင့်တယ်တော်မူသည်ဖြစ်၍။ သဗ္ဗရဋ္ဌေ၊ အလုံးစုံသော မြန်မာတိုင်းနိုင်ငံ၌ ။ သုပါကဋော၊ ကောင်းစွာထင်ရှားထသော။ ပါသာဒိကော၊ ကိုယ်အင်္ဂါဖြင့်လည်း ကြည်ညိုဖွယ် ရှိထသော။ နိပုဏော၊ သိမ်မွေ့နူးညံ့သော နှလုံးတော်လည်း ရှိထသော။ ယောအာစရိယ သေဋ္ဌော၊ အကြင်ဆရာမြတ်သည်။ အတ္ထိ၊ ရှိ၏။

တဿအာစရိယ သေဋ္ဌဿ၊ ထိုကျေးဇူးတော်ရှင်ဘုရား၏။ သိဿေန၊ လက်ရင်းငယ် တပည့်လည်း ဖြစ်ထသော။ ယုဝါနကေ–ယုဝေန၊ ပထမအစု ပျိုနုသောအရွယ်လည်း ဖြစ်ထသော။ ပိယဝါစေ–ပိယဝါကျေန၊ ချစ်ဖွယ်သောစကားကိုလည်း ဆိုတတ်ထသော။ သဿာသိသေ–သဒ္ဓမ္မအာသိသေန၊ သူတော်ကောင်းတရားကိုလည်း တောင့်တလေ့ ရှိထသော။ ဖုလ္လရိဇေ ဝိကသိတဝါရိဇေန၊ အခါသင့်၍ပွင့်သော ကုမုဒြာကြာကဲ့သို့ ဆရာမြတ်မှ ရအပ်သော နည်းဥပဒေသဖြင့် ပွင့်လန်းသောပညာလည်း ရှိထသော။

မယာ၊ 'ဩဘာသ'အမည်ရှိသော ငါသည်။ သုတေသီနံ၊ သုတပညာကို ရှာကုန်သောသူတို့၏။ ဟိတတ္ထာယ အစီးအပွားအလို့ငှာ။ ပုဗ္ဗာပရသုဝိသဒံ၊ ရှေ့,နောက်စကား အထားအနေ သေချာကျစ်လစ် ပြေပြစ်သန့်ရှင်းထသော။ သောကာလင်္ကာရရူပမံ၊ သုတကို ရှာကုန်သောသူတို့၏ ဆင်သောတန်ဆာသဖွယ်လည်း ဖြစ်ထသော။ ဣဒံဇာတက ဝတ္ထုံ၊ ဤ မဃောဒေဝပဏ္ဍိတ ဇာတ်ဝတ္ထုကို။ ဥပါနိဓာဝ ယာစိတော၊ 'မောင်ထောက်' အမည်ရှိသောသူသည် ရှိသေစွာ တောင်းပန်အပ်သည်ဖြစ်၍ ။ မြန်မာဘာသာယ၊ မြန်မာဘာသာ သိသာမှတ်လွယ် အဓိပ္ပာယ်ထုတ်ဖွေ စကားပြေဖြင့်။ ကတံ၊ စီကုံးအပ်ပြီ။

တံဇာတကဝတ္ထုံ၊ ထို မဃောဒေဝ ခမိန် ဇာတ်ဝတ္ထုသည်။ အမရပူရိန္ဒဘူပါလ ရာဇကာလေ၊ အမရပူရ အမည်ရှိသော ရာဇဓာနီ မင်းနေပြည်ကြီးကိုတည်ထောင်၍ ထီးနန်းကိုစိုးစံတော်မူဦးဖြစ်သော ရေမြေ့သခင် မဟာဓမ္မရာဇ် မင်းလက်ထက်၌။ သဿာသိသေ၊ သာသနာတော်သည်။ဖုလ္လရိဇေ၊ ၂၃၂၈ ခုနှစ်သို့။ယုဝါနကေ၊ လူတို့၏ အသက်ကို ရေတွက်ကြောင်းဖြစ်သော ကောဇာသက္ကရာဇ် ရှည်သည်။ပိယဝါစေ၊ ၁၁၄၆ ခုသို့။ သမ္ပတ္တေ၊ ရောက်သည်ရှိသော်။ ကတ္တိကေ၊ တန်ဆောင်မုန်းလဖြစ်သော။ ကာလပက္ခေ၊ လဆုတ်ပက္ခ၌။ ပုဏ္ဏေ၊ တိထိအားဖြင့် ၁၅ လုံးပြည့်သော။ ဒိဝေ၊ ဝေါဟာရရက်အားဖြင့် လပြည့်ကျော် ၂ ရက်ဖြစ်သော။ သုက္ကာဟေ၊ သောကြာနေ့၌။

စန္ဒိမေ၊ လပြည့်ဝန်းသည်။ ပြိဿရာသိမှ၊ ပြိဿရာသီ၌။ ကတ္တိကာယ၊ ကြတ္တိကာနက္ခတ်နှင့်။ [illegible]၊ ယှဉ်သွားစဉ်။ မိနေ၊ မိန်ရာသီသို့။ လဂ္ဂနသမ္ပတ္တေ၊ လဂ်ရောက်သည်ရှိသော်။ သမ္ပုဏ္ဏံ၊ ဆိုဖွယ်စကား အပြည့်အစုံသည်။ နိဋ္ဌံတံဝ၊ အပြီးသို့ ရောက်သည်သာလျှင်တည်း။

အနုဿုယာ၊ သူတစ်ပါးတို့အား ငြူစူချုပ်ချယ်ခြင်း မရှိကုန်ထသော။ ပဏ္ဍိတာ၊ ပညာရှိတို့သည် ချီးမွမ်းအပ်ကုန်ထသော။ သုတသမ္ပန္နာ၊ သုတနှင့် ပြည့်စုံကုန်ထသော။ သဇ္ဇနာ၊ သူတော်ကောင်းစင်စစ် ဖြစ်ကုန်ထသော။ ပဏ္ဍိတာ၊ ပညာရှိတို့သည်။ ဧတ္ထ၊ ဤ အကျွန်ုပ်ရေးစီရင်အပ်သော ဝတ္ထု၌။ ဝါကျာနုသန္ဓိ၊ ရှေ့နောက် စကား အထားအသို အဆိုအမြွက် အဆက်အဟပ် အစပ်အဆော်ကို။ မိနေတွာ၊ ပညာဖြင့် နှိုင်းချိန်၍၊ သစေ အယုတ္တံ၊ အကယ်၍ မသင့်သောအရာ ထင်အံ့။တံ၊ ထို မသင့်သောအရာကို။ သဇ္ဇန္တု၊ လောင်းနုတ်စီရင်၊ ပြင်ဆင်တော် မူစေကုန်သတည်း။

အဟံ၊ ငါသည်။ တေနပုညေန၊ ထိုမဟောသဓဝတ္ထုကို ရေးစီရင်ရသော ကောင်းမှုကြောင့်။ သံသာရေ၊ သံသရာ၌။ သံသရန္တော၊ ကျင်လည်ရသည်ရှိသော်။ တိဟေတုကော၊ မဟောသဓသုခမိန်ကဲ့သို့ တိဟိတ် ပဋိသန္ဓေ နေရခြင်းသည်။ ဘဝါမိ၊ ဖြစ်ရလို၏။ ဂဏ္ဌိပဉှေသု၊ အနက်အားဖြင့် လျှို့ဝှက်ခက်ခဲသော ပြဿနာတို့၌။ ပညာတော၊ မဟောသဓသုခမိန် ပညာတော်ကဲ့သို့ လျင်မြန်စွာသိနိုင်သည်။ ဘဝါမိ၊ ဖြစ်ရပါလို၏။ ကုဟကေသု၊ သေနကအမတ် အစရှိသည်တို့ကဲ့သို့ ယုတ်မာသောဂုဏ်မာန်ဖြင့် ထောင်လွှားဖက်ပြိုင်လာသောသူတို့ကို။ သမ္မာ၊ကောင်းစွာ။ အဘိဘူ၊ မဟောသဓာ သုခမိန်ကဲ့သို့ အဆိပ်အတောက်မာန်စွယ်ကို နုတ်ပယ်နှိပ်နင်းနိုင်သည်။ ဘဝါမိ၊ ဖြစ်ရလို၏။

သဗ္ဗကိစ္စေသု၊ ခပ်သိမ်းသော အမှုကြီး,ငယ်တို့၌။ သံမိတ္တော၊ မဟောသဓသုခမိန်အား ဖွားဖက် တစ်ထောင်,အမရာဒေဝီ, ဥဒုမ္ဗရဒေဝီ, ထီးချက်စောင့်နတ်သမီး, ကျေးသား, အနုကေဝဋ္ဋတို့ကဲ့သို့ ငါ့အား အမှုဆောင်ရွက် ညီညာဖော် အဆွေခင်ပွန်းကောင်းကို ရသည်။ ဘဝါမိ၊ ဖြစ်ရလို၏။ ကုဋ္ဋမန္တေသု၊ သေနက အစရှိသော အမတ် ၄ ယောက်, စူဠနီမင်း, ကေဝဋ္ဋအမတ်တို့ကဲသို့ အကောက်တိုင်ပင်၍ မကောင်းကြံဆောင် ကုန်သော သူတစ်ပါးတို့၏ အတိုင်အပင် အကြံအစည်တို့၌။ ပါကဋော၊ မဟောသဓသုခမိန်ကဲ့သို့ ထင်ရှားသိအောင် ပြုနိုင်သည်။ ဘဝါမိ၊ ဖြစ်ရလို၏။ ဘီသန ပဒ္ဒဝေ၊ စူဠနီမင်းစစ်သည် ဝန်းရံသကဲ့သို့ ကြောက်မက်ဖွယ်သော ဘေးရန်သည်။ အာပန္နေပိ၊ ရောက်လတ်သော်လည်း။ ဉာဏဗ္ဗလေန၊ ငါ၏ပညာအစွမ်းဖြင့်။ နိဗ္ဗုဒေါ၊ မဟောသဓာသုခမိန်ကဲ့သို့ သူခပ်သိမ်းတို့အား ဘေးမဲ့ပေးနိုင်သည်။ ဘဝါမိ၊ ဖြစ်ရလို၏။

ဒုလ္လဘေသု၊ ကိုယ်ရံဝန်းကျင်အစောင့်အရှောက် မြို့နန်းအဆီးအကာနှင့် ပဉ္စာလရာဇ်နန်းတော်ကဲ့သို့ လုံခြုံစွာရနိုင်ခဲကုန်သော အရပ်တို့၌။ ဋ္ဌိတော၊ တည်ကုန်သော။ ဣတ္ထိတော၊ ပဉ္စာလစန္ဒီ မင်းသမီးကဲ့သို့ အလိုရှိအပ်သော ဝတ္ထုတို့ကို။ ဓမ္မေန၊ တရားသဖြင့်။ သုခဂါဟကော၊ မဟောသဓာသုခမိန်ကဲ့သို့ အလွယ်တကူ ဆောင်ယူနိုင်သည်။ ဘဝါမိ၊ ဖြစ်ရလို၏။ ပစ္စာမိတ္တေ၊ စူဠနီမင်းကဲ့သို့ ရန်သူပြု၍ နှိပ်စက်အံ့သောငှာ အားထုတ်ကုန်သောသူတို့ကို။ မမဝါစာယ၊ သာယာချိုမြွက် နှစ်သက်ဖွယ်သော ငါ၏စကားဖြင့်။ ဓမ္မတော၊ သဘောဖြောင့်ဖြောင့်။ ပိယာယိကော၊ မဟောသဓသုခမိန်ကဲ့သို့ ချစ်မြတ်နိုးစေနိုင်သည်။ ဘဝါမိ၊ ဖြစ်ရလို၏။

သာမိကဿ ၊ အရှင်၏။ အနုယာယိကော၊ နောက်သို့ အစဉ်လိုက်တတ်သော။ ဒါသောယထာ၊ ကျွန်ကဲ့သို့။ ပရေသံပိ၊ သူတစ်ပါးတို့၏လည်း၊ ဉာဏဗ္ဗလံ၊ ပညာအစွမ်းကို၊ မမဉာဏာနုယာယိကော၊ ငါ၏ ပညာအစွမ်းသို့သာလျှင် အစဉ်တစိုက် လိုက်စေနိုင်သည်။ ဘဝါမိ၊ ဖြစ်ရလို၏။ သဗ္ဗေသံပိ၊ ခပ်သိမ်းကုန်သော သူအပေါင်းတို့သည်လည်း။ သုခါဝဟော၊ ကိုယ်,စိတ်ချမ်းသာခြင်းကို ဆောင်ရွက်နိုင်သည်။ ဘဝါမိ၊ ဖြစ်ရလို၏။

ဉာတိမိတ္တေသု၊ မိမျိုးဖမျိုး,အဆွေခင်ပွန်းစစ် ချစ်နှစ်လိုအပ်ကုန်သော သူတို့၌။ အဝိရောဓော၊ တစ်ရံတစ်ဆစ်မျှ မကြည်မဖြူမရှိ ချစ်မိသောမေတ္တာ မပျက်သည်။ ဘဝါမိ၊ ဖြစ်ရလို၏။ သဗ္ဗဌာနေ၊ ကိုယ်ဖြင့် ဆောင်အပ်သော အမှု, အကြံအစည် အတိုင်အပင်ဖြင့် ဆောင်အပ်သော အမှု, အစုစုအရေး အထွေးအရှုပ်ကို သုတ်သင်ခြင်းတို့၌။ ဝိသာရဒေါ၊ မဟောသဓသုခမိန်ကဲ့သို့ တွန့်တိုရွံ့ရှာခြင်းမရှိ ရဲရင့်သည်။ ဘဝါမိ၊ ဖြစ်ရလို၏။ ကတဝေဒီစ၊ ကြီးကြီးငယ်ငယ် တင်ပေဖူးသောသူတို့ ကျေးဇူးကို မဟောသဓသုခမိန်ကဲ့သို့ သိတတ်သည် လည်းကောင်း။ ပဋိကာရောစ၊ သူတစ်ပါးတို့ကျေးဇူးကို သိသည်နှင့်လျော်စွာ မဟောသဓသုခမိန်ကဲ့သို့ ကျေးဇူးတုံ့ဆပ်နိုင်ခြင်းသည် လည်းကောင်း။ အသေဋ္ဌဝုဒ္ဓိဘောဂဝါစ၊ မဟောသဓ သုခမိန်ကဲ့သို့ ရန်သူ ၅ ပါးတို့

မဖျက်ဆီးနိုင်သဖြင့် ကြီးကျယ်ပြန့်ပွား များမြတ်သောစည်းစိမ်ချမ်းသာနှင့် ပြည့်စုံခြင်းသည် လည်းကောင်း။ ဘဝါမိ၊ ဖြစ်ရလို၏။

ကလျာဏမိတ္တသမာနေဟိ၊ အမရာဒေဝီ, ဘေရီပရိဗိုဇ်မ, စူဠနီပြဟ္မဒတ်မင်းတို့ကဲ့သို့ တူမျှသော စိတ်ရှိကုန်သော အဆွေခင်ပွန်းကောင်းတို့နှင့်။ သမာဂတောစ၊ မဟောသဓသုခမိန်ကဲ့သို့ ရွှင်လန်းကြည်ဖြူ အတူတကွပေါင်းဖက်ရခြင်းသည် လည်းကောင်း။ အနာကုလောစ၊ ကေဝဋ်အမတ်, နန္ဒာဒေဝီတို့ မနှောင့်ယှက်နိုင်သော ဘုရားလောင်းကဲ့သို့ ငါ့အား သူတစ်ပါးတို့ မနှောင့်ယှက်နိုင်ခြင်းသည် လည်းကောင်း၊ ဘဝါမိ၊ ဖြစ်ရလို၏။ ပစ္ဆိမေ၊ အဆုံးစွန်သော ကိုယ်၏အဖြစ်၌။ မဟောသဓော၊ မဟောသဓသုခမိန်သည်။ ဝရံ၊ အမြတ်ဆုံးဖြစ်သော သဗ္ဗညုတဉာဏ်ကို။ လဘေ-လာဘတိယထာ၊ ရလေသကဲ့သို့။ တထာ၊ ထို့အတူ။ အဟံ၊ ငါသည်။ဉာဏံ၊ ပညာပါရမီဉာဏ်ကို၊ ဝဍ္ဎေတွာ၊ ပွားစေ၍၊ ပစ္ဆိမေ၊ အဆုံးစွန်သောဘဝ၌။ ဝရံ၊ မြတ်လှစွာသော သဗ္ဗညုတ ဉာဏ်ကို။ လဘေ၊ လဘာမိ၊ ရလို၏။

[မဟောသဓာ ဇာတကဝဏ္ဏ ဟူသောပုဒ်၏ ဝိဂြိုဟ်ကား မဟန္တံ ဩသဓံ ယဿ သောယန္တိ မဟောသဓော။ (တဂ္ဂုဏာ သံဝိညာဏ ဗဟုဗ္ဗီဟိ သမာသ်) မဟောသဓဿဇာတော မဟောသဓ ဇာတော။'တပ္ပုရိသ်' မဟောသဓဇာတံ ကထေတိ တေနာတိ မဟောသဓဇာတကံ 'ကရဏ-သာဓနကိတ်ဝိဂြိုဟ်' မဟောသဓ ဇာတဿဝဏ္ဏ မဟောသဓ ဇာတကဝဏ္ဏ'တပ္ပုရိသ်သမာသ်'

[ယဿသေဋ္ဌိပုတ္တဿ၊ အကြင်သူဌေးသားအား။ မဟန္တံ၊ အာနုဘော်ကြီးမြတ်သော။ ဩသဓံ၊ ဆေးတုံးသည်။ အတ္ထိ၊ရှိ၏။ဣတိတသ္မာ၊ ထိုသို့အာနုဘော် ကြီးမြတ်သော ဆေးတုံးရှိသော သတ္တိကြောင့်။ သောအယံ သေဋ္ဌိပုတ္တော၊ ထိုသူဌေးသားသည်။ မဟောသဓော၊ မဟောသဓမည်၏။

[မဟောသဓဿ၊ မဟောသဓသုခမိန်၏။ ဇာတော၊ အဖြစ်တည်း။ မဟောသဓဇာတော၊ မဟောသဓ သုခမိန်၏အဖြစ်။ တေနဒေသနာက္ကမေန၊ ထိုဒေသနာတော်အစဉ်ဖြင့်။ မဟောသဓဇာတံ၊ မဟောသဓ အဖြစ်ကို။ ကထေတိ၊ ဟောတော်မူတတ်၏။ ဣတိတသ္မာ၊ ထိုသို့ ဟောကြားတော်မူကြောင်းဖြစ်သော သတ္တိကြောင့်။ တေနာတိပဒေန၊ တေနဟူသော ပုဒ်ဖြင့်။ နိဒ္ဒိဋ္ဌံ၊ ညွှန်းအပ်သော။ တံဒေသနာက္ကမံ။ ထိုဒေသနာတော်အစဉ်သည်။ မဟောသဓဇာတကံ၊ မဟောသဓဇာတ်တော် ပါဠိမည်၏။

[မဟောသဓဇာတကဿ၊ မဟောသဓဇာတ်တော်ပါဠိ၏။ ဝဏ္ဏ၊ အနက် မြန်မာပြန်ခြင်း အခင်းအကျင်း တည်း။ ဣတိတသ္မာ၊ ထိုသို့ ဇာတ်တော်ကို အနက်မြန်မာ သိသာမှတ်လွယ် အဓိပ္ပာယ်ထုတ်ရာဖြစ်သော သတ္တိကြောင့်။ ဣဒံလိခိတံ၊ ဤစာသည်။ မဟောသဓဇာတကဝဏ္ဏ၊ မဟောသဓ ဇာတကဝဏ္ဏမည်၏။]

ထိုသို့ ဆိုအပ်ခဲ့ပြီးသော ဂါထာတို့တွင် သိရိပရိသပုဏ္ဏတ္တာဟူသော ဟိတ်ပါဌ်၏ အလိုကား-

မံသိရိ ပရိသံ ဝါ ပူရေတိ ဧတ္တာတိ မင်းပူး-အဓိကရဏသာဓန ကိတ်ဝိဂြိုဟ် ပြုစေလိုသည်။

ဧတ္ထဂါမေ၊ ဤရွာ၌၊ မံသိရိ၊ ကျက်သရေအပေါင်းကို။ ဝါ၊ တစ်နည်းကား။ ပရိသံ၊ ဘိက္ခု၊ သာမဏေရ, ဥပါသကာ ဥပါသိကာဟု ဆိုအပ်သော ပရိသတ် ၄ ပါးကို။ ပူရေတိ၊ ပြည့်စေတတ်၏။ ဣတိတသ္မာ၊ ထိုသို့ ကျက်သရေအပေါင်း, ပရိသတ်အပေါင်းတို့ကို ပြည့်စေရာဖြစ်သော သတ္တိကြောင့်၊ သောဂါမော၊ ထိုရွာသည်။ မင်းပူး၊ မင်းပူးမည်၏။

[မံသဒ္ဒူပဒ၊ ပူရဓာတ်။ ကွိ-ပစ္စည်း။ မံ-သဒ္ဒါသည် ကျက်သရေအနက်, ပရိသတ်အနက်ကို ဟော၏။]

အထဝါဖြင့် တက်သော နောက်နည်း၏အလိုကား မန်းမြစ်အဆုံး အညွန့်အဖူး၌ တည်အပ်သောကြောင့် မန်းဖူး မည်၏။ ကာလရှည်လျား၍ စကားရွေ့သဖြင့် နောက်လူတို့သည် 'မင်းပူး'ခေါ်စကုန်သည် ဆိုလိုသတည်း။

လီနမတ္ထမေသိ ဌာနတော ဟူသောဟိတ်ပါဌ်၏အလိုကား 'လီနံ အတ္ထံ သေန္တိ ဂဝေသန္တိ ဧတ္ထာတိလေသာ'ဟူ၍ ဝိဂြိုဟ်ပြုစေလိုသည်။

ဧတ္ထအာလယေ၊ ဤကျောင်း၌။ လီနံ၊ ကွယ်ဝှက်သော။ အတ္ထံ၊ အနက်ကို။ သေန္တိဂဝေသန္တိ၊ ရှာမှီးတတ်ကုန်၏။ ဣတိတသ္မာ၊ ထိုသို့ ကွယ်ဝှက်သောအနက်ကို ရှာရာဖြစ်သောသတ္တိကြောင့်။ သောအာလယော၊ ထိုကျောင်းသည်။ လေသာ၊ လေသာ မည်၏။

[လီနသဒ္ဒူပပဒ၊ သေဓာတ်၊ ဏ-ပစ္စည်း။]

ဖုလ္လရိဓေ, သသာသိသေ, ပိယဝါစေ, ယုဝါနကေ ဟူသောပါဌ်တို့ကို နှစ်ဝိကပ်အနက် ယောဇနာသည်ကား ဘိန္နပဒ ဝါကျသိလေသနည်းတည်း။

## နိဂုံးကေပိုဒ်လင်္ကာ

မြတ်သာသနာ၊ နှစ်ထောင်သာ၍၊ သုံးရာကျော်လစ်၊ နှစ်ဆယ့်ရှစ် ဗတည့်။ သက္ကရာဇ် ဂေါဇာ၊ ထောင့်တန်ရာနှင့်၊ စွန်းလာလေးဆယ်၊ ခြောက်ခုဝယ်၌။ ရွှေနွယ်ပျံ့သင်း၊ အင်ကြင်း ပိတောက်၊ ကြက်မောက်သရဖီ၊ နှင်းဆီလှိုင်ထုံ၊ တောရဂုံနှင့်၊ မွှန်မွှန်မှိုင်းမှိုင်း၊ ရီဆိုင်းဆိုင်းတည့်၊ ရစ်ဝိုင်းတိမ်ခြေ၊ မင်းလွင်ဝေလျက်၊ လေဝန်းဆော်ဖန်၊ ဆီးနှင်းအန်၍၊ ဟေမန်ကုန်ပြောင်း၊ လတပေါင်းဟု၊ ရွက်ဟောင်းကြွေပစ်၊ ရွက်သစ်ညွန့်ရှင်၊ ဖူးဆင်လုလု၊ ရတုပူချမ်း၊ ရောရောပြွမ်းသား၊ နွေလှမ်းဆောင်းကျွတ်၊ နေပြာသာဒ်လည်း၊ နက္ခတ်စနေသိဒ်၊ ဖော်မိတ်ယှဉ်လျက်၊ ဆန်းဆယ်ရက်တွင်၊ လင်္ဂမိဿခန်း၊ စန်ဗြိဿခွင်၊ ရောက်စဉ်တွင်ဝယ်၊ သဘင်အခါ၊ နေ့ဗိဝါ၌၊ ဤစာဝတ္ထု၊ ကျွတ်ဆုအောင်မြိုက်၊ မြတ်သည့် သိုက်ကိုးပုရပိုက်ရွှေတောင်၊ ဆင့်ဆင့်ဆောင်လျက်၊ သံတောင် လေးဆူ။ အပြည့်ဟူသား၊ မူလက်ခံမှာ၊ အက္ခရာကို၊ သေချာမြဲတည်၊ အစွန့်ရှည်စွာ၊ စည်ပင်ပွားစေ၊ နှလုံးခွေ၍၊ ပေထက်တင်မူ၊ ရေးကူးပြုသား၊ ကောင်းမှုဤစာ၊ ဒါယကာလည်း၊ စေတနာရွှင်ကြည်၊ ရှုစိမ့်မည်ဟု၊ စိတ်ရည်ကြိုးကုတ်၊ အောင်ဆုချုပ်လျက်၊ ကျွန်ုပ်ရေးကူး၊ အထူးလုံ့လ၊ ပြုရကြည်ညို၊ ဤကုသိုလ်ကြောင့်၊ ထိုထိုနောင်လာ၊ သံသရာ၌၊ ပညာဘုန်းဝေ၊ ပြည့်ပါစေရှင့်၊ များထွေသတ္တိ၊ ရှိသမျှလည်း၊ သမသမာ၊ ညီမျှစွာလျှင်၊ ရပါစေကြောင်း၊ မျှဝေလောင်းသည်၊ မြတ်ပေါင်းလူဗိုလ်၊ ကြည်ညိုသာခု ခေါ်စေသောဝ်။

ပန်းရှူးပြည်စာအုပ်တိုက်

# မဟောသဓဇာတ်တော် ခက်ဆစ်များ

၁။ မာန်=မာန-ထောင်လွှားမော်ကြွားခြင်း။
၂။ ဝေနေယျ=ဆုံးမထိုက်သော သတ္တဝါ။
၃။ ကာသိတိုင်း=တင့်တယ်ဖွယ်ရာသော နိုင်ငံ။
၄။ ကောသလတိုင်း=ရွှေ,ငွေ,ဥစ္စာ ဘဏ္ဍာများကို သွင်းယူရာပိုင်ငံ။
၅။ အစိရဝတီ=လျင်စွာ ရေယဉ်စီးဆင်းသောမြစ်။
၆။ သာဝတ္ထိ=သဝတ္ထမည်သော ရှင်ရသေ့ကြီးတစ်ပါး၏ သခ်မ်းကျောင်းနေရာ၌ တည်သောမြို့။
၇။ အနာထပိဏ်=အနာထပိဏ္ဍက-ကိုးကွယ်ရာမဲ့တို့ကို ကျွေးမွေးပေးကမ်းတတ်သော သူဌေး။
၈။ ဇေတဝန်=ဇေတဝန-ဇေတမင်းသားဥယျာဉ်၌ ဆောက်ထားသောကျောင်း။
၉။ ပညာပါရမီ=နိဗ္ဗာန်သို့ရောက်စေတတ်သောဉာဏ်။
၁၀။ ကုဋဒန္တ=ကူဋ-အထွတ်,အတက်၊ ဒန္တ-သွား၊ သွားတက်ရှိသော ပုဏ္ဏား။
၁၁။ သစ္စက=မိမိအယူသာ အမှန်ဟုပြောလေ့ရှိသော ပရိဗိုဇ်။
၁၂။ ပရိဗိုဇ်=ရဟန်းများနှင့် အဝတ်အရုံတူသော သူများ။
၁၃။ အာဠဝက= အာဠဝီတိုင်းနေ နတ်ဘီလူး။
၁၄။ သိကြား=သက္က-တစ်ထောင်သော အရေးအကြောင်းကို တစ်ခဏချင်း မြင်စွမ်းနိုင်သော၊ ဝါ-အသူရာတို့ကို အောင်စွမ်းနိုင်သော နတ်မင်းကြီး။
၁၅။ ဗက=ဝက-အယူမှားကိုယူသော ပြဟ္မာ။
၁၆။ မဂ်ဉာဏ်=မဂ္ဂင် ၈ ပါး ပေါင်းဆုံမိ၍ ကိလေသာတို့ကို ပယ်ဖျက်နိုင်သောဉာဏ်။
၁၇။ ဖိုလ်ဉာဏ်=မဂ်၏အကျိုးဖြစ်၍ ငြိမ်းအေးစွာ ဖြစ်ပေါ်လာတတ်သောဉာဏ်။
၁၈။ သဗ္ဗညုတဉာဏ်=အလုံးစုံသော တရားအပေါင်းကို သိတတ်သောဉာဏ်။
၁၉။ ဖလသမာပတ်=ဖိုလ်ဝင်စားခြင်း။
၂၀။ ဝိဒေဟရာဇ်တိုင်း=ဝိ-ထူးမြတ်သော၊ ဒေဟ-ကိုယ်ဟန်သဏ္ဌာန်၊ ကိုယ်ဟန်သဏ္ဌာန်ထူးသော မင်းတို့ စိုးပိုင်ရာနိုင်ငံ။
၂၁။ မိထိလာပြည်=ရန်သူတို့ကို နှိပ်စက်တွန်းလှန်တတ်သော နိုင်ငံ။
၂၂။ ပါစီနယဝမဇ္ဈဂုံးရွာ=အရှေ့မုယောကွင်းလယ်ရွာကြီး။
၂၃။ ဒက္ခိဏယဝမဇ္ဈဂုံးရွာ=တောင်ဘက်မုယောကွင်းလယ်ရွာကြီး။
၂၄။ ပစ္ဆိမယဝမဇ္ဈဂုံးရွာ=အနောက်ဘက် မုယောကွင်းလယ်ရွာကြီး။
၂၅။ ဥတ္တရယဝမဇ္ဈဂုံးရွာ=မြောက်ဘက် မုယောကွင်းလယ်ရွာကြီး။
၂၆။ သိရိဝဍ္ဎန=ကျက်သရေပွားသောသူဌေး။
၂၇။ သုမနဒေဝီ=စိတ်ကောင်းရှိ၍ သုမနဒေဝီမည်သော သူဌေးကတော်။
၂၈။ တာဝတိံသာ=၃၃ ကျိပ် ၃ယောက်သော နတ်တို့၏နေရာ။
၂၉။ ပဋိသန္ဓေ=ပဋိသန္ဓိ၊ ဘဝ ၂ ပါးတို့၏ အစပ်။
၃၀။ စကြဝဠာတိုက်=စက္က-စကြ-အဝိုင်း၊ ဝဠ-ဝန်းရံသော၊ တောင်စဉ်ဝန်းရံသော နေရာဝိုင်းကြီး(စကြကား သက္ကဋ)
၃၁။ သာရဏီယ ကထာ=အသက်ထက်ဆုံး မြဲစွဲ အောက်မေ့ထိုက်သော စကားကြီးစကားကောင်း။
၃၂။ မင်္ဂလာ=မင်္ဂ-မကောင်းသောအရာ၊ လာ-ပယ်ဖျက်ခြင်း၊ ကောင်းသောအရာ။
၃၃။ ဗေဒင်ကျမ်း=သိမှတ်ဖို့ နည်းစုံပါသော ဗေဒင် ၃ ပုံ၊ သို့မဟုတ် ၄ ပုံ။
၃၄။ နေမိတ္တကကျမ်း=နိမိတ်ဖတ်တို့အတတ်ကို ပြသောကျမ်း။

၃၅။ ဓမ္မရိက်ရေစစ်=ဓမ-ကရ-လေမှုတ်တတ်သော ရေစစ်။
၃၆။ အာနုဘော်=အာနုဘာဝ-အရာဌာန အားလျော်စွာဖြစ်ခြင်း၊ တန်ခိုးစွမ်းရည်သတ္တိ။
၃၇။ ပဒုမ္မာကြာရွက်=ပဒုမ-ပဒုမာကြာ-ရေ့ဦးပေါက်ရောက်တတ်၍ ရွက်ချပ် ၁၀၀ ရှိသောပန်း။
၃၈။ ဇနပုဒ်=ဇန-ပဒ-လူတို့သွားလာနေထိုင်ရာနယ်ကြီး။
၃၉။ မဟောသဓ=မဟာသြသဓ-သိကြားပေးသောကောင်းမြတ်သောဆေးတုံးကိုရ၍ မဟောသဓ ဟု အမည်မှည့်သည်။
၄၀။ ကုမာရ=မြေကို ရေးခြစ် ပုတ်ခတ်ကစားတတ်သော သူငယ်။
၄၁။ အာဂန္တုက=ဧည့်သည်။
၄၂။ ဘဏ္ဍာ=ပစ္စည်းဘဏ္ဍာ။
၄၃။ သုဓမ္မာ=သု-ကောင်းသော၊ ဓမ္မ-တရား၊ တရားသဘင်ပြုရာဇရပ်။
၄၄။ နန္ဒာရေကန်=နှစ်သက်ဖွယ်ရှိသော ရေကန်။
၄၅။ နန္ဒဝန်ဥယျာဉ်=နန္ဒဝနဥယျာန-နှစ်သက်ဖွယ်ကောင်းသော ဥယျာဉ်။
၄၆။ ဒါနဝတ်=လှူရန်ဝတ္တုကို အမြဲပြုစုတည်ထားခြင်း။
၄၇။ နိဂုံး=နိဂမ-ရွာကြီး။
၄၈။ အတ္ထုပ္ပတ်=ဖြစ်ပေါ်သော အကြောင်းအရာ။
၄၉။ ဥဒါန်း=ဥဒါန ပညာရှိတို့နှုတ်မြွက်ထားသော စကားစဉ်။
၅၀။ လာဘ်ပူဇော်သက္ကာ=လာဘ-လာဘ်ရသောပစ္စည်း၊ ပူဇ-ပူဇော်ခြင်း၊သက္ကာ-သက္ကာရ-လေးမြတ်ရှိသေခြင်း။
၅၁။ မုသာဝါဒ=လိမ်လည်ပြောဆိုခြင်း။
၅၂။ အပါယ်=အပါယ-ချမ်းသာကင်းသောဘုံ၊ ဆင်းရဲသက်သက်ခံရသောဘုံ။
၅၃။ ပဥ္စင်္ဂသီလ=ပဥ္စ-၅ပါး၊ အင်္ဂ-အစိတ်အပိုင်း၊ သီလ-အလေ့အကျင့်၊ ၅ ပါးသီလ။
၅၄။ သဗ္ဗသာဟာရက=သဗ္ဗ-အလုံးစုံ၊ သာဟာရက-အပေါင်း၊ နံ့သာပေါင်း။
၅၅။ ဂန္ဓာရုံ=ဂန္ဓာရမ္မဏ-အနံ့အာရုံ။
၅၆။ လက္ခဏာ=လက္ခဏ-မှတ်သားရန်အချက်။
၅၇။ သံသရာ=သံသာရ-ခန္ဓာ,အာယတန,ဓာတ်တို့၏ မပြတ်ဖြစ်ရာ။
၅၈။ ပြိတ္တာ=ပေတ-ချမ်းသာကင်းသော သတ္တဝါ။
၅၉။ အာယုကပ်=အာယုကပ္ပ-အသက်တမ်းနှင့်ဆိုင်သော ကာလ။
၆၀။ ဂေါတကာဠ=ဂေါတ-ပုကွသော၊ ကာဠ-မည်းနက်ခြင်း။ လူပုနက်။
၆၁။ ဒီဃတာလာ=ဒီဃ-ရှည်သော၊ တာလာ-ထန်းပင်၊ ထန်းပင်နီးပါးမြင့်ရှည်သော မိန်းမ။
၆၂။ ပဏ္ဍာ=ပဏ္ဍာကာရ-လက်ဆောင်။
၆၃။ ဘောဇဉ်=ဘောဇန-စားဖွယ်စားရာ။
၆၄။ ဒီဃပိဋ္ဌိ=ဒီဃ-ရှည်သော၊ ပိဋ္ဌိ-ကျောက်ကုန်း၊ ခါးရှည်သူ။
၆၅။ သဏ္ဌာန်=သဏ္ဌာန- လုံးရပ်ပုံပုံပုံ
၆၆။ စေတနာ=စေ့ဆော်တိုက်တွန်းတတ်သော တရား။
၆၇။ သတ္တဒါရက ပဥှာခန်း=၇နှစ်သူငယ်အရွယ် ၇ ကြိမ်တိုင်တိုင်တရားစီရင်၍ ပြဿနာဖြေရှင်းခန်း။
၆၈။ ဒိဗ္ဗစက္ခုအဘိညာဉ်=နတ်မျက်စိကဲ့သို့ မြင်သောဉာဏ်။
၆၉။ ဥသဘ=အကြီးအမြတ် အုပ်စီးနွားလားကြီး။
၇၀။ ကမ္ဗလာ=သက္ကလပ်။
၇၁။ ရမ္မက်=ရမ္မက-နှစ်သက်တတ်သော လောဘတဏှာ။
၇၂။ ဝိဘဇ္ဇဗျာကရဏ=ခွဲခြမ်းစိတ်ဖြာ၍ ဖြေချက်။
၇၃။ ပဋိပုစ္ဆာဗျာကရဏ=ပြန်မေး၍ ဖြေဆိုချက်။
၇၄။ နပုံသကပဏ္ဍုက်=ယောကျ်ားကိုယ်, မိန်းမကိုယ် မထင်ရှားချို့တဲ့သူ။

ဆန်းရွှေပြည့်ထောက်ထိုက်

၇၅။ ပဉှာ=အမေးပုစ္ဆာ
၇၆။ သဒ္ဓါ=ယုံကြည်ခြင်း-ကြည်ညိုခြင်း။
၇၇။ အာသာ=အလိုဆန္ဒ။
၇၈။ ဣဋ္ဌ=အုပ်စိုးသောတရား။
၇၉။ သစ္စာ=မှန်ကန်ခြင်း။
၈၀။ မေတ္တာ=ချစ်ခြင်း။
၈၁။ ပဋိသန္ဓာရ=အစေ့အစပ်စကား။
၈၂။ အန္ဓဗာလ=မိုက်ကန်းသောသူ။
၈၃။ ပဏ္ဍိတ=ပြုစင်သောအဖို့သို့ ရောက်သောသူ-ပညာရှိ။
၈၄။ အာဇာနည်မြင်း=အာဇာနိယ-အလွန်သိတတ်သောမြင်း။
၈၅။ အသဿတိုရ်မြင်း=မြင်းထူးမြင်းကောင်း။
၈၆။ စောဒနာ=ပြေဆိုရန်စကားစွန်းတင်ခြင်း။
၈၇။ ပရိဟာရ=လွှဲဖယ်ခြင်း-ပြေဆိုခြင်း။
၈၈။ ပါရမီသမ္ဘာရ=ပါရမီအဆောက်အဦ၊ မြတ်သောတရားအဆောက်အဦ။
၈၉။ ဥကင်=ရာဇပလ္လင်၏ အထက်တံကဲပန်းကုံး။
၉၀။ ရာဇပလ္လင်=ရာဇ-ပလ္လင်-မင်းနေရာ။
၉၁။ သေဋ္ဌနင်း=သေဋ္ဌ-ကြီးမြတ်သူ၊ နင်း-လွှမ်းမိုးအုပ်စိုးသောဘုရင်။
၉၂။ ဇမ္ဗူဒိပ်ကျွန်း=ဇမ္ဗူဒီပ-သပြေပင်ထွန်းသောကျွန်း။
၉၃။ ကေ့နဝီသတိ ပဉှာခန်း= ၁၉ ပါးသော မေးခန်း။
၉၄။ ကကဏ္ဋကပဉှာခန်း=ပုတ်သင်အမေးခန်း။
၉၅။ ဥပုသ်နေ့=ဥပေါသထ-ဘာသာကျင့်ဝတ်ကို စောင့်သုံးသောနေ့။
၉၆။ သိရီကာလကဏ္ဏိ ပြဿနာခန်း=ဥဒုမ္ဗရဒေဝီမိန်းမမြတ်နှင့် ပိင်္ဂုတ္တရ ယောက်ျားယုတ်တို့အကြောင်း မေးခန်း။
၉၇။ ပိင်္ဂုတ္တရ=ပိင်္ဂဥတ္တရ-မည်းနက်သော ဥတ္တရလုလင်။
၉၈။ တက္ကသိုလ်=တက္ကသီလ-ပညာအကြံအစည် အလေ့အကျင့်များသောမြို့။
၉၉။ ဒိသာပါမောက္ခ=နယ်ပယ်ချုပ် ဆရာကြီး။
၁၀၀။ ဥဒုမ္ဗရဒေဝီ=ရေသဖန်းပင်မှ ရသောမိဖုရား။
၁၀၁။ အဘိသေကမင်္ဂလာ=အဘိသေက-အောင်ရေသွန်းလောင်းသော။ မင်္ဂလာ-မင်္ဂလာ။
၁၀၂။ တင်သီးနား=တင်ပါးနား။
၁၀၃။ ဣဋ္ဌာရုံ=ဣဋ္ဌအာရမ္မဏ-ကောင်းသောအာရုံ။
၁၀၄။ အနိဋ္ဌာရုံ=အနိဋ္ဌအာရမ္မဏ၊ မကောင်းသောအာရုံ။
၁၀၅။ မဟာသမုဒ္ဒရာ=မဟာသမုဒ္ဒ-ရေနှင့်အမျှ ဆားရှိသောပင်လယ်။
၁၀၆။ မေဏ္ဍကပဉှာခန်း=သိုးဆိတ်အမေးခန်း။
၁၀၇။ သင်္ကာ=မယုံမကြည်ဖြစ်ခြင်း။
၁၀၈။ သန္နိဋ္ဌာန်=စိတ်ကို ဆုံးဖြတ်အတည်ပြုခြင်း။
၁၀၉။ အဝိစိငရဲ=မီး,ဆင်းရဲ,သတ္တဝါ ကြားလပ်မရှိသော ငရဲ။
၁၁၀။ ဗြဟ္မာဘုံ=ကိုယ်ထည်ကြီးသော ဗြဟ္မာတို့နေရာဘုံ။
၁၁၁။ သိရီမန္တ ပြဿနာခန်း=စည်းစိမ်ပညာမေးခန်း။
၁၁၂။ ရာဇဝတ်ရေး=မင်းရေး, မင်းပြစ်။
၁၁၃။ ဆန္ဒ=အလို
၁၁၄။ ဓမ္မသတ်ကျမ်း=ဓမ္မသတ္တ-ဥပဒေကျမ်း။

၁၁၅။ ယတြာ=ထွက်ရပ်လမ်း၊ စိတ်ဖြင့် လေ့လာအားထုတ်အပ်သော အစီအရင်ကိုပြထားသော ယောဂကျမ်း၊ ဝသီကရဏကျမ်း။
၁၁၆။ သိပ္ပ=နှုတ်အတတ်,လက်အတတ်-နှုတ်မှု, လက်မှု။
၁၁၇။ အကုသိုလ်=အကုသလ-မကောင်းမှု။
၁၁၈။ ပစ္စုပ္ပန်=ပစ္စုပ္ပန္န-ဖြစ်ဆဲကာလ။
၁၁၉။ ဝေါဝိန္နသူဋ္ဌေး=နွားပေါင်းများစွာရှိသူ။
၁၂၀။ ဒုဂ္ဂတိ=မကောင်းသော လားရာဂတိ။
၁၂၁။ ဒုစရိုက်=ဒုစ္စရိတ- မကောင်းကျင့်သော ကာယကံ, ဝစီကံ,မနောကံ။
၁၂၂။ ဂင်္ဂါ=စီးဆင်းတတ်သောမြစ်။
၁၂၃။ ဥပဒ်=ဥပဒ္ဒဝ-ကပ်၍နှိပ်စက်တတ်သော အနှာင့်အယှက်။
၁၂၄။ သီဒါ=သီဒ-နစ်မြုပ်ခြင်း၊ အေးလွန်းသည်ဖြစ်၍ ဝါဂွမ်း,ငှက်ရင်မွေးတောင် နစ်မြုပ်သောမြစ်။
၁၂၅။ ဗလဝါမုခဝဲ=ရေတက်, ရေကျ အစဝဲကြီး။
၁၂၆။ လောကီ=လောကိယ-ပျက်တတ်သော ဘုံ ၃ ပါး၌ ဖြစ်သောတရားစု။
၁၂၇။ လောကုတ္တရာ=လောက-ဥတ္တရ-ဘုံ ၃ ပါးမှ ထွက်မြောက်ပြီးသော တရား ၉ ပါး။
၁၂၈။ ဒါန=ပေးကမ်းခြင်း။
၁၂၉။ သီလ=ဆောက်တည်အပ်သော အလေ့ကောင်း။
၁၃၀။ ကုသိုလ်=ကုသလ-အပြစ်ကင်းသော တရားကောင်းမှု။
၁၃၁။ အမရာဒေဝီ ပရိယေသနခန်း=အမရာဒေဝီကို ရှာခန်း။
၁၃၂။ သြဇာ=ရုပ်ခန္ဓာကို သန့်စွမ်းစေသောအဆီ။
၁၃၃။ ကရုဏာ=သနားခြင်း။
၁၃၄။ သိင်္ဂနိက်=သိင်္ဂီနိက္ခ-သိင်္ဂနိက်ရွှေစင်။
၁၃၅။ သဗ္ဗရတနစောရခန်း=မင်းသုံးရတနာအလုံးစုံ ခိုးယူခန်း။
၁၃၆။ ဥပါယ်=ဥပါယ-ရန်အောင်ကြောင်းနည်း။
၁၃၇။ ကမ္ပည်းအက္ခရာ=အထင်ကရရေးထားသော လိပ်စာ-စာတမ်း။
၁၃၈။ အစောက်တစ်သူကျော်=လူတစ်ရပ်ကျော်။
၁၃၉။ ဟိရိဩတ္တပ်နအင်္ဂါများ=အရှက်ဂုဏ်ကို ဖျက်ဆီးတတ်သောအစိတ်အပိုင်း အင်္ဂါဇာတ်။
၁၄၀။ ဘူရိပဉှာခန်း= ပညာနှင့်စပ်သော ကြီးကျယ်သောအမေး။
၁၄၁။ ကနက်=ကနက-ရွှေထီးရွှေနန်း။
၁၄၂။ မြင်းသီလာ=မနောသီလာ-စိတ်အလိုကို ပြည့်စေတတ်သော ကျောက်၊ ဆေးဒန်း။
၁၄၃။ လောကဓံ=လောကဥ္စ ဖြစ်မြဲသဘော။
၁၄၄။ ဆန္ဒာဂတိ=ဆန္ဒအဂတိ-ချစ်၍ မတရားလိုက်စားခြင်း။
၁၄၅။ ဒေါသာဂတိ=ဒေါသအဂတိ-မုန်း၍ မတရားလိုက်စားခြင်း။
၁၄၆။ ရာဇဓာယာ=မင်း၏လှည့်ပတ်ခြင်း။
၁၄၇။ ဥတုဇရုပ်=အပူအအေးဥတုကြောင့် ဖြစ်သောရုပ်။
၁၄၈။ နည်းဥပဒေသ=နယ-နည်း၊ ဥပဒေသ-ညွှန်ကြားချက်။
၁၄၉။ လိုဏ်=ပုန်းအောင်းမှီခိုရာဌာန။
၁၅၀။ ဒေဝဓိတာ ပုစ္ဆိတပဉှာခန်း=နတ်သမီး မေးခန်း။
၁၅၁။ ကံ=ကမ္မ-ပြုခြင်း,ပြုအပ်သောအရာ။
၁၅၂။ သေနာပတိ=စစ်ဗိုလ်ချုပ်
၁၅၃။ ပဥ္စပဏ္ဍိတပဉှာခန်း=ပညာရှိ ၅ ဦးအား မေးခန်း။
၁၅၄။ ကာမဂုဏ်=ကာမဂုဏ- နှစ်သက်အပ်သော အာရုံ ၅ ပါးစု။

၁၅၅။ အန္တရာယ်=အကြား၌ဖြစ်ပေါ်လာတတ်သော ဘေးရန်။
၁၅၆။ ပညာ,သတိ,ဝီရိယ=ပညာ–အပြားအားဖြင့်သိခြင်း၊ သတိ–အောက်မေ့ခြင်း၊ ဝီရိယ–အားထုတ်ခြင်း။
၁၅၇။ ကုဋ္ဌနာ=အင်္ဂါခြေလက် ပြတ်ကြွေတတ်သော နူနာ။
၁၅၈။ ပက္ခဥပုသ်=၁၅ ရက်အဖို့ ဥပုသ်နေ့။
၁၅၉။ နရဒေဝ=လူကိုဖမ်းစားသော နတ်ဘီလူး။
၁၆၀။ ရောဂါ=ကျင်နာသောအနာ။
၁၆၁။ ရာဇဝတ်ဒဏ်=မင်းဘေး, မင်းပြစ်။
၁၆၂။ ကြမ္မာ=(သက္ကတဘာသာ) စေတနာကံ။
၁၆၃။ လက်မရွံ့=အာဏာပါးကွက်–လူသတ်။
၁၆၄။ ခုံတမင်=(ပေါရာဏ) အဆောတလျင်။
၁၆၅။ ဈာန်သမာပတ်=ဈာနသမာပတ္တိ–ဈာန်ဝင်စားခြင်း။
၁၆၆။ ဟိမဝန္တာ=ဆီးနှင်းထွက်သောတောင်။
၁၆၇။ ကုမုဒြာကြာ=ဥပ္ပလ–ကြာဖြူမျိုး။
၁၆၈။ မိဋ္ဌာန်=ဆောက်တည်ခြင်း။
၁၆၉။ ကပိလတိုင်း=ကပိလရသေ့နေရာ၌ တည်သောနိုင်ငံ။
၁၇၀။ ဥတ္တရပဉ္စာလရာဇ်ပြည်=မင်းကတစ်လှည့်, ပြည်သူကတစ်လှည့် အုပ်စိုးသောကြောင့် အာဏာများ၍ အာဏာပျံ့နှံ့သောပြည်။
၁၇၁။ သခ်ပါလ=ကဇရသင်းကဲ့သို့ ဖြူစင်စောင့်ရှောက်သောမင်း။
၁၇၂။ စူဠနီဗြဟ္မဒတ်မင်း=မကိုင့်သရဖူဆင်သော ဗြဟ္မာမင်းဖန်ဆင်းသောမင်း။
၁၇၃။ ပုရောဟိတ်=ပုရောဟိတ–မင်း၏ ရှေ့ဆောင်ရှေ့ရွက် မင်းဆရာ။
၁၇၄။ ကေဝဋ်=ကေဝဋ္ဋ–တံငါသည်နာမည်ယူ၍ မှည့်သောပုဏ္ဏား။
၁၇၅။ ကေရာဇ်မင်း=တစ်ကျွန်းလုံးစိုးသောမင်း။
၁၇၆။ ပရိယာယ်ဝေဝုစ်=ပရိယာယဝေဝစန–အနက်တစ်ခုတည်း၌ များသောပုဒ်စု၊ ၄င်းစကား ၂–ခု အဓိပ္ပာယ်တူ၏။
၁၇၇။ တိရစ္ဆာန်ဘာသာ=တိရစ္ဆာန–လူကဲ့သို့ အထက်သို့မတ်ရပ်မသွားဘဲ မှောက်သွားသောသတ္တဝါမျိုး၊ ဘာသာ–စကား။
၁၇၈။ တစ်ခုယုတ် တစ်ရာ=၉၉ မင်းနေပြည်။
၁၇၉။ အသူရာ=နတ်ကဲ့သို့ မရဲရင့်သူ။
၁၈၀။ သူရဲ=သူရ (ပါဠိ) ရဲရင့်သူ။
၁၈၁။ စစ်အင်္ဂါ=ရထား, ဆင်, မြင်း, ခြေသည် ဟူ၍ ၄ ပါးရှိသည်။
၁၈၂။ ခေါဘဏီ=ဤ၌အက္ခောဘဏီတပ်အဖွဲ့. ရေတွက်ပုံမှာ ဝါးအလုံး ၆၀ ရှိသော ဝါးအစည်းပေါင်း ၆၀ ကို စစ်အင်္ဂါ ၄ ပါးနှင့် ပြည့်စုံသော တပ်ဖွဲ့သည်နင်းသွား၍ မှုန့်မှုန့်ညက်ညက်ကြေလျှင်၊ ထိုတပ်ကို အက္ခောဘဏီတပ် ခေါ်သည်။ စစ်သည် တစ်ဘက်သားတို့ မလှုပ်ရှားစေနိုင်၍ အက္ခောဘဏီတပ် ခေါ်သည်။
၁၈၃။ တင့်အပ်သောအရပ်=နီးလွန်းသောအရပ်, ဝေးလွန်းသောအရပ်, လေညာဖြစ်သောအရပ်, မြင့်သောအရပ်, ရှေ့တူရူဖြစ်သော အရပ်, နောက်တူရူဖြစ်သောအရပ်၊ ၎င်း ၆ ရပ်မှ ကင်းလွတ်သောအရပ်ကို ဆိုသည်။
၁၈၄။ ရွှေ, ငွေ, ပုလဲ, ပတ္တမြား, ကျောက်မျက်ရွဲ, ဝဇိရစိန်, သန္တာ၊ ဤကား ရတနာ ၇ ပါးတည်း။
၁၈၅။ ပစ္စင်=တံခါးအပေါ်က ပြာသာဒ်ကြီး။
၁၈၆။ ရင်တား=ရန်တားထားသောနေရာ။
၁၈၇။ ပြ=မြို့ရိုးပတ်လည် တံခါးတို့၏အကြားအကြားတို့၌ ဘုံ ၂ ဆင့်, ၃ ဆင့်စသည်ဖြင့် ပြုလုပ်ထားသောအရာ။
၁၈၈။ တန်ဆောင်း=၎င်းကား မြို့တွင်း, မြို့ပ ၂ ဌာနန္ဒိပင် ရှိ၏။ (တစ်နည်း) ထောင့်ကျသောအရပ်များ၌ ဘုံ ၂ ဆင့်, ၃ ဆင့် ရှိသော အထွတ်တစ်ခုနှင့် အထောင့်များလျှင် 'မာဠ'မည်၏။ တံခါးအထပ်ဟုလည်း ဆို၏။
၁၈၉။ ပြကတေ့အတိုင်း=ပင်ကိုမူလအတိုင်း။
၁၉၀။ ဥပါယ်တံမျဉ်=လှည့်ပတ်သော အကြောင်းအချက်တစ်ခု။

၁၉၁။ ရာဇသံ=မင်း၏အမိန့်။
၁၉၂။ ကျိုးနွံ=ရိုသေတုပ်ဝပ်ခြင်း။
၁၉၃။ နေအလျှံခိုက်သော=နေအရောင်နှင့် တွေ့ထိသော။
၁၉၄။ နံနက်တစ်ချက်တီးကျော်=မြန်မာနာရီကိုဆိုသည်။ စက်နာရီအားဖြင့် ၈ နာရီခွဲနှင့် ညီမျှသည်။
၁၉၅။ တစ်ဥသဘခန့်=ကိုက် ၇၀ ခန့်, အတောင် ၁၄၀ ခန့်။
၁၉၆။ အုတ်အုတ်ကျက်ကျက်=ဆူဆူညံညံ သူတစ်မျိုးငါတစ်ဖုံ လူအများပြောဆိုကြလျက်။
၁၉၇။ ပုရောဟိတ်=ပုရောဟိတ-ပြည်၏အကျိုးကို ဆောင်သောသူ။
၁၉၈။ နှင်ဖြိုရလျှင်=တိုက်ဖျက်ချေမှုန်းရလျှင်။
၁၉၉။ ရာဇဒဏ်=မင်း၏အပြစ်ဒဏ်။
၂၀၀။ ကုန်းချောစားလျှင်=မဟုတ်မမှန်သည်ကို အမှန်ကဲ့သို့ပြုလုပ်ပြောဆိုကာ အချစ်ပျက်အောင် ကုန်းတိုက်ခြင်း။
၂၀၁။ စစ်ကဲ,စစ်ကြပ်=စစ်သည်တပ်သားတို့အပေါ်၌ အကြီးအကဲ အရာရှိ, ဆော်ဖန်ကြပ်မတ်သော အရာရှိ။
၂၀၂။ မျက်နှာပြုမည်ကို=မျက်နှာလို, မျက်နှာရပြုမည်ကို။
၂၀၃။ ခွဲဖင့်၍=ကြန့်ကြာ၍။
၂၀၄။ အနကောဝင့်ပုဏ္ဏား=ကောဝင့်ပုဏ္ဏားငယ်။
၂၀၅။ စစ်ကွပ်, စစ်ကြပ်ပြု၍=စစ်ဦးစီးခေါင်းဆောင် တပ်ဦးပြု၍။
၂၀၆။ မထိမဲ့မြင်သော=မလိုက်မနာ နားမထောင်ဘဲသော။
၂၀၇။ သန္နိဋ္ဌာန်=စိတ်ကိုဆုံးဖြတ်၍ အတည်ပြုခြင်း။
၂၀၈။ စိတ်ထားတစ်သွယ်ခံ၍=စိတ်မာန်ခံပြီးခုခံ၍။
၂၀၉။ ကလူစားခြင်း=နိပ်စက်ဖိစီးခြင်း။
၂၁၀။ ဥပဒ်=ဘေးရန်ဥပဒ် အနှောင့်အယှက်။
၂၁၁။ ပျက်မှုစကား=သရော်ချော်တော် ပြောင်လှောင်စကား။
၂၁၂။ တပြီးကား=သည်လိုဖြင့်။
၂၁၃။ စစ်နင်းယောင်တကား=စစ်ဆင်၍ တိုက်ယောင်တကား။
၂၁၄။ ဗလဝါမုခဝံသံ=ရေတာက်, ရေကျအစ ဝံကြီးသံ။
၂၁၅။ ပူဇော်=နှစ်မြိုက်သော အမှုအရာပြသည်ကို ပူဇော်ခြင်းဟုဆိုသည်။
၂၁၆။ ပဉ္စာလစန္ဒီမင်းသမီး=ယမင်းရုပ်ကဲ့သို့ တင့်တယ်အဆင်း အလွန်လှပခြင်းရှိသော မင်းသမီး။
၂၁၇။ အတုမရှိသော=တုဖက်ပြိုင်ဖက် မရှိသော။
၂၁၈။ အောင်သေသောက်ခြင်း=စစ်အောင်ရာ၌ ပျော်ပျော်ရွှင်ရွှင်သောက်စားမှု။
၂၁၉။ သဏ္ဌာန်=အမှတ် အခြင်းအရာပုံပန်း။
၂၂၀။ မသေခွေနိုင်ဘဲ=မစောင့်မချုပ်တည်းနိုင်ဘဲ။
၂၂၁။ သဒ္ဒါရုံ=လူတို့၏နား၌ နှစ်သိမ့်စေတတ်သောအသံ။
၂၂၂။ လက္ခဏာ=အသွင်အပြင် အမူအရာ။
၂၂၃။ ပဏ္ဏာကာရ=လက်ဆောင်၏ အကြောင်းခြင်းရာ။
၂၂၄။ ကေရာဇ်မင်း=တစ်ကျွန်းလုံးကို အစိုးရသောမင်း။
၂၂၅။ မြို့, နိဂုံး=ဇနပုဒ်-တံတိုင်းလည်းရှိ ဈေးလည်းရှိသောနေရာကို-မြို့။ တံတိုင်းမရှိ၍ ဈေးသာရှိသောနေရာကို-နိဂုံး။ လူတို့သွားလာနေထိုင်ရာ နယ်ကြီးကို-ဇနပုဒ်ဟု ခေါ်၏။
၂၂၆။ မေတ္တာ=ချစ်ခြင်း။
၂၂၇။ ဇမ္ဗူဒိပ်ကျွန်း=ဇမ္ဗူသပြေပင်ဖြင့် မှတ်သောကျွန်း။
၂၂၈။ ဆန္ဒအာသာ=လိုချင်ခြင်း, စွဲလမ်းခြင်းအာသာ။
၂၂၉။ ညောင်စောင်းအင်းပျဉ်=ခုတင်, ထိုင်ခုံ-ကုလားထိုင်။

၂၃၀။ အနီးအနေ=အတိုင်အပင်။
၂၃၁။ မသူတော်=သူတော်မဟုတ် သူယုတ်မာ။
၂၃၂။ တစိုးတစိမ္ဗျ=နဲနဲကလေးမျှ။
၂၃၃။ မလောက်မလေး=မထိမဲ့မြင် အရိုအသေ။
၂၃၄။ မင်္ဂလာဆောင်=မင်္ဂလာ-ကြီးပွားခြင်း, ဆောင်-ဆောင်ရွက်ခြင်း၊ ကြီးပွားအောင်ဆောင်ရွက်ပေးခြင်း။
၂၃၅။ ထုပိကာ=အထွတ်။
၂၃၆။ မင်းကျင့်တရား ၁၀ ပါး=အလှူ, အလေ့အကျင့်, စွန့်ကြဲခြင်း, ဖြောင့်မတ်ခြင်း, နူးညံ့ခြင်း, ခြိုးခြံစွာကျင့်ခြင်း, အမျက်မထွက်ခြင်း, မညှဉ်းဆဲခြင်း, သည်းခံခြင်း, မဆန့်ကျင်ခြင်း။
၂၃၇။ ပဋိသန္ထာရစကား=အဇေ့အစပ်ပြောဆိုခြင်းစကား။
၂၃၈။ တမန်အမတ်=စေလွှတ်အပ်သောအမတ်။
၂၃၉။ သောက်ရှူးကြယ်ရောင်ကဲ့သို့=သောကြာကြယ်ရောင်ကဲ့သို့။
၂၄၀။ ထိမ်းမြား=မိမိ၏ဇနီး, မိမိ၏ခင်ပွန်းအပေါ်၌သာ စွဲမြဲသောစိတ်ဓာတ်, မွန်မြတ်ချစ်ခင်သောစိတ် ထားရှိပါဟူ၍ ဆိုလိုရင်းဖြစ်သည်။
၂၄၁။ မာတရ=မာဓရဟု ဓအောက်မြိတ်နှင့်လည်း အချို့မူ၌ရှိသည်။
၂၄၂။ အလျင်တဆောသာ=ခပ်မြန်မြန်သာ။
၂၄၃။ ကောက်ပင်ရိတ်ဖြတ်စကား=ကောက်ပင်ကိုလက်တစ်ဖက်နှင့် ကြပ်ကြပ်ဆုပ်ပြီးလျှင် အရင်းက တံစဉ်ဖြင့်ရိတ်၍ လက်တွင်းသို့ ဝင်သည့်မှ စပါးကိုရိတ်၍ သုံးဆောင်ရသကဲ့သို့ သူ့စကားကို ဖမ်းမိအောင်ပြောဆိုပြီးလျှင် အရင်းကဖြတ်၍ ပိုင်အောင်ပြောသော စကားသည် ကောက်ပင်ရိတ်ဖြတ်စကား မည်၏။
၂၄၄။ ရာဟု=ကြီးကျယ်သောအတ္တဘောရှိသော အသူရိန်။
၂၄၅။ ခုဒ္ဒကာပီတိ=အနည်းငယ် ဝမ်းမြောက်ခြင်း။
၂၄၆။ ဥဒါန်း=ဥဒါန-မိမိအဖြစ်ကို ဝမ်းမြောက်ဝမ်းသာမြွက်ဆိုခြင်း။
၂၄၇။ ဥမင်ကွေ့=လိုဏ်ကွေ့။
၂၄၈။ မခံ့မညား=မရိုမသေ မလေးမစား။
၂၄၉။ တံစိုးထိုးလျက်=ကိစ္စပြီးမြောက်ရန်ပေးသော လာဘ်။
၂၅၀။ ဝဂ္ဂုလိ=အစုအပေါင်း။
၂၅၁။ အကြီးအကြပ်ထား၍=အကြီးအမှူး ဦးစီးထား၍။
၂၅၂။ ပါရမီ=ကူးမြောက်ကြောင်း သူမြတ်တို့၏ဥစ္စာ။
၂၅၃။ ရာဇပလ္လင်=မင်းတို့၏ ထက်ဝယ်ဖွဲ့ခွေ ထိုင်နေတော်မူရာပလ္လင်။
၂၅၄။ စကြဝဠာတိုက်=အဝိုင်းအဝန်း တောင်စဉ်ဝန်းရံသော နေရာဝိုင်းကြီး။
၂၅၅။ မိမိသားနှောင်း=မိမိ သားထွေး အငယ်ဆုံး။
၂၅၆။ ဖမ်းယူကွပ်မျက်၍=ဖမ်းယူသတ်ဖြတ်၍။
၂၅၇။ ချွတ်ယွင်းသည်လည်း=မှားယွင်းသည်လည်း။
၂၅၈။ နှုတ်လှန်ထိုးခြင်း=ပြန်ပြောခြင်း။
၂၅၉။ ပုရိသဝိသေသ=ဂုဏ်အထူး ပညာရှိသောယောကျ်ား။
၂၆၀။ အကြောင်းတစ်မူကား=အကြောင်းတစ်နည်းကား။
၂၆၁။ လည်ကြိုးဖွဲ့၍=ဆွဲကြိုးချ၍။
၂၆၂။ အာကာသ=ကောင်းကင်။
၂၆၃။ သည်းစွာသောအသံ=ပြင်းထန်စွာသောအသံ။
၂၆၄။ အဘိသေကမင်္ဂလာ=ရေဖျန်းမင်္ဂလာပြုခြင်း။
၂၆၅။ တစ်ရံတစ်ဆစ်=တစ်ခါတလေ။

ပန်းရှုပြည်စာအုပ်တိုက်

၂၆၆။ စိတ်မမြဲ၍=စိတ်မတည်ကြည် ဖောက်ပြန်၍။
၂၆၇။ မထိမှဲ့မြင်ပြုမည်ကို=နင်လားငါလား အတင်းအဓမ္မ ပြုကျင့်မည်ကို။
၂၆၈။ နာယကဂုဏ်=အကြီးအမျူး ဦးစီးနာယကတို့၏ဂုဏ်။
၂၆၉။ မျက်ကွယ်စကား=နောက်ကွယ်စကား။
၂၇၀။ ဆူလှယ်စီးနင်း=လဲလှယ်စီးနင်း။
၂၇၁။ ပမာဏမပြုဘဲ=နှိုင်းယှဉ်ခြင်းမပြုဘဲ, ဂရုမစိုက်ဘဲ။
၂၇၂။ ကမ္ဗလာ=သားမွေးစောင်, သက္ကလပ်စောင်, စုလျားအပေါ်ရုံပုဆိုး။
၂၇၃။ ဣဋ္ဌာရုံ=အလိုရှိအပ်သောအာရုံ။
၂၇၄။ အနိဋ္ဌာရုံ=အလိုမရှိအပ်သော အာရုံ။
၂၇၅။ ရွှေကြေးမုံ=ရွှေမှန်။
၂၇၆။ မိန့်ရေးကားနှောင်း=မိန့်ရေးစကား နောက်ထား၍ပြောခြင်း။
၂၇၇။ ဥဒါဟရုဏ်=ထုတ်ဆောင်ခြင်းပုံစံ, သက်သေ။
၂၇၈။ အာဏာထားလို၍=အမိန့်ထုတ်ပြန်လို၍။
၂၇၉။ ထောမနာလို၍=ချီးမွမ်းလို၍။
၂၈၀။ ဦရုလက္ခဏာ=ပေါင်တံဆိပ်အမှတ်။
၂၈၁။ ဝေနေယျ=ဆုံးမထိုက်သောသတ္တဝါ။
၂၈၂။ ဂါထာ=ဆန်းနှင့်အညီ ဖွဲ့စီအပ်သောအရာ။
၂၈၃။ ဝိဇ္ဇာမိုရ်=အတတ်ပညာကို ဆောင်သော,ပိုင်သော။
၂၈၄။ ပတိရူပအရပ်=သင့်တင့်လျောက်ပတ် ကောင်းမြတ်သောအရပ်။
၂၈၅။ လောကန္တရိက်ငရဲ=လောကဓာတ်ကျယ်ဝန်း, ၄ ကျွန်း တစ်မြင်းမိုရ်, ထိုထိုစကြဝဠာတို့အကြား၌တည်သောငရဲ။
၂၈၆။ ဘေးမဲ့ပေးတော်မူပါ=အသက်အလှူ ပေးတော်မူပါ။
၂၈၇။ ဘုရား=အရဟံအစ ဘဂဝါအဆုံး ဂုဏ်တော် ၉ ပါးလုံးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား။
၂၈၈။ ပစ္စေကဗုဒ္ဓါ=သာသနာတော်ပ၌ အသီးအခြား ပွင့်တော်မူသော ဘုရားငယ်။
၂၈၉။ ရဟန္တာ=လူ့,နတ်ဦးခိုက် ပူဇော်အထူးကို ခံထိုက်သောပုဂ္ဂိုလ်, ကိလေသာရန်ကို အမြစ်မကျန် တွန်းလှန် သတ်ဖြတ်သောပုဂ္ဂိုလ်, သံသရာစက်၏ အကန့်အကွက်တို့ကို ချိုးဖွဲ့ခုတ်ထွင် သုတ်သင်တတ်သောပုဂ္ဂိုလ်။
၂၉၀။ ဇီဝိတဒါန=အသက်ရှည်ရန် အလှူပေးခြင်း။
၂၉၁။ သံသရာ=ရုပ်, နာမ်ခန္ဓာတို့၏ဖြစ်စဉ်။
၂၉၂။ မေတ္တာ=ချစ်ခြင်း။
၂၉၃။ ကာမဂုဏ်=ရူပါရုံစသော ၅ ဖြာအာရုံ ကာမဂုဏ်။
၂၉၄။ ပဋိညာဉ်=ဝန်ခံခြင်း။
၂၉၅။ နိက္ခ=အချိန်အတွယ်။
၂၉၆။ ဇီဝိတ=အသက်။
၂၉၇။ အာလယ=တပ်ခြင်းတဏှာ။
၂၉၈။ မာန်=မာနထောင်လွှားခြင်း။
၂၉၉။ ပြဿနာ=ပဉှာမေးမြန်းခြင်း။
၃၀၀။ ဒကရက္ခသ=ရေစောင့်ဘီလူး။
၃၀၁။ စပိုအိမ်=မီးဖိုဆောင်။
၃၀၂။ ပစ္စန္တရာဇ်မင်း=တိုင်းစွန်ပြည်နှတ် ဇနပုဒ်ကို အုပ်စိုးသောမင်း။
၃၀၃။ နှင်တံ=ကြိမ်လုံး, ကြာပွတ်။
၃၀၄။ အောင်တမန်=အောင်သွယ်ခြင်း, ပွဲစားလုပ်ခြင်း။

၂၀၅။ သမာန=တူမျှသော, ညီမျှသော။
၂၀၆။ လက္ခဏာကျမ်း=အင်္ဂါလက္ခဏာကိုပြသော ကျမ်း။
၂၀၇။ နိဃဏ္ဍုကျမ်း=သစ်ပင်စသည်တို့ အမည်ပြသောကျမ်း။
၂၀၈။ ကေဋုဘကျမ်း=အလင်္ကာရကျမ်း။
၂၀၉။ ဣတိဟာသကျမ်း=ရှေးထုံးဟောင်းကို ပြသောကျမ်း။
၂၁၀။ ဂြိုဟ် ၈ လုံး=တနင်္ဂနွေဂြိုဟ်, တနင်္လာဂြိုဟ်, အင်္ဂါဂြိုဟ်, ဗုဒ္ဓဟူးဂြိုဟ်, စနေဂြိုဟ်, ကြာသပတေးဂြိုဟ်, ရာဟုဂြိုဟ်, သောကြာဂြိုဟ်။
၂၁၁။ နက္ခတ် ၂၇ လုံး=အဿဝဏီ, ဘရဏီစသော ၂၇ လုံးကို ဆိုသည်။
၂၁၂။ ၁၂ ရာသီ=မိဿ, ပြိဿ, မေထုန်, ကရကဋ်, သိဟ်, ကန်, တူ, ဗြိစ္ဆာ, ဓနု, မကာရ, ကုံ, မိန်။
၂၁၃။ အဏုမြူ=အသေး, အငယ်, အမှုန်, အဖွဲ့။
၂၁၄။ ကံ ၃ ပါး=ကာယကံ, ဝစီကံ, မနောကံ။
၂၁၅။ ဒုစရိုက် ၁၀ ပါး=ပါဏာတိပါတ, အဒိန္နာဒါန, ကာမေသုမိစ္ဆာစာရ, မုသာဝါဒ, ပိသုဏာဝါစာ, ဖရုသဝါစာ, သမ္ဖပ္ပလာပ, အဘိဇ္ဈာ, ဗျာပါဒ, မိစ္ဆာဒိဋ္ဌိ။
၂၁၆။ မနုဿဂတိ=လူ့ပြည်သို့လားခြင်း။
၂၁၇။ ဒေဝဂတိ=နတ်ပြည်သို့လားခြင်း။
၂၁၈။ ရာပြတ်=စိန်ကျောက် စသည်တို့ကို အကဲတန်ဖိုးဖြတ်သူ။
၂၁၉။ ဗျာဒိတ်=တံဆိပ်, မှတ်ချက်, အနာဂတ်ကာလ၌ ဖြစ်ပျက်ရန်အကြောင်းကို အထူးသဖြင့် မိန့်မြွက်တော်မူသော ဘုရားစကားတော်။
၂၂၀။ အနဂ္ဃ=အဖိုးများစွာ ထိုက်တန်သော။
၂၂၁။ ယမကပါဋိဟာရိယ=ရေ, မီးအစုံအစုံသော တန်ခိုးပြာဋိဟာ။
၂၂၂။ ရွှေနန်း ၃ ဆောင်=ဘုံ ၅ ဆင့်ရှိသော ရမ္မနန်းတော်၊ ဘုံ ၇ ဆင့်ရှိသော သုဘနန်းတော်၊ ဘုံ ၉ ဆင့်ရှိသော သုရမ္မနန်းတော်။
၂၂၃။ ၁၃ ပါးသော ဓုတင်=ပံ့သုကူဓုတင်, တေစီဝရိက်ဓုတင်, ပိဏ္ဍပါတ်ဓုတင်, သပဒါနဓုတင်, ဧကာသနိက်ဓုတင်, ပတ္တပိဏ္ဍိကဓုတင်, ခလုပစ္ဆာဓုတင်, အာရညကင်ဓုတင်, ရုက္ခမူဓုတင်, အဗ္ဘောကာသိဓုတင်, သုသာန်ဓုတင်, ယထာသန္တတိဓုတင်, နိသဇ္ဇဓုတင်။
၂၂၄။ သံဝေဂ=ထိတ်လန့်ခြင်း။
၂၂၅။ ရွှေအိုးကြီး ၄လုံး=သင်္ခရွှေအိုး, ဧလရွှေအိုး, ဥပ္ပလရွှေအိုး, ပုဏ္ဍရိက ရွှေအိုး။
၂၂၆။ နိမိတ် ၄ ပါး=သူအို, သူနာ, သူသေ, ရဟန်း။
၂၂၇။ ဒုက္ကရစရိယာ=ခဲယဉ်းပင်ပန်းစွာ ကျင့်ခြင်း။
၂၂၈။ မဟာဗောဓိပင်=ပင်စည်လုံးပတ် ၃၂ တောင်, အမြင့် သံတောင် ၁၀၀, ခက်မ ၅ ဖြာ ရှိ၏။
၂၂၉။ ဧဟိယျခံတရား ၅ ပါး=သင်္ခါရ, ဝိကာရ, လက္ခဏ, နိဗ္ဗာန်,ပညတ်။
၂၃၀။ မဟာသမ္မတမင်း=များစွာသော လူအပေါင်းတို့ သမုတ်အပ်သောမင်း။
၂၃၁။ ဟိမဝန္တာ=သည်းထန်သော ဆီးနှင်းရှိသော ဟိမဝန္တာတောင်။
၂၃၂။ ပါမောက္ခ=မြတ်သော, အကြီးအကဲဖြစ်သော။
၂၃၃။ သမာပတ် ၈ ပါး=ရူပဈာန် ၄ ပါး, အရူပဈာန် ၄ ပါး ဤ ၈ပါးတည်း။
၂၃၄။ ပစ္ဆိမဘဝိက=အဆုံးစွန်ဘဝ၌ ဖြစ်သောသူ။
၂၃၅။ မောနေယျအကျင့်=[ဓိနတ္တပကာသနီ၌ကြည့်ပါ။]
၂၃၆။ သိဒ္ဓတ္ထ=လောကအကျိုး ပြီးစေတတ်သည်။

"ဤပုဏ္ဏားသည်
ပတ္တမြားကိုမှီ၍
ချမ်းသာစွာအသက်ရှည်မှုကား
တစ်စုံတစ်ယောက်သောသူအား
ငါ ညှုသင်စောင့်ရာအရပ်သို့
မညွှန်ကြားလတ္တံ့။
ထိုပုဏ္ဏားအား
ခပ်သိမ်းသောအလိုကို ပေးတတ်သော
ပတ္တမြားရှင်ကို ပေးအံ့" ဟု ကြံ၍

သား သောမဒတ်သည် "ငါ ပြေးတော့အံ့။
မကောင်းမှုကိုပြုသော သင်နှင့်
တစ်ဖဝါးမျှ အတူမသွားပြီ" ဆို၍
ပညာရှိသော သောမဒတ်လုလင်သည် မိမိစကားကို
အဘ မနာယူသောကြောင့် သည်းစွာသောအသံဖြင့်
"မကောင်းမှုကိုပြုသော အဘယုတ်နှင့် အတူမသွားပါ"
ဟု နတ်များကို တိုင်ကြားကြွေးကြော်လျက်
အဘမြင်စဉ်ပင် ပြေး၍
ဟိမဝန္တာတောသို့ ဝင်ပြီးလျှင် ရဟန်းပြု၏။

အကယ်၍ ထင်း, မြက်ဖြင့်
အခိုးအလျှံရှိသော မီးကို ကျွေးသောလူသည်
ကောင်းမှုကိုပြုသည်ဖြစ်အံ့။
မီးသွေးဖုတ်သော သူတို့သည် လည်းကောင်း, ဆားချက်သော သူတို့သည် လည်းကောင်း
စားဖိုသည် တို့သည် လည်းကောင်း, သူသေကောင်ဖုတ်သော သူတို့သည် လည်းကောင်း
ကောင်းမှုကိုပြုသည် မည်ကုန်အံ့သတည်း။

ပုဏ္ဏားတို့ဆိုတိုင်း ထိုစကားမှန်လျှင် မင်းမျိုးမဟုတ်သူ မင်းအဖြစ်ကို မရရာ။ ပုဏ္ဏားမဟုတ်သူ ဝေဒင် မသင်ရာ။ သူကြွယ်မဟုတ်သူ လယ်လုပ်, ကုန်သွယ် မပြုရာ။ သူဆင်းရဲအမျိုးလည်း သူ့အစေးအပါးမှ မလွတ်ရာ။ ထိုသို့ကား မဟုတ်။ မင်းမဟုတ်သူလည်း မင်းအဖြစ်ကို ရ၏။ ပုဏ္ဏား မဟုတ်သူလည်း ဝေဒင် သင်၏။ သူကြွယ်မဟုတ်သူသည်လည်း ကုန်သွယ်, လယ်လုပ်၏။ သူဆင်းရဲသည်လည်း သူ့အစေအပါးမှ လွတ်၏။ ဤသို့ လောကတွင် ထင်ရှားရှိသောကြောင့် ပုဏ္ဏားတို့စကား မမှန်။ ဝမ်းကိုဝလိုသောကြောင့် မဟုတ်မမှန်သောစကားဖြင့် လှည့်ပတ်၍ ဆိုကုန်၏။



"အရှင်မင်းကြီး။ အလမ္ပာယ်သည် ငါ့ကို နဂါးဖြင့် တိုက်လတ္တံ့။ ငါကလည်း ဖားဖြင့် အလမ္ပာယ်ကို တိုက်လတ္တံ့။
ထို ငါတို့ ၂ယောက် နဂါးနှင့်ဖား တိုက်၍ လောင်းတမ်းကစားသည်ကို အရှင်မင်းကြီးရှုတော်မူလော့"

## ချုံးထောက်

"ဤပုဏ္ဏားသည်
ပတ္တမြားကိုမှီ၍
ချမ်းသာစွာအသက်ရှည်မှုကား
တစ်စုံတစ်ယောက်သောသူအား
ငါ ဥပုသ်စောင့်ရာအရပ်သို့
မညွှန်ကြားလတ္တံ့။
ထိုပုဏ္ဏားအား
ခပ်သိမ်းသောအလိုကို ပေးတတ်သော
ပတ္တမြားရှင်ကို ပေးအံ့" ဟု ကြံ၍

သား သောမဒတ်သည် "ငါ ပြေးတော့အံ့။
မကောင်းမှုကိုပြုသော သင်နှင့်
တစ်ဖဝါးမျှ အတူမသွားပြီ" ဆို၍
ပညာရှိသော သောမဒတ်လုလင်သည် မိမိစကားကို
အဘ မနာယူသောကြောင့် သည်းစွာသောအသံဖြင့်
"မကောင်းမှုကိုပြုသော အဘယုတ်နှင့် အတူမသွားပါ"
ဟု နတ်များကို တိုင်ကြားကြွေးကြော်လျက်
အဘမြင်စဉ်ပင် ပြေး၍
ဟိမဝန္တာတောသို့ ဝင်ပြီးလျှင် ရဟန်းပြုလေ၏။

အကယ်၍ ထင်း, မြက်ဖြင့်
အခိုးအလျှံရှိသော မီးကို ကျွေးသောလူသည်
ကောင်းမှုကိုပြုသည်ဖြစ်အံ့။
မီးသွေးဖုတ်သော သူတို့သည် လည်းကောင်း, ဆားချက်သော သူတို့သည် လည်းကောင်း
စားဖိုသည် တို့သည် လည်းကောင်း, သူသေကောင်ဖုတ်သော သူတို့သည် လည်းကောင်း
ကောင်းမှုကိုပြုသည် မည်ကုန်အံ့သတည်း။

ပုဏ္ဏားတို့ဆိုတိုင်း ထိုစကားမှန်လျှင် မင်းမျိုးမဟုတ်သူ မင်းအဖြစ်ကို မရရာ။ ပုဏ္ဏားမဟုတ်သူ ဗေဒင် မသင်ရာ။ သူကြွယ်မဟုတ်သူ လယ်လုပ်, ကုန်သွယ် မပြုရာ။ သူဆင်းရဲအမျိုးလည်း သူ့အစေအပါးမှ မလွတ်ရာ။ ထိုသို့ကား မဟုတ်။ မင်းမဟုတ်သူလည်း မင်းအဖြစ်ကို ရ၏၊ ပုဏ္ဏား မဟုတ်သူလည်း ဗေဒင် သင်၏၊ သူကြွယ်မဟုတ်သူသည်လည်း ကုန်သွယ်, လယ်လုပ်၏။ သူဆင်းရဲသည်လည်း သူ့အစေအပါးမှ လွတ်၏။ ဤသို့ လောကတွင် ထင်ရှားရှိသောကြောင့် ပုဏ္ဏားတို့စကား မမှန်။ ဝမ်းကိုဝလိုသောကြောင့် မဟုတ်မမှန်သောစကားဖြင့် လှည့်ပတ်၍ ဆိုကုန်၏။



"အရှင်မင်းကြီး၊ အလမ္ပာယ်သည် ငါ့ကို နဂါးဖြင့် တိုက်လတ္တံ့၊ ငါကလည်း ဖားဖြင့် အလမ္ပာယ်ကို တိုက်လတ္တံ့။
ထို ငါတို့ ၂ယောက် နဂါးနှင့်ဖား တိုက်၍ လောင်းတမ်းကစားသည်ကို အရှင်မင်းကြီးရှုတော်မူလော့"

# ဘူရိဒတ် ဇာတ်တော်ကြီးဝတ္ထု

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

## နိဒါန်း

သုံးလူ့ထွတ်ထား သဗ္ဗညုမြတ်စွာဘုရားသည် သာဝတ္ထိပြည်ကို ဆွမ်းခံအမှီပြု၍ ဇေတဝန်ကျောင်းတော်၌ နေတော်မူစဉ်ဝယ် ဥပုသ်သီတင်းသုံးကုန်သော ဒါယကာတို့ကို အကြောင်းပြု၍ 'ယံကိဉ္စိရတနံ'အစရှိသည်ဖြင့် တန်ဆာဆင်အပ်သော ဤ ဘူရိဒတ်ဇာတ်တော်ကို ဟောတော်မူ၏။ ထို ဒါယကာတို့သည် ဥပုသ်သီတင်းနေ့၌ နံနက်စောစောထလျက် ဥပုသ်ဆောက်တည်၍ အလှူကိုလည်း ပေးကုန်၏။ထမင်းစားပြီးသော် ပန်းနံ့သာတို့ကို လက်ကိုင်စွဲလျက် ဇေတဝန်ကျောင်းတော်သို့သွား၍ တရားနာအံ့သောငှာ တင့်အပ်သောအရပ်၌ နေကုန်၏။ မြတ်စွာဘုရားသည် တရားသဘင်သို့ကြွလာတော်မူ၍၊ တန်ဆာဆင်အပ်သောနေရာ၌ နေတော်မူလျက် ရဟန်းတို့ကို ကြည့်တော်မူ၍ 'ရဟန်းတို့တွင် အကြင်ပရိသတ်ကို အကြောင်းပြု၍ တရားစကားသည် ဖြစ်လာလတ္တံ့သတည်း' ဟုသိတော်မူ၏။

ထိုဒါယကာတို့နှင့်တကွ ဘုရားသခင်သည်လည်း စကားပြောဟောတော်မူ၏။ ထိုသို့ပြောဟောတော်မူသောကြောင့် 'ယခုအခါ ဒါယကာတို့ကို အကြောင်းပြု၍ ရှေးအကျင့်နှင့်ယှဉ်သော တရားစကားသည် ဖြစ်လတ္တံ့' ဟု သိတော်မူလျှင် ထို ဒါယကာတို့နှင့် စကားပြောဟောတော်မူအံ့သောငှာ "ဥပါသကာတို့။ သင်တို့သည် ဥပုသ်သီတင်း သုံးကုန်၏လော"ဟု မေးတော်မူ၍ "အရှင်ဘုရား။ သုံးပါကုန်၏"ဟု နားတော်လျှောက်လျှင်၊ "သင်တို့ ဥပုသ်သုံးခြင်း သည် ကောင်းစွာ့။ ဆိုဖွယ်သော်ကား ရှိသေး၏။ အဆုံးအမကို ပေးတော်မူတတ်သော ငါသို့သောဘုရားကို သင်တို့ ရကုန်သည်ဖြစ်၍ အကြင်ဥပုသ်ကို ဆောက်တည်ကုန်၏။ ဤသို့ ဆောက်တည်ခြင်းကို မအံ့ဩအပ်။ ရှေးပညာရှိတို့သည်ကား ဆရာမရှိဘဲလျက် ကြီးစွာသော စည်းစိမ်ကိုစွန့်၍ ဥပုသ်သုံးကုန်သတည်း"ဟု မိန့်တော်မူ၍ ဆိတ်ဆိတ်နေတော်မူ၏။

"အရှင်ဘုရား။ ဆရာမရှိဘဲလျက် ရှေးပညာရှိတို့ ဥပုသ်သီတင်း စောင့်သုံးခြင်းကို မိန့်တော်မူပါ"ဟု ထိုဥပါသကာတို့ လျှောက်တောင်းပန်လတ်သော် မြတ်စွာဘုရားသည် ဥယျောဇဉ်အားလျော်စွာ အတိတ်ကို ဆောင်တော်မူ၏။

# ဘူရိဒတ် ဇာတ်တော်ကြီးဝတ္ထု

## ၁။ နဂရခန်း

ရှေးလွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းသည် မင်းပြုသတတ်။ထိုအခါ သားတော်အကြီးအား အိမ်ရှေ့အရာကို ပေးတော်မူ၍ ထိုအိမ်ရှေ့မင်း၏ အခြံအရံ စည်းစိမ်ချမ်းသာ ပြန့်ပွားသည်ကို မင်းကြီးမြင်တော်မူလျှင် ထီးနန်း၏အန္တရာယ်ကို စိုးရိမ်တော်မူသောကြောင့် "ချစ်သား။ သင်သည် ပြည်မှထွက်၍ နှစ်သက်ရာအရပ်၌ နေလေလော့။ ငါလွန်မှ အမျိုး၏ဥစ္စာ ငါ၏အမွေဖြစ်သော ရွှေထီးရွှေနန်းကို စိုးမြန်းရစ်"ဟု အမိန့်တော်ရှိလျှင်၊ မင်းသားလည်း အမိန့်တော်မြတ်ကို ဦးထိပ်ဆင့်ရွက်၍ ပြည်မှ တစ်ယောက်တည်း ထွက်လေသော် အစဉ်အတိုင်း ယမုနာမြစ်သမုဒ္ဒရာတို့၏အလယ် တစ်ခုသောတောင်ကြား၌ နေရာသခ်မ်း[၁] ဖန်ဆင်းစီရင်၍ ရသေ့၏အသွင်ဖြင့် တောသစ်သီးသစ်ဖုတို့ကို ဆောင်ယူသုံးဆောင်လျက် နေလေ၏။

ထိုအခါ သမုဒ္ဒရာအောက် နဂါးပြည်၌ မုဆိုးမဖြစ်သော နဂါးမတစ်ယောက်သည် လင်ရှိသော နဂါးမတို့၏ မိမိတို့လင်နှင့် အတူတကွ တင့်တယ်စံပယ်ခြင်းစည်းစိမ်ကို မြင်၍ ထိုသူတို့နည်းတူ ပျော်မြူးလိုသော ကိလေသာဖြင့် နှိပ်စက်သည်ဖြစ်၍ နဂါးပြည်မှထွက်ခဲ့သော် သမုဒ္ဒရာနား၌သွားလေသော မင်းသား၏ ခြေရာကို မြင်၍ ထိုခြေရာကို အစဉ်မှီးသဖြင့်လိုက်လေလျှင် နေရာသခ်မ်းကို မြင်လေ၏။ ထိုသို့မြင်သောအခါ မင်းသားကား သစ်သီးကြီးငယ်အလို့ငှာ တစ်ပါးသို့သွားခိုက် ထိုနဂါးမသည် မင်းသားနေရာသခ်မ်းသို့ဝင်၍ သစ်ခက်ခင်းနီး[၂]ကို လည်းကောင်း၊ ကြွင်းသော ပရိက္ခရာတို့ကို လည်းကောင်း မြင်လျှင် ဤသို့ အကြံဖြစ်၏။ 'ဤကျောင်းသခ်မ်းသည် တစ်ယောက်သောရဟန်း၏နေရာ ဖြစ်မည်။ ထို့ရဟန်းကို စူးစမ်းအံ့'ဟု ကြံ၏။

'ထိုရဟန်းသည် သဒ္ဓါ၍တည်း ရဟန်းပြုသလော။ ယင်းသို့မဟုတ် တစ်ပါးအမှုကြောင့်တည်း ရဟန်းပြုသလော။ အကယ်၍ သဒ္ဓါပဗ္ဗဇိတ[၃]ဖြစ်အံ့။ ကာမဂုဏ်ကို အလိုမရှိသည်ဖြစ်၍ တန်ဆာဆင်ခြင်းနှင့် ပြည့်စုံသော ငါ၏ အိပ်ရာ၌ မနေလတ္တံ့။ အကယ်၍ ငါစီရင်အပ်သော အိပ်ရာ၌ နေသည်ဖြစ်အံ့။ သဒ္ဓါပဗ္ဗဇိတမဟုတ်။ ကာမဂုဏ်ကို အလိုရှိသောသူတည်းဟု သိရအံ့။ ထို ငါခင်းအပ်သောအိပ်ရာ၌ မွေ့လျော်မူ ငါ၏လင်အဖြစ်ကို ပြု၍ ဤတောအရပ်၌လျှင် နေအံ့'ဟု ကြံလျက် ထိုနဂါးမသည် နဂါးပြည်သို့သွားပြီးလျှင် နတ်တို့၏ ပန်းနံ့သာကိုဆောင်၍ အိပ်ရာကိုစီရင်လျက် ရသေ့နေရာသခ်မ်းကို ပန်းနံ့သာတို့ဖြင့်ပူဇော်လျက် နံ့သာမှုန့်တို့ကိုကြဲ၍ သခ်မ်းကိုတန်ဆာဆင်လျက် နဂါးပြည်သို့ သွားလေ၏။

မင်းသားသည် ညချမ်းသောအခါ သခ်မ်းသို့ရောက်လျှင် အတွင်းသို့ဝင်လာသော် ထိုအိပ်ရာအခင်းစသည်တို့ကိုမြင်၍ 'မည်သူ ဤအိပ်ရာကို စီရင်သနည်း' ဟု ကြံလျက် သစ်သီးကြီးငယ်ကိုသုံးဆောင်၍ 'သြော်–ကောင်းစွာ့၊ သြော်–ချမ်းသာစွာ့' ဆိုလျက် နှစ်လို့ဝမ်းမြောက်စွာ ထိုအိပ်ရာ၌ နေလေ၏။

မိုးသောက်သော အခါထ၍ သခ်မ်းကို တံမြက်လှည်းပြီးလျှင် သစ်သီးကြီးငယ်အလို့ငှာ သွားပြန်လေ၏။ နဂါးမလည်း ထိုအခါ လာပြန်လတ်၍ ညှိုးနွမ်းကုန်သော ပန်းနံ့သာ စသည်တို့ကိုမြင်လျှင် ‘ဤသူကား သဒ္ဓါပဗ္ဗဇိတ မဟုတ်။ ကာမဂုဏ်၌ အလိုရှိသောသူတည်း။ ထိုသူကို လင်ပြုအံ့သောငှာ တတ်ကောင်း၏’ဟု သိပြီးသော် ဟောင်းသောပန်းတို့ကို ပယ်၍ တစ်ဖန် အသစ်သောပန်းတို့ကို ဆောင်လျက် ရှေးအတူစီရင်ပြီးလျှင် နဂါးပြည်သို့ ပြန်သွားလေ၏။ ထိုမင်းသားသည် ထိုနေ့၌လည်း ပန်းအိပ်ရာ၌အိပ်၍ မိုးသောက်လျှင် ကြံ၏။ ‘ဤသခ်မ်းကို မည်သူသည် တန်ဆာဆင်သနည်း’ ဟုကြံလျက် သစ်သီးကြီးငယ်အလို့ငှာ မသွားမူ၍ သခ်မ်းမှ မနီးမဝေး ပုန်းကွယ်ရာ အရပ်၌ ချောင်း၍နေလေ၏။

နဂါးမလည်း များစွာသောပန်းနံ့သာတို့ကို ယူ၍ သခ်မ်းသို့လာလျှင် မင်းသားသည် မြတ်သောအဆင်းနှင့် ပြည့်စုံသော နဂါးမကိုမြင်၍ တပ်သောစိတ် ရှိသည်ဖြစ်၍ မိမိကိုယ်ကိုမပြဦးဘဲ နဂါးမသည် သခ်မ်းတွင်းသို့ ဝင်၍ အိပ်ရာစီရင်သောအခိုက်မှ မင်းသား နောက်ထပ်ဝင်၍ “သင်ကား အသူနည်း”ဟု မေး၏။ “အရှင်။ အကျွန်ုပ်ကား နဂါးမတည်း”ဟု ဆို၏။ “သင်ကား။ လင်ရှိသလော”ဟု မေး၏။ “အရှင်။ အကျွန်ုပ်ကား ရှေး၌ လင်ရှိပါ၏။ ယခု လင်မရှိ၊ မုဆိုးမတည်း”ဟု ဆို၏။

“အရှင့်သားကား။ အဘယ်အရပ်ကပေနည်း”ဟု မေး၏။ “ငါကား။ ဗာရာဏသီမင်းကြီး၏ သားတော်ဖြစ်သော ဗြဟ္မဒတ်မင်းသား”ဟုဆို၏။ “သင်ကား နဂါးပြည်ကိုစွန့်၍အဘယ့်ကြောင့် ဤအရပ်သို့ လာသနည်း”ဟုမေး၏။ “အရှင်။ ထိုနဂါးပြည်၌ လင်ရှိ မိန်းမတို့၏ တင့်တယ်စံပယ်ခြင်းစည်းစိမ်ကိုမြင်သော အကျွန်ုပ်ကား ကိလေသာကိုအမှီပြု၍ ပျော်မြူးလိုသောကြောင့် ထိုနဂါးပြည်မှထွက်၍ မြတ်သောလင်ကို ရှာမည်လာသည်”ဟုဆို၏။ “ထိုသို့တပြီးကား ‘ငါသည်လည်း သဒ္ဓါပဗ္ဗဇိတဟုတ်။ ခမည်းတော်ပြည်မှ နှင်ထုတ်သောကြောင့် ဤတောအရပ်၌ နေ၏။ သင်သည် မကြံလင့်။ “ငါသည် သင်၏ လင်ဖြစ်အံ့”ဟုဆို၏။ “ငါတို့ ၂ ယောက် အညီအညွတ်တင့်တယ်စံပယ်ကြလျက် ဤတောအရပ်၌ နေကုန်အံ့” ဟုဆို၏။ နဂါးမလည်း ‘ကောင်းပြီ’ဟု ဝန်ခံ၍၊ မင်းသား, နဂါးမ ၂ ယောက်တို့သည် ဇနီးမောင်နှံ[၄]အဖြစ်ဖြင့် ထိုတောအရပ်၌ နေကြကုန်၏။ နဂါးမသည် မိမိအာနုဘော်ဖြင့် ကြီးစွာသောအိမ် ဖန်ဆင်း၍ ကြီးစွာသောနေရာပလ္လင်ကို ဆောင်၍ အိပ်ရာခင်းပေ၏။

ထိုနေ့မှစ၍ တောသစ်မြစ်သစ်သီးတို့ကို မစား။ နတ်တို့၏ထမင်းအဖျော် စသည်တို့ကိုသာ သုံးဆောင်ခံစားပြီးလျှင် မွေ့လျော်ကြကုန်၏။

ထိုရောအခါ နဂါးမသည် ပဋိသန္ဓေနေ၍ သားယောကျ်ားဖွားလျှင် ထိုသတို့သားအား သမုဒ္ဒရာနား၌ ရင်းဖွားသောကြောင့် သာဂရ[၅] ဟူသောအမည်ကို မှည့်ကုန်၏။ သာဂရ သတို့သား ခြေဖြင့်သွားတတ်သောအခါ သမီးကို ဖွား၏။ ထိုသမီးအား သမုဒ္ဒရာနား၌ ဖွားမြင်သောကြောင့် သမုဒ္ဒဇာ[၆] ဟူသောအမည်ကို မှည့်ကုန်၏။

ထိုအခါ ဗာရာဏသီပြည်သား မုဆိုးတစ်ယောက်သည် ထိုအရပ်သို့ရောက်လေ၍ စကားစမြည်[၇] ပြောပြီးသော် အရှင်သား၏အဖြစ်ကိုသိ၍ ၁ ရက်, ၂ ရက်နေလျက် “အရှင့်သား။ အကျွန်ုပ်သည် ခမည်းတော်မင်းအား ဤအရပ်၌ အရှင့်သားနေသောအဖြစ်ကို လျှောက်ကြားအံ့”ဟု ရှိခိုး၍ မြို့သို့ ပြန်လာ၏။

ထိုအခါ ဗြဟ္မဒတ်မင်းကြီး သေခဲ့လေ၏။ အမတ်တို့သည် ထိုမင်း၏ အလောင်းကောင်ကို ဖုတ်သော[၈]အမှုကိုပြု၍ ၇ ရက်မြောက်သောနေ့၌ စည်းဝေးတိုင်ပင်ကုန်၏။ “အချင်းတို့။ မင်းမရှိသောပြည်

မည်သည်ကား ရန်ဆူးရန်ငြောင့်တို့ကို တားမြစ်ခြင်းငှာ မတတ်နိုင်ရာ, မခိုင်ခံ့ရာသည်။ ငါတို့အရှင်မင်းကြီးသား နေရာအရပ်ကို လည်းကောင်း၊ ရှိသောအဖြစ်ကို လည်းကောင်း၊ မရှိသောအဖြစ်ကိုလည်းကောင်း ဘယ်သူ တစ်ယောက်မျှ မသိကြ ကုန်သည်ဖြစ်၍ အဘယ်သို့ ပြုကြရအံ့နည်း"ဟု တိုင်ပင်ကုန်၏။ "ယခု ဖုတ်သွင်းရထား[၉] လွှတ်၍ မင်းကို ဆောင်ယူသော် ကောင်း၏"ဟု တစ်ဖန် တိုင်ပင်ကုန်၏။

တိုင်ပင်၍နေသောခဏ၌ မုဆိုး တစ်ယောက်သည် ပြည်သို့ရောက်လာ၍ မှူးမတ်တို့တိုင်ပင်သော စကားကို မုဆိုးကြားလျှင် အမတ်တို့ အထံသို့သွား၍ "အကျွန်ုပ်သည်။ မင်းသားအထံ၌ ၃ ရက်, ၄ ရက် နေ၍ အကျွန်ုပ်လာခဲ့သည်"ဟု အမတ်တို့အား ကြားလျှောက်၏။ အမတ်တို့သည် မုဆိုးစကားကို ကြားလျှင် ထိုမုဆိုးအား ထိုက်လျောက်ရာ ပဏ္ဏာ[၁၀]လက်ဆောင်ပေး၍၊ မင်းအပေါင်းတို့သည် မုဆိုးကိုခရီးညွှန်ပြု၍ စစ်သည်ဗိုလ်ပါအပေါင်းခြံရံလျက် အစဉ်အတိုင်းသွားကြ၍၊ မင်းသားအထံသို့ရောက်လျှင် စကားပြော ဟောကြပြီးသော် ခမည်းတော်မင်းကြီးသည် သဗိဝ[၁၁]သဘောမှ ရွေ့လျော၍ နိဗ္ဗိဝ[၁၂]သဘောသို့ရောက်ကြောင်းကို မင်းသားအား လျှောက်ကြားပြီးမှ တစ်ဖန် "ပြည်ကို စိုးစံတော်မူပါ"ဟု လျှောက်ကုန်၏။

ထိုအခါ မင်းသားသည် 'နဂါးမစိတ်ကို သိအောင်ပြုအံ့'ဟု နဂါးမထံသို့ ချဉ်းကပ်လေ၍ "အဘယ်[၁၃]ရှင်မ။ ဗာရာဏသီပြည်၌ ငါ၏ခမည်းတော်သည် လူ့ပြည်ငြီးငွေ့၍ နတ်ပြည်စံတော်မူသဖြင့် ငါ့အား ပြည်ကိုသိမ်း စေလိုသောကြောင့် အမတ်အပေါင်းတို့သည် ငါ့အား ဆောင်နှင်းအံ့ဟု လျှောက်ကြကုန်၏။ အဘယ်ရှင်မ။ ငါတို့ ၂ယောက်တို့သည် သွားကြကုန်အံ့။ ၁၂ ယူဇနာရှိသော ဗာရာဏသီပြည်ကို မင်းပြုကြကုန်အံ့။ ရှင်မသည် လည်း ၁ သောင်း ၆ ထောင်သော မောင်းမအပေါင်းတို့တွင် အကြီးဖြစ်လတ္တံ့."ဟုဆို၏။

"အရှင်မင်းသား။ အကျွန်ုပ်သည် လိုက်အံ့သောငှာ မတတ်နိုင်"။ "ရှင်မ။ အဘယ့်ကြောင့် လိုက်အံ့ သောငှာမတတ်နိုင်သနည်း"။ "အရှင့်သား။ အကျွန်ုပ်တို့အမျိုးသည် အဆိပ် ရှိ၏။ လျင်သောအမျက် ရှိ၏။ စိုးစဉ်းငယ်ကိုမျှလည်း အမျက်ထွက်တတ်၏။ စည်းစိမ်ချမ်းသာနှင့် နေခြင်းသည်ကား အလွန် ဝန်ဖြစ်ပါသည်။ အကယ်၍ အကျွန်ုပ်သည် မြင်၍လည်းကောင်း၊, ကြား၍လည်းကောင်း, အမျက်ထွက်လတ်သည်ဖြစ်၍ တစ်စုံတစ်ယောက်သောသူကို ကြည့်မိအံ့။ ဖွဲပြာကဲ့သို့ ကြေလိမ့်သတတ်။ ဤအကြောင်းကြောင့် အကျွန်ုပ်သည် လိုက်ခြင်းငှာ မတတ်နိုင်ပါ"ဟုဆိုလျှင် မင်းသားလည်း တောင်းပန်မြဲ တောင်းပန်ပြန်၏။

နဂါးမသည် တစ်စုံတစ်ခုသော ပရိယာယ်ဖြင့် မလိုက်ခြင်း အကြောင်းကိုဆို၍ "ဤသားတို့သည်ကား နဂါးငယ်သာတည်း။ အရှင်မင်းသားနှင့် အကျွန်ုပ် ပေါင်းဖော်သောကြောင့် သားဖွားလျှင် လူဇာတ် ဖွားပါသည်။ အကယ်၍ အရှင်မင်းသားသည် အကျွန်ုပ်ကို ချစ်ရိုးမှန်အံ့။ ဤသားတို့ကို မမေ့ပါလင့်။ ဤသူငယ်တို့သည် ရေမျိုးဖြစ်ခဲ့၍ နူးညံ့လှသည်။ ခရီးသွားမည်ရှိသော် နေပူတံလုပ်[၁၄]တို့ဖြင့် နှိပ်စက်၍ သေလတ္တံ့.။ ထို့ကြောင့် အရှင်မင်းသားသည် တစ်ခုသောလှေကိုတွင်းစေ၍ ရေအပြည့်ထည့်လျက် ထိုရေဖြင့် သားငယ်တို့မပင်ပန်းစေမူ၍ ကစားစေလျက် ဆောင်ပါလေ။ ပြည်သို့ရောက်ရှိသော် ပြည်တွင်း၌ ရေကန်ကြီးတူးပါလေ"

ဤသို့မှာထားခဲ့ပြီးလျှင် နဂါးမသည် မင်းသားကို လက်ယာရစ်လှည့်၍ ရှိခိုးပြီးလျှင် သားတို့ကို လည်၌ဖက်လျက် သားမြတ်စုံကြား၌ အိပ်စေပြီးလျှင် ဦးခေါင်းကိုနမ်း၍၊ မင်းသားအားဆောင်နှင်းခဲ့၍ ငိုမြည်တမ်းလျက် နဂါးပြည်သို့ သွားလေ၏။

မင်းသားလည်း နှလုံးမသာသည်ဖြစ်၍ မျက်ရည်တို့ဖြင့်ပြည့်လျက် အိမ်မှထွက်ခဲ့၍၊ မျက်ရည်ကိုသုတ်လျက် အမတ်တို့ဆီသို့ ချဉ်းကပ်လေ၏။ ထိုအမတ်တို့သည်လည်း မင်းသားကို အဘိသိက်သွန်းပြီးလျှင် "အရှင်မင်းကြီး။ အကျွန်ုပ်တို့ ပြည်သို့ ကြွတော်မူပါ"ဟု လျှောက်လေ၏။ "အမတ်တို့။ ကောင်းပြီ။ သင်တို့သည် လှေကိုလည်း

အလျင်တဆော ထွင်းကြပါကုန်။ လှည်းကိုလည်း လုပ်ကြပါကုန်။လှေကိုထွင်းပြီးလျှင် လှည်းပေါ်မှာ လှေကိုတင်၍ လှေ၌ ရေအပြည့်ထည့်လျက် အဆင်း,အနံ့, အရသာနှင့်ပြည့်စုံသော ပန်းတို့ကိုထည့်၍ ငါ၏သားတို့ကို ရေ၌ကစားစေကုန်လျက် ချမ်းသာစွာသွားကုန်အံ့"ဟု မင်းကြီးဆိုတိုင်း ပြုကုန်၏။

မင်းကြီးသည်လည်း တန်ဆာဆင်သော ဗာရာဏသီမြို့သို့ အစဉ်အတိုင်းသွား၍ ရောလ်လျှင်ပြည်တွင်းသို့ ဝင်၍ ၁ သောင်း ၆ ထောင်သော မောင်းမတို့ဖြင့်လည်းကောင်း, ကချေသည် မိန်းမတို့ဖြင့် လည်းကောင်း, အမတ်စသည်တို့ဖြင့် လည်းကောင်း ခြံရံလျက် မြတ်သောပြာသာဒ်၌နေ၍၊ ၇ ရက်ပတ်လုံး ကြီးစွာသော အဖျော်တို့ကို သောက်၍နေကုန်၏။

ပြည်တွင်း၌ ထိုမင်းသားတို့၏ကစားရာ ပေါက္ခရဏီ[၃၅] ရေကန်ကိုပြု၏။ မင်းသားတို့သည်လည်း ထိုရေကန်၌ ကစားကုန်၏။ တစ်နေ့သောအခါဝယ် ပေါက္ခရဏီရေကန်သို့ ရေသွင်းလတ်သော် လိပ်တစ်ကောင်သည်ဝင်လေ၍ ထွက်အံ့သောအရပ်ကို မမြင်သဖြင့် ရေကန်တွင်း၌ဝပ်လျက် နေလေ၏။ မင်းသား,မင်းသမီးတို့သည် ရေကစားလတ်သော် ထိုလိပ်သည် ဦးခေါင်းကို ဖော်၍ကြည့်လျက် တစ်ဖန် ငုပ်ပြန်၏။ မင်းသား,မင်းသမီးတို့သည် ထိုလိပ်ကိုမြင်၍ ကြောက်လန့်တကြား ရေကန်မှတက်၍ ခမည်းတော်မင်းကြီးအား ဤသို့လျှောက်၏။ "အရှင်မင်းကြီး။ ရေကန်တွင်း၌ ဘီလူး တစ်ကောင်သည် အကျွန်ုပ်တို့ကို ခြောက်သည်"ဟု လျှောက်၏။ မင်းကြီးလည်း မင်းချင်းတို့ကိုခေါ်၍ "ထိုလိပ်ကို ဖမ်းချေ"ဟု စေတော်မူ၏။ မင်းချင်းတို့လည်း ကွန်ဖြင့်ပစ်၍ လိပ်ကိုဖမ်းပြီးလျှင် မင်းကြီးအား ဆက်၏။ မင်းသားတို့လည်း ထိုလိပ်ကိုမြင်လျှင် "ခမည်းတော်မင်းကြီး။ အကျွန်ုပ်တို့ကို ခြောက်သည်ကား ဤဘီလူးပင် တည်း"ဟု ငိုမြည်တမ်း၏။ မင်းကြီးသည် သားတော်,သမီးတော်တို့ကိုချစ်ခြင်းဖြင့် အမျက်ထွက်၍ "အမှုနှင့်လျော်စွာ စီရင်ကုန်"ဟု မိန့်တော်မူ၏။

ထိုအခါ အမတ်သည် "ဤလိပ်ကား အရှင်မင်းကြီး၏ ရန်သူတည်း။ ထိုလိပ်ကို ဆုံ၌ထည့်၍ ကျည်ပွေ့ဖြင့်ထောင်းလျက် မှုန့်မှုန့်ညက်ညက်ပြုခြင်းငှာ ထိုက်၏"ဟုဆို၏။ အချို့သောအမတ်ကလည်း "ဥပါးသော ချက်ခြင်းတို့ဖြင့်ချက်၍ စားထိုက်၏"ဟုဆို၏။ အချို့သောအမတ်ကလည်း "မီးပုံကြီး၌ ထည့်၍ ကျက်စေခြင်းငှာ ထိုက်၏"ဟုဆို၏။ အချို့သော အမတ်ကလည်း မိမိအခွံ့ကို အိုးပြု၍ ခုံလောက်[၃၆]ပေါ်၌တင်ပြီးလျှင် ထမင်းချက်သကဲ့သို့ မိမိအခွံဖြင့်မိမိအသားကို ကျက်ခြင်းငှာ ထိုက်၏"ဟု ဆို၏။ ရေကိုကြောက်တတ်သော အမတ်တစ်ယောက်မူကား ဤလိပ်ကို 'ယမုနာမြစ်ဝဲ၌ ချခြင်းငှာ ထိုက်၏"ဟု ဆို၏။

အလိုအားလျော်စွာ ဆိုကြသောအခါ ယမုနာဝဲ၌ ချအံ့' ဟုဆိုသော အမတ်စကားကို လိပ်ကြားလျှင် မိမိအခွံမှ ဦးခေါင်းကိုထုတ်၍ "အို၊ အရှင့်သား။ သင့်အား အဘယ်မည်သော ပြစ်မှားခြင်းကို အကျွန်ုပ် ပြုမိပါသနည်း။ အကျွန်ုပ်ကို ယမုနာဝဲ၌ အဘယ့်ကြောင့် ချမည် စီရင်တော်မူဘိသနည်း။ ဤမှတစ်ပါးသော အစီအရင်တို့ကို အပြစ်အလျောက် ခံရသော်လည်း သည်းခံနိုင်ပါသေး၏။ ယခု 'ယမုနာဝဲ ချမည်' ဟူသော အစီရင်စကားကို မိန့်တော်မမူပါလင့်"ဟုဆို၏။

ထိုစကားကို မင်းကြီးကြားတော်မူလျှင် ဤအစီအရင်အတိုင်း ယမုနာဝဲ၌ ချစေတော်မူ၏။ မင်းချင်းတို့လည်း ထိုဝဲ၌ ချကုန်၏။ ထိုအခါ ထိုလိပ်သည် နဂါးပြည်သို့စီးသော ရေအလျဉ်ဖြင့်သွား၍ နဂါးပြည်သို့ ရောက်လေ၏။

ထိုအခါ ထိုရေအလျဉ်၌ ကစားကုန်သော ဓတရဋ္ဌ နဂါးမင်း၏ သားဖြစ်ကုန်သော နဂါးလုလင်ပျိုတို့သည် လိပ်ကိုမြင်၍၊ "ဤလိပ်ကို ဖမ်းကုန်"ဟု ဆိုကြကုန်၏။ထိုအခါ လိပ်သည် ငါကား၊ ဗာရာဏသီမင်းကြီးလက်မှ လွတ်၍ ကြမ်းကြုတ်စွာသော ဤနဂါးတို့လက်သို့ ရောက်ပြန်ခဲ့ပြီ။ အဘယ်မည်သော ဥပါယ်တံမျဉ်[၃၇]ဖြင့်

လွတ်နိုင်ပါအံ့နည်း' ဟုကြုံလျှင်၊ တစ်ခုသောဥပါယ်တံမျဉ်ကိုရ၍ မဟုတ်မမှန်ပျက်စကားကိုဆိုဘိ၏။ "အဆွေ နဂါးလုလင်ပျိုတို့။ သင်တို့သည် ဓတရဋ္ဌနဂါးမင်း၏ မင်းချင်းဖြစ်လျက် အဘယ့်ကြောင့် ရုန့်ရင်းသော စကားကို ဆိုဘိသနည်း။ ငါကား စိတ္တစူဠ အမည်ရှိသော ဗာရာဏသီမင်းကြီး၏ တမန်တည်း။ သင်တို့အရှင် ဓတရဋ္ဌမင်းအား ငါတို့အရှင် သမီးတော်ကို ဆောင်နှင်းလိုသည်ဖြစ်၍ ငါ့ကို စေတော်မူ၏။ သင်တို့အရှင်မင်းကြီးထံ ငါ့ကို ပို့ဆောင်လော့"ဟု ဆို၏။

နဂါးလုလင်ပျိုတို့လည်း လိပ်စကားကိုကြားလျှင် ဝမ်းမြောက်ဝမ်းသာ မင်းကြီးထံဆောင်၍ ထိုအကြောင်းကို လျှောက်ကြားကုန်၏။ မင်းကြီးလည်း လိပ်ကိုမြင်လျှင် နလုံးမသာရှိတော်မူ၍ 'ယုတ်သော ကိုယ်ရှိသော ဤလိပ်ကို ဗာရာဏသီမင်းကြီး တမန်မပြုပေရာ' ဟုဆို၏။ ထိုစကားကိုကြားလျှင် လိပ်သည် "နဂါးမင်းကြီး။ အဘယ့်ကြောင့် ဤသို့ ဆိုတော်မူဘိသနည်း။ ထန်းပင်လောက် ကြီးမှ, မြင့်မှသာ တမန်ဆိုရတော့ မည်လော။ တမန်တို့မည်သည်ကား ကြီးသည်ဖြစ်စေ, ငယ်သည်ဖြစ်စေ ပမာဏမဟုတ်။ သွားလေရာရာ တမန်၏လက္ခဏာနှင့်ညီသဖြင့် တင့်တယ်လျော်ညီအောင် ဆောင်ရွက်သောအမှု ပြီးခြင်းသည်သာလျှင် ပမာဏတည်း။ အရှင်မင်းကြီး။ အကျွန်ုပ်တို့သခင် ဗာရာဏသီမင်းကြီး၌ တမန်များစွာ ရှိသည်။ ကြည်းကုန်း၌ လူတို့ကို တမန် စေတော်မူသည်။ ကောင်းကင်၌မူကား ငှက်ကို တမန် စေတော်မူသည်။ ရေ၌မူကား အကျွန်ုပ်ကိုသာ တမန်စေတော်မူသည်။ ကျွန်ုပ်ကား အမည်အားဖြင့် စိတ္တစူဠ အမည်ရှိသော လိပ်တည်း။ သာမညလိပ် မဟုတ်ပါ။ အရာအထူးရသော အမတ်တည်း။ ကျွန်ုပ်တို့အရှင်မင်းကြီးနှင့်လည်း အကျွမ်းဝင်သည် ဖြစ်၍ အရှင်မင်းကြီး မြတ်နိုးတော်မူသော သူတည်း။ အကျွန်ုပ်ကို အရှင်မင်းကြီး ဆဲရေးတော်မမူနှင့်"ဟု မိမိဂုဏ်ကိုချီးမွမ်း၍ နဂါးမင်းအား ပြောဆို၏။

ထိုစကားကို နဂါးမင်းကြီးကြားလျှင် "အဘယ်အကြောင်းကြောင့် ဤနဂါးပြည်သို့ ဗာရာဏသီမင်းကြီး စေသနည်း"ဟု မေးပြန်၏။ "အရှင်နဂါးမင်း။ အကျွန်ုပ်တို့အရှင် ဗာရာဏသီမင်းကြီးသည် 'ငါကား ဇမ္ဗူဒိပ်ကျွန်းအပြင်၌ ၁၀၁ ကျွန်းသော မင်းတို့နှင့် မိတ်ဆွေခင်ပွန်းဖွဲ့ခြင်းကို ပြုရပြီ။ ဓတရဋ္ဌနဂါးမင်းနှင့် အဆွေခင်ပွန်း မဖွဲ့ရသေး။ ယခု ငါ၏သမီးတော် သမုဒ္ဒဇာကိုပေး၍ မိတ်ဆွေခင်ပွန်းဖွဲ့မည်။ ဓတရဋ္ဌ နဂါးမင်းကြီးထံ သွားချေ' ဟု ကျွန်ုပ်ကို စေတော်မူ၏။ အရှင်မင်းကြီးတို့လည်း ကြာမြင့်စွာအခါမနေးမူ၍ အကျွန်ုပ်နှင့်အတူ စုံရာမင်းချင်းတို့ကိုစေတော်မူသဖြင့် ထိမ်းမြားဆောင်ရွက်ရမည့်နေ့ရက်ကို ချိန်းချက်တော် မူပါ"ဟုဆို၏။

ထိုအခါ နဂါးမင်းနှစ်သက်၍ လိပ်အား များစွာချီးမြှောက်လျက် နဂါးလုလင် ၄ ယောက်တို့ကို ခေါ်တော်မူ၍ "သင်တို့သည် တမန်လိပ်နှင့် အတူလိုက်၍ ဗာရာဏသီမင်းကြီး၏သမီးတော်ကို ထိမ်းမြား ဆောင်ရွက်ရမည့် နေ့ရက်ကို ချိန်းချက်" စေတော်မူ၏။ နဂါးလုလင်ပျို ၄ယောက်တို့သည်လည်း "ကောင်းပြီ" ဝန်ခံလျက် လိပ်ကို ယူ၍ နဂါးပြည်မှ ထွက်ခဲ့ကုန်၏။

လိပ်သည် ယမုနာမြစ်နှင့် ဗာရာဏသီပြည်အကြား တစ်ခုသောကြာအိုင်ကိုမြင်၍ ဥပါယ်တံမျဉ်ဖြင့် ပြေးပုန်းရှောင်ရှားလိုရကား "အချင်းနဂါးလုလင်တို့။ ငါတို့အရှင့်သား,အရှင့်သမီးတို့သည် ငါ့ကို ရေ၌ ကျက်စားသောသူ ဖြစ်သောကြောင့် မင်းအိမ်သို့ရောက်လျှင် 'ကြာပွင့်, ကြာပန်း, ကြာဥတို့ကို မဆောင်ခဲ့လော, မပါလော'ဟု ဆိုလျက် တောင်းကြကုန်အံ့။ ထို့ကြောင့် မင်းသား,မင်းသမီးတို့ကို ဆက်သရန် ကြာစွယ်, ကြာဥတို့ကို ယူဦးအံ့။ ဤကြာအိုင်၌ ငါ့ကိုလွှတ်၍ မင်းကြီးထံ သင်တို့ အလျင်သွားလင့်ကုန်။ ငါ နောက်မှ လာမည်"ဟု ဆို၏။

အလမ္ဗာယ်ပုဏ္ဏားသည် ဘုရားလောင်းကို ဖမ်းသောနေ့၌ မယ်တော် သမုဒ္ဒဇာမိဖုရား အိပ်မက် မြင်မက်၏။ အိပ်မက်ကား 'နီသောမျက်စိရှိသော, ယောကျ်ားတစ်ယောက်သည် သန်လျက်ဖြင့် လက်ယာလက်ရုံးကို ဖြတ်၍ သွေးယိုစီးလျက်ဆောင်လေသည်' ကိုမြင်မက်၏။ ထိုခဏ၌ မိဖုရားသည် ကြောက်လန့်တကြားထ၍ လက်ဝဲလက်ဖြင့် လက်ယာလက်မောင်းကိုစမ်းလျက် ပြကတေ့ရှိသောကြောင့် အိပ်မက်သည်ဟုသိ၏။ ထိုအခါ ဘုရားလောင်းမယ်တော်သည် 'ငါကား မကောင်းသော အိပ်မက် မြင်၏။ ငါ့သား ၄ ယောက်တို့အား လည်းကောင်း၊ ဓတရဋ္ဌနဂါးမင်းအား လည်းကောင်း၊ ငါ့အား လည်းကောင်း ဘေးရန်ရှိသည် ဖြစ်ရာ၏'ဟုကြံ၏။ စင်စစ်ဖြင့်ကား ဘုရားလောင်းကိုသာ အတိုင်းထက်အလွန် စိုးရိမ်၏။ အဘယ်ကြောင့်နည်း ဟူမူကား ဘုရားလောင်း မှကြွင်းကျန်သောသူတို့သည် နဂါးပြည်တွင်း၌သာ နေကုန်၏။ ငါ့သား ဘူရိဒတ်ကား သီလကို အလိုရှိသောကြောင့် လူ့ပြည်သို့ သွား၍ ဥပုသ်စောင့်၏။ ထိုကြောင့် ငါ့သားကို မြွေသမားသည် လည်းကောင်း၊ ဂဠုန်သည် လည်းကောင်း ဖမ်းလေသလောဟု ဘုရားလောင်းကိုသာလျှင် အတိုင်းထက်အလွန်စိုးရိမ်၏။ ထိုအိပ်မက် မြင်မက်သည်မှ ၁၅ ရက် ရောက်လတ်သော် 'ဘူရိဒတ်ကား လခွဲလွန်သဖြင့် ငါ့ကို ကင်း၍ မနေရာ။ မချွတ်လျှင် ငါ့သားအား တစ်စုံ တစ်ခုသောဘေး ဖြစ်ရာသည်' ဟုကြံလျက် နှလုံးမသာခြင်းသို့ ရောက်လေ၏။

တစ်လလွန်သဖြင့် မယ်တော်အား စိုးရိမ်ခြင်းဖြင့် နိပ်စက်သည်ဖြစ်၍ မျက်ရည်မယိုသောအခါ မရှိ။ နှလုံးခြောက်ကပ်လျက် မျက်စိ ကျိန်းစပ်၏။ မယ်တော်သည် 'ယနေ့ ငါ့သား လာလတ္တံ့'ဟု လာလမ်းကို ကြည့်လျက်နေ၏။

ထိုအခါ သားတော်အကြီးဖြစ်သော သုဒဿနသည် တစ်လလွန်သဖြင့် များစွာသော ပရိသတ်နှင့်တကွ အမိအဖတို့အား ဖူးမြင်အံ့သောငှာ လာလတ်၍ ပရိသတ်ကို အပ၌ထား၍၊ ပြာသာဒ်ထက်သို့ တစ်ယောက်တည်း တက်ပြီးလျှင် မယ်တော်ကိုရှိခိုးလျက် တင့်အပ်သောအရပ်၌ နေလေ၏။ မယ်တော်သည် ဘူရိဒတ်ကို အစဉ်စိုးရိမ်သဖြင့် သုဒဿနအား တစ်ခွန်းသောစကားကိုမျှ မဆို။ ထိုအခါ သုဒဿနက 'ငါ၏အမိသည် အခါတစ်ပါး၌ ငါလာသည်ရှိသော် နှစ်လို့ဝမ်းမြောက်စွာ စကားပြောဟောခြင်းကို ပြု၏။ ယခုမူကား နှလုံးမသာ ဖြစ်၏။ အကြောင်း အသို့ရှိမည်နည်း'ဟု ကြံလျက် မယ်တော်ကို မေးလိုရကား-

'မမံ ဒိသွာန အာယန္တံ၊ သဗ္ဗကာမ သမိဒ္ဓိနံ။

ဣန္ဒြိယာနိ အဟဋ္ဌာနိ၊ သာဝံ ဇာတံ မုခံ တဝ။

ပဒ္မံ ယထာ ဟတ္ထဂတံ၊ ပါဏိနာ ပရိမဒ္ဒိတံ။

သာဝံ ဇာတံ မုခံ တုယှံ၊ မမံ ဒိသွာန ဧဒိသံ။ ။'ဟူသော ၂ဂါထာတို့ကို ရွတ်ပြန်၏။ ထိုဂါထာတို့၏ အဓိပ္ပာယ်ကား-

"မိခင်။ ခပ်သိမ်းသော အလိုနှင့် ပြည့်စုံလျက်လာသော အကျွန်ုပ်ကို မြင်လတ်သော် မိခင်မျက်နှာသည် လက်ဖြင့်ဆုပ်နယ်သော ပဒုမ္မာကြာကဲ့သို့ ညှိုးနွမ်းခဲ့၏တကားဟု ဆိုလေ၏။ ထိုသို့ သုဒဿနဆိုသော်လည်း မယ်တော်သည် စကားမပြောမဆိုသောကြောင့် သုဒဿနသည် ငါ၏ မယ်တော်၌ တစ်စုံတစ်ယောက်သောသူနှင့် အမျက်ခိုက်ရန် ဖြစ်ကြ၍လည်းကောင်း၊ တစ်စုံတစ်ခုသောဘေးအန္တရာယ်ရှိ၍လည်းကောင်း ဤသို့သော အကြောင်းကြောင့် စကားမဆို နေဘိသလော"ဟု ကြံလျက် မယ်တော်ကို မေးလိုရကား-

'ကစ္စိ နုတေ နာဘိသသိ၊ ကစ္စိ တေ အတ္ထိ ဝေဒနာ။

ယန္တံန သာဝံ မုခံ တုယှံ၊ မမံ ဒိသွာန အာဂတံ။ ။'ဟူသောဂါထာကို ရွတ်ပြန်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား —

"မိခင်။ သင့်အား တစ်စုံတစ်ယောက်သော သူသည် ညှဉ်းဆဲသလော။ အသို့နည်း။ ဝေဒနာရှိသလော။ အကျွန်ုပ်လာသည်ကို မြွက်၍ စကားမဆို၊ မိခင်၏မျက်နှာသည် မည်းခဲ့၏။ ဤအကြောင်းကို အကျွန်ုပ်အား ကြားဘိလော့"ဟု ဆိုလေ၏။ ထိုစကားကို သမုဒ္ဒဇာမိဖုရားကြားလျှင် အိပ်မက်ကို ကြားလိုရကား-

'သုပိနံ တာတ အဒ္ဒက္ခိံ၊ ဣတော မာသံ အဓောဂတံ။

ဒက္ခိဏံ ပိယမေ ဗာဟုံ၊ ဆေတွာ ရုဟိရမက္ခိတံ။ ။

ပုရိသာ ဒါယ ပက္ကမိ၊ မမ ရောဒန္တိယာ သတိ။

ယတော ဟံ သုပိန မဒ္ဒက္ခိံ၊ သုဒဿန ဝိဇာနဟိ။

တတော ဒိဝါဝါ ရတ္တိံ ဝါ၊ သုခံ မေနောပလဗ္ဘတိ။ ။'ဟူသော ၅ဂါထာတို့ကို ရွတ်၏။ ထိုဂါထာတို့၏ အဓိပ္ပာယ်ကား-

"ချစ်သား သုဒဿန။ ငါသည် ယမန်နေ့က ဤသို့ အိပ်မက်မြင်၏။ ယောကျ်ားတစ်ယောက်သည် ငါ၏လက်ယာမောင်းကိုဖြတ်၍ သွေးအလိမ်းလိမ်းကပ်လျက် ငါလည်းငိုစဉ်ပင် ဆောင်ယူသွားခဲ့၏။ ထို အိပ်မက်မြင်သည်နေ့မှ၍ နေ့ညဉ့်ပတ်လုံး ငါ့အား ချမ်းသာမရ ဒုက္ခရောက်၏။ ချစ်သားသုဒဿန။ သင်၏ညီ ဘူရိဒတ်သည် လခွဲ တစ်ကြိမ် နှစ်လိုဖွယ်သော နဂါးသမီးအပေါင်းခြံရံလျက် မဟာလှေကားပန်းကဲ့သို့ များစွာသော ဓား, သန်လျက်စွဲကုန်သော နဂါးလုလင်တို့နှင့်တကွ ရှေး၌ ငါ့ထံ ရောက်မြဲဖြစ်၏။ ထိုသို့ဖြစ်လျက် ယခု ငါ့ထံမလာ ကြာမြင့်လေစွ။ ငါ့သား ဘူရိဒတ်အား တစ်ခုသောဘေး ဖြစ်ရာသည်လည်းမသိ' ဟု ငိုမြည်တမ်းလျက် ဆိုပြီးမှ "ငါ၏ချစ်သား သုဒဿန။ ဘူရိဒတ်၏အိမ်သို့ ယခုသွားကုန်အံ့။ တရားနှင့်တင့်တယ်သော, သီလနှင့် ပြည့်စုံသော သင်၏ ညီတော်ကို ရှုချေကုန်အံ့"ဟု ဆို၍၊ သုဒဿနမင်းသားနှင့်တကွ ပရိသတ်အပေါင်းခြံရံလျက် မယ်တော် သမုဒ္ဒဇာသည် ဘူရိဒတ်အိမ်သို့ သွားလေ၏။

ဘူရိဒတ်မယား နဂါးမတို့သည် ဥပုသ်ဆောက်တည်ရာ တောင်ပို့၌ ဘူရိဒတ်နဂါးမင်းကို မမြင်လျှင် "ငါတို့သခင် မယ်တော်အိမ်၌သာ ရှိရာသည်"ဟု ကြောင့်ကြမဲ့ နေကြကုန်၏။ ထိုနဂါးမတို့သည် ဘုရားလောင်း မယ်တော် သားကိုမေးလာသည်ဟု ကြားလျှင်၊ ခရီးဦးကြိုဆိုလင့်၍ "အရှင်မ။ ကိုယ်တော်၏သားကို မမြင်ရသည်ကား တစ်လလွန်ခဲ့ပြီ။ မယ်တော်အိမ်၌ ရှိသည်ထင် မှတ်ပါသည်။ ယခု မရှိပါတကား"ဟု ပြင်းစွာငိုမြည်တမ်းကုန်လျက် သမုဒ္ဒဇာ မိဖုရားခြေရင်း၌ လဲကြကုန်၏။

ဘုရားလောင်း မယ်တော် သမုဒ္ဒဇာလည်း ချွေးမတို့နှင့်တကွ ငိုမြည်တမ်းလျက် သားတော် ဘူရိဒတ်နေရာ ပြာသာဒ်ထက်သို့တက်၍ သားတော်အိပ်ရာနေရာကို ကြည့်၍ ငိုကြွေးလျက်-

'သကုဏီ ဟတ ပုတ္တာဝ၊ သုည် ဒိသွာ ကုလာဝကံ။

စိရံ ဒုက္ခေနဈာယိဿံ၊ ဘူရိဒတ္တံ အပဿတီ။ ။

ကုရရီ ဟတဆာပါဝ၊ သုည် ဒိသွာ ကုလာဝကံ။

စိရံ ဒုက္ခေန ဈာယိဿံ၊ ဘူရိဒတ္တံ အပဿတီ။ ။'ဟူသော ၂ဂါထာတို့ကို ရွတ်၏။ ထိုဂါထာတို့၏ အဓိပ္ပာယ်ကား-

"သားငယ်ကို သူတို့သတ်ပြီး၍ သားငယ်မှဆိတ်သော မိမိအသိုက်ကိုမင်သော ငှက်မသည် စိုးရိမ်သကဲ့သို့ ငါ့သားဘူရိဒတ်ကို မမြင်ရသည်ရှိသော် ငါ၏ရင်တွင်း၌ ပြင်းစွာပူခဲ့၏တကား။ သားငယ် သေလေသော ဝန်လိုမသည် ပြင်းစွာစိုးရိမ်သကဲ့သို့ လည်းကောင်း၊ သားဘူရိဒတ်ကို မမြင်ရသောငါသည် ရင်တွင်း၌ ပြင်းစွာ စိုးရိမ်ဘိ၏တကား။ ငါ၏စိုးရိမ်ခြင်းသည် ငါ၏ရင်ထဲ၌ ပန်းပဲဖိုထိုးသကဲ့သို့ ရှိ၏တကား"

ဤသို့ မယ်တော် ငိုသည်ရှိသော် ဘူရိဒတ်နဂါးမင်း၏အိမ်သည် သမုဒ္ဒရာအဝန်းကဲ့သို့ တစ်ပြိုင်နက် အုတ်အုတ်ကျက်ကျက် အသံသည် ဖြစ်၏။ တစ်ယောက်သောမိန်းမမျှလည်း မိမိကိုယ်အဖြစ်ဖြင့် တည်ခြင်းငှာ မတတ်နိုင်။ အိမ်အလုံးသည် ယုဂန္ဓိုရ် လေခတ်၍ ႞လဲသော အင်ကြင်းပျိုတောကဲ့သို့ ဖြစ်ကုန်၏။

ထိုအခါ သုဘောဂ, အရိဋ္ဌ မင်းသားညီနောင် ၂ ယောက်တို့သည် မိဘတို့အား ခစားအံ့သောငှာ လာကုန်လတ်သော် ထိုသို့ငိုကြွေးသံကိုကြား၍ ဘူရိဒတ်နဂါးမင်းအိမ်သို့ သွားကြလျက် မယ်တော်ကို နှစ်သိမ့်စေ၏။ "မယ်တော် ခပ်သိမ်းသောသတ္တဝါတို့သည် သေခြင်းသဘောပျက်ခြင်းသဘောကို မလွန်နိုင်ကြကုန်။ သက်သာရာကို ရတော်မူပါ" ဟုဆိုကုန်၏။

မယ်တော် သမုဒ္ဒဇာမိဖုရားလည်း "ချစ်သားတို့။ သတ္တဝါတို့ဖြစ်ခြင်း, ပျက်ခြင်းကို ငါသိ၏။ ငါ့သား ဘူရိဒတ်ကို မမြင်ရသဖြင့် ပြင်းစွာစိုးရိမ်ခြင်း ဖြစ်၏။ ချစ်သား သုဒဿန။ ငါ့သားဘူရိဒတ်ကို ယနေ့ညဉ့် မမြင်မတွေ့ရသည်ရှိသော် ငါ၏အသက် ဆုံးရတော့မည်"ဟုဆိုလေ၏။

သားတော် ၃ ယောက်တို့သည်လည်း "မယ်တော်။ စိုးရိမ်တော်မမူပါလင့်။ ညီတော်ဘူရိဒတ်ကို တော, တောင်, မြောင်, ချောက်ကြား, ရွာ, နိဂုံး, မင်းနေပြည် အစရှိသောအရပ်တို့သို့ သွား၍ရှာကုန်အံ့။ ယခုနေ့မှ ၇ ရက်မြောက်သောနေ့၌ သားတော် ဘူရိဒတ်ကို ရှုတော်မူပါလော့"ဟုဆို၍၊ သုဒဿနမင်းသားသည် 'အကယ်၍ ငါတို့ ညီနောင် ၃ယောက်ရှာသည် ဖြစ်အံ့' ကြံမြင့်သည်ဖြစ်ရာ၏။ အသီးအသီး ၃ ကွဲခွဲ၍ ရှာသော် 'ကောင်း၏'ဟုကြံလျက်

တစ်ယောက်ကား နတ်ပြည်ကို, တစ်ယောက်ကား ဟိမဝန္တာကို, တစ်ယောက်ကား လူ့ပြည်သို့ သွား၍ရှာအံ့။ ထိုသို့ရှာရာတွင်ကား ကာဏာရိဋ္ဌကို လူ့ပြည်သို့ အရှာထည့်ချေသော် အကြင်အရပ်၌ ဘူရိဒတ်ကို တွေ့အံ့။ ထို တွေ့ရာအရပ် ရွာ, နိဂုံး, မင်းနေပြည်တို့ကို မှုန့်မှုန့်ညက်ညက်ဖျက်ဆီး၍လာလတ္တံ့။ 'ငါ့ညီ ကာဏာရိဋ္ဌသည် ရုန့်ရင်းကြမ်းတမ်းလှ၍ လူ့ပြည်နှင့် မတန်။ နတ်ပြည်သို့ ရှာစေအံ့' ဟုကြံ၍၊ "ညီထွေး။ ကာဏာရိဋ္ဌ။ သင် နတ်ပြည်သို့ သွားလေ။ နတ်တို့သည် တရားနာလိုသည် ဖြစ်၍ ဘူရိဒတ်ကို နတ်ပြည်သို့ အကယ်၍ ဆောင်အံ့။ ထိုဘူရိဒတ်ကို သင် ဆောင်ချေလော့"ဟု စေလိုက်၏။ တစ်ဖန် ညီတော် သုဘောဂကို ခေါ်ပြန်၍

"ငါ့ညီသုဘောဂ။ သင်သည် ဟိမဝန္တာသို့ သွား၍ မြစ်ကြီး ၅ စင်းတို့၌ ဘူရိဒတ်ကို ရှာချေ"ဟု စေလိုက်၏။ မိမိကား လူ့ပြည်သို့ သွားလိုသည်ဖြစ်၍ ဤသို့ အကြံဖြစ်၏။

'အကယ်၍ လုလင်အသွင်ဖြင့် လူ့ပြည်သို့ သွားအံ့။ လူတို့သည် ငါ့ကို ချစ်ခင်ကြည်ညို မြတ်နိုးခြင်းကို မပြုကုန်ရာ။ ရသေ့အသွင်ဆောင်၍ သွားရသော်ကား ကောင်း၏။ လူ့တို့သည် ရဟန်းတို့ကို ချစ်ခင်မြတ်နိုး တတ်ကုန်၏' ဤသို့အကြံပြု၍ ရသေ့အသွင်ဖန်ဆင်းလျက် အမိကိုရှိခိုးပြီးလျှင် ထွက်ခဲ့၏။

ထိုအခါ ဘုရားလောင်း၏ မိထွေးသမီးဖြစ်သော အဇမုခီ အမည်ရှိသောနဂါးမသည် ရှိသတတ်။ ထို အဇမုခီ နဂါးမင်းသမီးသည် ဘူရိဒတ်နဂါးမင်းကို မောင်တကာတို့ထက် ထူး၍ချစ်၏။ ထို အဇမုခီသည် သုဒဿန သွားသည်ကိုမြင်လျှင် "မောင်ကြီး။ အကျွန်ုပ်ကား အလွန်ပင်ပန်း၏။ သင်နှင့်အတူလိုက်၍ မောင်တော် ဘူရိဒတ်ကို ရှာပါမည်" ဟုဆို၏။

" အမိငယ်။ ငါကား ရဟန်းအသွင်ဖြင့် သွားခဲ့၏။ သင်ကား မိန်းမဖြစ်၍ လိုက်ခြင်းငှာ မလျောက်ပတ်"ဟု သုဒဿန ဆိုလျှင်၊ "အကျွန်ုပ်ကား မိန်းမအသွင်ဖြင့် မလိုက်။ ဖားမငယ်ဟန် ဖန်ဆင်း၍ သင်၏ဆံကျစ်ကြား၌ လိုက်ပါအံ့"ဟု ဆို၏။

"ထိုသို့တပြီးကား ကောင်းပြီ။ လိုက်ခဲ့တော့" ဆိုလျှင်၊ အဇမုခီသည် ဖားငယ်မဟာန် ဖန်ဆင်း၍ သုဒဿနဆီကျစ်ကြား၌ လိုက်လေ၏။

သုဒဿနကား 'ဥပုသ်စောင့်ရာ တောင်ပို့မှစ၍ စူးစမ်းအံ့' ဟု ဘုရားလောင်းမယား နဂါးမတို့ကို ဘုရားလောင်း ဥပုသ်စောင့်ရာအရပ်ကို ညွှန်ပြစေ၍၊ ထိုအရပ်သို့ရောက်လေသော် အလမ္ပာယ်သည် ဘုရားလောင်းကို ယူရာအရပ်၌ သွေးကို လည်းကောင်း၊ ဝါး,ကြိမ်,နွယ်တို့ဖြင့် ပခြုပ်သွင်းရာအရပ်ကို လည်းကောင်း မြင်၍ "ငါ့ညီဘူရိဒတ်ကို မြွေသမား ဖမ်းယူသည်"ဟုသိ၍၊ စိုးရိမ်ခြင်းနှိပ်စက်သဖြင့် ငိုကြွေးလျက် အလမ္ပာယ်သွားရာ ခရီးဖြင့် ခြေရာခံ၍ ရှေးဦးစွာကစားသော ရွာသို့ ရောက်လေ၏။

ထိုရွာ၌ ရွာသားတို့ကို "ဤသို့သောနဂါးကို မြွေသမားတစ်ယောက် ကစားသည်ကို မြင်ကြပါ၏လော" ဟုမေးလျှင် "မြွေသမားသည် ဤရွာတွင် ယမန်လက ကစား၏"ဟုဆိုသော်၊ "ထိုမြွေသမားသည် တစ်စုံတစ်ခုသော ဥစ္စာကို ရ၏လော" ဟု မေးပြန်၏။ "ဩော်၊ ရ၏။ ဤရွာ၌ပင် ၁၀၀၀ မျှသောဥစ္စာကို ရ၍ သူကြွယ်ဖြစ်၏။ "ယခု အဘယ်အရပ်သို့ သွားသနည်း"ဟု မေးပြန်၏။ "ဤမည်သောအရပ်သို့ သွားသည်"ဟု ညွှန်းလေသော် သုဒဿနသည် ထိုရွာမှစ၍ အစဉ်အတိုင်းမေးလျက် လိုက်လေလျှင် မင်းအိမ်တံခါးသို့ ရောက်လေ၏။

ထိုခဏ၌ အလမ္ပာယ်သည် ကောင်းစွာ ရေချိုးပြီးသော် နံ့သာလိမ်းကျံလျက် ပုဆိုးကောင်းကိုဝတ်၍ မြွေထည့်သော ရတနာပခြုပ်ကိုယူပြီးလျှင် မင်းအိမ်တံခါးသို့ သွားလေ၏။ ပြည်သူပြည်သားအပေါင်းတို့သည်လည်း စည်းဝေးလာကုန်လတ်သော် ဗာရာဏသီမင်းကြီးလည်း နန်းတော်တွင်း၌ရပ်လျက် "နဂါးက,တတ်သော အလမ္ပာယ်သမား။ ဝင်စေ။ နဂါးက ကစေ"ဟု စေတော်မူလိုက်၏။

အလမ္ပာယ်လည်း ဆန်းကြယ်သောအခင်း၌ ရတနာပခြုပ်ကိုထား၍ ဖွင့်လှစ်ပြီးလျှင် နဂါးကြီး ထွက်လှည့်ဟု လက်ဖျစ်တီး၏။

ထိုအခါ သုဒဿနကား ပရိသတ်၏အကြား၌နေ၏။ ဘုရားလောင်း နဂါးမင်းသည် ဦးခေါင်းကိုဖော်၍ ပရိသတ်ကိုကြည့်၏။ နဂါးတို့သည်ကား ၂ ပါးသော အကြောင်းတို့ဖြင့် ကြည့်ကုန်၏။ ၂ ပါးသော အကြောင်း ဟူသည်ကား ဂဠုန်ဘေးကို လည်းကောင်း၊ အဆွေအမျိုးတို့ကို လည်းကောင်း ရှုအံ့သောငှာ ကြည့်ကုန်၏။ ထို ၂ ပါးတို့တွင် ဂဠုန်မြင်သော် ကြောက်သောကြောင့် မကကုန်။ အဆွေအမျိုးကို မြင်သော် ရှက်သောကြောင့် မကကုန်။ ဘုရားလောင်းနဂါးမင်းသည် ထို ၂ ပါးသောအကြောင်းတို့ကြောင့် ကြည့်လေသော် ပရိသတ်အကြား၌ ရသေ့အသွင်ဖြင့် အစ်ကိုသုဒဿနကို မြင်လေ၏။

ဘုရားလောင်း နဂါးမင်းသည် မျက်စိ ၂ ဘက်မှ အသွယ်သွယ်မျက်ရည်ယိုစီးလျက် ပခြုပ်မှထွက်၍ အစ်ကိုသို့ ရှေးရှု သွားလေ၏။ လူများတို့သည် နဂါးလာသည်မြင်လျှင် ကြောက်လန့်တကြား ရှောင်လွှဲ၍ ပြေးကြကုန်၏။ သုဒဿနတစ်ယောက်သာ ရပ်လျက်နေ၏။ နဂါးမင်းသည် သုဒဿနခြေဖမိုးပေါ်၌ ဦးခေါင်းတင်၍ ငို၏။ သုဒဿနသည်လည်း ငို၏။ ထို့နောင်မှ နဂါးမင်းသည် ပခြုပ်သို့ပြန်၍ ဝင်ပြန်လေ၏။ ထိုအခါ အလမ္ပာယ်မြွေသမားကား 'ငါ့နဂါးသည် ရှင်ရသေ့ကို ကိုက်သည်ဖြစ်မည်'ဟု သုဒဿနထံချဉ်း၍၊ 'ဟတ္ထ မုတ္တော'အစရှိသော ဂါထာကို ရွတ်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား–

"ရှင်ရသေ့။ နဂါးသည် အကျွန်ုပ်လက်မှ လွတ်ခဲ့၏။ ရှင်ရသေ့ခြေဖမိုးပေါ်ကို တက်၍နေသည်။ ရှင်ရသေ့ကို နဂါး ကိုက်သလော။ မကြောက်လင့်။ ကိုက်လျှင် နဂါးဆိပ်ကျမန္တန်ဖြင့် ရှင်ရသေ့ကို ချမ်းသာစိမ့်မည်"ဟု ဆို၏။

သုဒဿနကား မြွေသမားနှင့် စကားပြောဟောလို၍ 'နေဝမယှံ'အစရှိသော ဂါထာကို ရွတ်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား–

"ဒကာ အလမ္ပာယ်သမား။ သင့်မြွေကား ငါ့ကို မကိုက်ဝံ့။ မြွေသမားတို့တွင် ငါ့ထက်တတ်သော မြွေသမားမည်သည် မရှိ"ဟု ဆို၏။ အလမ္ပာယ်သမားကား 'ဤသူသည် အဘယ်သူနည်း'ဟု မသိဘဲလျက်လျှင် အမျက်ထွက်၍ 'ကော နု ဗြာဟ္မဏ ဝဏ္ဏေန'အစရှိသော ဂါထာကို ရွတ်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား–

"ဤသူသည် ရုန့်ရင်းကြမ်းတမ်း၏။ ရသေ့ရဟန်းအသွင်ဖြင့် ငါမြွေပြရာ ပရိသတ်အလယ်သို့လာ၍ ချုပ်ခြယ်စောင်းမြောင်းဘိ၏။ သင်ကား အဘယ်သူနည်း။ ငါ့စကားကို ပရိသတ်များ နာကြကုန်" ဟုဆို၏။

ထိုအခါ အလမ္ပါယ်မြွေသမားကို သုဒဿနသည် 'တွံမာနာဂေန' အစရှိသောဂါထာကို ရွတ်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား

"အလမ္ပာယ်မြွေသမား။ သင် ငါ့ကို မြွေဖြင့် တိုက်လော့။ သင့်ကို ငါ ဖားမငယ်ဖြင့်တိုက်မည်။ ထိုသို့တိုက်ရာ၌ ရှုံးလျှင် အသပြာ ၅၀၀၀ လောင်းတမ်းဖြစ်စေ"ဟု ဆို၏။

ထိုစကားကို ကြားလျှင် မြွေသမားသည် 'အဟဉ္စ'အစရှိသော ဂါထာတို့ကို ရွတ်၏။ ထိုဂါထာတို့၏ အဓိပ္ပာယ်ကား–

"လုလင် ငါကား ဥစ္စာကြွယ်၏။ သင်ကား လူဆင်းရဲသာဖြစ်လျက် အဘယ်မှာ ဥစ္စာရနိုင်အံ့နည်း။ သင် လောင်းတမ်းပြုမည်မှန်လျှင် ဝန်ခံသူ ရှိပါ၏လော။ ငါကား ဥစ္စာလည်း ရှိ၏။ ဝန်ခံသူလည်းရှိ၏။ သင်ဆိုတိုင်း လောင်းတမ်းဖြစ်စေလော့ဟု မြွေသမား ဆိုလေ၏။

ထိုစကားကို သုဒဿနကြား၍ "ကောင်းပြီ။ ဖြစ်စေလော့" ဟု မကြောက်မရွံ့ မင်းအိမ်ပေါ်သို့ တက်၍ အရှင်မင်းကြီးထံ၌ ရပ်လျက် 'သုဏောဟိ' အစရှိသော ဂါထာကို ရွတ်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား–

"ဘုန်းတော် အလွန်ကြီးမြတ်တော်မူလှသော အရှင်မင်းကြီး။ သင်မင်းကြီးအား ပြည်စည်းစိမ်သည် တိုးတက်ပြန့်ပွားများသည် ဖြစ်ပါစေသတည်း။ ငါ့စကားကိုလည်း အရှင်မင်းကြီး နာတော်မူပါ။ ငါ့အား အသပြာ ၅၀၀၀ အလိုရှိ၏။ အရှင်မင်းကြီး ဝန်ခံစေချင်ပါသည်"ဟုဆို၏။

ထိုစကားကို မင်းကြီးကြားလျှင် 'ဤရသေ့သည် ငါ့ကို ဥစ္စာများစွာ တောင်း၏။ အဘယ် ပြုလိုသနည်း'ဟု ကြံ၍ 'ပေတ္တိကံ ဝါ'အစရှိသော ဂါထာကို ရွတ်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား–

"အရှင်ရသေ့။ သင်တို့၏ ဘေးဘိုးဥစ္စာကို ငါ ငင်ယူစားသောက်သကဲ့သို့ ငါ့ကို ဥစ္စာများစွာ တောင်းဘိ၏။ အကြောင်းအသို့နည်း"ဟု မင်းကြီးမေးလျှင်၊ 'အလမ္ပာယ နော'အစရှိသော ဂါထာတို့ကို ရွတ်ပြန်၏။ ထိုဂါထာတို့၏ အဓိပ္ပာယ်ကား–

"အရှင်မင်းကြီး။ အလမ္ပာယ်သည် ငါ့ကို နဂါးဖြင့် တိုက်လတ္တံ့။ ငါကလည်း ဖားဖြင့် အလမ္ပာယ်ကို တိုက်လတ္တံ့။ ထို ငါတို့ ၂ ယောက် နဂါးနှင့် ဖား တိုက်၍ လောင်းတမ်းကစားသည်ကို အရှင်မင်းကြီး ရှုတော်မူလော့" ဟုဆို၏။ မင်းကြီးသည် "ထိုသို့တပြီးကား သွားကုန်အံ့"ဟု ရှင်ရသေ့နှင့်အတူ ထွက်ခဲ့လေ၏။

ထိုအခါ ရှင်ရသေ့နှင့်မင်း အတူလာသည်ကို အလမ္ပာယ်မြင်လျှင် 'ဤရသေ့သည် သာမညမဟုတ်။ မင်းဆရာဖြစ်ဟန် ထင်သည်'ဟု ကြောက်ရွံ့လျက်၊ သုဒဿနနောက်သို့ အစဉ်လိုက်၍ 'နေဝ'အစရှိသော ဂါထာကို ရွတ်၏။ ထိုဂါထာ၏အဓိပ္ပာယ်ကား–

"ရှင်ရသေ့။ အကျွန်ုပ်သည် အတတ်ဂုဏ်ကိုကိုး၍ ရှင်ရသေ့ကို မလောက်မလေး မပြု။ ရှင်ရသေ့သာ အဆိပ်ထန်သော နဂါးကိုပင် မိမိမာန်ယစ်၍ မလောက်မလေးပြုသည်တကား" ဟုဆို၏။ ထို့နောက်မှာ သုဒဿနသည် 'အဟမ္ပိ'အစရှိသော ဂါထာတို့ကို ရွတ်၏။ ယိုဂါထာ၏ အဓိပ္ပာယ်ကား–

"အလမ္ဗာယ်။ ငါကား အတတ်ဂုဏ်ကိုကိုး၍ မလောက်မလေး မပြု။သင်သာ အဆိပ်မရှိနဂါးဖြင့် လူကိုလှည့်ပတ်၍ ဥစ္စာရှာဘိ၏။အလမ္ဗာယ် သင့်နဂါးအကြောင်းကို ငါသိသကဲ့သို့ လူအပေါင်းတို့သည် ဤနဂါး အဆိပ်မရှိသောအဖြစ်ကို အကယ်၍သိအံ့။သင်သည် ဥစ္စာကို မဆိုထားဘိဦး။ ဖွဲတစ်ဆုပ်ကိုမျှ မရလတ္တံ့."ဟု ဆို၏။

ထိုအခါ အလမ္ဗာယ်သည် အမျက်ထွက်၍ 'ခရာဇိနော' အစရှိသောဂါထာတို့ကို ရွတ်၏။ ထိုဂါထာတို့၏ အဓိပ္ပာယ်ကား-

"ရှင်ရသေ့။ သင်သည် ကြမ်းတမ်းသောသစ်နက်ရေကို ဝတ်၍ ဆံကျစ်ထုံးလျက် ပရိသတ်အလယ်သို့ လာ၍ ပြင်းထန်စွာအဆိပ်ရှိသော ငါ၏နဂါးကို အဆိပ်မရှိဟု မလောက်မလေးပြုဘိ၏။ ရှင်ရသေ့ သင့်ထက် ထက်သောတန်ခိုးနှင့်ပြည့်စုံသော ငါ၏နဂါးသို့ ကပ်လော့။ ထိုအခါ သိရလတ္တံ့.။ ဤနဂါးသည် သင့်ကို ဖွဲပြာကဲ့သို့ ဖြစ်စေလတ္တံ့" ဟုဆို၏။

ထိုစကားကို သုဒဿန ကြားလျှင် အလမ္ဗာယ်ကို ပြက်ရယ်မှု ပြုလိုရကား 'သိယာ ဝံသ' အစရှိသော ဂါထာကို ရွတ်ပြန်၏။ ထိုဂါထာ၏အဓိပ္ပာယ်ကား-

"အလမ္ဗာယ်။ ကျိုင်းကောင်, မြက်လျှော, ရေမြွေ, မြွေစိမ်းတို့၏ အဆိပ်ရှိသည်ရှိသော် မှန်ရာ၏။ ဦးခေါင်းနီသောနဂါးသည် အဆိပ်မရှိ" ဟုဆို၏။

ထိုအခါ သုဒဿနကို အလမ္ဗာယ်သည် 'သုတမေတံ'အစရှိသော ၂ဂါထာတို့ကို ရွတ်ပြန်၏။ ထိုဂါထာတို့၏အဓိပ္ပာယ်ကား-

"ရှင်ရသေ့။ ကိုယ်, နှုတ်,နှလုံးစောင့်သော ရသေ့ရဟန်းတို့အား ဤလူ့ပြည်၌ အလှူပေး၍ ဒါယကာတို့သည် နတ်ပြည်သို့ လားရဖူး၏' ဟူသောစကားကို ငါကြားရဖူး၏။ ရှင်ရသေ့။ သင်ကား ပေးစရာ ဥစ္စာ အကယ်၍ ရှိအံ့။ သင်အသက်ရှင်စဉ် အလှူပေးလေလော့။ ငါ့နဂါး တန်ခိုးကြီး၏။ ထိုနဂါးဖြင့် သင့်ကို ကိုက်စေအံ့။ ငါ့နဂါးသည် သင့်ကို ဖွဲပြာကဲ့သို့ ပြုလတ္တံ့.။ နဂါးပေါက်၍မသေမီ နတ်ရွာသို့ရောက်ကြောင်း ကောင်းမှု ရှေးဦးစွာ ပြုလေဦး" ဟုဆို၏။

ထိုစကားကို သုဒဿန ကြားလျှင် 'မယမ္ဗေ' အစရှိသောဂါထာတို့ကို ရွတ်ပြန်၏။ ထိုဂါထာတို့၏ အဓိပ္ပာယ်ကား-

"အလမ္ဗာယ်။ ကိုယ်,နှုတ်,နှလုံး သုံးသော ရသေ့ရဟန်းတို့အား အလှူပေး၍ ဒါယကာတို့ နတ်ရွာလားရ ကြောင်းကို ငါ သိကြား၏။ အကယ်၍ သင့်အားပေးစရာ ဒါနဝတ္ထု ရှိအံ့။ အသက်ရှင်စဉ် သင်သာ ပေးလေလော့။ အချင်းအလမ္ဗာယ်။ ဤ ငါ၏ဖားမငယ်ကား အဇမုခီ အမည်ရှိ၏။ ပြင်းထန်သောအဆိပ်လည်း ရှိ၏။ ထိုဖားမဖြင့် သင့်ကို တိုက်အံ့။ ဖားမငယ်သည် သင့်ကို ဖွဲပြာကဲ့သို့ဖြစ်အောင် ပြုလတ္တံ့.။ အချင်းအလမ္ဗာယ်။ ငါ၏ ဖားမငယ်သည် ဓတရဋ္ဌနဂါးမင်းကြီး၏ သမီးတော်တည်း။ ငါ့မိထွေးတော် သမီးတည်း။ ငါ၏ နှမတည်း။ အဆိပ်ပြည့်လျက် ထက်သောအစွယ်လည်း ရှိ၏။ ထို အဇမုခီ ဖားမငယ်ဖြင့် သင့်ကို ယခု ခဲစေတော့မည်" ဟု သုဒဿနဆို၍ "နှမအဇမုခီ။ ငါ့ဆံကျစ်ကြားမှထွက်၍ ငါ၏ လက်ဝါးပြင်၌ တည်လော့"ဟု လူများ၏ အလယ်တွင် နှမကိုခေါ်၍ လက်ဝါးဖြန့်၏။

အဇမုခီလည်း ထိုအသံကို ကြားလျှင် ဆံကျစ်ကြားမှ ဖားမ၏မြည်သံဖြင့် ၃ ကြိမ်မြည်၍ ပခုံးပေါ်၌ ဆွေ့ဆွေ့ခုန်လျက် လက်ဝါးပြင်၌ ၃ ခုသောအဆိပ်ပေါက်တို့ကို ချခဲ့၍ တစ်ဖန် ဆံကျစ်ကြားသို့ ပြန်လေ၏။

သုဒဿနသည် အဆိပ်ကိုယူ၍ ရပ်လျက် "ဤဗာရာဏသီတိုင်းကားသည် ပျက်စီးလတ္တံ့."ဟု ဟစ်အော်လေ၏။ ထို သုဒဿန အသံသည် ၁၂ ယူဇနာရှိသော ဗာရာဏသီပြည်ကို လွှမ်း၍ တည်၏။

ထိုအခါ ထိုအသံကို မင်းကြီးကြား၍ "ရှင်ရသေ့။ အဘယ်အကြောင်းကြောင့် ဗာရာဏသီပြည် ပျက်မည်နည်း"ဟု မေး၏။ "အရှင်မင်းကြီး။ ဤအဆိပ်သွန်စရာအရပ်ကို မမြင်" ဟုဆိုသော် "ရှင်ရသေ့ မြေပြင် ကျယ်ပါ၏တကား။ မြေကြီး၌ သွန်လော့"ဟု ဆို၏။

ထိုစကားကို ရှင်ရသေ့ပယ်လို၍ 'ဆမာယ်'အစရှိသော ဂါထာတို့ကို ရွတ်ပြန်၏။ ထိုဂါထာတို့၏ အဓိပ္ပာယ်ကား-

"ဗြဟ္မဒတ်မင်းကြီး။ ဤအဆိပ်ကို အကယ်၍ မြေ၌သွန်အံ့။ မြက်နွယ်ဆေးပင်တို့သည် မချွတ်လျှင် သေ့ခြောက်ကုန်အံ့"ဟုဆို၏။ ထိုသို့တပြီးကား "ရှင်ရသေ့။ ကောင်းကင်သို့ ပစ်လော့"ဟုဆိုသော် "ဗြဟ္မဒတ် မင်းကြီး။ အကယ်၍ ကောင်းကင်သို့ ပစ်အံ့။ မိုး ၇ နှစ် ခေါင်ရာ၏။ နှင်းတစ်ပေါက်မျှ မကျလတ္တံ့" ဟုဆို၏။

"ထိုသို့တပြီးကား ရှင်ရသေ့။ ရေ၌ သွန်ဘိလော့"ဟု ဆိုသော်၊ "ဗြဟ္မဒတ်မင်းကြီး။ ဤအဆိပ်ကို အကယ်၍ ရေ၌ သွန်အံ့။ ရေ၌ကျက်စားကုန်သော ရေသတ္တဝါများစွာ သေလတ္တံ့"ဟုဆို၏။

ထိုစကားကို မင်းကြီးကြားလျှင် "ရှင်ရသေ့။ သင် အဆိပ်သွန်ရာအရပ်ကို ငါတို့ မသိနိုင်ကုန်ပြီ။ ငါ့ပြည်ကို မပျက်ရအောင် ရှင်ရသေ့ ကြံ၍သာ သွန်ပါလော့"ဟု ဆိုလျှင်၊ ဗြဟ္မဒတ်မင်းကြီး ထိုသို့တပြီးကား ဤအရပ်၌ အစဉ်အတိုင်းဖြင့် ၃ ခု တူးလော့"ဟု ဆိုသော်၊ မင်းကြီးလည်း ရှင်ရသေ့ဆိုတိုင်း တူးစေ၏။

ထိုအခါ သုဒဿနသည် ရှေးဦးစွာတွင်း၌ အထူးထူးသောဆေးတို့ဖြင့် ပြည့်စေ၏။ အလယ်တွင်း၌ကား နွားချေးတို့ဖြင့် ပြည့်စေ၏။ အဆုံးတွင်း၌ကား နတ်တို့၏ဆေးဖြင့် ပြည့်စေ၏။ ထိုသို့ စီရင်ပြီးမှ ရှေးဦးစွာသော တွင်း၌ အဆိပ်ပေါက် ၃ ခုတို့ကို ချလေ၏။ ထိုခဏ၌ အခိုးထွက်၍ အလျှံတက်၏။ ထိုအလျှံသည် နွားချေးတွင်း၌ စွဲ၏။ နွားချေးတွင်းမှ အလျှံထပြန်၍ နတ်ဆေးတွင်းသို့ဝင်ပြီးလျှင် နတ်ဆေးတို့ကို ကြေစေလျက် ပျောက်စေ၏။

ထိုအခါ အလမ္ပာယ်သည် တွင်းနား၌ တည်ရှိစဉ် အဆိပ်နှင့်တကွ အခိုးအငွေ့သင့်၍ အလမ္ပာယ်၏ ကိုယ် အရေပေါက်သဖြင့် ကွက်၏။ ထိုအခါမှ တစ်ကိုယ်လုံး နူဖြူဖြစ်လျှင် အလမ္ပာယ်ကား ကြောက်လန့် သည်ဖြစ်၍ ဘုရားလောင်းနဂါးမင်းကို "လွတ်၏ လွတ်၏"ဟု ၃ ကြိမ်ဟစ်၏။

ထိုအသံကို ဘုရားလောင်းနဂါးမင်း ကြားလျှင် ရတနာပခြုပ်မှထွက်၍ တန်ဆာဆင်အပ်သောကိုယ်ကို ဖန်ဆင်းလျက် သိကြားမင်း၏တင့်တယ်ခြင်းဖြင့် ရပ်၏။ သုဒဿန, အဇမုခီတို့လည်း ထို့အတူဖန်ဆင်း၍ နေကြကုန်၏။ ထို့နောက်မှာ သုဒဿနသည်

"အရှင်မင်းကြီး။ အကျွန်ုပ်တို့ကို သိ၏လော။ ဤသူတို့သည် ဤသူ၏ သမီးသာတည်းဟု အရှင်မင်းကြီး မသိသေး။ ကာသိကရာဇ်မင်းကြီး၏ သမီးတော်ဖြစ်သော သမုဒ္ဒဇာကို ဓတရဋ္ဌနဂါးမင်းအား ပေးသောအဖြစ်ကို မှတ်မိပါ၏လော"ဟု မေးလျှင်၊ သြော်၊ မှတ်မိ၏။ "ထိုသမုဒ္ဒဇာကား ငါ့နှမတည်း"ဟု မင်းကြီးဆိုလျှင် သုဒဿနလည်း "အရှင်မင်းကြီး။ အကျွန်ုပ်တို့ကား အရှင်မင်းကြီး၏နှမတော် သမုဒ္ဒဇာ သားတို့တည်း။ သင်မင်းကြီးကား အကျွန်ုပ်တို့ ဦးရီးတော်တည်း"ဟုဆို၏။

ထိုစကားကိုကြားလျှင် မင်းကြီးသည် သုဒဿန, ဘူရိဒတ်နဂါးမင်းတို့၏ လည်ကိုဖက်ပြီးလျှင် ဦးခေါင်းကို နမ်းလျက် ငိုကြွေး၍ ပြာသာဒ်ထက်သို့တင်ပြီးသော် ကြီးစွာသောပူဇော်သက္ကာကိုပြု၍ ဘူရိဒတ် နဂါးမင်းနှင့် စကားပြောဟောခြင်းကို ပြုလျက် "ချစ်သားဘူရိဒတ်။ သင်သည် ဤသို့သောဘုန်းတန်ခိုးနှင့် ပြည့်စုံပါလျက် အလမ္ပာယ် အဘယ့်ကြောင့် ဖမ်းလေသနည်း"ဟု မေးလျှင်၊ ဘုရားလောင်းသည် အလမ္ပာယ် ဖမ်းဟန်အကြောင်းကို အကုန်အစင်ပြန်ပြောပြီးမှ ဦးရီးတော်မင်းကြီးအား မင်းကျင့်တရားကို ပြညွှန်ဟောပြော လေ၏။

ထိုအခါ သုဒဿနသည် "ဦးရီးတော်မင်းကြီး။ အကျွန်ုပ်တို့မယ်တော်သည် ဘူရိဒတ်ကို လခွဲတစ်ကြိမ် မြင်မြဲမမြင်ရသဖြင့် ပင်ပန်းလှ၏။ အကျွန်ုပ်တို့ ကြာမြင့်စွာ မနေသာ။ သွားလိုပါပြီ"ဟု ဆို၏။ မင်းကြီးလည်း "တူတော်တို့။ ငါ၏နှမ သမုဒ္ဒဇာကို သင်တို့အဖ ဆောင်ယူသည်မှစ၍ ပြင်းစွာစိုးရိမ်ခြင်း ရှိသောကြောင့် ငါ့အား ပြည်ကိုနှင်းပြီးလျှင် ရဟန်းပြုပြီးသော် ဤမည်သော တောအုပ်၌ နေသည်"ဟု ဆိုလေ၏။

"ဦးရီးတော်မင်းကြီး။ အကျွန်ုပ်တို့မယ်တော်သည် ဦးရီးတော်တို့ကို လည်းကောင်း၊ ဘိုးတော်ကို လည်းကောင်း၊ ဖူးမြင်လို၏။ ဦးရီးတော်သည် ဘိုးတော်ထံ နေ့ရက်ချိန်းချက်၍ကြွတော်မူပါကုန်။ အကျွန်ုပ်တို့ သည်လည်း မယ်တော်ကိုဆောင်၍ ဘိုးတော်ထံလာပါမည်။ ထိုအခါ ဆွေတော်မျိုးတော်တို့သည် အချင်းချင်း ဖူးမြင်ကြကုန်အံ့"ဟု ဦးရီးတော်မင်းကြီးအား နေ့ရက်ချိန်းချက်၍ မင်းအိမ်မှ သက်ခဲ့ကုန်၏။

မင်းကြီးလည်း တူတော်တို့ကို ပို့လိုက်၍ ငိုကြွေးလျက် ပြန်လာခဲ့လေ၏။ ထိုအခါ နဂါးညီနောင် မောင်နှမတို့လည်း မြေ၌ငုပ်၍ နဂါးပြည်သို့ သွားလေကုန်၏။

၄။ မိစ္ဆာဒိဋ္ဌိကထာ

ဘုရားလောင်း နဂါးပြည်သို့ရောက်လျှင် နဂါးအလုံး အုတ်အုတ်ကျက်ကျက် ငိုကြွေးသောအသံသည် ဖြစ်၏။ ဘုရားလောင်းလည်း အလမ္ပာယ်ပခြုပ်၌ တစ်လပတ်လုံး ပင်ပန်းလှသောကြောင့် ကြင်နာခြင်းသို့ ရောက်သည် ဖြစ်၍ ပြာသာဒ်ထက်၌ အိပ်၏။ ဘုရားလောင်းထံလာကုန်သော နဂါးအပေါင်းတို့သည်ကား အရေအတွက် အတိုင်းအရှည်မသိ များပြားစွာ၏။ဘုရားလောင်းသည် ထိုနဂါးအပေါင်းတို့နှင့် စကားပြောဟော ခြင်းငှာမတတ်နိုင်။ ပင်ပန်းလှ၏။

ကာဏာရိဋ္ဌသည် နတ်ပြည်သို့ အရှာသွား၍ ဘုရားလောင်းကိုမတွေ့လျှင် ဘုရားလောင်းမရောက်မီ ရှေးဦးစွာပင် ပြည်သို့ ရောက်နှင့်လေ၏။ ထိုအခါ ကာဏာရိဋ္ဌကို 'ဤကာဏာရိဋ္ဌကား စိတ်ကြမ်းတမ်းစွာရှိ၏။ နဂါးပရိသတ်တို့ကို ဘုရားလောင်း ဘူရိဒတ်နဂါးမင်းထံ မဝင်ရအောင် ဆီးတားနိုင်၏' ဟု ဘုရားလောင်း အိပ်ရာပြာသာဒ်၌ တံခါးစောင့် ထား၏။

သုဘောဂလည်း အလုံးစုံသော ဟိမဝန္တာကိုရှာပြီးမှ မဟာသမုဒ္ဒရာကို လည်းကောင်း၊ မြစ်ကြီး မြစ်ငယ်တို့ကို လည်းကောင်း၊ ဘုရားလောင်းကို ရှာဖွေစူးစမ်းသော် ယမုနာမြစ်သို့ ရောက်လေ၏။ 'နေသာဒပုဏ္ဏားလည်း အလမ္ပာယ် နူသည်ကိုမြင်ရ၍ 'အလမ္ပာယ်ကား ဘူရိဒတ်နဂါးမင်းကို ဖမ်းယူမိသောကြောင့် နူ၏။ ငါသည်လည်း ထိုဘူရိဒတ်ကို ပတ္တမြား၌ တပ်သော ရမ္မက်ဖြင့် အလမ္ပာယ်အား ပြညွှန်မိ၏။အဆွေခင်ပွန်းကို ပြစ်မှားမိသော ထိုမကောင်းမှုအကျိုးသည် ငါ၌ ယခုမချွတ် ရောက်လတ္တံ့။ ထို မကောင်းမှုမရောက်မီ ယမုနာမြစ်နားသို့ သွား၍ ပယာဂဆိပ်၌ မကောင်းမှုကို လျှော်အံ့'ဟု ထိုဆိပ်သို့ သွားလေ၏။

ဆိပ်သို့ရောက်လျှင် 'ငါသည် ဘူရိဒတ်နဂါးမင်း၌ အဆွေခင်ပွန်းပြစ်မှားသောအမှုကို ပြုမိ၏။ ထိုမကောင်းမှုကို ဤမြစ်၌ လျှော်အံ့' ဟုငုပ်၏။

ထိုခဏ၌ သုဘောဂသည် ထိုအရပ်သို့ ရောက်လေသော် နေသာဒပုဏ္ဏား ဆိုသောစကားကို ကြား၍ ဤသူယုတ်သည် ကြီးစွာသောစည်းစိမ်ကိုပေးတတ်သော ငါ၏အစ်ကိုကို ပတ္တမြား၌ တပ်ခြင်း ရမ္မက်ကြောင့် အလမ္ပာယ်အား ပြညွှန်ဘိ၏။ဤသူယုတ်၏အသက်ကို သေစေအံ့' ဟု နေသာဒပုဏ္ဏား၏ ခြေကို မြီးထူးဖြင့်ရစ်၍ ဆွဲငင်ပြီးလျှင် ရေ၌နှစ်မွန်းစေ၏။ အလွန်ပင်ပန်းသောအခါ အတန်ငယ် အရစ်ကို လျှော့ပြန်လျှင် ပုဏ္ဏားဦးခေါင်း ဖော်နိုင်ပြန်၏။ ထိုအခါ ပုဏ္ဏားကို တစ်ဖန်ငင်၍ ရေ၌ နှစ်ပြန်၏။ဤသို့ အကြိမ်များစွာ ဖော်ကာ, နှစ်ကာ သက်သာမရ ပင်ပန်းစေပြီးသော် နေသာဒပုဏ္ဏားသည် ဦးခေါင်းကိုဖော်၍ 'လောကျံ' အစရှိသောဂါထာကို ရွတ်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား-

"ယမုနာမြစ်သို့သက်၍ ပယာဂဆိပ်၌ 'မကောင်းမှုကို လျှော်ရာဆိပ်'ဟု လူတို့သမုတ်အပ်သော ရေကို သွန်းချိုးလျက်နေသောငါကို ရေ၌နှစ်သည်ကား အဘယ်သူနည်း"ဟု မေး၏။

ထိုစကားကို သုဘောဂကြားလျှင် "ဟယ်၊ ပုဏ္ဏား။ အကြင်နဂါးမင်းကား နဂါးပြည်ကို အစိုးရ၏။ စည်းစိမ်ချမ်းသာနှင့် ပြည့်စုံ၏။ ဗာရာဏသီပြည်အလုံး ထက်ဝန်းကျင်ရစ်၍ပါးပျဉ်းဖြင့် ဖုံးလွှမ်းနေသော နဂါးမင်းကို နင် မသိသလော။ ငါကား ထိုနဂါးမင်း၏ သားတော်တည်း။ အမည်ကား သုဘောဂ ဟုထင်ရှား၏"ဟု ဆို၏။

ထိုအခါ နေသာဒ ပုဏ္ဏားသည် 'ဤသူကား ဘူရိဒတ်နဂါးမင်း၏ ညီတည်း။ ငါ့အသက်ကို အရှင်မထားပေရာ။ မချွတ်လျှင် သတ်လတ္တံ့။ သို့ရာတွင်မူကား ထို သုဘောဂကိုလည်းကောင်း၊ သုဘောဂ၏

မိဘတို့ကိုလည်းကောင်း၊ အဆင်းကျော်စောခြင်းဖြင့် စိတ်နှလုံးသည်၏အဖြစ်ကို ချီးမွမ်း၍ အသက်ကို ချမ်းသာရအောင် တောင်းပန်အံ့'ဟု ကြံပြီးသော် "အချင်း။ သင်သည် အကယ်၍ မြွေတကာတို့ထက် မြင့်မြတ်သော နဂါးတို့ကိုအစိုးရသော ကာသိကရာဇ်မင်းကြီး၏သားဖြစ်အံ့။ သင်၏အဖကား နဂါးအပေါင်းတို့တွင် တန်ခိုးကြီးသော နဂါးမင်းတည်း။ သင်၏အမိကား လူတို့တွင် အရှင်ဟုမှတ်အပ်သော အတုမရှိသော ကာသိကရာဇ်မင်း၏ သမီးတော်တည်း။ ထိုသို့ မိမျိုးဖမျိုးအားဖြင့် တန်ခိုးကြီးသော်လည်း ပုဏ္ဏားတို့၏ ကျွန်ကိုမျှ ရေမှာ မနှစ်ထိုက်" ဟုဆိုလေ၏။

ထိုစကားကို ကြားလျှင် သုဘောဂသည် "ဟယ်၊ မကောင်းသော ပုဏ္ဏား။သင်ငါ့ကို လှည့်ပတ်၍ သင် အသက်ရှင်မည် မှတ်သလော။ သင်၏အသက်ကို မရှင်စေရ။ အသေသတ်မည်"ဟု ခြိမ်းခြောက်လျက် နေသာဒပြုသောအပြစ်ကို ထင်စွာ ပြလိုရကား 'ရက္ခံနိဿယ' အစရှိသော ဂါထာတို့ကို ရွတ်၏။ ထိုဂါထာတို့၏ အဓိပ္ပာယ်ကား-

"သစ္စအမျိုးဖြစ်သော ဟယ်၊ ပုဏ္ဏား။ သင်ကား ရေသောက်ဆင်းသောသမင်ကို သစ်ပင်ကိုမှီ၍ ပစ်ဘိ၏။ ထိုသမင်ကား မှန်သော မြား၏အဟုန်ဖြင့် အရပ်ဝေးသို့ ပြေးလေ၏။ ထိုသမင်ကို လိုက်၍ရပြီးသော် ပြန်ခဲ့သဖြင့် ညချမ်းသောအခါ ပညောင်ပင်သို့ ရောက်လာ၏။ ကျေးသား၊ ဆက်ရက်၊ ဥဩ၊ ကြိုးကြာ၊ သာရကာနှင့် ဟမာ၊ ငှက်ခါးတို့ဖြင့် တွန်မြူး ကျူးမြည်သောအသံ တစ်ရံမကြွင်း မွေ့လျော်ဖွယ်ရှိသော ဤပညောင်ပင်ရင်းသို့ ကပ်လေ၏။ ထိုပညောင်ပင်ရင်း၌ တန်ခိုးကြီးသော ငါ၏နောင်တော်သည် နဂါးသမီးတို့ဖြင့် ထက်ဝန်းကျင် ခြံရံလျက် တင့်တယ်စံပယ်သည်ကို သင် မြင်လေ၏။ ထိုအခါ သင့်ကို နဂါးပြည်သို့ဆောင်၍ ကြီးစွာသော စည်းစိမ်ဖြင့် ငါ၏နောင်တော် ချီးမြှောက်သည် မဟုတ်တုံလော။ ကျေးဇူးရှင်ဖြစ်သော ငါ့နောင်တော်ကို သင် ပြစ်မှားဘိ၏။ ထိုမကောင်းမှုသည် သင်၌ ယခု ရောက်တော့သည်။ ဟယ်၊ ပုဏ္ဏား။ ငါ့အစ်ကို၌ သင်ပြုသော အမှုသည် ငါစိတ်မပြေသေအောင်သတ်အံ့။ သင့်လည်ကို ယခုဆန့်၊ သင့်ဦးခေါင်းကို တောက်တောက်ဖြတ်မည်"ဟု ဆိုလေ၏။

ထိုအခါ နေသာဒပုဏ္ဏားသည် 'ဤသူကား ငါ့အသက် အရှင်မထားရာ။ တစိုးတစိဆို၍ လွတ်သော်လည်း လွတ်ပါစေ။ အကြောင်းရှာ၍ ဆိုရဦးတော့မည်' ဟု ကြံလျက်-

'အဇ္ဈာယကော ယာစယောဂီ၊ အာဟုတဂ္ဂိစ ဗြာဟ္မဏော။

ဧတေဟိ တီဟိ ဌာနေဟိ၊ အဝဇ္ဈော ဟောတိ ဗြာဟ္မဏော။ ။'ဟူသောဂါထာကို ရွတ်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား-

"အချင်းသုဘောဂ။ ပုဏ္ဏားတို့သည် ဗေဒအတတ်ကို သင်၏။ အလှူခံ၍လည်း စားတတ်၏။ မီးကိုလည်း ပူဇော်တတ်၏။ ဤ ၃ ပါးသော အကြောင်းတို့ကြောင့် မသတ်အပ်"ဟု ဆို၏။

ထိုစကားကိုကြားလျှင် သုဘောဂသည် ယုံမှားခြင်း ရှိသည်ဖြစ်၍၊ 'ဤပုဏ္ဏားကို နဂါးပြည်သို့ ဆောင်ပြီးသော် ငါ့အစ်ကိုကိုမေး၍၊ ပုဏ္ဏား၏ဆိုသောအကြောင်းကို သိအောင်ပြုအံ့ ' ဟုကြံပြီးလျှင်-

'ယံ ပုရံ ဓတရဋ္ဌဿ၊ ဩဂါဠှံ ယမုနံ နဒိံ။

ဇောတတေ သဗ္ဗသောဝဏ္ဏံ၊ ဂိရိမာဟစ္စ ယာမုနံ။ ။

'တတ္ထ တေ ပုရိသဗျဂ္ဃာ၊ သောဒရိယာ မမ ဘာတရော။

ယထာတေ တတ္ထ ဝက္ခန္တိ၊ တထာ ဟေဿတိ ဗြာဟ္မဏ။ ။'ဟူသော ၂ဂါထာတို့ကို ရွတ်ပြန်၏။ ထိုဂါထာတို့၏ အဓိပ္ပာယ်ကား-

"ဟယ်၊ ပုဏ္ဏားပါ။ ခမည်းတော်၏ စေတရွှေပြည်သည် ဤယမုနာမြစ်အောက်၌ မြစ်နှင့်မနီးမဝေး ဟိမဝန္တာတောင်ကိုထိလျက် ခပ်သိမ်းသောရွှေအတိ ထွန်းတောက်ပ၏။ ဤသို့ဆိုပြီးလျှင် နေသာဒ ပုဏ္ဏားကို လည်၌ကိုင်လျက် တွန်းငင်ထိုးကြိတ် ဆဲရေး၍ ဘုရားလောင်းအိမ် ပြာသာဒ်တံခါးသို့ ရောက်လေ၏။

ထိုအခါ သုဘောဂကို တံခါးစောင့်ပြု၍နေသော ကာဏာရိဋ္ဌမြင်လျှင် သုဘောဂရှိရာလမ်းသို့ သွား၍ "နောင်တော် သုဘောဂ မညှဉ်းဆဲလင့်။ ပုဏ္ဏားတို့မည်သည်ကား ဗြဟ္မာမင်း၏ သားတည်း။ ဗြဟ္မာမင်းသည် အကယ်၍ ညှဉ်းဆဲကြောင်းကို သိအံ့။ 'ငါ့သားကို နဂါးတို့ ညှဉ်းဆဲရမည်လော' ဟု ဗြဟ္မာမင်း အမျက်ထွက်လျှင် ငါတို့နဂါးပြည်အလုံး ပျက်စီးရလတ္တံ့။ လောက၌ ပုဏ္ဏားမည်သည် မြတ်၏၊အာနုဘော်ကြီး၏။ သင်ကား ပုဏ္ဏားတို့အာနုဘော်ကို မသိ။ ငါသာ သိ၏"ဟု ဆို၏။

[ကာဏာရိဋ္ဌကား အခြားမဲ့ လွန်လေပြီးသောဘဝ၌ ယစ်ပူဇော်ခြင်းကိုပြုသောပုဏ္ဏား ဖြစ်သတတ်။ ထိုသို့ ပုဏ္ဏားဖြစ်ဖူးသောကြောင့် ဤစကားကို ဆိုသတည်း။]

ထိုစကားကိုပြောဆိုပြီးလျှင် အစဉ်ဖြစ်ဖူးသောအားဖြင့် ယဇ်ပူဇော်လေ့ရှိသည်ဖြစ်၍ သုဘောဂကို လည်းကောင်း၊ နဂါး ပရိသတ်ကိုလည်းကောင်း ခေါ်၍ "အချင်းတို့။ လာကြကုန်။ ယစ်ပူဇော်ကုန်သော ပုဏ္ဏားတို့ကျေးဇူးကို ငါဆိုအံ့"ဟု ယဇ်ကျေးဇူးကိုကြားလိုရကား–

'အနိတ္တရာ ဣတ္တရ သမ္ပယုတ္တာ၊ ယညာစ ဝေဒါစ သုဘောဂ လောကေ။

တဒ ဂါရယှန္တိ ဝိနိန္ဒမာနော၊ ဇဟာတိ ဝိတ္တဉ္စ သတဉ္စ ဓမ္မံ။ ။' ဟူသော ဂါထာကို ရွတ်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား–

"နောင်တော်သုဘောဂ။ လူ၌ ယဇ်တို့သည် လည်းကောင်း၊ ဗေဒင်တို့သည် လည်းကောင်း မယုတ်ကုန်။ မယုတ်ကုန်သောပုဏ္ဏားတို့သည် ထိုယဇ်ပူဇော်ခြင်း ဗေဒင်အတတ်တို့၌သော ယှဉ်ကုန်၏။ ထိုသို့ ယှဉ်ကုန်သော ပုဏ္ဏားတို့အား မကဲ့ရဲ့အပ်ကုန်။ ကဲ့ရဲ့သောသူတို့အား သူတော်ကောင်းတရားသည် လည်းကောင်း၊ စည်းစိမ် ဥစ္စာသည် လည်းကောင်း၊ ယုတ်လျော့ဆုံးရှုံးခြင်းသို့ ရောက်တတ်၏"ဟု ဆိုပြီးသော်၊ ကာဏာရဋ္ဌသည် "နောင်တော် သုဘောဂ။ ဤလူတို့ကို အဘယ်သူ စီရင်သနည်း"ဟု မေး၏။ "ငါမသိ" ဟုဆိုသော် ပုဏ္ဏားတို့၏ အဘိုးဖြစ်သော တန်ခိုးကြီးသောဗြဟ္မာမင်း စီရင်သည်ဟု ပြအံ့သောငှာ–

'အဇ္ဈေန မရိယာ ပထဝိံ ဇနိန္ဒာ၊ ဝေဿာ ကသိံ ပါရိစယဉ္စ သုဒ္ဒါ။

ဥပါဂု ပစ္စေကံ ယထာ ပဒေသံ၊ ကတာဟုံ ဧတေဝသိနာတိ အာဟု။ ။'ဟူသော ဂါထာကို ရွတ်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား–

"နောင်တော်သုဘောဂ။ အသီးသီး ညွှန်သောအတိုင်း ပုဏ္ဏားတို့ကား ဗေဒင်သင်ခြင်းသို့သာ ရောက်ကုန်၏။ မင်းတို့ကား မြေကိုအောင်ခြင်းသို့ ရောက်ကုန်၏။ သူကြွယ်တို့ကား လယ်ထွန်ခြင်းသို့ ရောက်ကုန်၏။ သူဆင်းရဲတို့ကား အမျိုး ၃ပါးတို့အား လုပ်ကျွေးခြင်းသို့ ရောက်ကုန်၏။ ထို အမျိုး ၄ပါးတို့ကို ဗြဟ္မာမင်းသာ စီရင်ဖန်ဆင်းသည်ဟု ဆိုကုန်၏။ဤပုဏ္ဏားတို့ကား ကြီးစွာသောဂုဏ် ရှိ၏။ အကြင်သူသည် ကြည်ညိုသောစိတ်ဖြင့် ထိုပုဏ္ဏားတို့အား လှူအံ့။ထိုသူကား တစ်ပါးအရပ်၌ မဖြစ်ရာပြီ။ နတ်ပြည်သို့သာ သွားရသတည်း။

"နောင်တော် သုဘောဂ ဓာတာမည်သော နတ်၊ ဝိဓာတာမည်သော နတ်၊ ဝရုဏနတ်၊ ကုဝေရနတ်၊ သောမနတ်၊ ယာမာနတ်၊ လနတ်၊ နေနတ်၊ ဤနတ်တို့သည် အထူးထူးသောယဇ်ကို ပူဇော်၍ ဗေဒင်တတ်သော ပုဏ္ဏားတို့အား ခပ်သိမ်းသော အလိုကိုပေး၍ ဤနတ်အဖြစ်သို့ ရောက်ကြလေကုန်၏။

"နောင်တော် သုဘောဂ။ ဗေဒင်အတတ်ကို တတ်ထသော, သီတင်းသီလကိုလည်း ရှာမှီးလေ့ရှိထသော, အလှူခံခြင်း၌လည်း ယှဉ်ထသော သူဟူ၍ သမုတ်အပ်သောပုဏ္ဏားကို သမုဒ္ဒရာမြစ်သည် မွန်းနစ်စေ၏။ ထို့ကြောင့် မသောက်ကောင်းသတည်း။ နောင်တော် သုဘောဂ။ ကောင်းမှုတည်းဟူသော မျိုးစေ့၏စိုက်ပျိုးရာ လယ်မြေကောင်း သဖွယ်ဖြစ်သော ပုဏ္ဏားတို့သည် ဤမြေအပြင်၌ ရှိကုန်၏။ အရှေ့,အနောက်, တောင်, မြောက် မျက်နှာအရပ်တို့၌ နှစ်လိုခြင်းကို ပုဏ္ဏားတို့သာ ဖြစ်စေနိုင်ကုန်၏"။

ဤသို့ ကာဏာရိဋ္ဌသည် ၁၄ ဂါထာတို့ဖြင့် ပုဏ္ဏားတို့ကို လည်းကောင်း၊ ယဇ်ပူဇော်သက္ကာတို့ကို လည်းကောင်း၊ ဗေဒင်တို့ကိုလည်းကောင်း ချီးမွမ်း၏။

## ၅။ ဓမ္မကထာခန်း

ထိုအခါ ကာဏာရိဋ္ဌ၏စကားကိုကြား၍ ဘုရားလောင်းနေရာအရပ်သို့ လာကုန်သော များစွာသော နဂါးပရိသတ် အပေါင်းတို့သည် 'ဤကာဏာရိဋ္ဌသည် အမှန်ကို ဆိုပေ၏' ဟု မှားသောအယူရှိသော နဂါးတို့သည် ရောက်လာကုန်၏။

ဘုရားလောင်းဘူရိဒတ်သည်လည်း နေရာမှလျောင်းလျက် ကာဏာရိဋ္ဌ၏အသံကို နာ၍ နေ၏။ နဂါးအပေါင်းတို့သည် ဘုရားလောင်းအား လျှောက်ကြကုန်သော် ဘုရားလောင်းသည်လည်း နောက်မှ ကြ၏။

'ကာဏာရိဋ္ဌကား မှားသောအယူရှိသောခရီးကို ချီးမွမ်းဘိသည်။ ထိုကာဏာရိဋ္ဌ၏ အယူကိုဖျက်၍ နဂါးပရိသတ်တို့အား ကောင်းသောသမ္မာဒိဋ္ဌိအယူကို ယူစေ'ဟု ဘုရားလောင်းသည် အိပ်ရာမှထ၍ ခပ်သိမ်းသော တန်ဆာတို့ဖြင့် တန်ဆာဆင်အပ်သော တရားဟောသဘင် ပလ္လင်၌နေပြီးလျှင် အလုံးစုံသော နဂါးပရိသတ်တို့ကို စည်းဝေးကြစေ၍ ကာဏာရိဋ္ဌကိုခေါ်ပြီးလျှင်

"ကာဏာရိဋ္ဌ။ သင်သည် မဟုတ်မမှန်သည်ကိုဆို၍ ဗေဒင်ကို လည်းကောင်း၊ ယဇ်ပူဇော်ခြင်းကို လည်းကောင်း၊ ပုဏ္ဏားတို့ကို လည်းကောင်း ချီးမွမ်းသည်။ အကယ်၍ သင်ဆိုသော စကား သင့်စေ။ ပုဏ္ဏားတို့သည် ဗေဒင်ကိုစီရင်သဖြင့် ယဇ်ပူဇော်ခြင်းကိုကား မကောင်းမှုဟု သမုတ်အပ်၏။ နတ်ရွာသို့ ဆောင်သည် မဟုတ်။ သင့်အယူ မဟုတ်သည်ကို ငါမြင်၏"ဟု ယဇ်ပူဇော်ခြင်း အယူကို ဖျက်လို၍–

– ကလိဟိ ဓီရာနံ ကဋံ မဂါနံ၊ ဘဝန္တိ ဝေဒဇ္ဈဂတာနရိဋ္ဌ။
မရီစိ ဓမ္မံ အသမေက္ခိတတ္တာ၊ မာယာဂုဏာ နာတိဝဟန္တိ ပညံ။ ။

– ဝေဒါန တာဏာယ ဘဝန္တိ ဒဿ၊ မိတ္တဒ္ဒုနော ဘူနဟုနော နရဿ။
န တာယတေ ပရိစိဏ္ဏော စ အဂ္ဂိ၊ ဒေါသန္တရံ မစ္စ မနရိယကမ္မံ။ ။

– သဗ္ဗဉ္စ မစ္စာ သဓနံ သဘောဂံ၊ အာဒီပိတံ ဒါရု တိဏေန မိဿံ။
ဒဟံ န တပ္ပေ အသမတ္ထတေဇော၊ ကော တံ သုဘိက္ခံ ဒွိရသညု ကယိရာ။ ။

- ယထာပိ ခီရံ ဝိပရိဏာမ ဓမ္မံ၊ ဒဓိ ဘဝိတွာ နဝနီတံပိ ဟောတိ။
ဧဝံပိ အဂ္ဂိ ဝိပရိဏာမဓမ္မော၊ တေဇော သမောရောဟတိ ယောဂ ယုတ္တော။ ။
- န ဒိဿတိ အဂ္ဂိ မနုပ္ပဝိဋ္ဌော၊ သုက္ခေသု ကဋ္ဌေသု နဝေသု စာပိ။
နာမတ္ထမာနော အရဏီနရေန၊ နာကမ္မုနာ ဇာယတိ ဇာတဝေဒေါ။ ။
- သစေ ဟိ အဂ္ဂိ အန္တရတော ဝသေယျ၊ သုက္ခေသု ကဋ္ဌေသု နဝေသုစာပိ။
သဗ္ဗာနိ သုဿေယျု ဝနာနိ လောကေ၊ သုက္ခာနိ ကဋ္ဌာနိစ ပဇ္ဇလေယျုံ။ ။
- ကရောတိ စေ ဒါရု တိဏေန ပုည်၊ ဘောဇံ နရော ဓူမသိခိံ ပတာပဝံ။
အင်္ဂါရိကာ လောဏကရာ စ သူဒါ၊ သရီရဒါဟာပိ ကရေယျု ပုည်။ ။
- အထစေ ဟိ ဧတေ နကရောန္တိ ပုည်၊ အဇ္ဈေန မဂ္ဂိံ ဣဓ တပ္ပယိတွာ။
နကောစိ လောကသ္မိံ ကရောတိ ပုည်၊ ဘောဇံ နရော ဓူမသိခိံ ပတာပဝံ။ ။
- ကထဉ္စိ လောကာ ပစိတော သမာနော၊ အမနုညဂန္ဓံ ဗဟူနံ အကန္တံ။
ယဒေဝ မစ္စာ ပရိဝဇ္ဇယန္တိ၊ တဒပ္ပသတ္ထံ ဒွိရသညု ဘုဉ္ဇေ။ ။
- သိခိမ္ပိ ဒေဝေသု ဝဒန္တိ ဟေကေ၊ အာပံ မိလက္ခူ ပန ဒေဝမာဟု။
သဗ္ဗေဝ ဧတေ ဝိတထံ ဘဏန္တိ၊ အဂ္ဂီန ဒေဝညတရော န စာပေါ။ ။
- အနိန္ဒြိယဗဒ္ဓ မသညကာယံ၊ ဝေဿာနရံ ကမ္မကရံ ပဇာနံ။
ပရိစရိယမဂ္ဂိံ သုဂတိံ ကထံ ဝဇေ၊ ပါပါနိ ကမ္မာနိ ပကုဗ္ဗမာနော။ ။
- သဗ္ဗာဘိ ဘူတာဟုစ ဓီဝိကတ္ထာ၊ အဂ္ဂိဿ ဗြဟ္မာ ပရိစာရိကောတိ။
သဗ္ဗာနုဘာဝီ စ ဝသီ ကိမတ္ထံ၊ အနိမ္မိတော နိမ္မိတံ ဝန္ဒိတဿ။ ။
- ဟဿံ အနိဇ္ဈာနက္ခမံ အတစ္ဆံ၊ သက္ကာရဟေတု ပကိရိံသု ပုဗ္ဗေ။
တေ လာဘသက္ကာရေ အပါတုဘောန္တေ သန္ဓာပိတာ ဇန္တုဘိ သန္တိဓမ္မံ။ ။
- အဇ္ဈေနမရိယာ ပထဝိံ ဇနိန္ဒာ၊ ဝေဿာ ကသိံ ပါရိစရိယဉ္စ သုဒ္ဒါ။
ဥပါဂု ပစ္စေကံ ယထာပဒေသံ၊ ကတာဟု ဧတေ ဝသိနာတိ အာဟု။ ။
- ဧတဉ္စ သစ္စံ ဝစနံ ဘဝေယျ၊ ယထာ ဣဒံ ဘာသိတံ ဗြဟ္မဏေဟိ။
နာခတ္တိယော ဇာတု လဘေထ ရဇ္ဇံ ၊ နာဗြာဟ္မဏော မန္တပဒါနိ သိက္ခေ။
နာညတြ ဝေဿေဟိ ကသိံကရေယျ၊ သုဒ္ဒေါ န မုစ္စေ ပရ ပေသနာယ။ ။
- ယသ္မာ စ ဧတံဝစနံ အဘူတံ၊ မုသာဝိမေ ဩဒရိယာ ဘဏန္တိ။
တဒပ္ပပညာ အဘိသဒ္ဒဟန္တိ၊ ပဿန္တိ တံ ပဏ္ဍိတာ အတ္တနာဝ။ ။
- ခတျာ ဟိ ဝေဿာနံ ဗလိံ ဟရန္တိ၊ အာဒါယ သတ္ထာနိ စရန္တိ ဗြာဟ္မဏာ။
တံ တာဒိသံ သင်္ခုဘိတံ ပဘိန္နံ၊ ကသ္မာ ဗြဟ္မာ နုဇ္ဇု ကရောတိ လောကံ။ ။
- သစေ ဟိ သော ဣဿရော သဗ္ဗလောကေ၊ ဗြဟ္မာ ဗဟူဘူတပတိ ပဇာနံ။
ကိံ သဗ္ဗလောကံ ဝိဒဟီ အလက္ခိံ၊ ကိံ သဗ္ဗလောကံ နသုခိံ အကာသိ။ ။
- သစေ ဟိ သော ဣဿရော သဗ္ဗလောကေ၊ ဗြဟ္မာ ဗဟူဘူတပတိ ပဇာနံ။
မာယာ မုသာဝဇ္ဇမဒေန စာပိ၊ လောကံ အဓမ္မေန ကိမတ္ထ မကာရိ။ ။

– သစေ ဟိ သော ဉာသရော သဗ္ဗလောကေ၊ ဖြဟ္မာ ဗဟူဘူတပတီ ပဇာနံ။
အစမ္မိကော ဘူတပတီ အရိဋ္ဌ၊ ဓမ္မေ သတိ ယော ဝိဒဟီ အဓမ္မံ။ ။
– ကီဋ္ဌာ ပဋင်္ဂါ ဥရဂါ စ ဓေကာ၊ ဟာဂနာ ကိမိ သုဇ္ဈတိ မက္ခိကာ စ။
တေပိ ဓမ္မာ အနရိယရူပါ၊ ကမ္ဗောဇကာနံ ဝိတထာ ဗဟူနံ။ ။' ဟူသော ၂၁ ဂါထာတို့ကို မိန့်၏။ ထိုဂါထာတို့၏ အဓိပ္ပာယ်ကား–

"ကာဏာရိဋ္ဌ။ ဗေဒင်အတတ်တို့ကား ပညာရှိအား အရှုံးသာတည်း။ ထိုစကားသည် သင့်စေ။ သူမိုက်တို့အား အောင်သောအယူသည် ဖြစ်၏။ အဆင်အခြင်နှင့် မစပ်သောကြောင့် တံလှပ်သဘောကဲ့သို့သော သဘောရှိ၏။ လှည့်ပတ်သော အဖို့ရှိသော ဗေဒင်ကိုကား ပညာရှိတို့သည် မဆောင်ရွက်ကုန်။

"ကာဏာရိဋ္ဌ။ ဗေဒင်တို့ကား ခင်ပွန်းကိုပြစ်မှားတတ်သည့်, အစီးအပွားကိုဖျက်ဆီးတတ်သည့် သူအားလည်း စောင့်ခြင်းငှာ မဖြစ်ကုန်။ လုပ်ကျွေးသောမီးသည်လည်း မကောင်းမှုရှိသော, ပြစ်မှားသော နှလုံးရှိသောလူကို မစောင့်ပေ။

"၂ ခုသောလျှာတို့ဖြင့် အရသာကိုသိသော ကာဏာရိဋ္ဌ။ လူတို့သည် ဥစ္စာစည်းစိမ်တို့ကို ထင်း, မြက်တို့ဖြင့် ရောစ၍ မီးတိုက်အံ့။ ထိုထင်းမြက်တို့ကို လောင်သော, အတုမရှိရှိန်စော်သော ထိုမီးသည် မရောင့်ရဲ။ အဘယ်သူသည် ထိုမီးကို ဝအောင် ပြုနိုင်ပါအံ့နည်း။

"ဥပမာကို ဆိုဦးအံ့။ နို့ရည်လည်း ဖောက်ပြန်သောသဘော ရှိ၏။နို့ဓမ်းလည်း ဖြစ်၏။ ဆီဦးလည်း ဖြစ်၏။ ဤအတူ ၄င်းမီးသည် ဖောက်ပြန်သောသဘော ရှိ၏။ ထိုမီးသည်ကား လုံ့လယှဉ်မှသာ ဖြစ်သည်။

"မီးသည် ခြောက်ကုန်သောသစ်တို့၌ လည်းကောင်း၊ သစ်ရွက်ခြောက်တို့၌ လည်းကောင်း, ဝင်သည်ကို မထင်။ ထိုမီးကား ပွတ်ကျေပွတ်ခုံတို့ဖြင့် မပွတ်ဘဲမဖြစ်။ အမှုနှင့်ကင်း၍လည်း မဖြစ်။

"ထိုစကားသည်လည်း သင့်စေ။ အကယ်၍ မီးသည် ခြောက်ကုန်သောသစ်တို့၏ လည်းကောင်း၊ သစ်ရွက်တို့၏ လည်းကောင်း၊ အတွင်း၌ နေအံ့။ လောက၌ ခပ်သိမ်းသောတောတို့သည်ကား ခြောက်ကုန်ရာ၏။ ခြောက်သည်ရှိသော် သစ်ပင်တို့၌လည်းကောင်း တောက်ကုန်ရာ၏။

"ကာဏာရိဋ္ဌ။ အကယ်၍ ထင်း, မြက်ဖြင့် အခိုးအလျှံရှိသော မီးကို ကျွေးသောလူသည် ကောင်းမှုကို ပြုသည်ဖြစ်အံ့။ မီးသွေးဖုတ်သော သူတို့သည်လည်းကောင်း၊ ဆားချက်သော သူတို့သည်လည်းကောင်း၊ စားဖိုသည်တို့သည် လည်းကောင်း၊ သူကောင်ဖုတ်သောသူတို့သည် လည်းကောင်း ကောင်းမှုကိုပြုသည် မည်ကုန်အံ့သတည်း။

"အကယ်၍ ထို မီးသွေးဖုတ်သောသူတို့သည် ကောင်းမှုပြုသည် မမည်ကုန်အံ့။ ပုဏ္ဏားတို့သည် လည်းကောင်း၊ တစ်စုံတစ်ယောက်သောသူသည် လည်းကောင်း အခိုးအလျှံနှင့်ယှဉ်သော ပူသောမီးကို အစာဖြင့် ရောင့်ရဲစေ၍ လူ့ရွာ၌ ကောင်းမှုကိုပြုသည် မဖြစ်။

"၂ ခုသောလျှာနှင့် အရသာကိုသိတတ်သော ကာဏာရိဋ္ဌ။ ထိုစကားသည် သင့်စွာ။ လူတို့သည် မနှစ်လိုဖွယ်သောအနံ့ရှိသော, လူတို့သည် မနှစ်လိုအပ်သော အကြင်ခွေးကောင်ပုပ်, မြွေကောင်ပုပ် စသည်တို့ကို ကျွေးကုန်၏။ စက်ဆုပ်ဖွယ်ရှိသော ထိုအကောင်ပုပ်စသည်တို့ကို သင်၏မီးသည် ပူဇော်လျက် အဘယ့်ကြောင့် စားချေအံ့နည်း။

"ထိုစကားသည် သင့်စေဦး။ အချို့သောသူတို့ကား နတ်တို့တွင် မီးကို နတ်ဟူ၍ ဆိုကြကုန်၏။ တောင်သူတို့ကား ရေကို နတ် ဟူ၍ ဆိုကုန်၏။ အလုံးစုံသောဤသူတို့ကား ချွတ်လွဲသောစကားကို ဆိုကုန်၏။ မီးသည်လည်း တစ်ပါးသောနတ်သည် မဖြစ်၊ ရေသည်လည်း တစ်ပါးသောနတ်သည် မဖြစ်။

"ဣန္ဒြေနှင့်မစပ် ကိုယ်စိတ်လည်းမရှိ သတ္တဝါတို့၏အမှုကိုပြုသော ထိုမီးကိုလုပ်ကျွေး၍ မကောင်းမှုကို ပြုသောသူသည် နတ်ရွာ၌ အဘယ်သို့ လားရအံ့နည်း။

"ကာဏာရိဋ္ဌ။ ဤလူ့ရွာ၌ အသက်မွေးလိုသောကြောင့် 'ဗြဟ္မာမင်းသည် ခပ်သိမ်းသောလောကကို အစိုးရ၏' ဟူ၍ လည်းကောင်း၊ မီးကို လုပ်ကျွေးအပ်၏ ဟူ၍လည်းကောင်း၊ ခပ်သိမ်းသောလောကကို ဖြစ်စေတတ်သည် ဟူ၍လည်းကောင်း၊ မီးသာလျှင် မိမိအလိုသို့လိုက်သည် ဟူ၍လည်းကောင်း ဆိုရာအံ့။ ထိုသို့မှန်လျှင် အဘယ့်ကြောင့် မိမိ မဖန်ဆင်းနိုင်ဘဲလျက် သူတစ်ပါးဖန်ဆင်းသောမီးကို ရှိခိုးသနည်း။

"ပုဏ္ဏားတို့၏စကားသည် ဆင်ခြင်ခြင်းငှာ မခန့်၊ အချည်းနှီး ရယ်ဖွယ်သာ ရှိ၏။ ထိုပုဏ္ဏားတို့ကား ရှေး၌ လာဘ်ပူဇော်သက္ကာ မရှိခြင်းကြောင့် လာဘ်ပူဇော်သက္ကာကို လိုသည်ဖြစ်၍ ဗုန္ဓု ဟုသမုတ်အပ်သော ယဇ်ကျမ်းကို ဖွဲ့လုပ်စီရင်ကုန်၏။ အသီးအသီး မိမိတို့ညွှန်းသောအတိုင်း ပုဏ္ဏားတို့ကား ဗေဒင်သင်ခြင်း၊ မင်းတို့ကား မြေကို အောင်ခြင်း၊ သူကြွယ်တို့ကား လယ်လုပ်ကုန်သွယ်ခြင်း၊ သူဆင်းရဲတို့ကား အမျိုး၃ပါးတို့၏ အလုပ်အကျွေး ဖြစ်ကုန်၏။ ထို အမျိုး ၄ပါးတို့ကို ဗြဟ္မာမင်းသာ စီရင်ဖန်ဆင်းသည်ဟု ရှေးသူဟောင်းတို့ ဆိုကြောင်းကို ပုဏ္ဏားတို့ ဆိုကုန်၏။

"ပုဏ္ဏားတို့ဆိုတိုင်း ထိုစကားမှန်လျှင် မင်းမျိုးမဟုတ်သူ မင်းအဖြစ်ကို မရရာ။ ပုဏ္ဏားမဟုတ်သူ ဗေဒင်မသင်ရာ။ သူကြွယ်မဟုတ်သူ လယ်လုပ်ကုန်သွယ် မပြုရာ။ သူဆင်းရဲအမျိုးလည်း သူ့အစေအပါးမှ မလွတ်ရာ။ ထိုသို့ကား မဟုတ်။ မင်း မဟုတ်သူလည်း မင်းအဖြစ်ကိုရ၏။ ပုဏ္ဏား မဟုတ်သူလည်း ဗေဒင်သင်၏။သူကြွယ် မဟုတ်သူလည်း ကုန်သွယ်လယ်လုပ်၏။ သူဆင်းရဲလည်း သူ့အစေအပါးမှ လွတ်၏။ ဤသို့ လောကတွင် ထင်ရှားရှိသောကြောင့် ပုဏ္ဏားတို့စကား မမှန်။ ဝမ်းကိုဝလိုသောကြောင့် မဟုတ်မမှန်သော စကားဖြင့် လှည့်ပတ်၍ဆိုကုန်၏။ ထိုပုဏ္ဏားတို့စကားကို ပညာနည်းသောသူတို့သာ ယုံကုန်သည်။ ပညာရှိတို့ မယုံကုန်။

"ထိုစကားသည် မှန်လှ၏။မင်းတို့သည် သူကြွယ်တို့၏အခွန်ကို တောင်းယူကုန်၏။ ပုဏ္ဏားတို့ကား ဓားလက်နက်တို့ကိုယူ၍ သွားကုန်၏။ ထိုသို့ မညီမညွတ် ချောက်ချောက်ချားချား လူအများ စီးပွားယုတ်လျော့ ပျက်စီးကြောင်းကို အဘယ့်ကြောင့် ဗြဟ္မာသည် ဖြောင့်မှန်ညီညွတ်အောင် မစီရင်သနည်း။

အကယ်၍ "ဗြဟ္မာမင်းသည် ခပ်သိမ်းသောလောကကို အစိုးရ၏" ဟူသော ပုဏ္ဏားတို့စကား မှန်အံ့။ အဘယ့်ကြောင့် လူအပေါင်းတို့၏ဆင်းရဲကို ပြုသနည်း။ လူတို့၏ အရှင်မှန်လျှင် ချမ်းသာကိုသာ ဆောင်ရမည် မဟုတ်လော။

"ထိုစကားသည် သင့်စွာ။ ဗြဟ္မာမင်းသည် ခပ်သိမ်းသောလောကကို အစိုးရသည်ဖြစ်၍ လူအပေါင်း တို့၏အရှင် အကယ်၍ ဖြစ်အံ့။ လှည့်ပတ်သဖြင့် လည်းကောင်း၊ မဟုတ်မမှန် ပြောဆိုသဖြင့် လည်းကောင်း၊ မေ့လျော့သဖြင့် လည်းကောင်း၊ မတရားသဖြင့် လည်းကောင်း လူတို့ကို အဘယ့်ကြောင့် အကျိုးစီးပွားမဲ့ ပြုစေသနည်း။

"ငါညီ ကာဏာရိဋ္ဌ။ ထိုဗြဟ္မာသည် ခပ်သိမ်းသောလောကကို အစိုးရသည်ဖြစ်၍ လူအပေါင်းတို့ အရှင် ဖြစ်အံ့။ တရားထင်ရှားရှိလျက် မတရားကို အဘယ့်ကြောင့် ဆောက်တည်စေသနည်း။ဗြဟ္မာကား အဓမ္မကို ကျင့်စွာတကား။

"ပေါက်ဖတ်,ကင်း,သန်း,နံ့,မြွေ, ဖား,ငါး, ယင်,မှက်,ပိုးရွ, ခြပုန်းတို့ကို သတ်၍ စင်ကြယ်၍ဟူသော အယူဝါဒ အဓမ္မသဘောသည် ကမ္ဗောဇတိုင်းသားတို့၏ အဓမ္မသဘောတည်း"

ဤမှတစ်ပါး ပုဏ္ဏားတို့၏ ချွတ်လွဲသောသဘောကို ပြလိုရကား-

- သစေ ဟိ သော သုဇ္ဈတိယော ဟနာတိ၊ ဟတောပိ သော သဂ္ဂ မုပေတိဌာနံ။
  ဘောဝါဒီ ဘောဝါဒိန မာရဘေကျုံ၊ ယေစာပိ တေသံ အဘိသဒ္ဒဟေယျုံ။ ။
- နေဝ မဂါ န ပသု နောပိ ဂါဝေါ၊ အာယာစန္တိ အတ္တဝဓာယကေစိ။
  ဝိပ္ဖန္ဒမာနေ ဣဓ ဓီဝိကတ္တာ၊ ယညေသု ပါဏေ ပသုမာရဘန္တိ။ ။
- ယူပုဿနေ ပသုဗန္ဓေ စ ဗာလာ၊ စိတ္တေဟိ ဝဏ္ဏေဟိ မုခံ နယန္တိ။
  အယန္တေ ယူပေါကာမဒုဟော ပရတ္ထ၊ ဘဝိဿတိ သဿတော သမ္ပရာယေ။ ။
  သစေ စ ယူပေ မဟိ သခ်မုတ္တံ၊ ဓည် ဓနံ ရဇတံ ဇာတရူပံ။
- ကုတောစ ယူပေ မဏိသခ်မုတ္တံ၊ ဓည် ဓနံ ရဇထံ ဇာတရူပံ။
  သုက္ခေသု ကဋ္ဌေသု နဝေသုစာပိ၊ သစေ ဒုဟေ တိဒိဝေ သဗ္ဗကာမေ။
  တေဝိဇ္ဇ သံဃာဝ ပုထူ ယဇေယျုံ၊ နဗြဟ္မဏံ ကိဉ္စိ န ယာဇယေယျုံ။ ။
  ကုတောစ ယူပေ မဏိသခ်မုတ္တံ၊ဓည် ဓနံရ ဇတံ ဇာတရူပံ။
- သုက္ခေသု ကဋ္ဌေသု နဝေသုစာပိ၊ ကုတော ဒုဟေ တိဒိဝေ သဗ္ဗကာမေ။ ။
  သဌာ စ လုဒ္ဒါစ ပလုဒ္ဓါဗာလာ၊ စိတြေဟိ ဝဏ္ဏေဟိ မုခံ နယန္တိ
- အာဒါယ အဂ္ဂိံ မမ ဒေဟိ ဝိတ္တံ၊ တတောသုခီ ဟောဟိတိ သဗ္ဗကာမေ။
  တမဂ္ဂိဟုတ္တံ သရဏံ ပဝိဿ၊ စိတ္တေဟိ ဝဏ္ဏေဟိ မုခံ နယန္တိ။
  ဩရောပယိတွာ ကေသမဿု နခဉ္စ၊ ဒေဟိဝိတ္တံ အတိဂါဠှယန္တိ။ ။
- ကာကာ ဉလူကံ ဝရဟော လဘိတွာ၊ ဧကံသမာနံ ဗဟုကာ သမေစ္စ။
  အန္နာနိ ဘုတွာ ကုဟကာ ကုဟိတွာ၊ မုဏ္ဍံ ကရိတွာ ယညပထော သဇ္ဇန္တိ။ ။
- ဧဝဉ္စိ သော ဝဉ္စိတော ဗြာဟ္မဏေဟိ၊ ဧကော သမာနော ဗဟုကာ သမေစ္စ။
  တေ ယောဂယောဂေန ဝိလုမ္ပမာနာ၊ ဒိဋ္ဌံ အဒိဋ္ဌေန ဓနံ ဟရန္တိ။ ။
- အကာသိ ယာ ရာဇူဟိဝါ နုသိဋ္ဌာ၊ တဒဿ အာဒါယ ဓနံ ဟရန္တိ။
  တေတာဒိသာ စောရသမာ အသန္တာ၊ ဝဇ္ဈာန ဟညန္တိ အရိဋ္ဌ လောကေ။ ။
- ဣန္ဒဿ ဗာဟာရသိ ဒက္ခိဏာတိ၊ ယညေသု ဆိန္ဒန္တိ ပလာယလဒ္ဓိံ။
  တံစေပိ သစ္စံ မဃဝါ ဆိန္နဗာဟု၊ ကေနဿု ဣန္ဒော အသုရေ ဇိနာတိ။ ။
- တဉ္စေဝ တုစ္ဆံ မဃဝါ သမင်္ဂီ၊ ဟန္တာ အဝဇ္ဈော ပရမော သုဒေဝေါ။
  မန္တာ ဣမေ ဗြာဟ္မဏာ တုစ္ဆရူပါ၊ သန္ဒိဋ္ဌိကာ ဝဉ္စနာ သေလောကေ။ ။
- မာလာဂိရိ ဟိမဝါယော စ ဂိဇ္ဈော၊ သုဒဿနော နိသဘောဂေါ ကုဝေရု။
  ဧတေစ အညေစ နဂါ မဟန္တာ၊ စိတျာ ကတာ ယညကရေဘိမာဟု။ ။

- ယထာပကာရာနိပိ ကုလ္လကာနိ၊ စိတ္တာကတာယညကရေဘိမာဟု။
  နပဗ္ဗတာ ဟောန္တိ တထာပကာရာ၊ အညာဒိသာ အစလာ တိဋ္ဌသေလာ။ ။
- နကုလ္လကာ ဟောန္တိ သိလာစိရေန၊ နတတ္ထ သဥ္ဇာယတိ အယောနလောဟံ။
  ယညဥ္စတေံ ပရိဝဏ္ဏယန္တာ၊ စိတ္တာကတာ ယညကရေဟိမာဟု။ ။
- အဇ္ဈာယကံ မန္တဂုဏူပပန္နံ၊ တပဿိနံ ယာစယောဂေါတိစာဟု။
  တီရေ သမုဒ္ဒဿုဒကံ သဇန္တံ၊ တံသာဂရဇ္ဈော ဟရိတေနာပေယျော။ ။
- ပရော သဟဿံပိ သမန္တ ဝေဒေ၊ မန္တူပပန္နေ နဒိယော ဝဟန္တိ။
  န တေန ဗျာပန္နရသုဒကာနိ၊ ကသ္မာသမုဒ္ဒေါ အတုလော အပေယျော။ ။
- ယေကေစိ ကူပါဣဓဇီဝလောကေ၊လောဏူဒကာ ကူပခဏေဟိ ခတာ။
  န ဗြာဟ္မဏဇ္ဈော ဟရိဏေနကေသ၊ အာပေါ အပေယျော ဒွိရသညုအာဟု။ ။
- ပုရေ ပုရတ္တာ ကာကဿ ဘရိယာ၊ မနော မနဿံ အဇနေသိ ပုဗ္ဗေ။
  တေနာပိ ဓမ္မေနနကောစိ ဟီနော၊ ဧဝံပိ ဝေါသဂ္ဂ ဝိဘင်္ဂ မာဟု။ ။
- စဏ္ဍာလပုတ္တောပိ အဓိစ္စ ဝေဒေ၊ ဘာသေယျ မန္တေ ကုသလော မတိမာ။
  နတဿ မုဒ္ဓါပိ ဖလေယျ သတ္တဓာ၊ မန္တာ ဣမေ အတ္တဝဓာယ ကထာ။ ။
- ဝါစာကတာ ဂိဒ္ဓိကတာ ဂဟိတာ၊ ဒုမ္မောစယာ ကဗျပထာ နုပ္ပန္နာ။
  ဗာလာနံ စိတ္တံ ဝိသမေ နိဝိဋ္ဌံ၊ တဒပ္ပပညာ အဘိသဒ္ဒဟန္တိ။ ။
- သီဟဿ ဗျဂ္ဃဿစ ဒီပိနောစ၊ နဝိဇ္ဇတိ ပေါရိသိယံ ဗလေန။
  မနုဿဘာဝေါစ ဂဝံပေက္ခော၊ ဇာတိဟိတေသံ အသမာသမာနံ။ ။
- သစေစ ရာဇာ ပထဝိံ ဝိဇိတွာ၊ သဇီဝိဝါ အဿဝ ပါရိသဇ္ဇော။
  သယမေဝသောသတ္တု သံဃံ ဝိဇေယျ၊ တဿ ပဇာ နိစ္စသုခီဘဝေယျ။ ။
- ခတ္တိယ မန္တာစ တယောစ ဝေဒါ၊ အတ္ထေန ဧတေ သမကာ ဘဝန္တိ။
  တေသဉ္စ အတ္ထံ အဝိနိစ္ဆိနိတွာ၊ နဗုဇ္ဈတိ ဩဃပထံဝ ဆန္နံ။ ။
- ခတ္တိယမန္တာစ တယောစ ဝေဒါ၊ အတ္ထေန ဧတေ သမကာ ဘဝန္တိ။
  လာဘောအလာဘော ယသောအယသောစ၊ သဗ္ဗေဝ တေသံ စတုန္နဥ္စ ဓမ္မာ။ ။
- ယထာပိ ဣဗ္ဘာဓနေ ဓနဟေတု၊ ကမ္မာနိ ကရောန္တိ ပုထူပထဗျာ။
  တေဝိဇ္ဇသံဃာပိ တထေဝ သုဒ္ဒါ၊ ကမ္မာနိ ကရောန္တိ ပုထူပထဗျာ။ ။
- ဣဗ္ဘေဟိ ယေတေ သမကာ ဘဝန္တိ၊ နိစ္စုဿုကာ ကာမဂုဏေသု ယုတ္တာ။
  ကမ္မာနိ ကရောန္တိ ပုထူပထဗျာ၊ တဒပ္ပပညာ ဒွိရသညုရာတေ။ ။' ဟူသော ၂၇ ဂါထာတို့ကို ဆို၏။ ထိုဂါထာတို့၏ အဓိပ္ပာယ်ကား-

"ငါ့ညီ ကာဏာရိဋ္ဌ။ အကယ်၍ အကြင်သူသည် သတ်၏။ ထို သတ်သောသူသည် အပြစ်မှ စင်ကြယ်အံ့။ အကြင်သူကိုသတ်၍ နတ်ပြည်သို့ ရောက်သည် မှန်အံ့။ ပုဏ္ဏားတို့သည် မိမိတို့အချင်းချင်း သတ်ကုန်ရာ၏။ ပုဏ္ဏားတို့ဆိုတိုင်း ယုံကြည်ကုန်သော လူအပေါင်းတို့သည်လည်း အချင်းချင်း သတ်ကုန်ရာ၏။

"အချို့သော သားသမင်တို့ကား မိမိကိုယ်ကို သတ်အံ့သောငှာ မတောင်းပန်ကုန်။ ဆိတ်, နွား, ကြက်, ဝက် အစရှိသောသတ္တဝါတို့သည်လည်း မိမိကိုယ်ကို သက်စိမ့်သောငှာ မတောင်းပန်ကုန်။ ထိုသို့လျက် ယဇ်တွင်း၌ နွားအစရှိသောသတ္တဝါတို့ကို တုန်လှုပ်စေလျက် အသက်ရှည်လိုသောငှာဟု သတ်ကြကုန်၏။

"သူမိုက်တို့ကား ဤယဇ်သည် တမလွန်ဘဝ၌ အလိုကိုပေးတတ်သည် ဖြစ်လတ္တံ့။ တမလွန်၌ အမြဲချမ်းသာကို ပေးလတ္တံ့ ဟု နွားချေးစုဝယ် စိုက်ထားအပ်သောယဇ်တိုင်၌ ဆန်းကြယ်စွာသောအကြောင်းတို့ဖြင့် မျက်နှာကို ကြည်ညိုစေကုန်၏။ အကယ်၍ ယဇ်တိုင်၌ လည်းကောင်း၊ သစ်ခြောက်, သစ်စိုတို့၌ လည်းကောင်း၊ ပတ္တမြား, ခရုသင်း, ပုလဲ, ရွှေ, ငွေ, ဆန်စပါးဥစ္စာများကို လည်းကောင်း၊ နတ်ပြည်ကိုလည်းကောင်း ပေးတတ်သည် မှန်အံ့။ ထိုပုဏ္ဏားအပေါင်းတို့သည် များစွာ ပူဇော်ကုန်အံ့သတည်း။ တစ်စုံတစ်ယောက်သော ပုဏ္ဏားတို့သည် မပူဇော်ကုန်။ ယဇ်၌ လည်းကောင်း၊ သစ်ခြောက်, သစ်စိုတို့၌ လည်းကောင်း၊ ပတ္တမြား, ခရုသင်း, ပုလဲ ရွှေ,ငွေ, ဆန်စပါး ဥစ္စာများကို လည်းကောင်း၊ နတ်ပြည်၌ ခပ်သိမ်းသော အလိုကို လည်းကောင်း အဘယ်မှာလျှင် ပြည့်စုံစေနိုင်အံ့နည်း။

"ကြမ်းကြုတ်ယုတ်မာ စဉ်းလဲစွာသောပုဏ္ဏားမိုက်တို့သည် ဖြားယောင်းလျက် မီးကိုစွဲ၍ ငါ့အား ဥစ္စာပေးလော့။ငါတို့ ပုဏ္ဏားအား ဥစ္စာကိုပေးလှူရအောင် ခပ်သိမ်းသောအလိုကိုရ၍ ချမ်းသာလတ္တံ့။ ဆန်းကြယ်စွာသောအကြောင်းတို့ဖြင့် မျက်နှာကို ရွှင်စေ၏။ မီးပူဇော်ရာ အုံတွင်းသို့ဝင်၍ ဆန်းကြယ်စွာသော အကြောင်းဖြင့် မျက်နှာကို ရွှင်စေကုန်၏။ ဆံမုတ်ဆိတ်,ခြေသည်း, လက်သည်းတို့ကိုလည်း ရိတ်ဖြတ်၍ မီး၌ ထည့်ကုန်၏။ ဗေဒင်တို့ဖြင့် ဥစ္စာကိုလည်း ဖျက်ဆီးကုန်၏။

"များစွာကုန်သောကျီးတို့သည် တစ်ခုသောခင်ပုပ်ကို ခြံရံကုန်၍ ထမင်းဘောဇဉ်တို့ကို စားသောက်လျက် ဦးခေါင်းဖြင့်ပြည့်စေ၍ ယဇ်ပူဇော်ရာအရပ်သို့ ကပ်လေကုန်၏။ထိုပုဏ္ဏားတို့သည် တစ်ယောက်တည်းသော မင်းအား များစွာလှည့်ပတ်ခြင်းဖြင့် လုယက်ကုန်လျက် မျက်မှောက်ထင်ထင်မြင်သော ဥစ္စာကို မမြင်မသိရသော နတ်ရွာဖြင့် လှည့်ပတ်၍ ဆောင်ကုန်၏။ မင်းတို့သည် ဆုံးမအပ်သော မင်းချင်းကဲ့သို့ မင်း၏ဥစ္စာကိုယူ၍ ဆောင်လေကုန်သော ခိုးသူနှင့်တူသော သူတော်မဟုတ် ယုတ်လှစွာသောထိုပုဏ္ဏားတို့ကို သတ်ထိုက်လျက် လူ့ပြည်၌ မသတ်မညှဉ်းဆဲကုန်။

"ကာဏာရိဋ္ဌ။ နာဦးလော့။ ပုဏ္ဏားတို့သည် ပေါက်ကိုင်းကို သိကြားမင်းလက်ရုံးဟု ယဇ်ပူဇော်ရာ၌ ဖြစ်ကုန်၏။ အကယ်၍ ထိုစကား မှန်အံ့။ နတ်တို့ကိုအစိုးရသော သိကြားမင်းသည် လက်ရုံးပြတ်ရကား အဘယ့်ကြောင့် လက်ရုံးဖြင့် အသုရာတို့ကို အောင်နိုင်အံ့နည်း။ ထိုစကား မမှန်။ သိကြားမင်းသည် ဘုန်းလက်ရုံးနှင့်လည်း ပြည့်စုံ၏။ ထိုနတ်မင်းကား ပုတ်ခတ်၍ မသတ်အပ်သော နတ်မြတ်တည်း။ပုဏ္ဏား၏ ဗေဒင်တို့ကား အကျိုးမရှိ။ ဤလှည့်ပတ်ခြင်းကား လူ၌ မျက်မှောက်ဖြစ်သော လှည့်ပတ်ခြင်းတည်း။

"မာလာဂိရိတောင်, ဟိမဝန္တာတောင်, ဂိဇ္ဈတောင်, သုဒဿနတောင်, နိသဘောဂတောင်, ကုဝေရတောင် ဤတောင်တို့ကိုလည်းကောင်း, ဤမှတစ်ပါးသော တောင်တို့ကိုလည်းကောင်း၊ ပုဏ္ဏားတို့သည် ယဇ်ပူဇော်သောအခါ အုတ်ဖြင့်စီ၍ စီရင်ကုန်၏။ ထိုစကား သင့်စွ။ အကြင်အုတ်တို့ကို ယူ၍ ယဇ်ပူဇော်သောသူတို့သည် စီရင်၍ ပြုကုန်၏ဟု ဆိုကုန်၏။ တောင်တို့ကား အုတ် မဖြစ်ကုန်။ မတုန်မလှုပ် တည်ကုန်၏။ အုတ်တို့သည်

ကြာမြင့်သဖြင့် ကျောက် မဖြစ်၊ ကြေးတို့သည်လည်း သံ မဖြစ်ကုန်။ ဤယဇ်ကို ချီးမွမ်းအပ်ကုန်၏။ ယဇ်ပူဇော်သော သူတို့သည် အုတ်ဖြင့်စီရင်၍ ပြုအပ်သောကြောင့် ကောင်းသည်ဟု ဆိုကုန်၏။ မန္တရား ဗေဒင်အတတ် အကျင့်သီတင်းနှင့် ပြည့်စုံသော ပုဏ္ဏားတို့ကို အရှူခံခြင်းနှင့် ယှဉ်သောသူဟူ၍လည်း ဆိုကုန်၏။ သမုဒ္ဒရာရေကို သွန်ထသော ထိုပုဏ္ဏားကို သမုဒ္ဒရာရေသည် နှစ်မိ၏။ ထို့ကြောင့် မသောက်ကောင်းသတည်း။ ဗေဒင်နှင့် ပြည့်စုံကုန်သောပုဏ္ဏားတို့ကို အထောင်မကသောမြစ်တို့သည် မျှော်လေကုန်၏။ ထိုမြစ်တို့သည် မသောက်ကောင်းသည် မဖြစ်။ အဘယ်ကြောင့် အတုမရှိသော သမုဒ္ဒရာရေကိုသာလျှင် မသောက်ကောင်း ပြုဘိသနည်း။

"လျှာ ၂ ခုရှိသော ကာဏာရိဋ္ဌ။ ဤလူ့ရွာ၌ အကြင်တွင်းတို့သည် ဆားငန်ရေအတိသာ ရှိကုန်၏။ ထိုတွင်းတို့သည် ပုဏ္ဏားတို့ကို မနစ်။ ထိုသို့မနစ်ဘဲလျက် အဘယ့်ကြောင့် မသောက်ကောင်းသနည်း။ ရှေးကမ္ဘာဦးအစ၌ အဘယ်အမည်ရှိသော မိန်းမသည် အဘယ်မည်သောသူ၏ မယားနည်း၊ ဤစိတ်သည်လူကို ဖြစ်စေတတ်၏။ ထိုသဘောဖြင့် တစ်စုံတစ်ယောက်သောသူသည်မရှိ။ ဤသို့သော်လည်း မိမိပြုသော ကြမ္မာဖြင့် သူယုတ်ဖြစ်သည်ဟု ဆိုကုန်၏။

"ပညာရှိသော ဒွန်းစဏ္ဍားတို့၏သားသည်လည်း ဗေဒင်ကိုသင်၍ မန္တန်တို့ကို ဆိုအံ့။ ထိုဒွန်းစဏ္ဍား သား၏ ဦးခေါင်း ၇ စိတ် ကွဲရာ၏။ ဤဗေဒင်ကား မိမိကိုယ်ကို သတ်အံ့သောဟာ မပြုသတည်း။ ဤဗေဒင်တို့ကား စကားဖြင့်ကြဲ၍ သိကုန်၏။ လာဘ်သပ်ပကာကို လိုသဖြင့်ပြုကုန်၏။ ကဗျာပြုကုန်သော ပုဏ္ဏားတို့၏စကားသို့ လိုက်ရကား လွန်နိုင်ခဲ၏။ သူမိုက်တို့၏စိတ်နှလုံးကား မသင့်မတင့်သောအရာ၌လည်း နှလုံးဝင်လွယ်၏။ ထိုဗေဒင်ကို ပညာနည်းသောသူတို့သာ ယုံကြည်ကုန်၏။ ခြင်္သေ့၊ သစ်၊ ကျား၊ လူယောကျ်ား ထိုသူတို့၏ အားသည် ရှိ၏။ ထိုယောကျ်ားတို့အားနှင့် ပြည့်စုံသော ပုဏ္ဏားမည်သည်ကား မရှိ။ လူ့အဖြစ်ကိုလည်း နွားကဲ့သို့ ရှုအပ်၏။ တိုပုဏ္ဏားတို့၏ ပညာမရှိသောအဖြစ်သည်ကား နွားနှင့်တူ၏။ ဓာတ်သာမတူ။ အကယ်၍ မင်းသည် မြေကြီးကိုမအောင်မူ၍ အမတ်နှင့်တကွ စကားနာသော အခြင်းအရာဖြင့် ပြည့်စုံသည်ဖြစ်ရာ၏။ ထိုမင်းသည် မိမိအလိုလိုလျှင် ရန်သူအပေါင်းကို အောင်သည်ဖြစ်ရာ၏။ ထိုမင်း၏အချင်းကား အမြဲချမ်းသာသည် ဖြစ်ရာ၏။

"ယတြာ စသောကျမ်း၊ မင်း စသောကျမ်းတို့သည် လည်းကောင်း၊ ဗေဒင် ၃ပုံတို့သည် လည်းကောင်း၊ ဤကျမ်းတို့ကား အနက်အားဖြင့် ဓာတ်တူကုန်၏။ ထိုကျမ်းတို့သည်လည်း အနက်ကို မဆုံးဖြတ်မူ၍ ရေအလျဉ်ဖြင့် ဖုံးလွှမ်းသောခရီးကဲ့သို့ မသိ။

"ယတြာစသောကျမ်း မင်းစသော ကျမ်းတို့သည် လည်းကောင်း၊ ဗေဒင် ၃ပုံတို့သည် လည်းကောင်း၊ ဤကျမ်းတို့သည်ကား အနက်အားဖြင့် ဓာတ်တူဖြစ်ကုန်၏။လာဘ်ရခြင်း၊ မရခြင်းလည်းကောင်း၊ အခြံအရံရှိခြင်း၊ မရှိခြင်း လည်းကောင်း၊ ခပ်သိမ်းသောတရားတို့သည်ကား ထိုအမျိုး ၄ပါးတို့၏ တရားတို့တည်း။

"ဥပမာ မည်သည်ကား–သူကြွယ်တို့သည် ဥစ္စာစပါးတို့ကို လိုသောကြောင့် များစွာမြေ၌ အမှုတို့ကို ပြုစေကုန်၏။ ထိုပုဏ္ဏားအပေါင်းတို့သည် လည်းကောင်း၊ များစွာသော သူဆင်းရဲတို့သည် လည်းကောင်း၊ များစွာမြေ၌ အမှုတို့ကို ပြုစေကုန်၏။ ၂ ခုသောလျှာဖြင့် အရသာကိုသိတတ်သော ကာဏာရိဋ္ဌ။ ထိုစကားသည် သင့်စွ။ ဤသူကြွယ်တို့သည်ကား ဓာတ်တူ ဖြစ်ကုန်၏။ မပြတ်ကြောင့်ကြမှုကုန်၏။ကာမဂုဏ်တို့၌ ယှဉ်ကုန်၏။ များစွာမြေ၌ အမှုတို့ကို ပြုစေကုန်၏။ ထို့ကြောင့် ပညာနည်းသော ပုဏ္ဏားတို့ကား တရားမှကျင့်ကြောင်း ဝေးကုန်၏"

ဤသို့ ဘုရားလောင်းဘူရိဒတ်သည် ထိုပုဏ္ဏားတို့အယူကို ဖျက်ဆီး၍မိမိအယူ၌ တည်စေ၏။

ထိုအခါ ဘုရားလောင်း၏တရားစကားကို ကြား၍ ခပ်သိမ်းသော နဂါးပရိသတ်အပေါင်းတို့သည် နှစ်လို့ဝမ်းမြောက်ကြကုန်၏။ဘုရားလောင်းသည်ကား နေသာဒပုဏ္ဏားကို နဂါးပြည်မှ နှင်ထုတ်စေ၏။ ထိုပုဏ္ဏားမှဆိုးအား ရေရွတ်ခြင်းကိုမျှ မပြု။သာဂရဗြဟ္မဒတ်မင်းသည်လည်း ဆုံးဖြတ်သောနေ့ကို မလွန်စေမူ၍ စစ်အင်္ဂါ ၄ပါးဖြင့် ခြံရံလျက် အဖနေရာအရပ်သို့ သွား၏။

ဘုရားလောင်း ဘူရိဒတ် နဂါးမင်းသည်လည်း ဦးရီးအား လည်းကောင်း၊ အဘိုးအား လည်းကောင်း ဖူးမြင်အံ့ဟု နဂါးပြည်၌ စည်လည်စေ၍ များစွာသော နဂါးပရိသတ်နှင့်တကွ အစိုးရခြင်း, တင့်တယ်ခြင်းဖြင့် ယမုနာမြစ်မှထွက်ခဲ့၍ အစဉ်အတိုင်းသာလျှင်လာလျက် အဘိုးနေရာကျောင်းသခ်မ်းသို့ သွားလေ၏။ ထိုဘုရားလောင်းမှ ကြွင်းသော အစ်ကို တစ်ယောက်, အမိအဖတို့ သည်လည်း နောက်မှလိုက်ကုန်၏။ ဝရီးတော် သာဂရဗြဟ္မဒတ်မင်းကြီးသည် ခမည်းတော်ထံ ရှေးဦးစွာ ရောက်နှင့်လေ၏။

ထိုအခါ သာဂရ ဗြဟ္မဒတ်မင်းကား များစွာသော ပရိသတ်တို့နှင့်လာသော ဘုရားလောင်းကို မသိ၍ သာဂရမင်းသည် အဖကိုမေးလို၍ 'တာတ တာပ'သအစရှိသော ဂါထာကို ရွတ်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား–

"အရှင်အဖရသေ့။ စည်ကြီးတို့ဖြင့်လည်းကောင်း၊ မုရိုးစည်တို့ဖြင့်လည်းကောင်း၊ ခရုသင်းတို့ဖြင့်လည်းကောင်း၊ ထက်စည်တို့ဖြင့် လည်းကောင်း မင်းမြတ်ကို ရွှင်စေလျက် မင်း၏ရှေ့မှ တီးမှုတ်ကုန်၏။ အဘယ်မင်း၏ စည်စောင်းငြင်းတို့နည်း"ဟုမေး၏။

"အဖရှင်ရသေ့။ ကြီးစွာသောလျှပ်စစ်နှင့်တူကုန်သော အဆင်းလည်းရှိသော ရွှေသင်းကျပ်နှင့် မျက်နှာလည်း ထွန်းပ၏။ငယ်လည်းငယ်၏။ တောင့်လည်းလွယ်၏။ အသရေဖြင့် ထွန်းပလျက်လာ၏။ အဘယ်မည်သော သူနည်း။

"ရှားမီးကျီးနှင့်တူသော ဖိုဒ္ဓိရှိသောရွှေကဲ့သို့ မျက်နှာသည် ထွန်းပ၏။အသရေဖြင့် ထွန်းပလျက် လာသည်ကား အဘယ်သူနည်း။

"ဇမ္ဗူရာဇ်ရွှေဖြင့် ပြီးထသော အချင်းနှင့် တကွဖြစ်သော ထီးဖြူသည်ကား နှလုံးမွေ့လျော်ဖွယ်ရှိ၏။ နေရောင်ကိုလည်း ကာ၏။ အဘယ်မည်သော မင်း၏ ထီးဖြူနည်း။ အသရေဖြင့်ထွန်းပလျက် လာသည်ကား အဘယ်သူနည်း။ လက်ဖြင့်စွဲသော မြတ်သော စာမရီမည်သောယပ်သည် မြတ်သောပညာနှင့်ပြည့်စုံသောသူ၏ နံပါး ၂ ဘက်၌ လည်းကောင်း၊ ဦးခေါင်း၌ လည်းကောင်း၊ အထက်အထက်၌ လည်းကောင်း တင့်တယ်၏။ အဘယ်မည်သောသူနည်း။

"ရတနာတို့ဖြင့် ဆန်းကြယ်သော နူးညံ့သော ရွှေ, ပတ္တမြားအရိုးတပ်သော ဥဒေါင်းယင်ယပ် စသည် တို့ကား မျက်နှာ၏အပါး ၂ ဖက်တို့၌ သွားကုန်၏။ အဘယ်မည်သောသူနည်း။

"ရှားမီးကျီးအဆင်းကဲ့သို့ ထွန်းပသောဖိုဒ္ဓိ ဦးသစ်သော ရွှေကဲ့သို့ ထွန်းပသောအသံသာသော ထိုနားတောင်းတို့ကား ပါး ၂ ဖက်တို့၌ တင့်တယ်ကုန်၏။ အဘယ်မည်သော သူနည်း။

"နူးညံ့သော, မည်းသော ဆံရောင်တို့ကား လေသည်ခတ်သည်ရှိသော် တိမ်တိုက်မှတက်သော လျှပ်စစ်ကဲ့သို့ နဖူးပြင်ကို တင့်တယ်စေကုန်၏။ အဘယ်မည်သော သူနည်း။

"ဤမျက်စိတို့ကား အလျားရှည်ကုန်၏။ ကြီးလည်း ကြီးကုန်၏။ ခံတွင်းဝ၌ဖြစ်သော, စင်ကြယ်စွာ မြတ်သော ခရုသင်းနှင့်တူသော, မျောက်လေ့ကူး အမှုန့်နှင့်တူသော ဤသွားတို့ကား စကားဆိုသည်ရှိသော် တင့်တယ်စေကုန်၏။အဘယ်မည်သော သူနည်း။

"ချမ်းသာစွာ တည်ကုန်ထသော ခြေ,လက်တို့ကား ချိပ်ရည်နှင့်တူ၏။ အဘယ်သူ၏ ခြေလက်နည်း။

"ထိုသူကား ကျီးအာသီးမှည့်နှင့်ရှူသော နှုတ်သီးနှင့်လည်း ပြည့်စုံ၏။ နေလုလင်ကဲ့သို့ တင့်တယ်၏။ အဘယ်သူနည်း။

"ဆီးနှင်းနှင့်စပ်သော ဟိမဝန္တာ၌ ပြင်းစွာပွင့်သောအင်ကြင်းပင်ကဲ့သို့ ထိုသူသည် ပုဆိုးဖြူဝတ်သော အသုရာကိုအောင်သော သိကြားမင်းကဲ့သို့ တင့်တယ်၏။ အဘယ်သူနည်း။

"ရွှေသားတို့ဖြင့်ပြည့်သော ပတ္တမြားအဆောင်နှင့် ဆန်းကြယ်သောသန်လျက်ကိုကိုင်လျက် ထိုသူသည် ပရိသတ်အတွင်းသို့ဝင်၍ ပခုံးမှ ချွတ်၏။ အဘယ်မည်သော သူနည်း။

"ရွှေခတ်သော ဆန်းကြွယ်စွာထသော ကောင်းစွာပြုထသော ဆန်းကြယ်စွာ ချုပ်သောခြေနင်းတို့ကို ထိုသူသည် အရှင်အား ရှိခိုးခြင်းကိုပြု၍ ခြေမှချွတ်၏။ အဘယ်သူနည်း"

ဤသို့ သားဖြစ်သော သာဂရဗြဟ္မဒတ်မင်းနှင့်တွေ့၍ တန်ခိုးအဘိညာဉ်နှင့်ပြည့်စုံသော အရှင်ရသေ့သည်

"ချစ်သား ဗြဟ္မဒတ်။ ဤသူတို့သည် ဓတရဋ္ဌနဂါးမင်း၏ သားတို့တည်း။ သင်၏တူဖြစ်သော နဂါးမင်းတည်း" ဟု ကြားလိုကား'ဓတရဋ္ဌာ'စသော ဂါထာကိုမိန့်၏။ ထိုဂါထာ၏ အဓိပ္ပာယ်ကား–

"ချစ်သား ဗြဟ္မဒတ်။ ထိုနဂါးတို့သည်ကား ဓတရဋ္ဌနဂါးမင်း၏ သားတို့တည်း။ တန်ခိုးကြီး၏။ အခြံအရံများ၏။ ငါ၏သမီး သမုဒ္ဒဇာသား ချည်းတည်း။ နဂါးတို့ကား တန်ခိုးကြီးကုန်၏"

ဤသို့ ထိုသူတို့ စကားဆိုစဉ်ပင်လျှင် နဂါးပရိသတ်တို့သည် ရောက်ကုန်၏။ ရှင်ရသေ့ကိုရှိခိုး၍ တင့်အပ်သောအရပ်၌ နေကုန်၏။

သမီး သမုဒ္ဒဇာသည်လည်း အဖကို ရှိခိုးလျက် ငို၍၊ နဂါးပရိသတ်နှင့်တကွ နဂါးပြည်သို့ သွားလေ၏။ သာဂရ ဗြဟ္မဒတ်မင်းသည် အဖထံတွင် ၁ ရက်, ၂ရက် နေ၍ ဗာရာဏသီပြည်သို့ ပြန်လေ၏။ သမုဒ္ဒဇာလည်း နဂါးပြည်၌ပင် သေလေ၏။

သားတော်ဘူရိဒတ် ဘုရားလောင်းသည်လည်း အသက်ထက်ဆုံး သီလကိုစောင့်လျက် ဥပုသ်သုံးလျက် နေ၏။ အသက်ကုန်သောအခါ၌ ပရိသတ်နှင့်တကွ နတ်ပြည်၌ ဖြစ်လေ၏။

မြတ်စွာဘုရားသည် ဤတရားတော်ကို ဟော၍ "ဥပါသကာတို့။ ရှေးပညာရှိတို့သည် နဂါးဖြစ်သော်လည်း ဤသို့သဘောရှိသော နဂါးတို့၏စည်းစိမ်ကိုစွန့်၍ ဥပုသ်ဆောက်တည်သောအမှုကို ပြုကုန်၏" ဟု ရှေး၌ ဖြစ်ဖူးသောဇာတ်တော်ကို ပေါင်းတော်မူ၏။

"ထိုအခါ မယ်တော်သည်, ခမည်းတော်တို့သည် ယခုအခါ မြတ်သောမင်းမျိုး၌ ဖြစ်ကုန်၏။ မုဆိုးပုဏ္ဏားသည် ဒေဝဒတ် ဖြစ်လာ၏။ သား သောမဒတ်သည်ကား အာနန္ဒာ ဖြစ်လာ၏။ မိထွေးတော်သမီး အဇမုခီသည်ကား ဥပ္ပလဝဏ် ဖြစ်လာ၏။ နောင်တော် သုဒဿနသည်ကား သာရိပုတ္တရာဖြစ်လာ၏။ သုဘောဂသည်ကား မောဂ္ဂလာန် ဖြစ်လာ၏။ ကာဏာရိဋ္ဌသည်ကား သုနက္ခတ် ဖြစ်လာ၏။ ဘူရိဒတ် နဂါးမင်းသည်ကား ခပ်သိမ်းသောတရားတို့ကို သူတစ်ပါးမပြ မိမိအလိုလို ကိုယ်တော်တိုင်ထိုးထွင်း၍ သိတတ်သော ငါသာလျှင် လောက၌ အတုမရှိ ထင်ပေါ်ကျော်စောသောဘုရား ဖြစ်လာ၏"

ဟု ဇာတ်တော်ကို ပေါင်း၍ သစ္စာ ၄ပါးကို ပြတော်မူ၏။

## နိဂုံး

သာသနာတော်၊ နှစ်ထောင်ကျော်၍၊ စွန်းပေါ်သုံးရာ၊ နှစ်ဆယ်သာလျှင်၊ ရောက်လာသောနှစ်၊ သက္ကရာဇ်သျှာ၊ နှစ်ကောဇာမူ၊ ကောကော၊ ဗေဒစတု၊ နှစ်ဗသျှုဒ္ဓိ ၊ ရွက်နုလန်းလန်း၊နွယ်ပန်းညွန့်ရှင်၊ ဂေါ်သဇင်နှင့်၊ ခွာပင်ကျေးဖူး၊ သင်းပျံ့ကြူးလျက်၊ အထူးပျော်မှန်၊ မြောက်လေပြန်၍ ၊ ဝဿန်ကျော်ပြောင်း၊ ဆောင်းသို့အဝင်၊ ရာသီခွင်ဝယ်၊ စက်ရှင်နေမင်း၊ ဗြိစ္ဆာချဉ်း၍၊ လမင်းမေထုန်၊ သင့်ကြုံခါကျော်၊ လနတ်တော်ဝယ်၊ ပုဏ္ဏော်ပြည့်ရွှေ့၊ နှစ်ရက်နေ့တွင်၊ ချမ်းမြေ့ဇီဝါ၊ ဤအခါ၌ မင်္ဂလာလျှံမြူး၊ ရွှာမင်းပူး၏၊နောက်စူးဒိသာ၊ ရပ်မျက်နှာဝယ်၊ လေသာတိုက်ကျော်၊ ဆရာတော်၏၊ ဉာဏ်တော်ဖလမ်၊ ဆုကြီးပန်သား၊ နန္ဒမေဓာ၊ သညာပျံ့ဆွတ်၊ မထေရ်မြတ်ကို၊ ဘူရိဒတ်စစ်၊ သားရင်နှစ်ကို၊ ဖော်လှစ်ဓိပ္ပာယ်၊ သိသာလွယ်အောင်၊ မကျယ်မကျဉ်း၊ မလျဉ်းမပါး၊ စကားမြန်မာ၊ ညီညွတ်စွာနှင့် သမ္မာစောင်ယူ၊ ရှင်လူတကာ၊ မှတ်စိမ့်ငှာလျှင်၊ ထုတ်ပါမည်ကြောင်း၊ လျှံတောင်းပဏာမျှဉ်က္ကံသဟု၊ နာမမြုကေ၊ သာမဏေလျှင်၊ ရိုသေဝပ်တွား၊ ပန်သောအားဖြင့်၊ အများမှတ်မူ၊ ဇာတ်ဝတ္ထုကို၊ လက်နုသွန်စိုက်၊ ယဉ်သိုက်မြိုက်အောင်၊ ပုရပိုက်လက္ခံ၊ မလျှံမယွင်း၊ မကြွင်းစေချင်၊ ပေထက်တင်၍၊ အောင်မြင်ပြီးလတ်၊ ကမ္ဗည်းသတ်သည်၊ ကောင်းမြတ်မင်္ဂဖိုလ်၊ မညိုလွယ်ကူ၊ ဆွတ်ယူအသင့် ပန်လိုသော်။ ။

**ဘူရိဒတ် ဇာတ်တော်ကြီး ပြီး၏။**

'န တာဝ ဘာရော ပရိပ္ပုရော၊ အလာတဿ မဟီပတိ။
အာစိနာတိစ တံပါပံ၊ ယေန ဂစ္ဆတိ ဒုဂ္ဂတိံ။ ။
'ပုဗ္ဗေဝဿ ကတံပုညံ၊ အလာတဿ မဟီပတိ။
တဿေဝ ဒေဝ နိဿန္ဒော၊ ယဉ္စ သော လဘတေ ဣဓ။ ။
'ခီယ တေစဿ တံပုညံ၊ တထာ ဟိ အဂုဏေ ရတော။
ဥဇုမဂ္ဂံ အဝဟာယ၊ ကုမဂ္ဂံ အနုဓာဝတိ။ ။
'တုလာ ယထာ ပဂ္ဂဟိတာ၊ ဩဟိတေ တုလမဏ္ဍလေ။
ဥန္နမေတိ တုလာသီသံ၊ ဘာရေ ဩရောပိတေ သတိ။ ။
'ဧဝမေဝ နရော ပုညံ၊ ထောကံထောကံ ပိ အာစိနံ။
သဂ္ဂါဓိမာနော ဒါသောဝ၊ ဗီဇကော သာတဝေ ရတော။ ။
'ယမဇ္ဇ ဗီဇကော ဒါသော၊ ဒုက္ခံ ပဿတိ အတ္တနိ။
ပုဗ္ဗေဝဿ ကတံ ပါပံ၊ တမေသော ပတိသေဝတိ။ ။
'ခီယတေစဿ တံ ပါပံ၊ တထာဟိ ဝိနယေရတော။
ကဿပဉ္စ သမာ ပဇ္ဇ၊ မာ ဟေ ဝုပ္ပထ မာဂမာ။ ။'ဟူသော ၁၀ ဂါထာဖြင့်ဆိုၡ၏။ အဓိပ္ပာယ်ကား-

"အရှင်မင်းကြီး။ သင့်အား ဥပမာ ဆောင်ဦးအံ့။ သင်၏အကျိုးစီးပွားကို ပြုတတ်သော ဥပမာ၏အနက်ကို ဤလူ့ရွာ၌ အချို့သောပညာရှိတို့သည် သိကုန်၏။ ဥပမာကား အရှင်မင်းကြီး။ ကုန်သည်တို့၏လှေသည် အနည်းငယ် အနည်းငယ်သောဝန်ကို ဆည်းပူး၍တင်သဖြင့် ကြာမြင့်လတ်သော် လေးသောအဖြစ်သို့ ရောက်၏။ ထို ဝန်လေးစွာသောလှေသည် ဝန်ကို ကောင်းစွာယူ၍ မဟာသမုဒ္ဒရာ၌ နစ်လေ၏။ ထို့အတူလျှင် အကြင် သူမိုက်တို့သည် မကောင်းမှုကို အတန်ငယ်အတန်ငယ်ဆည်းပူး၍ မကောင်းမှုများလတ်သော် ထို မကောင်းမှုတည်း ဟူသောဝန်ကို ဆောင်၍ ငရဲ၌ နစ်ရလေ၏။ မြေကြီးသေဌ်နင်းဖြစ်တော်မူသော ခမည်းတော်မင်းကြီး။ အပါယ်ဒုဂ္ဂတိသို့ လားရခြင်းအကြောင်းဖြစ်သော မကောင်းမှုကိုဆည်းပူးသော အလာတအမတ်အား အကြင်မျှလောက် မကောင်းမှုတည်းဟူသောဝန်သည် မပြည့်မလေးသေး။ ထိုမျှလောက်ကာလပတ်လုံး ထို အလာတအမတ်အား ရှေး၌ပြုအပ်သော ကောင်းမှုကြောင့် ဤကိုယ်အဖြစ်ကို ရ၏။ ထိုကောင်းမှု ကုန်လတ်သော် ကျေးဇူးမရှိသော မကောင်းမှု၌မွေ့လျော်သော အလာတအမတ်သည် ဖြောင့်သောခရီးဖြစ်သော သုဂတိလမ်းကို ပယ်စွန့်၍ ခရီးကောက်ဖြစ်သော အပါယ်ခရီးသို့ အစဉ်အတိုင်း ပြေးရလိမ့်သတည်း။

"ဥပမာကား-မြေကြီးသေဌ်နင်းဖြစ်တော်မူသော ခမည်းတော်မင်းကြီး။ လူတို့သည် ချိန်အပ်သောချိန်ခွင်၌ ဝန်ကိုချသည်ရှိသော် ချိန်ပေါင်သည် အထက်သို့တက်၍ စောင်းထောင်နေသကဲ့သို့။ ဤအတူ လူသူတော်ကောင်း ဖြစ်သော ဗီဇကသည် အတန်ငယ်အတန်ငယ် ကောင်းမှုကိုဆည်းပူး၍ နတ်ပြည်ခရီးဖြစ်သော ကောင်းမှုသာလျှင် မွေ့လျော်၏။ ယခုကား ထိုဗီဇကသည် ရှေးမကောင်းမှုကြောင့် ကျွန်အဖြစ်ကို ရ၏။ ထို မကောင်းမှု၏အကျိုး ကုန်သည်ရှိသော် ကောင်းမှု၌မွေ့လျော်သော ဗီဇကသည် တက္ကတွန်းကဿပကို မကပ်မူ၍ ကောင်းသောအယူကို ယူသည်ရှိသော် သုဂတိသို့ လားရလိမ့်သတည်း။"ဟု ဆို၏။

တစ်ဖန် သူမိုက်ကိုမှီဝဲဆည်းကပ်ခြင်း၌ အပြစ်ကို လည်းကောင်း, သူတော်ကောင်းတို့ကို မှီဝဲခြင်း၌ အကျိုးကိုလည်း ပြလိုသည်ဖြစ်၍–

'ယံ ယံ ဟိ ရာဇဘဇတိ၊ သန္တံ ဝါ ယဒိ ဝါ အသန္တံ။
သီလဝန္တံ နိသီလံ ဝါ၊ ဝသံ တဿေဝ ဂစ္ဆတိ။ ။
'ယာဒိသံ ကုရုတေ မိတ္တံ၊ ယာဒိသံ ဥပသေဝတိ။
သောပိ တာဒိသကော ဟောတိ၊ သဟဝါသောဟိ တာဒိသော။ ။
'သေဝမာနော သေဝမာနံ၊ သမ္ဖုဋ္ဌော သမ္ဖုသံပရံ။
သရော ဒိဒ္ဓေါ ကလာပံဝ၊ အလိတ္တ မုပလိမ္ပတိ။ ။
'ဥပလိမ္ပ ဘယာဓီရော၊ နေဝ ပါပသခေါသိယာ။
ပူတိမစ္ဆံ ကုသဂ္ဂေန၊ ယော နရော ဥပနယှတိ။ ။
'ကုသာပိ ပူတိ ဝါယန္တိ၊ ဧဝံ ဗာလူပသေဝနာ။
တဂရဉ္စ ပလာသေန၊ ယော နရော ဥပနယှတိ။ ။
'ပတ္တာပိ သုရဘိ ဝါယန္တိ၊ ဧဝံဓီ ရူပသေဝနာ။
တသ္မာ ပတ္တပုဋဿေဝ၊ ဉတွာ သမ္ပာက မတ္တနော။ ။
'အသန္တေ နုပသေဝေယျ၊ သန္တေ သေဝေယျ ပဏ္ဍိတော။
အသန္တော နိရယံ နေန္တိ၊ သန္တော ပါပေန္တိ သုဂ္ဂတိံ။ ။'ဟူသော ၆ ဂါထာတို့ဖြင့် ဆို၏။ အဓိပ္ပာယ်ကား–

"ခမည်းတော်မင်းကြီး။ အကြင်သူသည် သူတော်ကောင်းလည်း ဖြစ်စေ, သူတော်မဟုတ် သူယုတ်မာလည်း ဖြစ်စေ, သီလရှိသည်မူလည်း ဖြစ်စေ, သီလမရှိသည်မူလည်း ဖြစ်စေ ထိုသူတို့ကို ဆည်းကပ်သောသူသည် ထိုသူတို့၏ အလိုသို့သာ လိုက်ရလေကုန်၏။ အရှင်မင်းကြီး။ အကြင်သူသည် အဆွေခင်ပွန်းကို အလေးအမြတ်ပြု၍ ဆည်းကပ်၏။ ထိုသူသည် ထို မိမိမှီဝဲသော အဆွေခင်ပွန်းနှင့် သွားခြင်း, စားခြင်း အစရှိသောအမူအရာ တူသည်သာလျှင် ဖြစ်၏။ အရှင်မင်းကြီး။ မကောင်းသောအယူ, မကောင်းသောအကျင့်ရှိသော သူယုတ်နှင့် အကြင်သူသည် ပေါင်းဖော်အံ့။ ထိုသူယုတ်၏အကျင့်သည် ထိုသူ၌ လိမ်းကျံကပ်ငြိလေ၏။ ဥပမာကား အန္တရာယ်ကိုပြုတတ်သော ဆိပ်လူးမြား၏တည်ရာဖြစ်သော မြားတောင့်ကဲ့သို့တည်း။ ထို့ကြောင့် ပညာရှိသော သူသည် မကောင်းမှုလိမ်းကျံအံ့သည်မှ ကြောက်သောကြောင့် ယုတ်မာသောအဆွေခင်ပွန်းကို ဝေးစွာကြဉ်ရာ၏။

"အရှင်မင်းကြီး။ နာတော်မူဦးလော့။ အကြင်သူသည် ငါးပုပ်ကို သမန်းမြက်ဖြင့် ထုပ်၏။ ထိုသမန်းမြက်သည်လည်း အပုပ်အတိသာ လှိုင်၏။ ထို့အတူ သူမိုက်နှင့်ပေါင်းဖော်သောသူသည် မိုက်သည်သာ ဖြစ်၏။ အရှင်မင်းကြီး။ အကြင်သူသည် တောင်ဇလပ်စသောပန်းတို့ကို ပေါက်ရွက်ဖြင့် ထုပ်၏။ ထိုပေါက်ရွက်သည် မွှေးသောအနံ့ဖြင့်သာ လှိုင်၏။ ထို့အတူ ပညာရှိနှင့် ပေါင်းဖော်ရသောသူသည် ပညာရှိသည်သာ တည်း။ ထို့ကြောင့် ပေါက်ရွက်ဖြင့်ထုပ်သော ပန်းနံ့ကဲ့သို့ မိမိ၏အကျိုးစီးပွားကို သိသောပညာရှိသည် သူတော်ကောင်းမဟုတ်သောသူကို မမှီဝဲရာ။ သူတော်ကောင်းကိုသာ မှီဝဲရာ၏။ သူတော်ကောင်းမဟုတ်သော သူသည် ငရဲသို့သာလျှင် ဆောင်တတ်၏။ သူတော်ကောင်းသည် နတ်ပြည်သို့ ရောက်စေတတ်၏။"

## ၆။ ရုဇာမင်းသမီး အတိတ်ကို ဆောင်ခန်း

ဤသို့ ရုဇာမင်းသမီးသည် ခမည်းတော်အား ၆ ဂါထာတို့ဖြင့် တရားဟောပြီး၍ လွန်လေပြီးသောအခါ၌ မိမိခံခဲ့ရဖူးသော ဆင်းရဲကိုပြလိုသည်ဖြစ်၍–

'အဟံ ဝိဇာတိယော သတ္တ၊ သရေ သံသရိတတ္တနော။
အနာဂတေပိ သတ္တေဝ၊ ယာ ဂမိဿံ ဣတောစုတာ။ ။
'ယာ မေ သာ သတ္တမီဇာတိ၊ အဟု ပုဗ္ဗေ ဇနာဓိပ။
ကမ္မာရ ပုတ္တော မဂဓေသု၊ အဟုရာဇ ဂဟေ ပုရေ။ ။
'ပါပံ သဟာယ မာဂမ္မ၊ ဗဟုပါပံ ကတံမယာ။
ပရဒါရဿ ပေါထေန္တာ၊ စရိမှာ အမရာဝိယ။ ။
'တံ ကမ္မံ နိဟိတံ အဋ္ဌာ၊ ဘသ္မာ ဆန္နောဝ ပါဝကော။
အထ အညေဟိ ကမ္မေဟိ၊ အဇာယိ ဝံသဘူမိယံ။ ။
'ကောသမ္ဗိယံ သေဋ္ဌိကုလေ၊ ဣဒ္ဓေ ဖီတေ မဟဒ္ဓနေ။
ဧကပုတ္တော မဟာရာဇ၊ နိစ္စံ သက္ကတ ပူဇိတော။ ။
'တတ္ထမိတ္တံ အသေဝိဿံ၊ သဟာယံ သာတဝေရတံ။
ပဏ္ဍိတံ သုတသမ္ပန္နံ၊ သော မံ အတ္ထေ နိဝေသယိ။ ။
'စာတုဒ္ဒသိံ ပဉ္စဒ္ဒသိံ၊ ဗဟုရတ္တိ မုပါဝသိံ။
တံ ကမ္မံ နိဟိတံ အဋ္ဌာ၊ နိဓိဝ ဥဒကန္တိကေ။ ။
'အထ ပါပါန ကမ္မာနံ၊ ယမေတံ မဂဓေ ကတံ။
ဖလံ ပရိယာဂမံ ပစ္ဆာ၊ ဘုတွာ ဒုဋ္ဌဝိသံ ယထာ။ ။
'တတော စုတာဟံ ဝေဒေဟ၊ ရောရုဝေ နိရယေ စိရံ။
သကမ္မုနာ အပစ္စိဿံ၊ တံသရံ နသုခံ လဘေ။ ။
'ဗဟု ဝဿဂဏေ တတ္ထ၊ ခေပယိတွာ ဗဟုံ ဒုခံ။
ဘိန္နာဂတေ အဟုံရာဇ၊ ဆကလော ဥဒ္ဓတပ္ဖလော။ ။
'သာတပုတ္တာ မယာ ဝုဠ္ဍာ၊ ပိဋ္ဌိယာ စ ရထေနစ။
တဿ ကမ္မဿ နိဿန္ဒော၊ ပရ ဒါရ ဂမနဿမေ။ ။
'တတော စုတာဟံ ဝေဒေဟ၊ ကပိ အာသိ ဗြဟာဝနေ။
နိလုဉ္စိတ ဖလောယေဝ၊ ယူထပေန ပဂဗ္ဘိနာ။ ။
'တဿ ကမ္မဿ နိဿန္ဒော၊ ပရဒါရဂမနဿ မေ။
တတော စုတာဟံ ဝေဒေဟ၊ ဒဿနေသု ပသု အဟုံ။ ။
'နိလုဉ္စိတော ဇဝေါ ဘဒြော၊ ယောဂ္ဂံ ဝူဠှံ စိရံ မယာ။
တဿ ကမ္မဿ နိဿန္ဒော၊ ပရ ဒါရ ဂမနဿမေ။ ။

'တတော စုတာဟံ ဝေဒေဟ၊ ဝဇ္ဇီ သု ကုလမာဂတာ။
နေဝိတ္တိ နပုမာ အာသိ၊ မနုဿတ္တေသု ဒုလ္လဘော။
တဿ ကမ္မဿ နိဿန္ဒော၊ ပရဒါရ ဂမနဿ မေ။ ။
'တတော စုတာဟံ ဝေဒေဟ၊ အဇာယိ နန္ဒနေ ဝနေ။ ။
ဘဝနေ တာဝတိံသာဟံ၊ အစ္ဆရာ ဝရဝဏ္ဏိနီ။ ။
'ဝိစိတြ ဝတ္ထာဘရဏာ၊ အာမုတ္တ မဏိကုဏ္ဍလာ။
ကုသလာ နစ္စဂီတဿ၊ သက္ကဿ ပါရိစာရိကာ။ ။
'တတ္ထ ဌိတာဟံ ဝေဒေဟ၊ သရာမိ ဇာတိယော ဣမာ။
အနာဂတေပိ သတ္တေဝ၊ ယာဂမိဿံ ဣတောစုတာ။ ။
'ပရိယာဂတံ ကုသလံ၊ ယံ မေ ကောသမ္ဗိယံ ကတံ။
ဒေဝေ စေဝ မနုဿေစ၊ သန္ဓာဝိဿံ ဣတော စုတာ။ ။
'သတ္တ ဇစ္စာ မဟာရာဇ၊ နိစ္စံ သက္ကတပူဇိတာ။
ဣတ္ထိဘာဝါ နမုစ္စိဿံ၊ ဆဋ္ဌာနိ ဂတိယော ဣမာ။ ။
'သတ္တမီစ ဂတိဒေဝ၊ ဒေဝပုတ္တော မဟိဒ္ဓိကော။
ပုမာ ဒေဝေါ ဘဝိဿာမိ၊ ဒေဝကာယသ္မိ မုတ္တမော။ ။
'အဇ္ဇာပိ သန္တာန မယံ၊ မာလံ ဂန္ထေန္တိ နန္ဒနေ။
ဒေဝပုတ္တော ဇဝေါနာမ၊ ယော မေ မာလံ ပဋိစ္ဆတိ။ ။
'မုဟုတ္တော ဝိယ သောဠဿော၊ ဣမဝဿာနိ သောဠသ။
ရတ္တိဒိဝေစ သောဠဿော၊ မာနုသိံ သရဒေါသတံ။ ။
'ဣတိ ကမ္မာနိ အန္ဒေန္တိ အသင်္ချေယျေပိ ဇာတိယော။
ကလျာဏံ ယဒိဝါ ပါပံ၊ နဟိကမ္မံ ဝိနဿတိ။ ။'ဟူသော ၂၃ ဂါထာတို့ဖြင့် ဆိုပြန်၏။ အဓိပ္ပာယ်ကား–

"အရှင်မင်းကြီး။ အကျွန်ုပ်သည် တာဝတိံသာ၌ သိကြားမင်းအလုပ်အကျွေး နတ်သမီးဖြစ်သောအခါ လွန်လေပြီးသော ၇ ဖြစ်, လာလတ္တံ့သော ၇ ဖြစ်အားဖြင့် ၁၄ ဖြစ်တို့ကို မြင်၏။ အရှင်မင်းကြီး။ ရှေးသံသရာ၌ ကျင်လည်သောအခါ အကျွန်ုပ်သည် ရာဇဂြိုဟ်ပြည်၌ ရွှေပန်းထိမ်သည်၏သား ဖြစ်ဖူး၏။ ထိုရွှေပန်းထိမ်သည်၏ သားဖြစ်သောအခါ မကောင်းသောအဆွေခင်ပွန်းနှင့် ပေါင်းဖော်မိ၍ များစွာသောမကောင်းမှုတို့ကို ပြုမိ၏။ သူတစ်ပါးတို့၏မယားကို အနိုင်အထက်ခိုးယူ၍ မသေဘဲနေရမည်ကဲ့သို့ မိစ္ဆာစာရကို ကျင့်မိ၏။ ထိုမကောင်းမှုသည် အခြားမဲ့သောဘဝ၌ အကျိုးမပေးမူ၍ ပြာဖြင့်ဖုံးလွှမ်းအပ်သော မီးကဲ့သို့ တည်၏။

"ထိုရွှေပန်းထိမ်သည်၏ သားအဖြစ်မှ စုတေလတ်သော် တစ်ပါးသောကောင်းမှုကြောင့် ဝံသတိုင်း ကောသမ္ဗီပြည်တွင် ကြွယ်ဝလှစွာသောသူဌေးအမျိုး၌ ဖြစ်၏။ ထို သူဌေးအမျိုး၌ အကျွန်ုပ်တစ်ယောက်တည်းသာ သားရှိသည် ဖစ်၍ သူခပ်သိမ်းတို့ပူဇော်ရာ ဖြစ်၏။ ထို ကောသမ္ဗီပြည်၌ ကုသိုလ်ကောင်းမှု၌ မွေ့လျော်သော အကြားအမြင်ရှိသော အဆွေခင်ပွန်းကောင်းကို မှီဝဲမိ၍ အကျွန်ုပ်ကို ထိုအဆွေခင်ပွန်းသည် အကျိုးစီးပွားရှိသည့်၌သာ ဆောက်တည်စေ၏။ စာတုဒ္ဒသီ ပန္နရသီဥပုသ်နေ့တို့၌ အကြိမ်များစွာ ဥပုသ်သီတင်း ဆောက်တည်ခဲ့ဖူး၏။

ထိုဘဝ၌ပြုအပ်သော ကောင်းမှုသည် ရေလျှင်အဆုံးရှိသောတွင်း၌ မြှုပ်အပ်သောရွှေအိုးကဲ့သို့ အခြားမဲ့သောဘဝ၌ အကျိုးမပေးမူ၍ တည်၏။

"ထိုသူဌေးအဖြစ်မှ စုတေ့မနေ သေလွန်လတ်သော် ရွှေပန်းထိမ်သည်၏အဖြစ်၌ပြုအပ်သော မကောင်းမှုသည် အခွင့်ရ၍ ထိုရွှေပန်းထိမ်သည်၏အဖြစ်၌ပြုအပ်သော ပရဒါရ မကောင်းမှုကြောင့် ရောရုဝငရဲ၌ ကြာမြင့်စွာကာလပတ်လုံး ခံရလေ၏။ ထို ငရဲ၌ခံရသောအဖြစ်ကို အောက်မေ့မိသောအကျွန်ုပ်သည် ပြင်းစွာသော ကြောက်လန့်ခြင်းဖြစ်၍ တစ်ခဏမျှ ချမ်းသာရာကို မရနိုင်။

"ထို ရောရုဝငရဲ၌ နှစ်လရှည်စွာခံပြီး၍ ငရဲမှစုတေလတ်သော် ဘိန္နာဂတပြည်၌ ဝှေးစေ့ထုတ်သော ဆိတ် ဖြစ်ပြန်၏။ ထိုဆိတ်သည် အားနှင့်ပြည့်စုံသည်ဖြစ်၍ ကျောက်ကုန်းဖြင့် လည်းကောင်း, ရထားဖြင့် လည်းကောင်း လေးစွာသောဝန်ကို ရွက်ဆောင်ရ၏။ ထို ဝှေးစေ့ထုတ်သောဆိတ် ဖြစ်ရခြင်းသည်ကား သူ့မယားကို ပြစ်မှားခဲ့ဖူးသော မကောင်းမှု၏အကျိုးလျှင်တည်း။

"ဆိတ်အဖြစ်မှ စုတေမနေ သေလွန်ပြန်လတ်သော် တောကြီးစွာ၌ မျောက်အမျိုး၌ ပဋိသန္ဓေ နေရ၏။ ထိုမျောက်အမျိုး၌ ဖွားစကပင်လျှင် အမိမျောက်မသည် အဖဖြစ်သောမျောက်မင်းအား သားကိုပြပေ၏။ ထိုမျောက်မင်းသည် 'ငါ့သားကို ဆောင်ခဲ့'ဆို၍ ပြင်းစွာဖက်ပြီးလျှင် မြည်တမ်းစဉ်ပင် မျောက်၏ဝှေးစေ့ကို သွားဖြင့်ကိုက်၍ ထုတ်ဘိ၏။ ထိုသို့ခံရခြင်းသည်ကား ရွှေပန်းထိမ်သည်သား ဖြစ်သောအခါ၌ သူတစ်ပါးမယားကို ပြစ်မှားခဲ့ဖူးသော မကောင်းမှုအကျိုးဆက်တည်း။

"အရှင်မင်းကြီး။ အကျွန်ုပ်သည် ထိုမျောက်အဖြစ်မှ စုတေမနေ သေလွန်လတ်သော် ဒသနတိုင်း၌ ဝှေးစေ့ထုတ်အပ်သော နွားလား ဖြစ်ပြန်၏။ ထို နွားလားဖြစ်ခြင်းသည်လည်း သူတစ်ပါးတို့၏မယားကို ပြစ်မှား ခဲ့ဖူးသော မကောင်းမှုအကျိုးဆက်တည်း။

"အရှင်မင်းကြီး။ အကျွန်ုပ်သည် ထိုနွားလားအဖြစ်မှ စုတေမနေ သေလွန်လတ်သော် ဝဇ္ဇိတိုင်းတွင် ရွာသူကြီးအမျိုး၌ ဖြစ်ပြန်၏။ ထိုအမျိုး၌ ရခဲလှစွာသော လူ၏အဖြစ်ကို ရပါသော်လည်း မိန်းမလည်းမဟုတ် ယောကျ်ားလည်းမဟုတ် နပုန်းပဏ္ဍုက် ဖြစ်လာ၏။ ထိုသို့ နပုန်းပဏ္ဍုက် ဖြစ်လာရခြင်းသည်ကား သူတစ်ပါး မယားကို ပြစ်မှားခဲ့ဖူးသော မကောင်းမှုအကျိုးဆက်တည်း။

"အရှင်မင်းကြီး။ အကျွန်ုပ်သည် ထို နပုန်းပဏ္ဍုက်အဖြစ်မှ စုတေမနေ သေလွန်လတ်သော် တာဝတိံသာနတ်ပြည် နန္ဒဝန်ဥယျာဉ်၌ နှစ်သက်ဖွယ်သောအဆင်းနှင့် ပြည့်စုံစွာ ဆန်းကြယ်လှစွာသော အဝတ်တန်ဆာ ပတ္တမြားနားတောင်း ရွှေစည်ပေါင်းတို့ဖြင့်တန်ဆာဆင်လျက် ကခြင်း,သီခြင်း၌ လိမ္မာစွာသော သိကြားမင်း၏အလုပ်အကျွေး နတ်သမီး ဖြစ်လာ၏။ ထို နတ်သမီးအဖြစ်၌တည်သော အကျွန်ုပ်တို့သည် သေလွန်လေပြီးသော ၇ ဖြစ်ကို လည်းကောင်း, လာလတ္တံ့သော ၇ ဖြစ်ကို လည်းကောင်း ကြံအောက်မေ့သဖြင့် မြင်၏။ အရှင်မင်းကြီး။ ထို နတ်သမီးအဖြစ်နှင့်တကွသော နောက် ၇ ဖြစ်တို့သည်ကား များစွာသောချမ်းသာနှင့် ပြည့်စုံ၏။ မိန်းမအဖြစ်ကား ၆ ဖြစ်တိုင်အောင် ဖြစ်လတ္တံ့။ ၇ ဖြစ်မြောက်ကား တန်ခိုးကြီးသောနတ်သား ဖြစ်ရလတ္တံ့။ အရှင်မင်းကြီး။ နန္ဒဝန်ဥယျာဉ်၌ အကျွန်ုပ်၏အလုပ်အကျွေးဖြစ်သော နတ်သမီးတို့သည် ယနေ့တိုင်အောင်လည်း အစဉ်သဖြင့် ပန်းကို ကုံးသီကုန်၏။ ဇဝနမည်သောနတ်သားသည် အကျွန်ုပ်ချသောပန်းကို ခံလင့်၏။ အရှင်မင်းကြီး။ အကျွန်ုပ်၏ ယခုကိုယ်အဖြစ်သည်ကား ၁၆ နှစ်သာ ရှိသေး၏။ ထို ၁၆နှစ်မျှကာလသည် နတ်တို့၌ တစ်ခဏ သာတည်း။ လူတို့၏အရေအတွက်အားဖြင့် အနှစ် ၁၀၀ သည် တာဝတိံသာနတ်တို့၏

နေ့အားဖြင့် တစ်နေ့ သာတည်း။ အရှင်မင်းကြီး။ ဤသို့ဆိုခဲ့ပြီးသောနည်းဖြင့် ကောင်းမှုသည် လည်းကောင်း, မကောင်းမှုသည် လည်းကောင်း ပျောက်သည်မရှိ။ အရိပ်သဖွယ်ကဲ့သို့ လိုက်ကုန်၏ဟု မှတ်တော်မူပါလော့”ဟုဆို၏။

## ၇။ ရုစာမင်းသမီးသည် ၇ ဖြစ်တို့ကို ဆင်ခြင်ခန်း

ထို ရုစာမင်းသမီး၏အတ္တုပ္ပတ္တိကို ဤသို့ သိအပ်၏။ ရုစာမင်းသမီးသည် ရှေးသိကြားမင်း၏ အလုပ်အကျွေး နတ်သမီးဖြစ်သောအခါ ‘ငါသည် ဤနတ်ပြည်သို့ အဘယ်ဘဝမှ လာသနည်း’ဟု ဆင်ခြင်လတ်သော် ဝဇ္ဇီတိုင်း ရွာသူကြီး၏အမျိုး၌ နပုန်းအဖြစ်မှလာသည်ကို မြင်၏။ ‘အဘယ်ကောင်းမှုကြောင့် ဤနတ်ပြည်၌ ဖြစ်သနည်းဟု ကြည့်လတ်သော် ကောသမ္ဗီပြည်၌ သူဌေးဖြစ်၍ အလှူသီတင်းကို ဆောက်တည်ခဲ့ဖူးသော ကောင်းမှုကြောင့်တည်းဟုမြင်၏။ အဘယ်အဖြစ်မှလာ၍ နပုန်းဖြစ်သနည်း’ဟု ဆင်ခြင်ပြန်လေသော်၊ ဝေးစေ့ထုတ်သောနွားလားအဖြစ်မှ လာသည်ကိုမြင်၏။ ‘အဘယ်အဖြစ်မှလာ၍ နွားလားဖြစ်သနည်း’ဟု ဆင်ခြင်ပြန်လတ်သော်၊ ဝေးစေ့ထုတ်သော မျောက်အမျိုးမှလာသည်ကို မြင်ပြန်၏။ ‘အဘယ်အဖြစ်မှလာ၍ မျောက်ဖြစ်လေသနည်း’ဟု ဆင်ခြင်ပြန်လတ်သော် ဘိန္နာဂတပြည်၌ ဝေးစေ့ထုတ်သော ဆိတ်အဖြစ်မှ လာသည်ကို မြင်၏။ ‘အဘယ်အဖြစ်မှလာ၍ ဆိတ်ဖြစ်သနည်း’ဟု ဆင်ခြင်ပြန်လတ်သော် ရောရုဝငရဲ၌ နှစ်လရှည်စွာခံပြီး၍ ဖြစ်လာသည်ကို မြင်လာ၏။ ထိုသို့ ငရဲ၌လည်းကောင်း, တိရစ္ဆာန်အမျိုး၌လည်းကောင်း ခံရသောဆင်းရဲကိုမြင်၍ ထိုနတ်သမီးသည် အလွန်ကြောက်လန့်ခြင်း ဖြစ်၏။ ‘ထို ရောရုဝငရဲ၌ အဘယ့်ကြောင့်ခံနေရသနည်း’ဟု နောက်ဘဝကိုအောက်မေ့လတ်သော် ကောသမ္ဗီပြည်၌ သူဌေးဖြစ်၍ ပြုဖူးလေသောကောင်းမှုကို မြင်၏။ ထိုသူဌေးအဖြစ်မှ နောက်အဖြစ်ကို ဆင်ခြင်ပြန်လတ်သော် မဂဓရဌ်တိုင်း ရာဇဂြိုလ်ပြည်၌ ရွှေပန်းထိမ်သည်ဖြစ်၍ မကောင်းသောအဆွေခင်ပွန်းနှင့် ပေါင်းဖော်မိသောကြောင့် သူတစ်ပါးမယားကို ပြစ်မှားခဲ့ဖူးသော ပရဒါရကံကိုမြင်၍ ‘ဤမကောင်းမှုအကျိုးဆက်ကြောင့် ဤသို့သောဆင်းရဲကို ငါခံရသတည်း’ဟု သိလေ၏။

ဤသို့လွန်လေပြီးသော ၇ ဖြစ်ကိုဆင်ခြင်ပြီး၍ လာလတ္တံ့သောဘဝကို တစ်ဖန် ဆင်ခြင်ပြန်၏။ ‘ငါသည် ဤနတ်သမီးအဖြစ်မှစုတေလျှင် အဘယ်၌ဖြစ်ရအံ့နည်း’ဟု ဆင်ခြင်လတ်သော်၊ ဤနတ်သမီးအဖြစ်မှ အနှစ် ၃ ကုဋေ ၆ သန်း အသက်အတိုင်းနေ၍ စုတေလတ်သော် ‘ဤတာဝတိံသာနတ်ပြည်၌ပင်လျှင် ယခုကဲ့သို့ သိကြားမင်းကိုယ်လုပ်နတ်သမီး ဖြစ်လတ္တံ့’ဟု ၂ ကြိမ်မြောက်သောအဖြစ်ကို မြင်၏။ ‘ထို ဒုတိယဘဝမှ စုတေလတ်သော် အဘယ်ဘဝ၌ ဖြစ်ရအံ့နည်း’ဟု ဆင်ခြင်ပြန်လျှင် ဤတာဝတိံသာနတ်ပြည်၌ပင် သိကြားမင်းကိုယ်လုပ်နတ်သမီး ဖြစ်အံ့သည်ကို မြင်ပြန်၏။ ထို တတိယဘဝမှ တစ်ဖန် ဆင်ခြင်ပြန်လတ်သော် ၄ ကြိမ်မြောက်ဖြစ်သော အဖြစ်၌လည်း သိကြားမင်းကိုယ်လုပ်နတ်သမီး ဖြစ်အံ့သည်ကို မြင်ပြန်၏။ ထို စတုတ္ထဘဝမှ တစ်ဖန်ဆင်ခြင်ပြန်လတ်သော် ၅ ကြိမ်မြောက်သောဘဝ၌ကား ဤတာဝတိံသာနတ်ပြည်၌

ဇဝနနတ်သား၏မိဖုရားကြီး နတ်သမီး ဖြစ်အံ့သည်ကို မြင်ပြန်၏။ ထို ပဌမဘဝမှတစ်ဖန် ဆင်ခြင်ပြန်လတ်သော် ၆ ကြိမ်မြောက်သော ဘဝ၌ကား လူ့ပြည်၌ မိထိလာပြည်ကိုအစိုးရသော အင်္ဂတိမင်းကြီး၏သမီး ရုဇာ အမည်ရှိသော မင်းသမီး ဖြစ်အံ့သည်ကို မြင်၏။ ထို ရုဇာအဖြစ်မှ ဆင်ခြင်ပြန်လတ်သော် တာဝတိံသာနတ်ပြည်၌ တန်ခိုးကြီးသော နတ်သား ဖြစ်အံ့သည်ကို မြင်၏။ ထို ၇ ကြိမ်မြောက်သောဘဝတိုင်မှ မိန်းမအဖြစ်မှ လွတ်အံ့သည်ကိုမြင်၏။

ဤသို့ ရုဇာမင်းသမီးသည် ရှေး သိကြားမင်းကိုယ်လုပ်နတ်သမီး ဖြစ်သောအခါ လွန်လေပြီးသော ၇ ဖြစ်, လာလတ္တံ့သော ၇ ဖြစ်ကို မြင်၏ဟု ရုဇာမင်းသမီးအဖြစ်၌ ရှေးအဖြစ်, နောက်အဖြစ်ကို မြင်ပြန်၍ ဤစကားကို ခမည်းတော်ဖြစ်သော အင်္ဂတိမင်းကြီးအား ဆိုပေသတည်း။

## ၈။ အထူးထူးသော ဥပမာဖြင့် ပြဆိုခန်း

ထို့ထက်အလွန် ခမည်းတော်အား တရားရှိတိုင်း ပြပြန်လိုသည်ဖြစ်၍-

'ယော ဣစ္ဆေ ပုရိသော ဟောတုံ၊ ဇာတိံ ဇာတိံ ပုနပ္ပုနံ။
ပရဒါရံ ဝိဝဇ္ဇေယျ၊ ဓောတပါဒေါဝ ကဒ္ဒမံ။ ။
'ယာ ဣစ္ဆေ ပုရိသော ဟောတုံ၊ ဇာတိံ ဇာတိံ ပုနပ္ပုနံ။
သာမိကံ အပစာယေယျ၊ ဣန္ဒံဝ ပါရိစာရိကာ။ ။
'ယော ဣစ္ဆေ ဒိဗ္ဗဘောဂဉ္စ၊ ဒိဗ္ဗမာယုံ ယသံ သုခံ။
ပါပါနိ ပရိဝဇ္ဇေယျ၊ တိဝိဓံ ဓမ္မ မာစရေ။ ။
'ကာယေန ဝါစာ မနသာ၊ အပ္ပမတ္တော ဝိစက္ခဏော။
အတ္တနော ဟောတိ အတ္ထာယ၊ ဣတ္ထီ ဝါ ယဒိ ဝါ ပုမာ။ ။
'ယေ ကေစိ မေ နရာ ဇီဝလောကေ၊ ယသဿိနော သဗ္ဗသမန္တဘောဂါ။
အသံသယံ တေဟိ ပုရေ သုစိဏ္ဏံ၊ ကမ္မဿကာသေ ပုထု သဗ္ဗသတ္တာ။ ။
'ဣင်္ယာ နုစိန္တေသိ သယံပိ ဒေဝ၊ ကုတော နိဒါနာ တေ ဣမာ ဇနိန္ဒ။
ယာ တေ ဣမာ အစ္ဆရာ သန္နိကာသာ၊ အလင်္ကတာ ကဉ္စနဇာလဆန္နာ။ ။'ဟူသော ၆ ဂါထာတို့ကို

ဆို၏။ အဓိပ္ပာယ်ကား-

"ရေမြေသဉ္စနင်းဖြစ်တော်မူသော ခမည်းတော်မင်းကြီး။ အကြင်ယောကျာ်းသည် ဖြစ်တိုင်းဖြစ်တိုင်း အဖန်တလဲလဲ ယောကျာ်းအဖြစ်ကို အလိုရှိအံ့။ ခြေဆေးပြီးသောသူသည် ရွှံ့ညွန်ကိုကြဉ်ရှောင်သကဲ့သို့ သူတစ်ပါး မယားကို မပြစ်မှားမူ၍ ဝေးစွာ ကြဉ်ရှောင်ရာ၏။ ခမည်းတော်မင်းကြီး။ အကြင်မိန်းမသည် ဖြစ်တိုင်းဖြစ်တိုင်း အဖန်တလဲလဲ ယောကျာ်းအဖြစ်ကို အလိုရှိအံ့။ မိမိကိုယ်ကို ကျွန်ကဲ့သို့ပြု၍ မိမိလင်ကို အရိုအသေပြု၍ ...ပ်ကျွေးရာ၏။ ခမည်းတော်မင်းကြီး။ အကြင်သူသည် လူ့,နတ်တို့၏ စည်းစိမ်ချမ်းသာ အခြံအရံကို အလိုရှိအံ့။

မကောင်းမှုဒုစရိုက် တို့ကိုကြဉ်၍ ကိုယ်,နှုတ်,နှလုံး ၃ ပါးကို စောင့်သုံးခြင်းဟု ဆိုအပ်သော ကုသိုလ်ကောင်းမှု သုစရိုက်တို့ကို ပွားစေရာ၏။ များစွာသော စည်းစိမ်ချမ်းသာ အခြံအရံနှင့်ပြည့်စုံကုန်သောသူတို့သည် ရှေး၌ မိမိတို့ပြုအပ်သော ကောင်းမှုသည်သာလျှင် အဆွေခင်ပွန်း ဖြစ်ကုန်၏။ အရှင်မင်းကြီး။ ကြံတော်မူဦးလော့။ အထူးထူးအဆန်းဆန်း ရှုမခန်းသောအဝတ်တန်ဆာတို့ကို ဝတ်ဆင်ကုန်လျက် ရွှေခြူကွန်ရက်တို့ဖြင့် ဖုံးလွှမ်းအပ်သော နတ်သမီးကဲ့သို့သော မိဖုရားကြီး, ကိုယ်လုပ်မောင်းမဖြစ်ကုန်သော သတို့သမီးတို့ကို အဘယ်ကြောင်းကြောင့် ငါ ရသနည်းဟု ကြံတော်မူလော့"ဟုဆို၏။

ဤသို့ ရုဇာမင်းသမီးသည် ခမည်းတော်အား နံနက်ကသည် ညဥ့် ၃ ယံပတ်လုံး တရားဟောလျက် "အရှင်မင်းကြီး။ အချည်းနှီးသော မိစ္ဆာဒိဋ္ဌိ တက္ကတွန်းစကားကို ယူတော်မမူလင့်။ ဤ ပစ္စုပ္ပန်လောက သည်လည်း ရှိ၏။ တမလွန်လောကသည်လည်း ရှိ၏။ ကုသိုလ်ကံ, အကုသိုလ်ကံတို့၏ အကျိုးသည်လည်း ရှိ၏။ အကျွန်ုပ်ကဲ့သို့သော အဆွေခင်ပွန်းကောင်း၏ တရားလမ်းကြောင်းဖြစ်သောစကားကို ယူတော်မူလော့"ဟု ဆို၏။

ရုဇာမင်းသမီးသည် ခရီးမှားသောသူကို ခရီးလမ်းပြသကဲ့သို့ မိစ္ဆာအယူရှိသောခမည်းတော်မင်းကြီးအား သမ္မာအယူဖြစ်စေခြင်းငှာ အထူးထူးအပြားပြားအားဖြင့် ပြည့်ညွှန်ပါသော်လည်း ခမည်းတော်၏အယူကို စွန့်စေခြင်းငှာ မတတ်နိုင်။ သားသမီးတို့ သာယာစွာဆိုသောစကားကို မိဘတို့က နှစ်လိုမြဖြစ်သကဲ့သို့ သမီးတော်ရုဇာမင်းသမီး၏ သာယာစွာသောစကားကိုကား အလွန်နှစ်လို၏။ မိမိမိစ္ဆာအယူကိုကား မစွန့်။

ပြည်သားပြည်သူလူအပေါင်းတို့သည် "မင်းသမီးရုဇာသည် ယနေ့ ခမည်းတော်မင်းကြီးကို မိစ္ဆာအယူမှ လွတ်စေ၍ ပြည်သားပြည်သူလူအပေါင်းတို့၏ ချမ်းသာရာဖြစ်သော စီးပွားများကို ဆောင်ပေသတတ်"ဟု တစ်ပြည်လုံး အုတ်အုတ်ကျက်ကျက်သောအသံသည်ဖြစ်၍ အလွန် ဝမ်းမြောက်ကြကုန်၏။

## ၉။ အစိဋ္ဌာန်ပြုခန်း

ရုဇာမင်းသမီးသည် မင်းကြီးကို မိစ္ဆာအယူမှထွက်စေခြင်းငှာ မတတ်နိုင်သော်လည်း ပြုအပ်သောလုံ့လ မလျှော့မူ၍ တစ်စုံတစ်ခုသောအကြောင်းဖြင့် 'ယနေ့ ငါ့ခမည်းတော်၏ချမ်းသာကို ဆောင်အံ့'ဟုကြံလျက် ဦးခေါင်းထက်၌ လက်အုပ်ချီမြှောက်၍ အရပ်မျက်နှာတို့ကိုရှိခိုးပြီးသော် ဤသို့တောင်းပန်၏။

"လောက၌ လူတို့၏တည်ရာကို ဖြစ်စေတတ်ကုန်သော တရားစောင့်ကုန်သော ရဟန်း, ပုဏ္ဏားတို့သည် လည်းကောင်း၊ လူအပေါင်းတို့ကို စောင့်ကုန်သော နတ်မင်း, ဗြဟ္မာမင်းတို့သည် လည်းကောင်း ရှိကုန်၏။ ထို ရဟန်း, ပုဏ္ဏား, နတ်, ဗြဟ္မာတို့သည် ဤအရပ်သို့ လာတော်မူလတ်ကုန်၍ မိမိတို့အစွမ်းဖြင့် အကျွန်ုပ်၏ ခမည်းတော်မင်းကြီးအား မိစ္ဆာဒိဋ္ဌိအယူကို လွတ်စိမ့်သောငှာ အကျွန်ုပ်ခမည်းတော်၏ ဂုဏ်ကျေးဇူးမရှိသော်လည်း အကျွန်ုပ်၏သီလကျေးဇူးဖြင့် လည်းကောင်း၊ ဟုတ်မှန်စွာဆိုသော အကျွန်ုပ်၏သစ္စာစကားဖြင့် လည်းကောင်း

လာတော်မူလတ်၍ ခမည်းတော်၏ မိစ္ဆာအယူကို လွတ်စေလျက် ခပ်သိမ်းသောပြည်သူတို့၏ ချမ်းသာကို ဆောင်စေကုန်သတည်း"ဟု အဓိဋ္ဌာန်ပြု၍ ရှိခိုး၏။

## ၁၀။ နာရဒဗြဟ္မာမင်း တရားဟောခန်း

ထိုအခါ ဘုရားလောင်းသည် 'နာရဒ'အမည်ရှိသော ဗြဟ္မာ ဖြစ်သတတ်။

ဘုရားလောင်းတို့မည်သည်ကား မိမိ မေတ္တာဘာဝနာဖြင့် သနားခြင်းရှိသည်ဖြစ်၍ ကောင်းသောအကျင့်, မကောင်းသောအကျင့် ရှိကုန်သော သတ္တဝါတို့ကိုသိခြင်းငှာ အခါခပ်သိမ်း လောကကို ကြည့်သတည်း။

ထိုမင်းသမီး အဓိဋ္ဌာန်ပြု၍ ရှိခိုးသောအခါ နာရဒဗြဟ္မာမင်းသည်လည်း လောကကိုကြည့်လတ်သော် ရုဇာမင်းသမီး၏ ရှိခိုးခြင်းအလိုကို သိ၍

'ငါမှတစ်ပါး ထိုအင်္ဂတိမင်းကြီး၏ မိစ္ဆာဒိဋ္ဌိအယူကို လွတ်စေခြင်းငှာ တတ်နိုင်သောသူမည်သည် မရှိ။ ယနေ့ ငါသည် ရုဇာမင်းသမီးအား သင်္ဂြိုဟ်ထောက်ပံ့ခြင်းကို လည်းကောင်း, ပရိသတ်နှင့်တကွ မင်း၏ချမ်းသာခြင်းကို လည်းကောင်း ပြုအပ်သောငှာ အပ်၏။ အဘယ်သို့သော အသွင်ဖြင့် သွားရအံ့နည်း'ဟု ကြံပြီးသော်

'လူတို့သည်ကား ရသေ့တို့ကို ချစ်မြတ်နိုးကုန်၏။ ဆိုအပ်သောစကားကိုလည်း အရိုအသေ အလေးအမြတ်ပြု၍ နာယူတတ်ကုန်၏။ ထိုသို့ဖြစ်သောကြောင့် ရဟန်းအသွင်ဖြင့် သွားအံ့'ဟု စိတ်ကို ဆုံးဖြတ်ပြီးမှ ကြည်ညိုဖွယ် ရွှေအဆင်းနှင့်တူသော လူ၏အသွင်ဖန်ဆင်း၍၊ နှစ်လိုဖွယ်သောဆံကျစ်အဝန်းကို ဖွဲ့ပြီးလျှင် ဆံကျစ်ကြား၌ ရွှေဦးသျှောင်ကျင်ကိုထိုးလတ်၍ ပံသုကူသင်္ကန်းကဲ့သို့ နီစွာသော ကိုယ်ဝတ်သင်းပိုင်ကိုဝတ်၍၊ ဖန်ရည်ဆိုးသောသင်္ကန်းကို စံပယ်တင်ဝတ်၍၊ ရွှေကြယ်အတိဆန်းကြယ်သော ရွှေစင်ဖြင့်ပြီးသော သစ်နက်ရေသင်္ကန်းကို ပခုံးတစ်ဘက်၌တင်သည်ကိုပြု၍၊ ပုလဲဆိုင်သဏ္ဌာန်ကဲ့သို့သော ကရားကိုယူ၍၊ ရသေ့အသွင်ဖြင့် ကောင်းကင်ပြင်၌ လမင်းကဲ့သို့ထွန်းပလျက် ကောင်းကင်ခရီးဖြင့်လာလတ်၍၊ စန္ဒကူးနံ့သာ နန်းပြာသာဒ်သို့ဝင်ပြီးသော် အင်္ဂတိမင်းကြီး၏ရှေ့တူရူ ကောင်းကင်၌ တည်လေ၏။

ထို နာရဒရှင်ရသေ့ကို မြင်လျှင် ရုစာမင်းသမီးသည် ရှင်ရသေ့ကို ရှိခိုးလျက်နေ၏။

အင်္ဂတိမင်းကြီးကား ရှင်ရသေ့၏အရှိန်အဝါဖြင့်ပင်လျှင် မိမိမင်းနေရာ၌ မနေဝံ့သဖြင့် ကြောက်လန့်တကြား နေရာမှသျှော၍ အောက်၌နေပြီးသော် ရှင်ရသေ့၏လာရာအရပ်သို့ လည်းကောင်း၊ အမည်,အမျိုးကို လည်းကောင်း မေးလိုသည်ဖြစ်၍–

'ကုတော နု အာဂစ္ဆသိ ဒေဝဝဏ္ဏိ၊ ဩဘာသယံ သဗ္ဗဒိသံ စန္ဒိမာ။

အက္ခာဟိ မေ ပုစ္ဆိတော နာမ ဂေါတ္တံ၊ ကထံ တံ ဇာနန္တိ မနုဿလောကေ။ ။'ဟူသောဂါထာဖြင့် ဆို၏။ အဓိပ္ပာယ်ကား–

"နတ်၏အဆင်းကဲ့သို့ အဆင်းရှိသော ရှင်ရသေ့။ ခပ်သိမ်းသောအရပ်မျက်နှာကို လကဲ့သို့ အရောင်အဝါဖြင့်ထွန်းပစေလျက် အဘယ်အရပ်မှ လာသနည်း။ ရှင်ရသေ့သည် အကျွန်ုပ်အား လာရာအရပ်ကို လည်းကောင်း, အမည်အမျိုးကို လည်းကောင်း ကြားလော့။ ဤလူ့ရွာ၌ သင့်ကို အဘယ်သူဟူ၍ သိကြသနည်း"ဟုမေး၏။

ထိုသို့ မင်းကြီးမေးလျှင် 'ဤမင်းသည် တမလွန်လောက မရှိဟု အယူရှိ၏။ ထိုမင်းအား တမလွန်လောကကို ရှေးဦးစွာ ကြားအံ့'ဟုကြံ၍-

'အဟဉ္စိ ဒေဝ တော ဣဒါနိ ဧမိ၊ ဩဘာသယံ သဗ္ဗဒိသံ စန္ဒိမာ။

အက္ခာမိတေ ပုစ္ဆိတော နာမဂေါတ္တံ၊ ဇာနန္တိ မံ နာရဒေါ ကဿပေါစ။ ။'ဟူသောဂါထာဖြင့် ကြား၏။ အဓိပ္ပာယ်ကား-

"မင်းကြီး။ ငါသည် နတ်ပြည်မှ ခပ်သိမ်းသောအရပ်မျက်နှာတို့ကို လကဲ့သို့ထွန်းပစေလျက် လာ၏။ သင့်အား ငါသည် အမည်အမျိုးကို ကြားအံ့။ ငါ့ကို နာရဒ ဟူ၍လည်းကောင်း, ကဿပ ဟူ၍လည်းကောင်း လူတို့ သိကုန်၏"ဟု ဆို၏။

ထိုအခါ မင်းကြီးသည် 'ဤရသေ့ကို နောက်မှ တမလွန်လောကကို မေးအံ့။ ရှေးဦးစွာ တန်ခိုး၏ ရအပ်သောအကြောင်းကို မေးဦးအံ့'ဟုကြံ၍-

'အစ္ဆရိယ ရူပံ တဝ ယာဒိသဉ္စ၊ ဝေဟာသယံ ဂစ္ဆသိ တိဋ္ဌသိ စ။

ပုစ္ဆာမိ တံ နာရဒ ဧတမတ္ထံ၊ အထ ကေန ဝဏ္ဏေန တဝါယ မိဒ္ဓိ။ ။'ဟူသော ဂါထာဖြင့်မေး၏။ အဓိပ္ပာယ်ကား-

"အကြင်။ သင်သို့သောသူသည် ကောင်းကင်၌ သွားလည်းသွား၏၊ တည်လည်း တည်၏။ ထိုသို့သောသင်သည် အံ့ဖွယ်သရဲ ရှိပေစွ။ နာရဒရှင်ရသေ့။ သင့်အား အဘယ်အကြောင်းကြောင့် ဤသို့သော တန်ခိုးသည် ဖြစ်လေသနည်း။ ငါ့အား ကြားလော့"ဟု ဆို၏။

နာရဒရှင်ရသေ့သည် မင်းကြီးအမေးကို ဖြေလို၍-

'သစ္စဉ္စ ဓမ္မောစ ဒမောစ စာဂေါ၊ ဂုဏာ မမေတေ ပကတာ ပုရာဏာ။

တေဟေဝ ဓမ္မေဟိ သုသေဝိတေဟိ၊ မနော ဇဝေါ ယေန ကာမံ ဂတောသ္မိ။ ။'ဟူသော ဂါထာကို ဆို၏။ အဓိပ္ပာယ်ကား-

"မင်းကြီး။ ငါသည် ရှေး တမလွန်က သစ္စာကို လည်းကောင်း, တရားကို လည်းကောင်း, ဣန္ဒြေဆုံးမခြင်းကို လည်းကောင်း, ပေးကမ်းစွန့်ကြဲခြင်းကို လည်းကောင်း ဤ ၄ ပါးသောတရားတို့ကို ပြုခဲ့ဖူး၏။ ထိုသို့ပြုခဲ့ဖူးသော ကောင်းမှုကြောင့် ဤသို့သောတန်ခိုးသည် ဖြစ်သတည်း။ ထိုသို့ပြုခဲ့ဖူးသော ကောင်းမှုကြောင့် ငါသည် စိတ်ဖြင့်အလိုရှိတိုင်း ပြီးသတည်း"ဟု ဆို၏။

မင်းကြီးသည် ကုသိုလ်၏အကျိုးဖြစ်ကြောင်းကို ရှင်ရသေ့ဆိုပါသော်လည်း မိစ္ဆာဒိဋ္ဌိအယူ မြဲစွာစွဲခြင်းကြောင့် တမလွန်လောက ရှိသည်ကို မယုံသောအားဖြင့် 'ကောင်းမှုအကျိုး အဘယ်မှာ ရှိအံ့နည်း'ဟု ဆိုလို၍-

'အစ္ဆရိယ မာစိက္ခသိ ပုညသိဒ္ဓိံ၊ သစေဟိ ဧတေဟိ ယထာ ဝဒေသိ။

ပုစ္ဆာမိ တံ နာရဒ ဧတမတ္ထံ၊ ပုဋ္ဌောစ မေ သာဓု ဝိယာကရောဟိ။ ။'ဟူသော ဂါထာဖြင့် မေးပြန်၏။ အဓိပ္ပာယ်ကား-

"နာရဒရှင်ရသေ့။ သင်သည် ကောင်းမှု၏အကျိုး ရှိကြောင်းကို အံ့ဖွယ်သရဲ သင်ကြား၏။ အကယ်၍ ကောင်းမှု၏အကျိုး ရှိအံ့။ ငါ့အား ထင်စွာ သင်ပြလော့"ဟုဆို၏။

နာရဒရှင်ရသေ့သည်

"မင်းကြီး။ သင်သည် ယုံမှားခြင်းကို အလေးအမြတ် ပြု၏။ ထို အလေးအမြတ်ပြုသော ယုံမှားခြင်းကို ငါ့အား မေးလော့။ ငါသည် အထူးထူးသောနည်းတို့ဖြင့် လည်းကောင်း, အကြောင်းအကျိုးတို့ဖြင့် လည်းကောင်း သင်၏ယုံမှားခြင်းကို ပျောက်စေအံ့"ဟုဆို၏။

ထိုစကားကိုကြားလျှင် မင်းကြီးသည်–

'ပုစ္ဆာမိ တံ နာရဒ ဧတမတ္ထံ၊ ပုဋ္ဌော စ မေ နာရဒ မာမုသာဘဏိ။

အတ္ထိနု ဒေဝါ ပိတရောစ အတ္ထိနု၊ လောကော ပရောအတ္ထိနု ဇနောယမာဟု။ ။'ဟူသော ဂါထာဖြင့် မေး၏။ အဓိပ္ပာယ်ကား–

"နာရဒရှင်ရသေ့။ ဤမည်သောပြဿနာကို ငါ မေးအံ့။ ထိုပြဿနာကို ဟုတ်တိုင်း ဖြေလော့။ ပြက်ရယ်စကားကို မဆိုလင့်။ နာရဒရှင်ရသေ့။ 'နတ်သည်လည်း ရှိ၏, အမိအဖသည်လည်း ရှိ၏။ ပစ္စုပ္ပန်လောက, တမလွန်လောကသည်လည်း ရှိ၏'ဟူ၍ လူတို့သည် ဆိုကုန်၏။ ထိုစကားသည် မှန်အံ့လော"ဟု မေး၏။

နာရဒရှင်ရသေ့သည် ထိုစကားကိုဖြေလို၍–

'အတ္ထေဝ ဒေဝါ ပိတရော စ အတ္ထိ၊ လောကော ပရော အတ္ထိ ဇနော ယမာဟု။

ကာမေသု ဂိဒ္ဓါစ နရာ ပမူဠှာ၊ လောကံပရံ နဝိဒူ မောဟယုတ္တာ။ ။'ဟူသောဂါထာကို ရွတ်၏။ အဓိပ္ပာယ်ကား–

"မင်းကြီး။ နတ်သည် လည်းကောင်း, အမိအဖသည် လည်းကောင်း, ပစ္စုပ္ပန်လောကသည် လည်းကောင်း, တမလွန်လောကသည် လည်းကောင်း ရှိ၏။ လူတို့သည်ကား ကာမဂုဏ်တို့၌ တပ်မက်မောခြင်း, တွေဝေမိန်းမောခြင်းကြောင့် တမလွန်လောကကို မသိမမြင်နိုင်ကုန်"ဟုဆို၏။

ထိုစကားကိုကြားလျှင် အင်္ဂတိမင်းကြီးသည် ပြက်ရယ်ပြုလိုသည်ဖြစ်၍–

'အတ္ထီတိစေ နာရဒ သဒ္ဒဟာသိ၊ နိဝေသနံ ပရလောကေ မတာနံ။

ဣဓေဝမေ ပဉ္စသတာနိဒေဟိ၊ ဒဿာမိ တေ ပရလောကေ သဟဿံ။ ။'ဟူသောဂါထာကို ဆို၏။ အဓိပ္ပာယ်ကား–

"နာရဒရှင်ရသေ့။ 'တမလွန်၌ သေကုန်သောသူတို့၏အိမ်သည် ရှိ၏'ဟူ၍ သင် ယုံကြည်အံ့။ ယခု မျက်မှောက်၌ သင်သည် ငါ့အား အသပြာ ၅၀၀ ပေးလော့။ တမလွန်လောကသို့ရောက်လျှင် သင့်အား ၁၀၀၀ သောဥစ္စာကို ငါ ပေးအံ့"ဟု ပြက်ရယ်စကားကို ဆို၏။

ထိုအခါ အင်္ဂတိမင်းကြီးကို ပရိသတ်တို့၏အလယ်၌ ကဲ့ရဲ့လိုသည်ဖြစ်၍–

'ဒဇ္ဇေမု ခေါ ပဉ္စသတာနိ ဘောတော၊ ဇညာမုစေ သီလဝန္တံ ဝဒညုံ။

လုဒ္ဒံ တံ ဘောန္တံ နိရယေ ဝသန္တံ၊ ကော စောဒယေ ပရလောကေ သဟဿံ။ ။

'ဣဓေဝ ယော ဟောတိ အဓမ္မသီလော၊ ပါပါစာရော အလသော လုဒ္ဒကမ္မော။

န ပဏ္ဍိတာ တသ္မိံ ဣဏံ ဒဒန္တိ၊ နဟိ အာဂမော ဟောတိ တထာဝိဓမှာ။ ။

'ဒက္ခဋ္ဌ ပေါသံ မနုဇာ ဝိဒိတွာ၊ ဥဋ္ဌာနကံ သီလဝန္တံ ဝဒည္ဍုံ။

သယမေဝ ဘောဂေဟိ နိမန္တိယန္တိ၊ ကမ္မံ ကရိတွာ ပုန မာဟရေသိ။ ။'ဟူသော ဂါထာတို့ကို ရှင်ရသေ့ ဆို၏။ အဓိပ္ပာယ်ကား–

"မင်းကြီး။ သင်သည် သီလရှိသော, သူ့ကျေးဇူးကိုသိတတ်သော သူတော်ကောင်းဖြစ်မူ သင့်အား ၅၀၀ သောဥစ္စာကို မယုတ်သဖြင့် ယခု ငါ ပေးအံ့။ ကြမ်းကြုတ်ယုတ်မာစွာသော မိစ္ဆာအယူရှိသော သင့်အား ၅၀၀ သောဥစ္စာကို ငါ ပေးမိပချေသော်၊ ငရဲ၌နေသော သင့်ကို တမလွန်၌ ဥစ္စာ ၁၀၀၀ လိုသည်ဖြစ်၍ အဘယ်သူ လိုက်၍ တောင်းပချေအံ့နည်း။

"မင်းကြီး။ ဤလူ့ပြည်၌ ပညာရှိကုန်သောသူတို့သည် မကောင်းသောအကျင့် ရှိသောသူ, ပျင်းသောသူ, အလွန်ကြမ်းကြုတ် သော့သွမ်းညစ်ညမ်းသောသူ၊ ထိုသူတို့အား ကြွေးမြီချခြင်းကို မပြုကုန်။ ထို မကောင်းသော သူယုတ်တို့အား မြီချ မှားချေအံ့။ ထိုမြီ အရင်းအပွားကို ရခြင်းမည်သည် မဖြစ်ရာ။

"မင်းကြီး။ ဤလူ့ပြည်၌ ပညာရှိတို့သည် ပညာအမြော်အမြင်ရှိသောသူ, လုံ့လထကြွ ကြောင့်ကြရှိသောသူ, သီလရှိသောသူ, သူ့ကျေးဇူးကို သိတတ်သောသူ၊ ထိုသို့သော သူတော်ကောင်းတို့အား သာလျှင် ကြွေးမြီချခြင်းကို ပြုကုန်ရာ၏။ ထိုသူတို့အား ချအပ်သောမြီသည် ဆိုသည့်အတိုင်း အရင်းအပွား ရရာ၏။ ထိုသို့ သဘောဖြောင့်မှန်သော သူကိုသာလျှင် 'ဥစ္စာအလိုရှိလျှင် ချေးယူလှည့်'ဟူ၍ ဖိတ်ကြားကုန်၏"

ဤသို့ နာရဒရှင်ရသေ့သည် မင်းကြီးကို နှိပ်၍ဆိုသည်ရှိသော အင်္ဂတိမင်းကြီးသည် စကားဆိုရာ မရှိသည်ဖြစ်၍ ဆိတ်ဆိတ်နေ၏။

မှူးမတ်ဗိုလ်ပါ ပရိသတ်အပေါင်းတို့သည် ဝမ်းမြောက်ဝမ်းသာ "ဘုန်းတန်ခိုးကြီးလှစွာသော အရှင်နတ်မင်းသည် ယနေ့ မင်းကြီးကို မိစ္ဆာအယူမှ လွတ်စေအံ့သတည်း"ဟု တစ်ပြည်လုံး အုတ်အုတ် ကျက်ကျက်သောအသံသည် ဖြစ်၏။

ဘုရားလောင်း ဗြဟ္မာမင်း၏တန်ခိုးအားဖြင့် ၇ ယူဇနာ အပြောကျယ်သော မိထိလာပြည်၌ ဘုရားလောင်း ဗြဟ္မာမင်းသည် ဟောကြားအပ်သောတရားကို မကြားသောသူမည်သည် မရှိ။

## ၁၁။ ငရဲအကြောင်းကို ပြခန်း

ထိုအခါ ဘုရားလောင်း နာရဒဗြဟ္မာမင်းသည် 'ဤမင်းကား အလွန်လျှင် မိစ္ဆာအယူကို မြဲစွာယူ၏။ ထိုမင်းအား ငရဲဘေးဖြင့် ခြိမ်းခြောက်၍ မိစ္ဆာအယူကို လွတ်စေပြီးသော်၊ တစ်ဖန် နတ်ပြည်ခရီးဖြင့် ထိုမင်းကြီးကို နှစ်သိမ့်စေအံ့'ဟု ကြံ၍၊ "မင်းကြီး။ သင်သည် အကယ်၍ မိစ္ဆာအယူကို မစွန့်အံ့။ မရေတွက်နိုင် ဆင်းရဲလှစွာသော ငရဲသို့ ရောက်လိမ့်သတည်း"ဟုဆိုပြီးလျှင် ငရဲအကြောင်းကို ပြလိုသည်ဖြစ်၍–

'ဣတော စုတော ဒက္ခသိ တတ္ထ ရာဇ၊ ကာကောလ သံဃေဟိ ဝိကဿမာနံ။

တံ ခဇ္ဇမာနံ နိရယေ ဝသန္တံ၊ ကာကေဟိ ဝိဇ္ဈေစ သောဏကေဟိ။

သံဆိန္နဂတ္တံ ရုဟိရဿဝန္တံ၊ ကော စောဒယေ ပရလောကေ သဟဿံ။ ။'ဟူသော ဂါထာဖြင့် ကြားပေ၏။ အဓိပ္ပာယ်ကား–

"မင်းကြီး။ ဤကိုယ်၏အဖြစ်ကို သင်သည် စုတေမနေ သေလွန်လတ်သော် ကြီးစွာသောငရဲ၌ ကျီးအပေါင်းတို့ဖြင့် ထိုးဖောက်ကုန်လျက်ခံရကုန်သော ငရဲသူတို့ကို မင်းကြီး မြင်ရလတ္တံ့။ ထိုငရဲ၌ ကျီး, လင်းတ, သိန်း, စွန်, ခွေးတို့သည် အထွင်းအထွင်း အစုတ်အစုတ် ထိုးခုတ်ကိုက်ခဲ၍ သွေးဖြာဖြာယိုစီးလျက် ခံရသော သင်မင်းကြီးကို တမလွန်၌ 'ဥစ္စာ ၁၀၀၀ ကို လိုသည်ဟူ၍ အဘယ်သူ သင့်ထံလာ၍ တောင်းပချေအံ့နည်း။ ထိုငရဲကြီး၌ သင် မဖြစ်ရမူ လောကန္တရိက်ငရဲ၌ ဖြစ်ရလတ္တံ့."ဟု ဆို၍၊ ထို လောကန္တရိက်ငရဲကို ပြအံ့သောငှာ–

'အန္ဓံတမံ တတ္ထ နစန္ဒသူရိယာ၊ နိရယော သဒါ တုမုလော ဃောရရူပေါ။

သာ နေဝရတ္တိ နဒိဝါ ပညာယတိ၊ တထာဝိဓေ ကော ဝိစရေ ဓနတ္ထိကော။ ။'ဟူသောဂါထာကို ဆို၏။ အဓိပ္ပာယ်ကား–

"မင်းကြီး။ ထို လောကန္တရိက်ငရဲ၌ လ, နေ တို့သည် မရှိကုန်သည်ဖြစ်၍ အလွန်မိုက်၏။ အုတ်အုတ် ကျက်ကျက် ကြောက်မက်ဖွယ်လည်း ရှိ၏။ ညဥ့်,နေ့ ဟူ၍လည်း မရှိ။ ထိုငရဲ၌ ခံရလေသောသင့်ကို 'ဥစ္စာ ၁၀၀၀ လိုသည်'ဟူ၍ အဘယ်သူ သင့်ထံလာ၍ တောင်းပချေအံ့နည်း"

ဤသို့သော လောကန္တရိက်ငရဲကို အကျဉ်းအားဖြင့်ပြပြီး၍

"မင်းကြီး။ မိစ္ဆာအယူကို မစွန့်သောသူသည် ထိုလောကန္တရိက်ငရဲ၌ မဖြစ်မူ တစ်ပါးသောငရဲ၌ ခံရလိမ့်သတည်း"ဟု ဆိုပြန်လို၍–

'သဗလောစ သာမောစ ဒုဝေသုဝါနာ၊ ပဝဒ္ဓကာယာ ဗလိနော မဟန္တာ။

ခါဒန္တိ ဒန္တေဟိ အယောမယေဟိ၊ ဣတော ပနုတ္တံ ပရလောကေပတန္တံ။ ။

'တံ ခဇ္ဇမာနံ နိရယေ ဝသန္တံ၊ လုဒ္ဒေဟိ ဝါဠေဟိ အဃမိဂေဟိ စ။

သံဆိန္နဂတ္တံ ရုဟိရဿဝန္တံ၊ ကော စောဒယေ ပရလောကေ သဟဿံ။ ။'ဟူသော ၂ဂါထာတို့ကို ဆို၏။ အဓိပ္ပာယ်ကား–

"မင်းကြီး။ ပြောက်ကျားသောအဆင်းရှိသော ခွေး, ဖွေးသောအဆင်းရှိသော ခွေး၊ ဤငရဲ၌ ခွေး ၂ကောင်တို့သည် ကြီးသောကိုယ်လည်း ရှိကုန်၏။ အားနှင့်လည်း ပြည့်စုံကုန်၏။ ဤလူ့ပြည်မှ သေခဲ့သော် မင်းကြီးသည် ဤငရဲ၌ကျလေ၍ သင့်ကို ထိုခွေးတို့သည် သံဖြင့်ပြီးသောသွားတို့ဖြင့် ကိုက်ဖဲ့၍ စားလေကုန်အံ့ သတည်း။ အလွန် သည်းမခံနိုင်သော ကြမ်းကြုတ်လှစွာသော ခွေးကျားကြီး ငရဲ၌ အစုတ်အစုတ် အထွင်းအထွင်းသောကိုယ်ဖြင့် သွေးယိုစီးလျက်ခံရသော သင်မင်းကြီးကို ဥစ္စာ ၁၀၀၀ လိုသည်ဟူ၍ အဘယ်သူ တောင်းလာပချေအံ့နည်း။

"မင်းကြီး။ မိစ္ဆာအယူကို မစွန့်သောသင်သည် ထိုငရဲ၌ မခံရမူ ထိုမှတစ်ပါးသောငရဲ၌ ခံရလတ္တံ့."ဟု ပြလိုသည်ဖြစ်၍–

'ဥသူဟိ သတ္တီဟိစ သုနိသိတာဟိ၊ ဟနန္တိ ဝိဇ္ဈန္တိ စ ပေါထယန္တိ။

ကာဠူပကာဠာ နိရယမှိ ဃောရေ၊ ပုဗ္ဗေ နရံ ဒုက္ကဋကမ္မကာရိံ။ ။

'တံ ဟညမာနံ နိရယေ ဝဇန္တံ၊ ကုစ္ဆိသ္မိံ ပဿသ္မိံ ဝိပ္ဖာလိတုဒရံ။
သဆိန္နဂတ္တံ ရုဟိရဿဝန္တံ၊ ကော စောဒယေ ပရလောကေ သဟာသံ၊ ။
'သတ္တိ ဥသု တောမရ ဘိဏ္ဍိဝါဠာ၊ ဝိဝိဓာဝုဓာ ဝဿန္တိ တတ္ထ ဒေဝါ။
ပတန္တိ အင်္ဂါရမိဝစ္စိမန္တော၊ သိလာသနိ ဝဿတိ လုဒ္ဒကမ္မေ။ ။
'ဥဏှော စ ဝါတော နိရယမှိ ဒုဿဟော၊ နတမှိ သုခံ လဗ္ဘတိ ဣတ္တရံပိ။
တံတံ ဝိဓာဝန္တံ အလေဏံ မာတုရံ၊ ကော စောဒယေ ပရလောကေ သဟာသံ။ ။
'သန္ဓာဝမာနံပိ ရထေသုယုတ္တံ၊ သဇောတိဘူတံ ပထဝိံ ကမန္တံ။
ပတောဒ လဋ္ဌီဟိ သုစောဒယန္တံ၊ ကော စောဒယေ ပရလောကေ သဟာသံ။ ။
'တမာရုဟန္တံ ခုရသဉ္စိတံ ဂိရိံ၊ ဝိဘီသနံ ပဇ္ဇလိတံ ဘယာနကံ။
သံဆိန္နဂတ္တံ ရုဟိရဿဝန္တံ၊ ကော စောဒယေ ပရလောကေ သဟာသံ။ ။
'တမာရုဟန္တံပဗ္ဗတ သံနိကာသံ၊ အင်္ဂါရရာသိံ ဇလိတံ ဘယာနကံ။
သုဒဍ္ဎဂတ္တံ ကပဏံ ရုဒန္တံ၊ ကော စောဒယေ ပရလောကေ သဟာသံ။ ။
'အဗ္ဘကူဋ္ဌ သမာဥစ္စာ၊ ကဏ္ဋကာနိစိတာ ဒုမာ။
အယောမယေဟိ တိက္ခေဟိ၊ နရလောဟိတ ပါယိဘိ။ ။
'တမာရုဟန္တိ နာရိယော၊ နရာစ ပရဒါရဂူ။
စောဒိတာ သတ္တိဟတ္ထေဟိ၊ ယမ နိဒ္ဒေသ ကာရိဘိ။ ။
'တမာရုဟန္တံ နိရယံ၊ သိမ္ဗလိံ ရုဟိရမက္ခိတံ။
ဝိဒဍ္ဎကာယံ ဝိတစံ၊ အာတုရံ ဂါဠှဝေဒနံ။ ။
'ပဿသန္တံ မုဟုံ ဥဏှံ၊ ပုဗ္ဗကမ္မ ပရာဓိကံ။
ဒုမဂ္ဂေ ဝိတစံ ဂတ္တံ၊ ကော တံ ယာစေယျ တံဓနံ။ ။
'အဗ္ဘကူဋ္ဌ သမာဥစ္စာ၊ အသိပတ္တာစိတာ ဒုမာ။
အယောမယေဟိ တိက္ခေဟိ၊ နရလောဟိတ ပါယိဘိ။ ။
'တမာရုဟန္တံ အသိပတ္တပါဒပံ၊ အသီဟိ တိက္ခေဟိစ ဆိဇ္ဇမာနံ။
သံဆိန္နဂတ္တံ ရုဟိရဿဝန္တံ၊ ကော စောဒယေ ပရလောကေ သဟာသံ။ ။
'တတော နိက္ခန္တမတ္တံတံ၊ အသိပတ္တာစိတာ ဒုမာ။
သမ္ပတိတံ ဝေတရဏိံ၊ ကော တံ ယာစေယျ တံဓနံ။ ။
'ခရာ ခါရောဒကာ တတ္တာ၊ ဒုဂ္ဂါ ဝေတရဏီ နဒီ။
အယောပေါက္ခရသံဆန္နာ၊ တိက္ခ ပတ္တေဟိ သန္ဒတိ။ ။
'တတ္ထ သံဆိန္နဂတ္တံ တံ၊ ဝုယှန္တံ ရုဟိရမက္ခိတံ။
ဝေတရညေ အနာလမ္ဗေ၊ ကော တံ ယာစေယျ တံ ဓနံ။ ။'ဟူသော ၁၆ ဂါထာတို့ကို ဆို၏။

အဓိပ္ပာယ်ကား–

"မင်းကြီး။ ရှေး၌ မကောင်းမှုကိုပြုကုန်သော ငရဲသားအပေါင်းတို့ကို ငရဲထိန်းတို့သည် ထက်လှစွာသော မြားတို့ဖြင့် လည်းကောင်း, လှံတို့ဖြင့် လည်းကောင်း ကြောက်မက်ဖွယ် ထိုးသတ်ကုန်၏။ ထိုငရဲ၌ ငရဲထိန်းတို့သည်

ပြင်းစွာညှဉ်းဆဲလျက် ဝမ်းကို လည်းကောင်း, နံထောင်း ၂ဘက်ကို လည်းကောင်း ခွဲ၍ အစုတ်အစုတ် အထွင်းအထွင်း သောကိုယ်ဖြင့် ယိုသောသွေးရှိသော သင်မင်းကြီးကို ဥစ္စာ ၁၀၀၀ လိုသည်ဟူ၍ အဘယ်သူ တောင်းလာပချေအံ့နည်း။

"မင်းကြီး။ ထိုငရဲ၌ မခံရမှု လှံ, မြား, ချွန်းတောင်း, ခက်ရင်း အစရှိသော လက်နက်မိုးတို့သည်လည်း ရွာကုန်၏။ မီးကျီးကဲ့သို့ ပြိုးပြိုးပြက်သော လက်နက်မိုးတို့သည်လည်း ဦးခေါင်းထက်၌ ကျကုန်၏။ ရဲရဲတောက်သော ကျောက်ဖျာမိုးကြီးတို့သည်လည်း ကျကုန်၏။ သည်းမခံနိုင် ပူလှစွာသောလေတို့သည်လည်း လာကုန်၏။ တစ်ခဏမျှ ချမ်းသာကို မရ။ ထိုငရဲ၌ ကြမ်းကြုတ်သောမကောင်းမှုကို ပြုကုန်သောသူတို့သည် ခံရကုန်၏။ ထို သံမြေငရဲ၌ ညစ်ညမ်းကျင်နာစွာခံရသော သင်မင်းကြီးကို တမလွန်၌ 'ဥစ္စာ ၁၀၀၀ ကို လိုသည်'ဟူ၍ အဘယ်သူ တောင်းပချေအံ့နည်း။

"မင်းကြီး။ ရထားတို့၌ ကသော အလျှံတပြောင်ပြောင်တောက်သော သံမြေငရဲကို ထွန်တုံးလောက်ရှိသော သံလှံတံတို့ဖြင့် ပြင်းစွာပုတ်ခတ်လျက် ပြေးရာရသော သင်မင်းကြီးကို တမလွန်၌ 'ဥစ္စာ ၁၀၀၀ ကို လိုသည်'ဟူ၍ သင့်ကို အဘယ်သူ တောင်းလာပချေအံ့နည်း။

"မင်းကြီး။ သင်တုန်းသွားအတိခတ်အပ်သော ကြောက်မက်ဖွယ် အလျှံတပြောင်ပြောင် တောက်လောင်သောတောင်သို့တက်လျက် အစုတ်စုတ် အထွင်းအထွင်းသောကိုယ်ဖြင့် သွေးယိုစီးသော သင်မင်းကြီးကို 'ဥစ္စာ ၁၀၀၀ လိုသည်'ဟူ၍ အဘယ်သူ တောင်းလာပချေအံ့နည်း။

"မင်းကြီး။ တောင်ထွတ်နှင့်တူစွာ ကြောက်မက်ဖွယ် ရဲရဲတောက်သော မီးကျီးစုသို့ တက်ရသည်ဖြစ်၍ လောင်သောကိုယ်ရှိသော တစ်ယောက်တည်း ငိုမြည်တမ်းလျက်ခံရသော သင်မင်းကြီးကို 'ဥစ္စာ ၁၀၀၀ လို၏"ဟူ၍ အဘယ်သူ တောင်းလာပချေအံ့နည်း။

"မင်းကြီး။ ဆူးအတိစီအပ်သော တိမ်တိုက်တရှိမြင့်စွာသော ငရဲလက်ပံပင်တို့၌ ထက်လှစွာသော သံဆူးတို့သည် ငရဲသူတို့၏အသွေးကို သောက်ကုန်၏။ မင်းကြီး။ သူ့မယားကိုခိုးကုန်သော ယောကျ်ားတို့သည် လည်းကောင်း, မိမိလင်မှတစ်ပါးသော ယောကျ်ားကို ခိုးကုန်သောမိန်းမတို့သည်လည်းကောင်း ထိုငရဲလက်ပံပင်သို့ တက်ရကုန်၏။ လှံ လက်စွဲကုန်လျက် ငရဲထိန်းတို့သည် ပြင်းစွာထိုးသတ်ကုန်၏။ သွေးအလိမ်းအလိမ်းကပ်လျက် ထိုငရဲလက်ပံပင်ကိုတက်သဖြင့် လောင်သောကိုယ်ရှိသော, အရေမရှိသည်ဖြစ်၍ အလွန်နာကျင်သော, ထွက်သက် ဝင်သက်ကို အဖန်တလဲလဲ ပင်ပန်းစွာရှိုက်ရှူရသော, ဆင်းရဲကြီးစွာခံရလျက် ငရဲလက်ပံပင်၌ ရှေးမကောင်းမှု ကြောင့်နေရသော သင်မင်းကြီးကို 'ဥစ္စာ ၁၀၀၀ လိုသည်"ဟူ၍ အဘယ်သူ တောင်းလာပချေအံ့နည်း။

"မင်းကြီး။ သန်လျက်ဓားအရွက်အတိ စီထသော, ထက်လှစွာသောသံဆူးအတိ စီထသော ငရဲသစ်ပင် တို့သည် တိမ်တိုက်နှင့်အတူ မြင့်ကုန်၏။ ထိုသစ်ပင်ထက်သို့ အစုတ်အစုတ် အထွင်းအထွင်းသောကိုယ်ဖြင့် သွေးယိုစီးလျက်တက်ရသော သင်မင်းကြီးကို 'ဥစ္စာ ၁၀၀၀ လိုသည်'ဟူ၍ အဘယ်သူတောင်းလာပချေအံ့နည်း။

"မင်းကြီး။ ထိုသန်လျက်ဓားအတိစီသော ငရဲလက်ပံပင်မှ ဝေတရဏီအမည်ရှိသော ကြိမ်ပိုက်ချောင်း၌ ကျသော သင်မင်းကြီးကို အဘယ်သူဥစ္စာ ၁၀၀၀ လိုသည်ဟူ၍ တောင်းလာပချေအံ့နည်း။ မင်းကြီးမှ သံလျက်သွားကဲ့သို့ ကြမ်းကြုတ်စွာ ပူလည်းပူစွာသော ရေလည်းရှိသော ကူးနိုင်ခဲသော ဝေတရဏီအမည်ရှိသော ကြိမ်ပိုက်ချောင်းသည်ကား သံမြားအတိ စီသော ကြာရွက်ဖြင့် ဖုံးလွှမ်း၏။ ထက်စွာသောအရွက်တို့ဖြင့် စီအပ်၏။ မင်းကြီး။ ထိုကြိမ်ပိုက်ချောင်း၌ သွေးအလိမ်းလိမ်းကပ်လျက်ခံရသော သင်မင်းကြီးကို 'ဥစ္စာ ၁၀၀၀ လိုသည်'ဟူ၍ အဘယ်သူ လာ၍တောင်းလာပချေအံ့နည်း။"ဟု ဆို၏။

ဘုရားလောင်း နာရဒဗြဟ္မာမင်းသည် ပြအပ်သော ဤသို့သော ငရဲစကားကိုကြားလျှင် အင်္ဂတိမင်းကြီးသည် ထိတ်လန့်သောနှလုံး ရှိသည်ဖြစ်၍ ဘုရားလောင်းကိုသာလျှင် ကိုးကွယ်ရာပြုလျက်–

'ဝေဓာမိ ရုက္ခောဝိယ ဆိဇ္ဇမာနော၊ ဒိသံ နဇာနာမိ ပမုဠှသညော။

ဘယာနု တပ္ပါမိ မဟာစ မေ ဘယာ၊ သုတွာန ကထာ တဝ ဘာသိတာ ဣသေ။ ။

'အာဒိတ္တေ ဝါရိမဇ္ဈံဝ၊ ဒီပံ ဝေါဃေ မဟဏ္ဏဝေ။

အန္ဓကာရေဝ ပဇ္ဇောတော၊ တွံနောသိ သရဏံ ဣသေ။ ။

'အတ္ထဉ္စ ဓမ္မဉ္စ အနုသာသ မံ ဣသေ၊ အတီတ မဒ္ဒ အပရာဓိတံ မယာ။

အာစိက္ခ မေ နာရဒ သုဒ္ဓိမဂ္ဂံ၊ ယထာအဟံ နောနိရယံ ပတေယျံ။ ။'ဟူသော ၃ဂါထာတို့ကို ဆို၏။ အဓိပ္ပာယ်ကား–

"ရှင်ရသေ့။ အရှင်ဘုရား၏စကားကိုကြားလတ်၍ အမြစ်အရင်းပြတ်သော သစ်ပင်ကြီးကဲ့သို့ အကျွန်ုပ် တုန်လှုပ်၏။ တောင်,မြောက်ဟူ၍ အရပ်များကိုမျှ မသိနိုင်၊ တွေဝေမိန်းမော၏။ နောင်တ အလိုလိုရှိလျက် အကျွန်ုပ်အား ကြီးစွာသောကြောက်လန့်ခြင်းသည် ဖြစ်၏။

"ရှင်ရသေ့။ ကြည်း၌တင်၍ ပူပန်လှသောငါးကို ရေ၌ချဘိသကဲ့သို့, သမုဒ္ဒရာဝဲသြဃ၌မျောပါသော သူအား ကိုးကွယ်ရာကျွန်း ပေါ်သကဲ့သို့, အမိုက်တိုက်၌ ဆီမီးထွန်းသကဲ့သို့ အလွန်ပူဆာလှသော အကျွန်ုပ်၏ ကိုးကွယ်ရာ ဖြစ်တော်မူပါလော့။

"ရှင်ရသေ့။ အကျွန်ုပ်ကို အကျိုးအားဖြင့် လည်းကောင်း, အကြောင်းအားဖြင့် လည်းကောင်း ဆုံးမတော်မူပါလော့။ အကျွန်ုပ်သည် အကုသိုလ်ကို ပြုမိ၏။

"ရှင်ရသေ့။ အကျွန်ုပ်သည် အကြင်မျှလောက် ငရဲသို့မကျသေး။ ထိုငရဲသို့မကျမီ သုဂတိဘဝသို့ လားခြင်းအကြောင်းဖြစ်သော မြတ်သောခရီးကို ကြားတော်မူပါလော့"

## ၁၂။ ရှေးမင်းမြတ်တို့အကျင့်ကို ပြဆိုခန်း

ထိုအခါ ဘုရားလောင်း နာရဒဗြဟ္မာမင်းသည် စင်ကြယ်စွာသောခရီးကို ကြား၍ ကောင်းသောအကျင့် ရှိကုန်သော ရှေးမင်းမြတ်တို့ကျင့်ဆောင်အပ်သော အကြောင်းကိုပြလို၍–

'ယထာ အဟု ဓတရဋ္ဌော၊ ဝေဿာမိတ္တောစ အဋ္ဌကော။

ယမဒဂ္ဂိ ဥသိန္နရော၊ သိဝိ ရာဇာ ပါရိစာရိကာ သမဏဗြာဟ္မဏာနံ။ ။

'ဧတေစညေစ ရာဇာနော၊ ယေ သဂ္ဂ ဝိသယံ ဂတာ။

အဓမ္မံ ပရိဝဇ္ဇေတွာ၊ ဓမ္မံစရ မဟီပတိ။ ။

'အန္နဟတ္ထာစ တေ ဗျမှေ၊ ဃောသယန္တု ပုရေတာဝ။

ကောဆာတော ကောစ တသိတော၊ ကောမာလံ ကော ဝိလေပနံ။ ။

'နာနာရတ္တာနိ ဝတ္ထာနိ၊ ကော နဂ္ဂေါ ပရိဒဟိဿတိ။
ကော ပန္ထေ ဆတ္တံ ဓာရေတိ၊ ပါဒုကာစ မုဒူ သုဘာ။ ။
'ဣတိ သာယဥ္စ ပါတောစ၊ ဃောသယန္တု ပုရေတာဝ။
ဓိဋ္ဌပေါသံ ဂဝဿဥ္စ၊ မာသုယုဥ္စ ယထာ ပုရေ။
ပရိပာရဥ္စ ဒဇ္ဇာသိ၊ အဓိကာရ တတော ဗလိံ။ ။'ဟူသော ၅ဂါထာတို့ကို ဆိုတော်မူ၏။ အဓိပ္ပာယ်ကား–

"အင်္ဂတိမင်းကြီး။ ရှေး၌ဖြစ်သော တေရဋ္ဌမင်း, ဝေဿာမိတ္တမင်း, အဋ္ဌကမင်း, ယမဒဂ္ဂိမင်း, ဥသိန္နရမင်း, သိဝိရာဇ်မင်း ဤမင်းတို့သည် ရဟန်းပုဏ္ဏားတို့၏ အလုပ်အကျွေးဒကာ ဖြစ်ကြကုန်၏။ ထိုမင်းတို့သည် လည်းကောင်း, ထိုမှတစ်ပါးသော မင်းတို့သည် လည်းကောင်း အလှူသီတင်း၌ မွေ့လျော်ကုန်သောကြောင့် နတ်ပြည်သို့ သွားကြကုန်ပြီ။

"မြေကြီးကိုအစိုးရသော အင်္ဂတိမင်းကြီး။ မတရားသောအမူအကျင့်ကို မကျင့်နှင့်။ တရားသော အမူအကျင့်ကိုသာလျှင် ကျင့်လော့။ သင်မင်းကြီး၏နန်းတော်ရှေ့၌ ထမင်း,အဖျော် စသည်တို့ကိုစီရင်၍ ကြွေးကြော်စေလော့။ 'အဘယ်သူ တော်မွတ်သနည်း။ အဘယ်သူ ရေ သိပ်သနည်း။ အဘယ်သူ ပန်းနံ့သာပျောင်း အဝတ်တန်ဆာတို့ကို အလိုရှိသနည်း'ဟု ကြွေးကြော်စေ။ 'အဘယ်သူသည် ထီး, ခြေနင်းကို အလိုရှိသနည်း'ဟု ညချမ်း, နံနက်ချမ်းသောအခါတိုင်း သင်မင်းကြီး၏ နန်းတော်ရှေ့၌ ကြွေးကြော်စေ။

"သူတစ်ပါး၏ အိမ်အိုကို လည်းကောင်း၊ နွား,မြင်းအိုကို လည်းကောင်း ရှေးကဲ့သို့ မပျက်မစီးစေလင့်။ ကျေးဇူးရှိသောသူ, ခွန်အား ပညာအား ကျေးဇူးအား ရှိသောသူတို့သည် အိုမင်းမစွမ်းရှိ၍ အရှင်မင်းကြီး၏အမှုကိစ္စကို ရှေးကကဲ့သို့ မရွက်ဆောင်နိုင်သော်လည်း ထို အမှုထမ်း ကျေးဇူးရှိဖူးသောသူတို့အား ရှေးကကဲ့သို့ အခြံအရံ မျိုးရိက္ခာ မပြတ်ပေးလော့"

## ၁၃။ ရထားဥပမာဖြင့် ပြဆိုခန်း

ဤသို့ ဘုရားလောင်း နာရဒဗြဟ္မာမင်းသည် အင်္ဂတိမင်းကြီးအား ဒါနကထာ, သီလကထာကို ဟောပြောပြီး၍ ယခုကား ဤမင်းသည် အကြင်မိမိကိုယ်ကို ရထား၏ဥပမာဖြင့် ဆောင်၍ပြသည်ရှိသော် နှစ်သက်လတ္တံ့။ ထို့ကြောင့် ခပ်သိမ်းသောအလိုကို ဆောင်တတ်သော ရထားဥပမာဖြင့် တရားဟောလိုသည်ဖြစ်၍–

'ကာယော တေ ရထသညာတော၊ မနော သာရထိကော လဟု။
အဝိဟိံသာ သာရိတက္ခော၊ သံဝိဘာဂ ပဋိစ္ဆဒေါ။ ။
'ပါဒသညမ နေမိယော၊ ဟတ္ထသညမ ပက္ခရော။
ကုစ္ဆိသညမ နဗ္ဘတ္တော၊ ဝါစာသညာ မက္ကုဇ္ဇနော။ ။
'သစ္စဝါကျ သမတ္တင်္ဂေါ၊ အပေသုည သုသညတော။
ဂိရာ သခိလ နေလင်္ဂေါ၊ မိတဘာဏီ သိလေသိတော။ ။

'သဒ္ဓါလောဘာ သုသခ်ါရော၊ နိဝါတဥလိ ကုဝရော။
အထဒ္ဓတာ နဘီသကော၊ သီလသံဝရ နဒ္ဓနော။ ။
'အက္ကောဓနေ မနုယာတိ၊ ဓမ္မကဏ္ဍာရ ဆတ္တကော။
ဗာဟုသစ္စ မုပါလမ္ဗော၊ ဓိတိစိတ္တ မုပါဓိယော။ ။
'ကာလညုတာ စိတ္တသာရော၊ ဝေသာရဇ္ဇ တိဒဏ္ဍကော။
နိဝါတဝုတ္တိ ယောတ္တင်္ဂေါ၊ အနတိမာန ယုဂေါသဟု။ ။
'အလီနစိတ္တ သန္ထာရော၊ ဗုဒ္ဓိသေဝိ ရဇောဟတော။
သတိပတော ဒေါဓီရဿ၊ ဓိတိယောဂေါစ ရသ္မိယော။ ။
'မနောဒန္တံ ပထံ နေတိ၊ သမဒန္တေဟိ ဝါဟိဘိ။
ဣစ္ဆာလောဘောစ ကုမ္မဂ္ဂေါ၊ ဥဇုမဂ္ဂေါ စ သံယမော။ ။
'ရူပေ သဒ္ဒေ ဂန္ဓေ ရသေ၊ ဝါဟနဿ ပဓာဝတော။
ပညာ အာကောဋနီ ရာဇ၊ တတ္ထ အတ္တာဝ သာရထိ။ ။
'သံစေ ဧတေန ယာနေန၊ သမစရိယာ ဒဠှာဓိတိ။
သဗ္ဗကာမ ဒုဟော ရာဇ၊ နဇာတု နိရယံ ဝဇေ။ ။'ဟူသော ၁၀ ဂါထာတို့ဖြင့် ဟောတော်မူပေ၏။
အဓိပ္ပာယ်ကား-

"မင်းကြီး။ သင်၏ကိုယ်ကို 'ရထား'ဟု မှတ်အပ်၏။ သင့်စိတ်ကို 'ရထားထိန်း'ဟု မှတ်အပ်၏။ သူတစ်ပါးတို့အား မညှဉ်းဆဲခြင်းမေတ္တာကို အနစ်ပြည့်သော 'ရထားဝင်ရိုး'ဟု မှတ်အပ်၏။ ဝေဖန်ခွဲခြမ်းခြင်းကို 'ရထားဝန်ခံ'သဖွယ် မှတ်အပ်၏။ မင်းကြီး။ သင်၏ခြေကိုကား 'ရထားလှည်းဘီး'သဖွယ် မှတ်အပ်၏။ သင်၏လက်ကိုကား 'ရထားလက်တင်'သဖွယ် မှတ်အပ်၏။ သင်၏ဝမ်းကို ဆီဖြင့်သွန်းအပ်သော 'ရထားပုံတောင်း' သဖွယ် မှတ်အပ်၏။ သင်၏စကားကို 'ရထားအသံ'သဖွယ် မှတ်အပ်၏။

"ဟုတ်မှန်စွာ သစ္စာစကားကိုဆိုခြင်းကိုကား 'အညီအညွတ်သော ရထားအင်္ဂါ' သဖွယ် မှတ်အပ်၏။ ချောပစ် ကုန်းတိုက်သောစကားကို မဆိုမူ၍၊ သူ ၂ယောက်တို့အား စေ့စပ်အပ်သောစကားကို ဆိုခြင်းကို ရထားဦး၌စိုက်ဆောက်အပ်သော 'အလံ' သဖွယ် မှတ်အပ်၏။ သိမ်မွေ့နူးညံ့သောစကားကိုဆိုခြင်းကို 'ပြေပြစ်သောရထားအင်္ဂါ' သဖွယ် မှတ်အပ်၏။ ကိုယ်နှင့်တန်သော စကားကိုဆိုခြင်းကို 'ကောင်းစွာစေ့စပ်အပ်သော ရထားတန်ဆာ' သဖွယ် မှတ်အပ်၏။ သဒ္ဓါခြင်း, အလိုနည်းခြင်းကို 'ကောင်းစွာပြုပြင်အပ်သော ရထား' သဖွယ် မှတ်အပ်၏။ နှိမ့်ချခြင်း, လက်အုပ်ချီခြင်းကို 'ရထားဝက်စွယ်' သဖွယ် မှတ်အပ်၏။ မာန် မခက်ထန်သဖြင့် ကိုင်းညွတ်ခြင်းကို 'ရထားလှည့်သန်' သဖွယ် မှတ်အပ်၏။ သီလစောင့်ခြင်းကို 'ရထားစည်းကုံး' သဖွယ် မှတ်အပ်၏။

"အမျက်မထွက်ခြင်း, မသတ် မညှဉ်းဆဲခြင်း, တရားစောင့်ခြင်းကိုကား ရထား၌စိုက်အပ်သော ထီးဖြူသဖွယ် မှတ်အပ်၏။ အကြားအမြင်များခြင်းကို 'ရထားလက်တင် နောက်မှီတံကဲ' သဖွယ် မှတ်အပ်၏။ တည်ကြည်သောစိတ်ကိုကား 'ရထား မင်းနေရာ'သဖွယ် မှတ်အပ်၏။ အခါအခါကို သိသောအဖြစ်ကို 'ဆန်းကြယ်သော ရထားတန်ဆာ'သဖွယ် မှတ်အပ်၏။ ရဲရင့်ခြင်းကိုကား 'ရထား ဒေါက် ၃ချောင်း' သဖွယ် မှတ်အပ်၏။

"နှိမ့်ချ၍ အဆုံးအမခံခြင်းကို 'ရထားဦး၌ဖွဲ့သော လွန်ကြိုး' သဖွယ် မှတ်အပ်၏။ မာနမရှိခြင်းကို 'ရထားတံကျင်' သဖွယ် မှတ်အပ်၏။ စိတ်၏ မတွန့်တိုခြင်းကို အဆန်းတကြယ် ငြိမ်သက်စွာသော 'ရထားခင်း' သဖွယ် မှတ်အပ်၏။ ပညာရှိကို မှီဝဲခြင်းသည်ကား 'မြူကို ဆေးလျှော်သည်'နှင့် တူ၏။ သတိတရားကိုကား 'ရထား လုံတံ'သဖွယ် မှတ်အပ်၏။ တည်ကြည်ခြင်း၌ ယှဉ်ခြင်းကိုကား 'ရထားထိန်းဆွဲသော ကြိုး' သဖွယ် မှတ်အပ်၏။

"မင်းကြီး။ လှံကန်တို့ကြောင့် ကောင်းသောမြင်းတို့ဖြင့် ကျဲဆောင်လေသကဲ့သို့ ထို့အတူ ယဉ်ကျေးသောနှလုံးဖြင့် နိဗ္ဗာန်သို့သာ ဆောင်နိုင်လေ၏။ အလိုရမ္မက်ကြီးခြင်း တည်းဟူသော ခရီးလမ်းမသည်ကား အပါယ် ၄ပါးသို့သွားရာ မကောင်းသော ခရီးလမ်းမတည်း။ ကိုယ်, နှုတ်, နှလုံးကို စောင့်သုံးခြင်းသည်ကား ဖြောင့်သော လမ်းခရီးတည်း။

"မင်းကြီး။ ရူပါရုံ, သဒ္ဒါရုံ, ဂန္ဓာရုံ, ရသာရုံ, ဖောဋ္ဌဗ္ဗာရုံတည်း ဟူသောလမ်း၌ 'ကိုယ်တည်းဟူသော ရထား'သည် ပြေးလတ်သည်ရှိသော် ပညာတည်းဟူသော လှံကန်ဖြင့် မစောင်းမတိမ်းရအောင်ပြု၍၊ ထို ကိုယ်တည်းဟူသော ရထား၌ မိမိစိတ်သည်ပင်လျှင် ရထားထိန်းတည်း။ မင်းကြီး။ ကောင်းသောအကျင့်, ကောင်းသောတည်ကြည်ခြင်း၌ အကယ်၍ မြဲသည်ဖြစ်အံ့။ ဤသို့သောသံယာဉ်ဖြင့် ခပ်သိမ်းသောအလိုကို ပေးတတ်သော မင်းကြီးသည် ငရဲသို့ မလားပေရာ"

ဤသို့ အင်္ဂတိမင်းကြီးအား ဆုံးမသောအားဖြင့် မှားသောအယူကိုပယ်၍ သီလ၌တည်စေပြီးသော် "ဤနေ့မှစ၍ မကောင်းသောအဆွေခင်ပွန်းကိုပယ်၍ အဆွေခင်ပွန်းကောင်းတို့ကို အမြဲဆည်းကပ်လျက် မမေ့မလျော့ ကျင့်လော့"ဟု အဆုံးအမပေး၍၊ ရုဇာမင်းသမီးအားလည်း များစွာသောအကြောင်းတို့ဖြင့် ချီးမွမ်း၍ မင်း, မိဖုရား, မောင်းမမိဿံ, ခြွေရံပရိသတ်တို့အားလည်း အဆုံးအမပေး၍ များစွာသောတန်ခိုးအာနုဘော်ဖြင့် ထိုပရိသတ်တို့မြင်စဉ်ပင်လျှင် ဗြဟ္မာ့ပြည်သို့ သွားလေ၏။

## ၁၄။ ဇာတ်တော်ပေါင်းခန်း

မြတ်စွာဘုရားသည် ဒေသနာကို စပ်တော်မူလို၍ "ချစ်သားရဟန်းတို့။ ယခုသာလျှင် ဥရုဝေဠကဿပ၏ မိစ္ဆာကွန်ရက်ကိုဖျက်၍ ငါ၏အဆုံးအမ၌ တည်စေသည် မဟုတ်။ ရှေး၌လည်း မိစ္ဆာကွန်ရက်ကိုဖျက်၍ ငါ၏ အဆုံးအမတော်၌ တည်စေသေးသည်"ဟု မိန့်တော်မူ၍–

'အလာတော ဒေဝဒတ္တောသိ၊ သုနာမော အာသိဘဒ္ဒဇိ။
ဝိဇယော သာရိပုတ္တောသိ၊ မောဂ္ဂလာနောသိ ဗီဇကော။ ။
'သုနက္ခတ္တော လိစ္ဆဝိပုတ္တော၊ ဂုဏော အာသိ အစေလကော။
အာနန္ဒော သာရုဇာ အာသိ၊ ယောရာဇာနံ ပသာဒယိ။ ။

'ဥရုဝေဠ ကဿပေါ ရာဇာ၊ ပါပဒိဋ္ဌိ တဒါ အဟု။

မဟာဗြဟ္မာ ဗောဓိသတ္တော၊ ဧဝံ ဓာရေထ ဇာတကံ။ ။'ဟူသော ၃ဂါထာဖြင့် ဇာတ်တော်ကို ပေါင်းတော်မူ၏။ အဓိပ္ပာယ်ကား–

"ချစ်သားရဟန်းတို့။ ငါ နာရဒဗြဟ္မာ ဖြစ်သောအခါ 'အလာတ'အမတ်ကြီးသည် ယခုအခါ 'ဒေဝဒတ်' ဖြစ်လာ၏။ 'သုနာမ' မည်သောအမတ်ကြီးသည် 'ဘဒ္ဒဇိ' ဖြစ်လာ၏။ 'ဝိဇယ' အမည်ရှိသော အမတ်ကြီးသည်ကား ယခုအခါ တရားစစ်သူကြီးအရာ လိမ္မာကျွမ်းကျင်သော လက်ယာရံ 'သာရိပုတ္တရာ' ဖြစ်လာ၏။ 'ဗီဇက' အမည်ရှိသော သူဆင်းရဲသည် လက်ဝဲရံ 'မဟာမောဂ္ဂလာန်' ဖြစ်လာ၏။ အဝတ်မဝတ်သော 'ကဿပတက္ကတွန်း' ကား ယခုအခါ လိစ္ဆဝီမင်းသား 'သုနက္ခတ်' ဖြစ်လာ၏။ 'ရုဇာ'မင်းသမီးကား ယခုအခါ ဘထွေးတော်သား 'အာနန္ဒာထေရ်' ဖြစ်လာ၏။ ထိုအခါ မိစ္ဆာဒိဋ္ဌိအယူကိုယူသော 'အင်္ဂတိ'မင်းကြီးသည်ကား ယခုအခါ 'ဥရုဝေဠကဿပ' ဖြစ်လာ၏။ 'နာရဒ'မည်သော ဗြဟ္မာမင်းသည်ကား လူ ၃ ပါးတို့၏ ရှိသေမြတ်နိုး ကိုးကွယ်ရာဖြစ်သော အလုံးစုံသောတရားတို့ကို အလိုလိုသိမြင်တော်မူသည်နှင့်အညီ ယခုအခါ ငါ 'ဘုရား'လျှင်တည်း"ဟု ဇာတ်တော်ကို ပေါင်းတော်မူ၏။

[ဤ နာရဒဇာတ်တော်သည် ဤကမ္ဘာတွင်း၌ ကဿပမြတ်စွာဘုရားနှင့် ငါတို့မြတ်စွာဘုရား၏ အကြားတွင်ဖြစ်တော်မူသော ဇာတ်တော်တည်း။ အဘယ့်ကြောင့် သိရသနည်းဟူမူ ဤဇာတ်တော်တွင် ရုဇာမင်းသမီးသည် ကမ္ဘာ ၁ သိန်းဖြည့်ပြီးသော ပါရမီရှိ၏ဟု ဆိုသောကြောင့် လည်းကောင်း၊ ဗီဇက သူဆင်းရဲသည် ကဿပမြတ်စွာဘုရား၏ တပည့်ရဟန်းတစ်ပါးအား ပြစ်မှားမိဖူးသောမကောင်းမှု အကျိုးဆက်ကြောင့် သူ့ကျွန်ဖြစ်ရသည် ဆိုသောကြောင့်လည်းကောင်း ဤသို့ ရုဇာမင်းသမီး၏အတ္ထုပ္ပတ္တိ၊ ဗီဇကဝတ္ထုတို့ကို ထောက်၍ သိအပ်၏။]

## နီဝုံး ပိုဒ်စုံရတု

ရှေးဦးကမ္ဘာ၊ တည်စခါက၊ မဟာသမ္မတ်၊ မင်းမြတ်စတည်၊ ကသာပြည်သို့၊ ဘုန်းစီပွင့်လှိုင်း၊ မြန်ရပ်တိုင်းကို၊ အုပ်သိုင်းပြုစု၊ ရန်မတုသား၊ သမ္မုဒ္ဒိရာဇ်၊ စော်နတ်စစ်လျှင်၊ ဘုန်းသစ်ပွင့်လန်း၊ စိုးမြန်းစံရာ၊ အဖြာဖြာတွင်၊ ရပ်သာဟူသည်၊ မြို့အောင်စည်၌၊ အသည်ကြီးသား၊ တို့ဘိုးဘွားလျှင်၊ တိုင်းကား ပြည်ရွာ၊ မငြိမ်ရာတွင်၊ ရပ်သာ နာဂရ၊ ထိုဌာနမှ၊ တူကွမကွေ၊ မျိုးဆွေနွယ်ချည်း၊ တစ်အုပ်တည်းလျှင်၊ တစည်းတဝေး၊ လုပ်ကျွေးကိုးကွယ်၊ မြတ်နွယ်ဆရာ၊ တို့ထိပ်ချာနှင့်၊ သာယာပျိုနု၊ စကုမြို့ကျေး၊ ရွာသူဌေးဟု၊ နီးဝေးခိုလာ၊ ငြိမ်းချမ်းစွာသား၊ ရောမြစ်ဦး၊ ကမ်းနဖူးဝယ်၊ မင်းပူးအောင်မြေ၊ ကျက်သရေသို့၊ ဖြိုးဝေကံငင်၊ ရောက်ကြလျှင်လည်း၊ နှစ်အင်တရား၊ စက်  လေးပါးတွင်၊ တော်သားကြိမ်သင့်၊ ကောင်းကျိုးဆင့်ရှင့်၊ လှစ်ဖွင့်ပြဆို၊ ဤအလိုကား၊ ကုသိုလ်ပွားရာ၊ ကြောင်းအင်္ဂါတွင်၊ ဆရာတင့်တယ်၊ မျိုးနွယ်ကောင်းမြတ်၊ ပြည့်စုံလတ်က၊ ကျင့်ဝတ်တရား၊ အကြားအမြင်၊ ဆင်ခြင်လိမ္မာ၊ ထိုနည်းနာဖြင့်၊ ရေးရာတွင်ကျယ်၊ ဂုဏ်စံပယ်သည်။  ။ ပန်းနှယ်ရောင်ခြည် ရွှန်းလှည့်သောဝ်။

ကျေးဖူးမဟာ၊ ကြီးလှစွာသား၊ ဆရာမြတ်မွန်၊ တို့ထိပ်ပန်လျှင်၊ ကျော်ဝှန်သတင်း၊ ကျွန်းလုံးချဉ်းမျှ၊ မင်းပူးတန်ဆောင်၊ နောက်တောင်ခပ်ယွန်း၊ သိကြားညွှန်း၍၊ တက်ထွန်းကျက်သရေ၊ ဘုန်းပွင့်မြေဝယ်၊ ဓာတ်မွေတော်ပေါင်း၊ ကျိန်းအောင်းပျော်ရာ၊ ရှေ့မျက်နှာက၊ များစွာစေတီ၊ သရီရမျိုး၊ ဂူပုထိုးဝယ်၊ အမျိုးတကာ၊ ပူဇော်ရာသား၊ မဟာစေတိယ၊ ပဗ္ဗတနှင့်၊ ချိုမြရသာ၊ ဩဇာပြည့်နှက်၊ သရက်အုန်းပေ၊ ညွန့်ဝေရွှင်ရွှင်၊ မြေပြန့်သန့်ရှင်း၊ ရေတွင်းရေကန်၊ ပန်းမန်ကြိုင်မွှေး၊ ထုံနံ့အေးလျက်၊ ရန်ဘေးမိစ္ဆာ၊ ပျောက်လွင့်ကွာသား၊ လေသာသမိုက်၊ ကျောင်းတိုက်တော်ကြီး၊ သံဃာ့ထီးဟု၊ ဝေးနီးခိုလာ၊ ရုံသံဃာကို၊ နည်းနာဥပဒေ၊ ပို့ဝေလျက်၊ လေးထွေသီလ၊ ဖြူစင်ပသား၊ မိုးဝကြယ်ရံ၊ ရွှေလစံသို့၊ ဘုန်းလျှံဂုဏ်ဝင်း၊ ကျော်နံ့ခြင်းရှင့်၊ ထံရင်းမကွာ၊ မြတ်ဆရာဝယ်၊ သဒ္ဓါကစွည်း၊ ချသည်နည်းနှင့်၊ ပစ္စည်းနာမ်ရုပ်၊ ပစ္စယုဂ်ဝီထိ၊ နှိုင်းညှိပဋ္ဌာန်း၊ ဆန်းအလင်္ကာ၊ ကဗျာဖွဲ့ထုံး၊ ပန်းနှယ်ကုံး၍၊ နှလုံးယဉ်ကျေး၊ ဂုဏ်နံ့မွှေးလျက်၊ ငယ်သွေးပျိုနု၊ ကောင်းရာမှုဖြင့်၊ ဆယ်စုသက်ဝယ်၊ ဝဏ္ဏရွယ်၌၊ ရှုဖွယ်ရူပ၊ သမဏလျှင်၊ သုတရော၊ ပညာပွားမှု၊ ဤဝတ္တုကို၊ ပြုစုစီရင်၊ ထုတ်စေချင်ဟု၊ ချစ်ခင်နှောင်လား၊ နွယ်မပြားသား၊ ပျိုထွားရွယ်ပေါက်၊ တောင်းပန်လျှောက်၍၊ 'မောင်ထောက်'မည်ဆို၊ ထိုသူကိုလျှင်၊ မင်္ဂလိုဖိုလ်ရလွယ်၊ အကြောင်းသွယ်သည်။  ။ ခန့်ရွယ်အောင်စည် မွှန်းလှည့်သောဝ်။

မွေးကြူရသာ၊ ဤသည့်စာကို၊ နှောင်လာသိထင်၊ ကမ္ဘည်းဆင်အံ့၊ မြတ်ရှင်သာသနာ၊ ထောင်မှာကားဒွိ၊ တြိကား ရာ၊ ဒွါရာကား ဆယ်၊ ခြောက်ခုကယ်ရှင့်၊ မှတ်ရွယ်ဖြိုပစ်၊ သက္ကရာဇ်ကောဇာ၊ ဒီဃမှာကား၊ သချေ်ာ တစ်ထောင်၊ ထိုနှောင်္ဂတစ်ရာ၊ ဆယ်မှာစတု၊ လေးခုစွန်းပါ၊ ဝိသာခါဟု၊ မည်သာနှစ်မည်၊ လသည်လည်းကောင်း၊ တပေါင်းကြူးလစ်၊ ရွက်ဟောင်းပစ်၍၊ ရွက်သစ်ရွှင်ရွှင်၊ မင်းလွင်ဆိုင်းဆိုင်း၊ ညိုမှိုင်းရီရီ၊ သရဖီဖြော်ဖြော်၊

ကံ့ကော်ဆွတ်ဆွတ်၊ ရင်ခတ်သင်းသင်း၊ အင်ကြင်းလှိုင်လှိုင်၊ ပျံ့ကြိုင်စုံခြေ၊ မြစ်ရေဖွေးဖွေး၊ မြစ်တွေးရင်ကာ၊ ဟသာ်လည်နွဲ၊ ဝမ်းဘဲအတူ၊ သဲဖြူပြင်ရိပ်၊ ကမ်းဆိပ်သာယာ၊ ရေမှာတစ်သွယ်၊ ကုန်းဝယ်တစ်ထူး၊ ပျော်ဖွယ်မြူးသား၊ တန်ခူးဆန်းတက်၊ ဆယ့်နှစ်ရက်စေ့၊ သောကြာနေ့ဝယ်၊ ဘုန်းဟေ့လျှံဝင်း၊ နေမင်းရောင်စို၊ သုံးပဟိုရ်ကျော်၊ ခြောက် မောင်းပေါ်တွင်၊ သော်တာလစက်၊ လဂ်နှင့်ယှဉ်မှီ၊ ရာသီကြကင်၊ နက္ခတ်အမြိတ္တာ၊ ပုနဗ္ဗသျှု၊ ပျို့နုရွက်သက်၊ ကြင်ဖက်ရှိသူ၊ အတူနွဲ့ချွေ၊ သက်ဝေကြင်ဖော်၊ မရှိသော်မူ၊ မူးမော်စိတ်ဝမ်း၊ နုံးချွေနွမ်းသား၊ ညချမ်းဤခါ၊ မင်္ဂလာတွင်၊ မကြာဆောလျင်၊ ပြီးအောင်မြင်ရှင့်၊ ဤလျှင်မငြို၊ ငါ့ကုသိုလ်ကြောင့်၊ လူမိုလ်တကာ၊ မေတ္တာသက်ဝင်၊ ဘေးရန်စင်၍၊ များဖြင်ကောင်းကြွယ်၊ လွန်တင့်တယ်သည်။ ။ မြန့်လယ်မှောင်ပြည် ထွန်းလှည့်သော်။

**ဤတွင်ရွေ့ နာရဒဇာတ်တော်ကြီး ပြီးပြည့်စုံပြီ။**

ဝိဓုရဇာတ်

ထို ဣရန္ဒတီသည် အခြားမဲ့သောဘဝက ပုဏ္ဏကဓါ်မယား ဖြစ်ဖူးသတည်း။ ထိုသို့ သံသရာက ချစ်စိတ်ဝါသနာ အထုံပါသော ပုဏ္ဏကဘီလူးသည် ဣရန္ဒတီ၏သီချင်းသံကို ကြားလျှင် ဦးခေါင်းရေသား ကြွမည်ကဲ့သို့ ရိုးတွင်းခြင်ဆီထိအောင် နှစ်သက်ခြင်းပီတိသည် ဖြစ်၍ ဣရန္ဒတီအား တပ်မက်သောစိတ်ဖြင့် မြင်းကိုရပ်စေ၍ သိန္ဓောမြင်းပျံပေါ်၌ နေလျက်လျှင် "အဘယ်။ ငါ၏ပညာအစွမ်းဖြင့် တရားနှင့်အညီ ဝိဓုရသုခမိန်၏နှလုံးသားကို ဆောင်ခြင်းငှာ စွမ်းနိုင်၏။ သင် မစိုးရိမ် လင့်။ သင်သည် ငါ၏မယား ဖြစ်စေအံ့"ဟု ဆို၏။

ပုဏ္ဏကသည် အရှင်မင်းကြီး။ အကယ်၍ အကျွန်ုပ်နှင့် မင်းကြီး လောင်းတမ်း အံကစားကြအံ့။
အကျွန်ုပ် ရှုံးမူ ပတ္တမြားကို ယူတော်မူလော့။ အရှင်မင်းကြီးမှုကား အဘယ်ကို လောင်းတမ်းပြုမည်နည်း" ဟု မေး၏။

'အကြောင်း အသို့နည်း' ဟု ကြည့်လတ်သော်၊ 'မင်း၏ ကိုယ်စောင့်နတ်သမီး၏ အာနုဘော်တည်း' ဟု သိလျှင်၊
မျက်စိကိုဖွင့်၍ အမျက်ထွက်သကဲ့သို့ နတ်သမီးကို မျက်စောင်းထိုးလိုက်လေ၏။
နတ်သမီးလည်း ကြောက်လန့်တကြားပြေးလေ၍
စကြဝဠာတောင်ထိပ်သို့ရောက်လျှင် တုန်လှုပ်လျက် မျှော်ကြည့်၍နေလေ၏။

ထို ဝိမလာဒေဝီ၏သမီးဖြစ်သော ဣရန္ဒတီ နဂါးမင်းသမီးကို အလိုရှိ၏။
ထို ဣရန္ဒတီအမည်ရှိသော နဂါးမင်းသမီးသည် မကြီးမငယ် အရွယ်အချိန်သင့် ဖြစ်သည်နှင့်
ချစ်ကြင်နာလောက်သောမှုရာ, လက္ခဏာကောင်းဟူသမျှလည်း တပေါင်းတည်းစု၍ ရှုမငြီးတင့်တယ်လှ၏။
ထိုနဂါးမင်းသမီးကို လိုသောအကြောင်းကြောင့် သင့်ကို သတ်ချင်သောစိတ်သည် ငါ၌ ဖြစ်၏။

အမတ်သုခမိန်။ 'သွားသောသူနောက်သို့ အစဉ်လိုက်ခြင်း' ဆိုသည်ကား အဘယ်နည်း။
'စွတ်သောလက်ကို မပူလောင်စေနှင့်' ဆိုသည်ကား အဘယ်နည်း။
'မိန်းမယုတ်' ဟူသည်ကား အဘယ်နည်း။
'ခင်ပွန်း ဖြစ်မှားသောသူ' ဟူသည်ကား အဘယ်နည်း။
ဤ ၄ ပါးသောတရားကို သင်ဟောသော်လည်း
သဘောလျှို့ဝှက် ခဲခက်ကျဉ်းလှသောကြောင့် ငါ မသိနိုင်။



မွေ့သိမ်ညှံ့နု ရှုချမငြီးသော ဣရန္ဒတီမင်းသမီးကို ငါ့အား ထိမ်းမြားလက်ထပ် ပေးအပ်သော အခြင်းအရာဖြင့်
အတူတကွ စံပျော်ရမည့်အကြောင်းကို ပြုပေ၏။ သင်သုစမိန်အားလည်း ငါသည် ကျေးဇူး တုံ့အပ်ပါအံ့။
စကြဝတေးမင်းတို့သာ သုံးဆောင်ထိုက်သော ဤမနောဟာရပတ္တမြားကို သင့်အား ပေး၏။

## ဝိဓုရဇာတ်

ထို ဣရန္ဒတီသည် အခြားမဲ့သောဘဝက ပုဏ္ဏကဏ်၏မယား ဖြစ်ဖူးသတည်း။ ထိုသို့ သံသရာက ချစ်စိတ်ဝါသနာ အထုံပါသော ပုဏ္ဏကဘီလူးသည် ဣရန္ဒတီ၏သီချင်းသံကို ကြားလျှင် ဦးခေါင်းရေသား ကြွမည်ကဲ့သို့ ရိုးတွင်းခြင်ဆီထိအောင် နှစ်သက်ခြင်းပီတိသည် ဖြစ်၍၊ ဣရန္ဒတီအား တပ်မက်သောစိတ်ဖြင့် မြင်းကိုရပ်စေ၍ သိန္ဓောမြင်းပျံပေါ်၌ နေလျက်လျှင် "အဘယ်။ ငါ၏ပညာအစွမ်းဖြင့် တရားနှင့်အညီ ဝိဓုရသုခမိန်၏နှလုံးသားကို ဆောင်ခြင်းငှာ စွမ်းနိုင်၏။ သင် မစိုးရိမ်လင့်။ သင်သည် ငါ၏မယား ဖြစ်စေအံ့"ဟု ဆို၏။

ပုဏ္ဏကသည် အရှင်မင်းကြီး။ အကယ်၍ အကျွန်ုပ်နှင့် မင်းကြီး လောင်းတမ်း အံ့ကစားကြအံ့။
အကျွန်ုပ် ရှုံးမူ ပတ္တမြားကို ယူတော်မူလော့။ အရှင်မင်းကြီးမူကား အဘယ်ကို လောင်းတမ်းပြုမည်နည်း" ဟု မေး၏။

'အကြောင်း အသို့နည်း' ဟု ကြည့်လတ်သော်၊ 'မင်း၏ ကိုယ်စောင့်နတ်သမီး၏ အာနုဘော်တည်း' ဟု သိလျှင်၊
မျက်စိကိုဖွင့်၍ အမျက်ထွက်သကဲ့သို့ နတ်သမီးကို မျက်စောင်းထိုးလိုက်လေ၏။
နတ်သမီးလည်း ကြောက်လန့်တကြားပြေးလေ၍
စကြဝဠာတောင်ထိပ်သို့ရောက်လျှင် တုန်လှုပ်လျက် မျှော်ကြည့်၍နေလေ၏။

ထို ဝိမလာဒေဝီ၏သမီးဖြစ်သော ဣရန္ဒတီ နဂါးမင်းသမီးကို အလိုရှိ၏။
ထို ဣရန္ဒတီအမည်ရှိသော နဂါးမင်းသမီးသည် မကြီးမငယ် အရွယ်အချိန်သင့် ဖြစ်သည်နှင့်
ချစ်ကြင်နာလောက်သောမူရာ, လက္ခဏာကောင်းဟူသမျှလည်း တပေါင်းတည်းစု၍ ရှုမငြီးတင့်တယ်လှ၏။
ထိုနဂါးမင်းသမီးကို လိုသောအကြောင်းကြောင့် သင့်ကို သတ်ချင်သောစိတ်သည် ငါ၌ ဖြစ်၏။

အမတ်သုခမိန်။ 'သွားသောသူနောက်သို့ အစဉ်လိုက်ခြင်း' ဆိုသည်ကား အဘယ်နည်း။
'စွတ်သောလက်ကို မပူလောင်စေနှင့်' ဆိုသည်ကား အဘယ်နည်း။
'မိန်းမယုတ်' ဟူသည်ကား အဘယ်နည်း။
'ခင်ပွန်း ပြစ်မှားသောသူ' ဟူသည်ကား အဘယ်နည်း။
ဤ ၄ ပါးသောတရားကို သင်ဟောသော်လည်း
သဘောလျှို့ဝှက် ခဲခက်ကျဉ်းလှသောကြောင့် ငါ မသိနိုင်။



မွေသီမိညှဲ့နှ ရှုရှိမငြိုးသော လက္ခဏာတိမင်းသမီးကို ငါ့အား ထိမ်းမြားလက်ထပ် ပေးအပ်သော အခြင်းအရာဖြင့်
အတူတကွ စံပျော်ရမည့်အကြောင်းကို ပြုပေ၏။ သင်သူ့ဧမိန်အားလည်း ငါသည် ကျေးဇူး တုံ့အပ်ပါအံ့။
စကြဝတေးမင်းတို့သာ သုံးဆောင်ထိုက်သော ဉာမနောဟာရပတ္တမြားကို သင့်အား ပေး၏။

# ဝိဓုရ ဇာတ်တော်ကြီး

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။**

## ပဏာမ

ဝိဒိတဗ္ဗံ ဝိဇာနန္တံ၊ ဝိသုဒ္ဓံ သုဒ္ဓနိဿိတံ။
သိဒ္ဓိမေဝ မမိစ္ဆန္တော၊ နမာမိ တဿ တေဇသာ။ (ပဏ္ဍာဝတ္တ ဂါထာ)

အဟံ၊ ငါသည်။ ဝိဒိတဗ္ဗံ၊ သိအပ်သော ဉေယျဓံတရား ၅ ပါးအပေါင်းကို။ ဝိဇာနန္တံ၊ သဗ္ဗညုတဉာဏ်ဖြင့် သိတော်မူထသော။ ဗုဒ္ဓဥ္စ၊ မြတ်စွာဘုရားကို လည်းကောင်း။ ဝိသုဒ္ဓံ၊ ညစ်ကြေးမတင် ဖြူစင်စွာသော။ ဓမ္မဥ္စ၊ မဂ် ၄ တန် ဖိုလ် ၄ တန် နိဗ္ဗာန်ပရိယတ်ဟု ဆိုအပ်သော ၁၀ ပါးသောတရားတော်မြတ်ကို လည်းကောင်း။ သုဒ္ဓနိဿိတံ၊ သာသနာတော် ၃ ပါးတည်းဟူသော ဖြူစင်လှစွာသောတရားကို ကျင့်ဆောင်သောအားဖြင့် မှီသော။ သံဃဥ္စ၊ ကလျာဏပုထုဇဉ် ပုဂ္ဂိုလ်နှင့်တကွ ၈ ယောက်သော ပရမတ္ထ သံဃာတော်မြတ်ကို လည်းကောင်း။ နမာမိ၊ ရှိခိုးပါ၏။ တဿ ပုညဿ၊ ထိုရှိခိုးခြင်း ပဏာမ ကုသိုလ်စေတနာ၏။ တေဇသာ၊ အစွမ်းဖြင့်။ မမ၊ အကျွန်ုပ်၏။ ဣစ္ဆာ၊ အလိုဟူသမျှသည်။ သိဒ္ဓိမေဝ၊ အပြီးသို့သာလျှင်။ ဧတု၊ ရောက်ပါစေသတည်း။

## နိဒါန်း

နတ်မင်း, အသုရာမင်း, ဂဠုန်မင်း, လူမင်း, နဂါးမင်း, ဂန္ဓဗ္ဗနတ်မင်းတို့၏ မကိုင်ရှည်ရဖူးအထွတ်အဖျား၌ တပ်အပ်သော ကျောက်မျက်ရှင်ပေါ်၌ ၁၀၈ ကွက် စက်လက္ခဏာတော်နှင့်ပြည့်စုံတော်မူသော ခြေတော်အစုံဖြင့်ရပ်ခြင်းဟု ထိုက်တော်မူသည်ဖြစ်၍ ဘုံ ၃ ဦး၌ တုဖက်လွတ်ကင်း မင်းတကာတို့၏သခင် ဖြစ်တော်မူသော တရားမင်းဘုရားသည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌နေတော်မူသောအခါ ကိုယ်တော်မြတ်၏ ပညာပါရမီတော်ကိုအကြောင်းပြု၍ 'ပဏ္ဍုကမ္ဗလသိလာသိ ဒုဗ္ဗမလာ'အစရှိသော ဂါထာပုဒ်တို့ဖြင့် တန်ဆာဆင်အပ်သော ဤ 'ဝိဓုရ'ဇာတ်တော်ကို ဟောတော်မူ၏။

## နိဒါန်းအကျယ်ကား

တစ်နေ့သ၌ ရဟန်းတို့သည် တရားသဘင်၌ စည်းဝေးကုန်လျက် ဤသို့သောစကားကို ဖြစ်စေကြကုန်၏။

"အရှင်တို့။ လောက ၃ ပါး၏ဆရာဖြစ်တော်မူသော မြတ်စွာဘုရားသည် အံ့ဩဖွယ် ရှိစွ။ ကြီးသော ပညာတော်, အထူးထူးအပြားပြားသော ပညာတော်, နက်နဲသော ပညာတော်, ရွှင်သော ပညာတော်, လျင်သော ပညာတော်, ထက်သော ပညာတော်, အခိုက်အငြိမရှိသော ပညာတော်, သူတစ်ပါးတို့၏အယူကို နှိမ်နင်းနိုင်သော ပညာတော် ရှိတော်မူ၏။ ပညာတော်၏အစွမ်းအားဖြင့် မင်း, ပုဏ္ဏား အစရှိကုန်သောပညာရှိတို့သည် စီရင်အပ်သော သိမ်မွေ့လျှို့ဝှက် ခက်ခဲသောပြဿနာတို့ကို ဖြေဆိုတော်မူသည်ဖြစ်၍၊ အယူကိုဖျက်ဆီးလျက် ထိုထို မင်း, ပုဏ္ဏား အစရှိသောသူတို့ကို ဆုံးမတော်မူသဖြင့် အဆိပ်အတောက်မရှိသည်ကိုပြု၍၊ သရဏဂုံ, ပဉ္စသီ, အဋ္ဌသီ, ဒသသီ အစရှိသည်တို့၌တည်စေသဖြင့် နိဗ္ဗာန်သို့ရောက်ရာရောက်ကြောင်း ကောင်းမြတ်သောခရီးကို ညွှန်ကြား တော်မူပေ၏"ဟု စကားဖြစ်ကြကုန်၏။

မြတ်စွာဘုရားသည် ထို ရဟန်းတို့အစည်းအဝေးသို့ ကြွတော်မူလတ်၍

"ရဟန်းတို့။ ယခု ငါလာတော်မူသောအခါ အဘယ်စကားကြောင့် စည်းဝေးကြကုန်သနည်း"ဟု မေးတော်မူလျှင်၊ ရဟန်းတို့လည်း "ပညာပါရမီတော်ကို ချီးမွမ်းပါကုန်သည်"ဟု ဦးတင်လျက် နားတော် လျှောက်ကုန်လတ်သော်၊

"ရဟန်းတို့။ လာခြင်းကောင်းသော ငါဘုရားသည် သဗ္ဗညုတဉာဏ် အထွတ်အမြတ်သို့ရောက်ပြီဖြစ်၍ သူတစ်ပါးတို့၏အယူကို ဖျက်ဆီးလျက် မင်း အစရှိသောသူတို့ကို ဆုံးမခြင်းသည် မခဲယဉ်းဖြစ်သောကြောင့် ယခု ငါ၏ပညာတော်သည် အံ့ဖွယ် မရှိလွန်းသေး။ ရှေးသံသရာ၌ သဗ္ဗညုတဉာဏ်ကိုရှာလျက် ပါရမီတော် မရင့်မီကပင်လျှင် ပညာရှိတော်မူသည်ဖြစ်၍ သူတစ်ပါးတို့အယူကို နှိပ်နင်းတော်မူဖူး၏။ ထိုစကားသည် မှန်၏။ ငါဘုရားသည် 'ဝိဓုရ'သတို့သား ဖြစ်တော်မူသောအခါ ယူဇနာ ၆၀ အမြင့်ရှိသော ကာဠာဂိရိတောင်ထိပ်ထက်၌ 'ပုဏ္ဏက' အမည်ရှိသော ဘီလူးစစ်သူကြီးကို ဉာဏ်တော်အစွမ်းဖြင့် ဆုံးမ၍၊ အဆိပ်အတောက်မရှိသည်ကိုပြုလျက် မိမိ၏အသက်ကိုလည်း ပေးစေ၏"ဟု မိန့်တော်မူ၍၊ ဆိတ်ဆိတ်နေတော်မူ၏။

ထိုအခါ ရဟန်းတို့သည် "ပုဏ္ဏကအား ဆုံးမကြောင်း, ကိုယ်တော်၏အသက်ကို ပေးစေကြောင်း အစရှိသော ဝိဓုရဇာတ်တော်ကို ထင်ရှားသိသာအောင် ဟောတော်မူပါ"ဟု လျှောက်တောင်းပန်လတ်သော်၊ အတိတ်ကိုဆောင်၍ ဝိဓုရဇာတ်တော်ကို ဟောတော်မူ၏။

"အို၊ နတ်သမီး။ ယခု ငါ့အား စောင့်ရှောက်လော့။ ငါ့အကျော်အစော မရှိသည်ကို ရှုလော့။ အစဉ်သနားသဖြင့် ငါ၏မှီခိုရာသည် ဖြစ်လော့။ မိခင်နတ်သမီး။ အန်ရွှဲသည် ဇမ္ဗူရာဇ် ရွှေစင်အတိ[၁၆]ပြီး၏။ ၄ ထောင့်ရှိ၏။ လက် ၈ သစ် ပမာဏရှိ၏။ ပရိသတ်အလယ်၌ အရောင်အသရေဖြင့် တောက်ပ၏။ ခပ်သိမ်းသောအလိုကိုလည်း ပေးတတ်၏။ မိခင်နတ်သမီး။ ငါကား တန်ခိုးနည်း၏။ မိခင်နတ်သမီးကား ငါ့ကို အစဉ်သနားသဖြင့် ကောင်းသောအမြင်ကို မြင်၏။ ငါ၏အောင်မြင်ခြင်းကို ပေးလော့"ဟု အန်သီချင်းကို သီဆို၍ နတ်သမီးကို တောင်းပန်၏။

[သေ ဟူသော အန်ရွှဲသည်ကား ၈ ရေး ရှိ၏။ သံ ဟူသော အန်ရွှဲသည်ကား ၆ ရေး ရှိ၏။ အိမ်စေ ဟူသော အန်ရွှဲသည်ကား ၄ ရေး ရှိ၏။ ငုစုံကား ၂ ပေါက် ရှိ၏ ဟူ၍ သိအပ်၏။ ခေါ်ဝေါ်သောအရေးတို့ကို ၂၄ ရေးရှိ၏ဟူ၍ မြတ်စွာဘုရားသည် ဟောတော်မူအပ်၏။ ဤလည်း တစ်နည်း။

စေသံ, စေငု, သေစေငု, ၁ လက်တွင် ၂ ရေး ရှိ၏။ ဇစုံ, စေ, ငုစေ, ၁ လက်တွင် ၇ ရေးရှိ၏။ ဤကား အရေး ၂၀ တည်း။

ငုသေသံ, စေ, ငုစုံ, သေစုံ, ငုသံ, သေသံ, သံသေ၊ ဤကား လူတကာတို့ခေါ်စရာ ၂၄ ရေးလျှင်တည်း။

တစ်နည်းလည်း ဤသို့ အန်ရေး ခေါ်စား၏။ စေငု, စေသံ, စေသေ၊ ၃ ခု ၁ ခု ခေါ်စကုန်၏။ သံသေ, စုံ, သံသေ၊ ၃ ခု ၁ ခု ခေါ်စကုန်၏။ ငုသေ, ငုသံ, ငုသေ၊ ၃ ခု ၁ ခု ခေါ်စကုန်၏။ သေ, အိမ်သေ, သံသေငု၊ ၃ ခု ၁ ခု ခေါ်စကုန်၏၊ ၂၄ ရေးတည်း။ ဤသို့လည်း ရှေ့အန်ရေးနှင့် နောက်အန်ရေးလျှင် ကောင်းမြတ်၏။

သေကား–အရေးဗိန္ဒု ၄ ခု၊ သံကား–အရေးဗိန္ဒု ၃ ခု၊ အိမ်စေကား–အရေးဗိန္ဒု ၂ ခု၊ ငုစုံကား–အရေးဗိန္ဒု ၁ ခု၊ ဤကား အန်ပစ် တစ်ချောင်းတွင်ကိုသာ ဆိုသည်။ တစ်ချောင်းမှာလည်း ဤမျှ လည်းကောင်းတည်း။ ၂ ချောင်းသော် အရေး ၂၀ ရှိ၏။

သေ ဟူသော အန်ရွှဲကား ကျီးမြည်သံကဲ့သို့ မြည်၏။ သံ ဟူသော အန်ရွှဲကား ဖားမြည်သံကဲ့သို့ မြည်၏။ အိမ်စေ ဟူသော အန်ရွှဲကား လုည်းဝင်ရိုးသံကဲ့သို့ မြည်၏။ ငုစုံ ဟူသော အန်ရွှဲကား ၄ ပါးသော မြည်ခြင်းဖြင့် မြည်၏။ ဤသို့လျှင် အန်ရေးကို မှတ်အပ်၏။]

ဓနဉ္စယမင်းသည် အန်သီချင်းကိုသီလျက် အန်ရွှဲကို လက်ဖြင့် ပြောင်းပြန်သွန်၍ ကောင်းကင်သို့ ပစ်လိုက်၏။ ပုဏ္ဏက၏အာနုဘော်[၁၇]ဖြင့် မင်းကိုရှုံးစေလျက် ကျလာ၏။

မင်းသည် အန်အတတ်၌ လိမ္မာသည်၏အဖြစ်ကြောင့် အန်ရွှဲကျသည်ကိုမြင်လျှင် မိမိ ရှုံးအံ့သော အခြင်းအရာဖြင့် ကျသည်ကိုသိ၍ ငွေအင်းပျဉ်ပေါ်သို့မကျမီ ကောင်းကင်ကပင်လျှင်ဖမ်းယူ၍ တစ်ဖန် ကောင်းကင်သို့ ပစ်ပြန်၏။ ဤ၌လည်း မိမိရှုံးအံ့သောအခြင်းအရာဖြင့် ကျသည်ကိုသိ၍ အင်းပျဉ်ပေါ်သို့မကျမီ ဖမ်းမိပြန်၏။

ထိုအခါ ပုဏ္ဏကသည် ကြံ၏။ 'ဤမင်းသည် ငါသို့သောဘီလူးနှင့် အန်ကစားကြသော် မိမိ ရှုံးအံ့သော အခြင်းအရာဖြင့် ကျသောအန်ရွှဲကို ဖမ်းမိလေသည်ကား အကြောင်းအသို့နည်း'ဟုကြည့်လတ်သော်၊ 'မင်း၏ ကိုယ်စောင့်နတ်သမီး၏ အာနုဘော်တည်း'ဟုသိလျှင် မျက်စိကိုဖွင့်၍ အမျက်ထွက်သကဲ့သို့ နတ်သမီးကို မျက်စောင်းထိုးလိုက်၏။

နတ်သမီးလည်း ကြောက်လန့်တကြားပြေးလေ၍ စကြဝဠာတောင်ထိပ်သို့ရောက်လျှင် တုန်လှုပ်လျက် မျှော်ကြည့်၍နေလေ၏။

မင်းသည် ၃ ကြိမ်မြောက် အန်ရွဲကိုပစ်ပြန်လျှင် ကျလာသောအန်၏ ရှုံးအံ့သောအခြင်းအရာကို သိသော်လည်း ပုဏ္ဏက၏အာနုဘော်ဖြင့် မိမိလက်ကိုဆန့်၍ အန်ရွဲကိုဖမ်းခြင်းငှာ မတတ်နိုင်သည်ဖြစ်၍၊ အန်ရွဲတို့သည် ရှုံးအံ့သောအခြင်းအရာဖြင့်ချည်း ကျကုန်၏။

ထို့နောက် ပုဏ္ဏကသည် အန်ရွဲတို့ကို ပစ်သည်ရှိသော် မိမိအောင်အံ့သော အခြင်းအရာဖြင့် ကျကုန်၏။ ထိုသို့ကျသောအခါ၌ မင်းရှုံးသောအဖြစ်, မိမိနိုင်သောအဖြစ်ကိုသိလျှင် ပုဏ္ဏကသည် ထ၍ လက်ပမ်းပေါက်ခတ်လျက် 'ဇိတံ မေ, ဇိတံ မေ' "ငါအောင်ပြီ, ငါအောင်ပြီ"ဟု ပြင်းစွာသောအသံဖြင့် ၃ ကြိမ် ဟစ်၏။ ထို ပုဏ္ဏကအသံသည် ဇမ္ဗူဒိပ်ကျွန်း ၁ သောင်းလုံးနှံ့၍ ကြားလေ၏။

ဓနဉ္စယမင်းသည် အန်ရှုံးခဲ့သော် ပြင်းစွာ နှလုံးမသာဖြစ်၏။ မင်းကြီး၏ နှလုံးမသာရှိကြောင်းကို ပုဏ္ဏကသိ၍ နှစ်သိမ့်စေခြင်းငှာ 'ဇယော မဟာရာဇ'အစရှိသောဂါထာကို ရွတ်၏။ အဓိပ္ပာယ်ကား-

"အရှင်မင်းကြီး။ လောင်းတမ်းဟူသည် ၂ ဦးလုံးပင် မိမိကိုယ်ကို နိုင်အောင် အားထုတ်ကြသည်ချည်းပင် ဖြစ်သည်။ ထိုသို့ ဖြစ်သော်လည်း ၂ ဦးစလုံး နိုင်ရိုးမရှိ။ တစ်ယောက်ယောက်သာ ရှုံးမြဲ, နိုင်မြဲ ဖြစ်သည်။ ဤ အန်ကစားကြရာ၌လည်း အရှင်မင်းကြီးကိုယ်ကို အရှင်မင်းကြီး ရှုံးအောင်ပြုတော်မူသည် မဟုတ်။ နှလုံးမသာ ရှိတော်မမူလင့်။ အရှင်မင်းကြီးကို မြတ်သောဥစ္စာဖြင့် အကျွန်ုပ် အောင်ပြီ။ လောင်းတမ်းဥစ္စာကို ယခု ပေးတော်မူ။ အကျွန်ုပ်အရပ်လည်း ဝေးသည်။ အကြာအရှည် မငံ့သာ"ဟုဆို၏။ မင်းကြီးလည်း လောင်းတမ်းဥစ္စာကို ပုဏ္ဏားအား ပေးလို၍ 'ဟတ္ထိဂဝဿာ'အစရှိသော ဂါထာကို ရွတ်၏။ အဓိပ္ပာယ်ကား-

"ကစ္စည်းလုလင်။ ငါ အစိုးရတော်မူသော ဤမြေအပြင်၌ ဆင်, မြင်း, နွားလား အစရှိသော ဥစ္စာ၊ ပတ္တမြား, နားတောင်းဝတ်ဆင်ကုန်လျက် နှစ်သက်ဖွယ်သော သမီးကညာ၊ ရတနာ, ရွှေ, ငွေ, ပတ္တမြား အစရှိသော များစွာကုန်သော ရတနာတို့သည် ရှိကုန်၏။ ထိုရတနာတို့တွင် ကောင်းရာမြတ်ရာ သင်နှစ်သက်ရာ တစ်ခုခုကိုယူ၍ လိုရာအရပ်သို့ သွားလေတော့"ဟု ဆို၏။

ပုဏ္ဏကလည်း မိမိလိုသောရတနာကို ကြားလို၍ 'ဟတ္ထိဂဝဿာ' အစရှိသောဂါထာကို ရွတ်၏။ အဓိပ္ပာယ်ကား-

"အရှင်မင်းကြီး။ နိုင်ငံတော်၌ ဆင်, မြင်း, နွား, ပတ္တမြား ရောင်မောင်း နားတောင်းဝတ်ပြီး သမီးကညာတို့မှတစ်ပါး၊ များစွာသော အရှင်မင်းကြီး၏ ရတနာအပေါင်းတို့တွင် 'ဝိဓုရအမတ် သုခမိန်တည်း'ဟူသော ရတနာတစ်ပါးသည်သာ အမြတ်ဆုံးတည်း။ 'ငါရှုံးလျှင် သင်နှစ်သက်ရာ မြတ်ရာရတနာကို ယူလေတော့'ဟု ဆိုသော အရှင်မင်းကြီးစကားနှင့်အညီ 'ဝိဓုရသုခမိန်တည်း'ဟူသော ရတနာမြတ်ကို အကျွန်ုပ်အား ပေးလော့"ဟု ဆို၏။

ထိုစကားကိုကြားလျှင် ဝိဓုရသုခမိန်ကို ဂုဏ်ကိုပြ၍လွတ်စိမ့်သောငှာ 'အတ္တာ စ မေ'အစရှိသော ဂါထာကို မင်းကြီး ဆို၏။ အဓိပ္ပာယ်ကား-

"ကစ္စည်းလုလင်။ အန်မကစားမီ အထက်ကပင် 'ငါ့ကိုယ်ကို လည်းကောင်း, မိဖုရားကို လည်းကောင်း, ထီးဖြူကို လည်းကောင်း ကြဉ်စေ။ ဤမှတစ်ပါးသော ဥစ္စာကိုသာ လောင်းတမ်းပြုမည်'ဟု သင့်ကို ငါဆိုသည် မဟုတ်လော။ ဤ ဝိဓုရသုခမိန်သည် ငါ၏ကိုယ်ပင် ဖြစ်သည်။ ငါအစိုးရသော ရတနာတို့နှင့် မနှိုင်းယှဉ်သာ။

ထိုသို့ ငါ၏ကိုယ်ပင်ဖြစ်သောကြောင့် လောင်းတမ်းဥစ္စာ မဝင်ဖြစ်၍ သင် မယူထိုက်။ ဝိဓုရသည် ငါ၏ ကိုယ်မျှသာလည်း မဟုတ်ပေသေး။ ငါ၏ကိုးကွယ်ရာလည်း ဖြစ်ပေ၏။ ကောင်းသောအလားသို့ လားရာလည်း ဖြစ်၏။ မှီရာကျွန်းကြီးသဖွယ်လည်း ဖြစ်၏။ ပုန်းအောင်းရာ လိုဏ်နန်းသဖွယ်လည်း ဖြစ်၏။ လဲလျောင်းရာလည်း ဖြစ်၏"ဟု ဆို၏။ ပုဏ္ဏကသည် 'စိရံ ဝိဝါဒေါ' အစရှိသော ဂါထာကို ဆိုပြန်၏။ အဓိပ္ပာယ်ကား–

"အရှင်မင်းကြီး။ ကျွန်ုပ်နှင့် အရှင်မင်းကြီးသည် လောင်းတမ်း ဖြစ်ထိုက်, မထိုက်ကို ငြင်းခုံ၍နေလျှင် ကြာတော့မည်သာ ဖြစ်သည်။ ထို ဝိဓုရသုခမိန် အထံသို့ပင်လျှင်သွား၍၊ အကျွန်ုပ်တို့ စကား ၂ ရပ်နှင့် ဝိဓုရ၏ အဆုံးအဖြတ်ကို ခံကြအံ့။ ဝိဓုရသုခမိန် ဆုံးဖြတ်ရာဖြစ်စေတော့"ဟု ဆို၏။ မင်းကြီးသည် ထိုစကားကို နှစ်သက်၍ 'အဒ္ဓါ ဟိ သစ္စံ'အစရှိသော ဂါထာကို ဆို၏။ အဓိပ္ပာယ်ကား–

"ကစ္စည်းလုလင်။ သင်သည် စဉ်းလဲစဉ်းစား မပြု။ ဟုတ်မှန်ရာစကားလမ်းကိုပင် ဆိုပေသည်။ သင် ဆိုတိုင်း ငါလည်း နှစ်သက်၏။ ငါတို့အစုံအညီသွား၍ ဝိဓုရသုခမိန်ဆုံးဖြတ်တိုင်း ဖြစ်စေအံ့"ဟုဆို၍၊ ဓနဉ္စယ မင်းသည် ၁၀၁ ပါးသော မင်းတို့ဖြင့် ခြံရံလျက် ပုဏ္ဏကကိုလည်း ခေါ်၍၊ ဝမ်းမြောက်ဝမ်းသာ အန်ကစားရာ သဘင်မှထ၍ တရားဆုံးဖြတ်ရာသဘင်သို့ လျင်စွာ သွားကြလေ၏။

ဝိဓုရသုခမိန်သည် မင်းကြီးလာသည်ကို မြင်လျှင် မိမိနေရာ တရားဆုံးဖြတ်ရာပလ္လင်မှဆင်း၍ လျောက်ပတ်ရာအရပ်၌ နေ၏။ ထိုအခါ ပုဏ္ဏကသည် ဘုရားလောင်း ဝိဓုရသုခမိန်ကို ဤသို့ဆို၏။

"သုခမိန်။ သင်သည် တရား၌လည်း တည်၏။ မိမိ အသက်ကြောင့်လည်း မမှန်သောစကားကို မဆို။ ဤသို့ ကျော်စောသော သင်၏ဂုဏ်ကျေးဇူး သံသည် အလုံးစုံသောလူ၌ နံ့၍ထင်ရှား၏။ ငါသည် ယခု သင်သုခမိန်၏ တရား၌တည်သောအဖြစ်ကို သိရအံ့"ဟု ဆို၍၊ 'သစ္စံနု ဒေဝါ' အစရှိသော ဂါထာကို ဆို၏။ အဓိပ္ပာယ်ကား–

"သင် သုခမိန်။ ကုရုတိုင်း၌ ဝိဓုရအမည်ရှိသောအမတ်သည် တရား၌ တည်၏။ အသက်တည်းဟူသော အကြောင်းကြောင့် မမှန်သောစကားကို မဆိုဟူ၍၊ နတ်တို့၌ ကျော်စောထင်ရှားစွာ ချီးမွမ်းပြောဆိုကြကုန်သည်။ ထို နတ်တို့ဆိုသောစကားသည် အမှန်ပင်လော။ ယင်းသို့မဟုတ်မူ မမှန်လော။ သင်သုခမိန်သည် မင်းကြီး၏ ကျွန်ပေလော။ ယင်းသို့မဟုတ်မူ မင်းကြီး၏ ဆွေတော်မျိုးတော်ပေလော"ဟု မေး၏။

ထိုသို့မေးသောအခါ ဘုရားလောင်းသည် ဤသို့ ကြံ၏။

'ဤလုလင်သည် ဤအကြောင်းကို ငါ့အား မေး၏။ ငါသည် ထိုသူအား မင်း၏ဆွေမျိုး ဟူ၍ လည်းကောင်း, မင်းထက်မြတ်သောသူ ဟူ၍လည်းကောင်း, မင်းနှင့် စိုးစဉ်းမျှမတော်မစပ် သူစိမ်းပြင်ပြင် ဟူ၍လည်းကောင်း ဆိုသဖြင့် ငါ့စကားကို မှတ်ယူစေခြင်းငှာ စွမ်းနိုင်၏။ ဤလောက၌ သစ္စာနှင့်တူသော ကိုးကွယ်ရာမည်သည်ကား မရှိ။ မှန်သောစကား ကိုသာလျှင် ငါ ဆိုအံ့'ဟု ကြံ၍၊ 'လုလင်။ ငါသည် မင်း၏ ဆွေမျိုးလည်း မဟုတ်ပေ။ မင်းထက်မြတ်သောသူလည်း မဟုတ်ပေ။ ကျွန်အပြား ၄ ပါးတွင် တစ်ပါးဝင်သော ကျွန်တည်း'ဟု ပြခြင်းငှာ၊ 'အာမာယ ဒါသာပိ'အစရှိသော ဂါထာကို ရွတ်၏။ အဓိပ္ပာယ်ကား–

"လုလင်။ ငါတို့မင်းကြီးအား အကျိုးစီးပွား ရှိသည်မူလည်း ဖြစ်စေ, မရှိသည်မူလည်းဖြစ်စေ ဟုတ်မှန်ရာကိုသာ ငါဆိုအံ့။ လောက၌ ကျွန်မျိုးသည် ၄ ပါး ရှိသည်။ ၄ ပါးဟူသည်ကား အန္တောဇာတဖြစ်သော အိမ်ပေါက်ကျွန်, ဓနက္ကီတဖြစ်သော ဥစ္စာဖြင့်ဝယ်သောကျွန်, သယံဒါသုပဂတ ဟူသော သူခစားကျွန်, တိုင်းတစ်ပါးမှဆောင်ခဲ့၍ ကရမရဖြစ်သော သုံ့ရကျွန်[၁၈] ဟူ၍ ၄ ပါးတည်း။ ထို ကျွန် ၄ မျိုးတို့တွင်

ငါသည် မင်းခစားအမတ် ဖြစ်ချေသောကြောင့် 'သယံဒါသုပဂတ' ကျွန်မျိုး အဝင်ပေတည်း။ ငါသည် အရပ်တစ်ပါးသို့ပင် ရောက်သော်လည်း မင်းကြီးကျွန် ပေလျှင်တည်း။ မင်းကြီးသည် တစ်စုံတစ်ခု ပြုရာကိစ္စကြောင့် ငါ့ကို သင်လုလင် အစရှိသောသူတို့အား ပေးတော်မူသော်လည်း၊ တရားသဖြင့်ပေးခြင်းပင် ဖြစ်သည်"ဟုဆို၏။

ထိုစကားကိုကြားလျှင် ပုဏ္ဏကသည် ဝမ်းမြောက်ဝမ်းသာ တစ်ဖန် လက်ပမ်းပေါက်ခတ်လျက် 'အယံပိ ဒုတိယော' အစရှိသော ဂါထာကို ရွတ်၏။ အဓိပ္ပာယ်ကား-

"အို-မင်းများတို့။ ငါ့အား ယခု အောင်ခြင်းကား ၂ ကြိမ်မြောက်သော အောင်ခြင်းတည်း။ ငါမေးအပ်သော ဝိဓုရအမတ်သည် ဟုတ်မှန်တိုင်း ဖြေပေ၏။ မင်းတကာတို့၏အရှင်ဖြစ်သော မင်းကြီးမူကား မတရားသော သဘော ရှိ၏။ ဟုတ်မှန်ရာကို ဆုံးဖြတ်ဖြေဆိုတတ်သော ဝိဓုရသုခမိန်ကို ငါ့အား အဘယ်ကြောင့် မပေးဘဲနေဘိ သနည်း"ဟု ဆို၏။ ထိုစကားကိုကြားလျှင် မင်းကြီးသည် အမျက်ထွက်၍

'ဝိဓုရသုခမိန်။ သင်သည် ဤသို့သော မူးမတ်စည်းစိမ်ကိုပေး၍ ချီးမြှောက်ပါသော ငါ့မျက်နှာကိုမျှ မထောက်မရှု။ ယခု မြင်ဖူးကာမျှသော ကစ္စည်း လုလင်မျက်နှာကိုသာ ထောက်လေသည်။ ဝိဓုရသည် ငါ၏ ကျွန်မှန်လျှင် ကစ္စည်းလုလင် ဝိဓုရကို သင် ယူ၍ သွားလေတော့'ဟု 'ဧဝံ စေနော' အစရှိသောဂါထာကို ဆို၏။ အဓိပ္ပာယ်ကား-

"ကစ္စည်းလုလင်။ ဤဝိဓုရသည် ငါတို့အမေးပြဿနာ၌ 'ငါ၏ဆွေမျိုး မဟုတ်၊ ငါ၏ကျွန်'ဟု မင်း ပရိသတ်အလယ်၌ ဖြေ၏။ ထိုသို့ဖြေပေပြီးလျက် သင်သည် အဘယ့်ကြောင့် ယခုတိုင်ကြာအောင် ဝိဓုရကို မယူ နေဘိသနည်း။ အလုံးစုံသောရတနာတို့ထက် ဤဝိဓုရသည် မြတ်၏။ ထိုဝိဓုရကို သင် ယူ၍ အလိုရှိရာ အရပ်သို့ သွားလေတော့"ဟု ဆို၏။

## ၅။ အိမ်ရာထောင်သော ပြဿနာကို မေးခန်း

ဤသို့သောစကားကို ဆိုပြီး၍ မင်းသည် တစ်ဖန် ကြံပြန်၏။

'ငါသည် ဝိဓုရသုခမိန်ကို ကစ္စည်းလုလင်အား ပေးအပ်ပြီ။ ကစ္စည်းလုလင်သည် ဝိဓုရကိုခေါ်၍ လိုရာအရပ်သို့ သွားသည်ရှိသော် ထိုနေ့မှစ၍ သာယာစွာသောတရားစကားကို ကြားနာရခဲသည် ဖြစ်လတ္တံ့။ အကယ်မလွဲသဖြင့် ယခု ဝိဓုရကို မိမိနေမြဲဖြစ်သော တရားဟောရာ၌နေစေ၍ အိမ်ရာထောင်သောပြဿနာကို ငါ မေးအံ့'ဟု ကြံ၏။ ထို့နောင်မှ ဝိဓုရသုခမိန်ကို ဤသို့ဆို၏။

"သုခမိန်။ သင်သည် ကစ္စည်းလုလင်နှင့် လိုက်ရသောအခါ ငါ့အား တရားစကားသည် ရခဲသည်ဖြစ် လတ္တံ့။ ထိုသို့ဖြစ်သောကြောင့် သင်သည် တရားဟောနေရာ၌ နေ၍ ငါ့အား အိမ်ရာထောင်သော လူ၏ဘောင်၌ ကျင့်ရာဆောင်ရာသောတရားကို ဟောလော့"ဟု ဆို၏။

ဝိဓုရသုခမိန်သည် "ကောင်းပြီ"ဟု ဝန်ခံ၍၊ တရားဟောနေရာ၌နေပြီးသော် မင်းသည် မေးအပ်သော ပြဿနာအပေါင်းတို့ကို ဝိဓုရသုခမိန်သည် ဖြေပေ၏။ မင်းသည် အဘယ်သို့ မေးသနည်းဟူမူကား-

'ဝိဓုရ ဝသမာနဿ၊ ဂဟဋ္ဌဿ သကံ ဃရံ။
ခေမာဝုတ္တိ ကထံ အဿ၊ ကထံ နု အဿ သင်္ဂဟော။
အဗျာပဇ္ဈံ ကထံ အဿ၊ သစ္စဝါဒီ စ မာဏဝါ။
အသ္မာ လောကာ ပရံလောကံ၊ ကထံ ပေစ္စ န သောစတိ။ ။'ဟူသောဂါထာဖြင့် မေး၏။
အဓိပ္ပာယ်ကား-

"ဝိဓုရ သုခမိန်။ အိမ်ရာထောင်သော ဤလူ့ဘောင်၌ ဘေးမရှိသောအသက်မွေးခြင်းသည် အဘယ် အကြောင်းဖြင့် ဖြစ်ရာသနည်း။ သင်္ဂြိုဟ်ခြင်းတရားသည် အဘယ်သို့သောအကြောင်းဖြင့် ဖြစ်ရာသနည်း။ ကြောင့်ကြဆင်းရဲ မရှိခြင်းသည် အဘယ်အကြောင်းဖြင့် ဖြစ်ရာသနည်း။ သစ္စာစောင့်ခြင်းအလေ့သည် အဘယ်အကြောင်းဖြင့် ဖြစ်ရာသနည်း။ ဤဘဝမှ တမလွန်သို့သွားသည်ရှိသော် အဘယ်အကြောင်းဖြင့် မစိုးရိမ်အံ့နည်း"ဟု ၅ ပါးသော ပြဿနာကို မေး၏။

သိမ်မွေ့နူးညံ့သော ပညာ, အကျိုးစီးပွားကို သိတတ်သောပညာ အစရှိသည်နှင့် ပြည့်စုံစွာသော ဝိဓုရသုခမိန်သည် ထိုမင်းအမေးကို ဖြေခြင်းငှာ-

'န သာဓာရဏ ဒါရဿ၊ န ဘုဉ္ဇေ သာဒု မေကကော။
န သေဝေ လောကာယတိကံ၊ နေတံ ပညာယ ဝဍ္ဎနံ။ ။
'သီလဝါ ဝတ္တသမ္ပန္နော၊ အပ္ပမတ္တော ဝိစက္ခဏော။
နိဝါတဝုတ္တိ အတ္ထဒ္ဓေါ၊ သုရတော သခိလော မုဒု။ ။
'သင်္ဂဟေတာ စ မိတ္တာနံ၊ သံဝိဘာဂီ ဝိဓာနဝါ။
တပ္ပေယျ အန္နပါနေန၊ သဒါ သမဏဗြာဟ္မဏေ။ ။
'ဓမ္မကာမော သုတာဓာရော၊ ဘဝေယျ ပရိပုစ္ဆကော။
သက္ကစ္စံ ပယိရုပါသေယျ၊ သီလဝန္တေ ဗဟုဿုတေ။ ။
'ဃရ မာဝသမာနဿ၊ ဂဟဋ္ဌဿ သကံ ဃရံ။
ခေမဝုတ္တိ သိယာ ဧဝံ၊ ဧဝံ နု အဿ သင်္ဂဟော။ ။
'အဗျာပဇ္ဈော သိယာ ဧဝံ၊ သစ္စဝါဒီ စ မာဏဝေါ။
အသ္မာ လောကာ ပရံလောကံ၊ ဧဝံ ပေစ္စ န သောစတိ။ ။'ဟူသော ၆ ဂါထာတို့ဖြင့် ဖြေပေ၏။
အဓိပ္ပာယ်ကား-

"အရှင်မင်းကြီး။ ဤလူ့ဘောင်၌ အိမ်ရာထောင်ကုန်သော သူတို့သည် ၁၂ ယောက်သော မယားအပြား တို့တွင် ၁ ပါးပါး၌ အကျုံးဝင်သော သူတစ်ပါးတို့၏မယားကို မပြစ်မှားအပ်။ ကောင်းမွန်မြိန်မြတ်သော ခဲဖွယ် ဘောဇဉ်တို့ကို အကြောင်းသင့်ရာသူတို့အား မပေးကမ်း မဝေခြမ်းမူ၍ မစား မသောက်အပ်။ ပစ္စုပ္ပန်တွင်လည်း အကျိုးစီးပွား မရှိ။ နတ်ရွာနိဗ္ဗာန်သို့ ရောက်ကြောင်းလည်း မဟုတ်။

"လူတို့၏ ပညတ်အမှတ်မျှသာဖြစ်သော, နတ် ရွာ မဂ်ဖိုလ်၏ ဆန့်ကျင်ဘက်လည်းဖြစ်သော လောကာယတိကကျမ်း[၁၆]ကို မမှီဝဲအပ်၊ ဤ လောကာယတိက ကျမ်းစကားသည် ပညာကိုလည်း မပွားစေတတ်၊ ပညာပွားကြောင်း ကျမ်း မဟုတ်။ နေ့တိုင်းမပြတ် ၅ ပါးသီလကိုလည်း မကျိုးမပျက်ရအောင် စောင့်ရာ၏။ အိမ်ထောင်၌ ပြုရာသော ဝတ်, မင်းတို့ပြုရာသော ဝတ်နှင့်လည်း ပြည့်စုံစေရာ၏။ ကုသိုလ်ကောင်းမှုတို့၌

မမေ့မလျော့ပြုရာ၏။ ခပ်သိမ်းကုန်သောအမှုတို့၌ ပညာဖြင့်ဆင်ခြင်၍ ပြုရာ၏။ မိမိကိုယ်ကို မထောင်လွှားမူ၍ နှိမ့်ချခြင်း, သူတော်ကောင်းတို့ဆိုဆုံးမလျှင် ဝန်ခံသဖြင့် နာယူခြင်း, ဝန်တိုချုပ်ချယ် စောင်းမြောင်းငြူစူ မရှိခြင်း, လှူဒါန်းပေးကမ်းခြင်း၌ တွန့်တိုခြင်းမရှိ ရဲရင့်ခြင်း, ချစ်နှစ်လိုဖွယ်သော စကားကို ဆိုခြင်း, ကိုယ်၏နူးညံ့ခြင်း, စိတ်၏နူးညံ့ခြင်း, နှုတ်၏နူးညံ့ခြင်းနှင့်လည်း ပြည့်စုံစေရာ၏။

"အဆွေခင်ပွန်းတို့အား ပေးကမ်းခြင်း၊ ချစ်ဖွယ်သောစကားကို ဆိုခြင်း၊ မေတ္တာစိတ်ကို ပွားစေခြင်း၊ ကိုယ်နှင့်ထပ်တူ ကျင့်ခြင်း ဤ ၄ ပါးသော သင်္ဂဟတရား[၆၀]နှင့်လည်း ပြည့်စုံစေရာ၏။ တရားစောင့်သော ရဟန်း, ပုဏ္ဏားတို့အားလည်း အလှူအဖို့ကို ဝေဖန်ခွဲခြမ်းခြင်း၊ ခပ်သိမ်းသောအမှုကိစ္စတို့၌ ဤအခါကား လယ်ထွန်ခြင်းငှာ, ဤအခါကား မျိုးကြဲခြင်းငှာ လျောက်ပတ်၏ စသည်ဖြင့် စီရင်ထုံးဖွဲ့ခြင်း၊ ရဟန်း,ပုဏ္ဏားတို့ အလှူခံလာသည်ရှိသော် မိမိတို့၌ပါသော သပိတ်စသည်ကို ဘောဇဉ်ခဲဖွယ်ဖြင့်ပြည့်စေ၍ ရောင့်ရဲစေရာ၏။

"သူတော်ကောင်းတရားကို အလိုရှိခြင်း၊ မိမိကောင်းသော အမျိုးအနွယ်ကို စောင့်ရှောက်ခြင်း၊ အကြားအမြင် များစေခြင်းငှာ ဝတ္ထု, ပုံစံ, နည်းနာ, စာပေ, ကျမ်းဂန်တို့ကို လေ့လာသင်ကြား မှတ်သားကြည့်ရှု နီးနှောဟောပြော မေးမြန်းခြင်းကိုလည်း ပြုရာ၏။ အကြားအမြင်များသော သီလဝန္တ ရဟန်း,ပုဏ္ဏားတို့သို့ အရိုအသေ ဆည်းကပ်ရာ၏။

"အရှင်မင်းကြီး။ ဤသို့ပြုသည်ရှိသော် ဤလောက၌ ဘေးမရှိသော အသက်မွေးခြင်း၊ ကြောင့်ကြ ဆင်းရဲ မရှိခြင်း၊ မှန်သောစကားကိုဆိုခြင်း၊ ဤဘဝမှ တမလွန်သို့သွားရသော်လည်း မစိုးရိမ်ရခြင်းသည် ဖြစ်ရာ၏" ဟု ဘုရားလောင်းသည် မင်းကြီးအား အိမ်ရာထောင်သောလူ၏ဘောင်၌ ကျင့်ရာဆောင်ရာသော ပြဿနာ[၆၁]ကို ဖြေပြီးလျှင်၊ တရားဟောနေရာ ပလ္လင်မှဆင်း၍ မင်းကြီးကိုရှိခိုးလျက် သင့်ရာအရပ်၌ နေ၏။

မင်းကြီးသည် ဘုရားလောင်းအား ကြီးစွာသောပူဇော်သက္ကာရ[၆၂]ကိုပြု၍ ၁၀၁ ပါးသော မင်းအပေါင်း ခြံရံလျက် နန်းတော်သို့ ဝင်လေ၏။

## ၆။ သားမယားတို့ကို ဆုံးမခန်း

ဘုရားလောင်းသည် မင်းကြီးကိုပို့လိုက်၍ နန်းတော်မှပြန်လာသောအခါ ပုဏ္ဏကသည် 'ဖေဟိဒါနိ' အစရှိသော ဂါထာဖြင့် ဆို၏။ အဓိပ္ပာယ်ကား–

"ဝိဓုရ သုခမိန်။ သင့်ကို မင်းကြီးသည် အစိုးရသောအားဖြင့် ငါ့အား ပေးအပ်ပြီ။ ငါ့နောက်သို့ လိုက်လှည့်။ သွားကြကုန်အံ့။ သင်သည် ငါ၏အကျိုးစီးပွားကိုသာ ကျင့်လော့။ အကြင်သူသည် အရှင်၏ အကျိုးစီးပွားကိုသာ ကျင့်၏။ ထိုသို့ အရှင့်စီးပွားကို ကျွန်ဟုကျင့်ခြင်းသည် ရှေးပညာရှိတို့ သဘောတည်း"ဟု ဆို၏။

ဝိဓုရ သုခမိန်သည်လည်း 'ဇာနာမိ မာဏဝ' အစရှိသောဂါထာကို ဆို၏။ အဓိပ္ပာယ်ကား–

"လုလင်။ သင်သည် ငါ့ကို ရအပ်၏ဟု ငါ သိ၏။ ထိုသို့ ငါ့ကိုရခြင်းသည်ကား တစ်ပါးသော အကြောင်းကြောင့် ရအပ်သည်မဟုတ်။ မင်းကြီးသည် ငါ့ကို အစိုးရသောအားဖြင့် သင့်အားပေးအပ်သောကြောင့် သင် ရ၏။ ငါသည် မင်းကြီးမျက်နှာကိုသာငဲ့၍ သင်တို့မေးသောပြဿနာကို မဟုတ်မမှန် ငါဖြေလျှင် ငါ့ကို သင် မရရာ။ ထိုသို့မပြုဘဲ ဟုတ်မှန်ရာကိုသာ ငါ ဖြေ၏။ ထို့ကြောင့်သာလျှင် သင်သည် ငါ့ကို ရအပ်၏။ ဤသို့ ငါ၏ကျေးဇူးသည် သင့်အား များစွာရှိသည်ကိုထောက်၍ ကျေးဇူးသိတတ်သည်နှင့်လျော်စွာ သင်သည် ငါ၏အိမ်၌ ၂ ရက်, ၃ ရက်မျှ ငံ့လင့်၍နေစေချင်၏။ ထိုမျှကာလပတ်လုံး သားမယားတို့ကို ဆုံးမပဲ့ပြင် သွန်သင်ပါရစေ။ သည်းခံ၍ ငံ့ဦး"ဟု ဆို၏။

ထိုစကားကို ကြားလျှင် 'ဝိဓုရသုခမိန်သည် မှန်သောစကားသာ ဆိုပေ၏။ ငါ့အား ကျေးဇူးကြီးလှ ပေသူဖြစ်သည်။ ၂ ရက်, ၃ ရက်ကို မဆိုနှင့်ဦး။ ၇ ရက်, လခွဲကိုပင် ငံ့လင့်ပါဆိုလျှင်လည်း ငါ ငံ့သင့်ပေသည်'ဟု ကြံ၍၊ 'တံမေတထာ ဟောတု' အစရှိသောဂါထာကို ရွတ်၏။ အဓိပ္ပာယ်ကား–

"ဝိဓုရသုခမိန်။ သင်တောင်းပန်တိုင်း ငါသည် ၂ ရက်, ၃ ရက် ငံ့ဦးအံ့။ ထို ၂ ရက် ၃ ရက်အတွင်းတွင် အိမ်၌ ပြုရာသောကိစ္စကိုလည်း ပြုလော့။ သားမယားတို့ကိုလည်း ဆုံးမခဲ့လော့။ သင်သည် ငါ၏ နောက်သို့လိုက်ခဲ့ရသော် သင်၏သားမယားတို့သည် ချမ်းသာသဖြင့် အသက်မွေးရမည့်အကြောင်း ထုံးဟောင်း ပုံစံ ကျင့်ရန်တရားများကို ဆုံးမသွန်သင်ခဲ့လော့"ဟု ဆို၏။

ပုဏ္ဏကသည် ဘုရားလောင်းနှင့်အတူ ဝိဓုရအိမ်သို့ ဝင်လေ၏။

ဘုရားလောင်းဝိဓုရသုခမိန် နေရာအိမ်သည်ကား ဥတု ၃ ပါးနှင့်လျော်စွာ အချမ်း,အပူကို ဆောင်တတ်သော ပြာသာဒ် ၃ ဆောင်တည်း။ အမည်ကား တစ်ဆောင်သည် 'ကောဉ္စ[၆၃]' အမည်ရှိ၏။ တစ်ဆောင်ကား 'မယူရ[၆၄]' အမည်ရှိ၏။ တစ်ဆောင်ကား 'ပိယကေတ' အမည်ရှိ၏။ ထို ပြာသာဒ် ၃ ဆောင်သည် နှလုံးမွေ့လျော်ဖွယ်လည်း ရှိ၏။ များစွာသော ထမင်း, အဖျော်လည်း ရှိ၏။ သိကြားမင်း၏စံရာ တာဝတိံသာနတ်ဘုံ ကဲ့သို့တည်း။

ဝိဓုရသုခမိန်သည် ထိုအခါ ပြာသာဒ် ၃ ဆောင်တို့တွင် အကြင်ပြာသာဒ်၌ နေ၏။ ထို မိမိနေသော ပြာသာဒ်ထက်သို့ ပုဏ္ဏကကိုခေါ်၍ ဘုံ ၇ ဆင့်မြောက်၌ အိပ်ရာတိုက်ကို လည်းကောင်း, ကျယ်သောအပြင်ကို လည်းကောင်း စီရင်စေပြီးလျှင်၊ အသရေရှိသောအိပ်ရာခင်း၍ ထမင်း, အဖျော် စသည့် အလုံးစုံပြုရာဝတ်ကို ပြီးစေလျက်၊

"နတ်သမီးကဲ့သို့အဆင်းလှသော ဤ သတို့သမီး ၅၀၀ တို့သည်လည်း သင့်၏ခြေရင်း အလုပ်အကျွေး ဖြစ်စေ။ ဤသတို့သမီး ၅၀၀ တို့နှင့် ချမ်းသာစွာနေလော့"ဟု အပ်နှင်းခဲ့ပြီးသော်၊ မိမိနေရာသို့ သွားလေ၏။

ထို ဝိဓုရသုခမိန် သွားပြီးသောအခါ သတို့သမီး ၅၀၀ တို့သည် နတ်သမီးကဲ့သို့ ဆင်အပ်ပြီးသော အဝတ်တန်ဆာရှိသည်ဖြစ်၍ ထိုပုဏ္ဏက၏အနီး၌ ကောင်းရာမြတ်ရာသော ကခြင်း, သီခြင်း, တီးမှုတ်ခြင်းတို့ကို တီးမှုတ်, ကခုန်, သီကုန်လျက် နှစ်သက်ဖွယ်သောကာမဂုဏ်တို့ဖြင့် ဖြားယောင်းကုန်၏။ ထိုသို့ တရားကို စောင့်လျက် အကျိုးစီးပွားကိုသာကြံလေ့ရှိသော ဝိဓုရသုခမိန်သည် ပုဏ္ဏကအား အထူးထူးသောကာမဂုဏ်တို့ဖြင့် မွေ့လျော်စေပြီးလျှင်၊ 'အနောဇာ'အမည်ရှိသော မိမိ မိဖုရားကြီးနေရာ တိုက်ခန်းသို့ဝင်၍ ဇမ္ဗူရာဇ်ရွှေစင်အဆင်းနှင့် တူသောအဆင်းရှိသော အကျော်,စန္ဒကူးနံ့သာ လိမ်းကျံအပ်သောကိုယ်ရှိသော မယားကြီးကို

"လင်၏အလိုသို့လိုက်လျက် အမျက်စောင်မာန် ခိုက်ရန်မရှိ လင်ဝတ်သိသော အိမ်ကြီးရှင်မ။ ငါ၏ ရင်သွေးရင်နှစ် ချစ်၍မငြီးနိုင်သော သားသမီးတို့ကို ခေါ်ချေ"ဟု ဆို၏။

ထိုစကားကိုကြားလျှင် အနောဇာဒေဝီသည် ဦးချိုရင်ခတ်^{၆၆} မရပ်မတည် မျက်ရည်စက်ယိုငိုလျက် ကိုယ်တိုင်သွား၍ သားများကိုခေါ်ခြင်းငှာ မတတ်နိုင်သောကြောင့် ချွေးမကိုစေလို၍ 'ဏ္ဍိဝရ ပုပ္ပသာမေ'အစရှိသော ဂါထာကို ဆို၏။ အဓိပ္ပာယ်ကား-

"အရောင်အဆင်း ဟင်းရဲ့ပွင့်အလား အသားနုညက် လက်သည်းခြေသည်း အာစပ်နှုတ်ခမ်း နီမြန်း ရွှင်ပြုး မျက်လုံးမျက်ဖန် လှပန်တော်ဘိ ချစ်ဖွယ်ရှိသော အမိချွေးမ။ သင်၏ငယ်ချစ် ငါ့ရင်နှစ်ဖြစ်သော ဓမ္မပါလ သတို့သားနှင့်တကွ ဝတ်စားတန်ဆာတို့ဖြင့် တင့်တယ်စွာသော သင့်မတ်များကို ခေါ်ပါချေ"ဟု စေလိုက်၏။

ထိုချွေးမလည်း ယောက္ခမစကားကိုဝန်ခံပြီးသော် ပြာသာဒ်ထက်မှဆင်း၍ ဓမ္မပါလ သတို့သားရှိရာ သွားပြီးလျှင် "အရှင့်သား။ မောင့်ခမည်းတော်သည် အဆုံးအမ ပေးတော်မူလိုသည်ဖြစ်၍ ခေါ်တော်မူ၏။ ယခု ခမည်းတော်ကို ဖူးမြင်ရခြင်းကား အဆုံးစွန်သော ဖူးမြင်ရခြင်းတည်း။ ခပ်သိမ်းကုန်သော အဆွေအမျိုး အကျွမ်းဝင်သသူတို့ကို လည်းကောင်း, သားတော်သမီးတော်တို့ကို လည်းကောင်း စည်းဝေးစေ"ဟု ဆို၏။

ဓမ္မပါလ သတို့သားသည် ထိုစကားကိုကြားလျှင် စကားတုံ့ပြန် ပူပန်မဆည် မျက်ရည်စက်ယို ငိုမြည်တမ်း လျက် ညီအပေါင်းခြံရံ၍ ခမည်းတော်ထံ သွားလေ၏။

ထို ဝိဓုရသုခမိန်သည် မျက်ရည်သွယ်သွယ် ညှိုးငယ်သော မျက်နှာနှင့်လာသော သားတော်များကိုမြင်လျှင် ဆောက်တည်မရ ပူဆာလှသောနှလုံးဖြင့် ပြည့်သောမျက်ရည်ရှိလျက် သားတော်များကို လည်ဖက်ပိုက်ထုပ် အခါခါ နမ်းရှုပ်၍ သားကြီးဖြစ်သော ဓမ္မပါလသတို့သားကိုလည်း ရင်ခွင်ပေါ်၌ အတန်ငယ်အိပ်စေပြီးမှ သင့်ရာက နေစေ၏။

မယား, သားသမီး စုံညီပြီးသော် အသရေရှိသောအိပ်ရာတိုက်မှ ထွက်ခဲ့၍ ညီလာခံရာ ပြာသာဒ်ပြင်၌ နေပြီးသော် သားတော်များကို ဤသို့ဆို၏။

"ငါ့သားများတို့။ မောင်တို့ဖခင်ဖြစ်သော ငါသည် ယနေ့က ၃ ရက်တိုင်ရုံမျှသာ ကိုယ်,စိတ်၏ ချမ်းသာခြင်းသည် ဖြစ်အံ့။ ၃ ရက်လွန်လျှင် ကစ္စည်းလုလင်၏ အစိုးအရင်ကိုခံ၍ ထိုလုလင်ထားတိုင်း နေရချေအံ့။ ထိုလုလင်သည် ယနေ့မှ ၄ ရက်မြောက်သော နေ့သို့ရောက်လျှင် ငါ့ကိုခေါ်၍ အရပ်တစ်ပါးသို့ မချွတ်လျှင် သွားလိမ့်သတည်း။

"ကစ္စည်းလုလင်သည် ယနေ့ပင် သွားလို၏။ ငါသည် သားများတို့အား ကိုးကွယ်မှီခိုရာ အဆုံးအမ မပေးခဲ့ရသေးဖြစ်၍ လုလင်ကို တောင်းပန်သောကြောင့်သာ ၂ ရက်,၃ ရက် ငံ့ချေသည်။ ယခု သားများတို့အား အလုံးစုံ ကျင့်ရာဆောင်ရာသည့်တရားကို ဖခင် ဆုံးမပေးခဲ့အံ့။ အဆုံးအမကို အမြဲ နှလုံးသွင်းကြကုန်။ နောင် မင်းကြီးထံခစားသောအခါ 'သင်တို့ဖခင် သုခမိန်သည် သင်တို့ကို အဆုံးအမ ပေးခဲ့၏လော'ဟု အမေးတော်ရှိလျှင်၊ ငါပေးခဲ့သောအဆုံးအမကို မင်းကြီးအား ကုန်စင်အောင် လျှောက်လေ။ မင်းကြီးသည် ငါဆုံးမသောတရားစကားကို ကြားလျှင် 'ငါ့ကိုအောက်မေ့သဖြင့် သင်တို့ကို မြတ်နိုးတော်မူ၍ ငါနှင့်အတူ နေလှည့်'ဟု နေရာတူပေးငြား ချီးမြှောက်စားသော်လစားကိုလျှောက်လေ။ 'ဘုန်းတော် ကြီးလှ၍ တိုင်းမှုပြည်တာ မဆာမပူ ပြည်သူတို့သခင် အရှင်မင်းကြီးဘုရား။ လူတို့ကို အစိုးရကုန်သော ထီးဖြူဆောင်းချင်း မင်း ၁၀၁ ပါးတို့တွင် အဘယ်မည်သောမင်းသည် အရှင်မင်းကြီးနှင့် နေရာတူနေခြင်းငှာ ထိုက်အံ့နည်း။ ထိုသို့

ထီးဖြူဆောင်းချင်း မင်းဘို့မျှမနိုင်းယှဉ်ရသော မင်းများသခင် အရှင်မင်းကြီးကို ပူးရိုးမတတ်နွယ်မျှဖြစ်သော အကျွန်ုပ်တို့သည် အဘယ်ကြောင့် နေရာတူ နေဝံ့ပါအံ့နည်း။ သားတကာတို့၏အရှင်ဖြစ်သော ခြင်္သေ့မင်းနှင့် ဇာတ်အားဖြင့်ယုတ်ညံ့သော မြေခွေးအိုသည် မနိုင်းယှဉ်ရာသကဲ့သို့ ဘုန်းတော်ကြီးလှသော အရှင်မင်းကြီးနှင့် အကျွန်ုပ်တို့သည် မနိုင်းယှဉ်အပ်ဟု ရှိခိုးဦးတင်၍ လျှောက်လေလော့”ဟုဆို၏။

ထိုစကားကိုကြားလျှင် သုခမိန်၏ သားသမီး, အဆွေအမျိုး, ကျွန်အမှုလုပ် အစရှိသောသူတို့သည် မိမိတို့ကိုယ်အဖြစ်ဖြင့် တည်ခြင်းငှာ မတတ်နိုင်သည်ဖြစ်၍ ပြင်းစွာ ငိုကြွေးကြကုန်၏။ ထို့နောင်မှ သားသမီး အစရှိသောသူတို့ကို ဘုရားလောင်းသည် သိစေ၏။

## ၇။ မင်းခယောကျ်ား ကျင့်ဆောင်ရာ တရားဟောခန်း

ထို သားသမီး အစရှိသော သူတို့၏ ငိုသံစဲသောအခါ၌

“ချစ်သားများတို့။ မောင်တို့ မစိုးရိမ်ကြကုန်လင့်။ ခပ်သိမ်းသော တေဘူမက သင်္ခါရတရား[၆၇]တို့သည် အမြဲ မရှိကုန်။ အခြွေအရံ, စည်းစိမ်ချမ်းသာ ဟူသမျှသည် ပျက်စီးခြင်းသဘောသာ အဆုံးရှိသည်။ စင်စစ်တစ်မူကား သင်တို့အား စည်းစိမ်ချမ်းသာများခြင်း၏အကြောင်း ဖြစ်သော ရာဇဝသတိ[၆၈] အမည်ရှိသော မင်းခယောကျ်ားတို့ ကျင့်ရာ,ဆောင်ရာသည့် တရားကို ငါ ဟောအံ့။ တည်ကြည်သောစိတ်ကို ဖြစ်စေ၍ နာကြကုန်”ဟု ဝိဓုရ သုခမိန်သည် ဘုရား၏တင့်တယ်ခြင်းဖြင့် ရာဇဝသတိ အမည်ရှိသောတရားကို ဟောလို၍—

‘ဧထယျော ရာဇဝသတိံ၊ နိသီဒိတွာ သုဏာထ မေ။
ယထာ ရာဇကုလံ ပတ္တော၊ ယသံ ပေါသော နိဂစ္ဆတိ။ ။
‘န ဟိ ရာဇကုလံ ပတ္တော၊ အညာတော လဘတေ ယသံ။
နာသူရော နာတိဒုမ္မေဓော၊ န ပမတ္တော ကုဒါစနံ။ ။
‘ယဒါဿ သီလံ ပညဉ္စ၊ သောစေယျဉ္စာဓိ ဂစ္ဆတိ။
အထ ဝိဿသတေ တမှိ၊ ဂုယှဉ္စဿ န ရက္ခတိ။ ။
‘တုလာ ယထာ ပဂ္ဂဟိတာ၊ သမဒဏ္ဍာ သုဓာရိတာ။
အဇ္ဈိဋ္ဌော န ဝိကမ္ပေယျ၊ သ ရာဇဝသတိံ ဝသေ။ ။
‘တုလာ ယထာ ပဂ္ဂဟိတာ၊ သမဒဏ္ဍာ သုဓာရိတာ။
သဗ္ဗာနိ အဘိသမ္ဘောန္တော၊ သ ရာဇဝသတိံ ဝသေ။ ။
‘ဒိဝါ ဝါ ယဒိ ဝါ ရတ္တိံ၊ ရာဇကိစ္စေသု ပဏ္ဍိတော။
အဇ္ဈိဋ္ဌော န ဝိကမ္ပေယျ၊ သ ရာဇဝသတိံ ဝသေ။ ။
‘ဒိဝါ ဝါ ယဒိ ဝါ ရတ္တိံ၊ ရာဇကိစ္စေသု ပဏ္ဍိတော။
သဗ္ဗာနိ အဘိသမ္ဘောန္တော၊ သ ရာဇ ဝသတိံ ဝသေ။ ။

‘ယောစဿ သုကတော မဂ္ဂေါ၊ ရညော သုပ္ပဋိယာဒိတော။
န တေန ဝုတ္တော ဂစ္ဆေယျ၊ သ ရာဇဝသတိံ ဝသေ။ ။
‘န ရညော သဒိသံ ဘုဉ္ဇေ၊ ကာမဘောဂေ ကုဒါစနံ။
သဗ္ဗတ္ထ ပစ္ဆတော ဂစ္ဆေ၊ သ ရာဇဝသတိံ ဝသေ။ ။
‘န ရညော သဒိသံ ဝတ္ထံ၊ န မာလံ န ဝိလေပနံ။
အာကပ္ပံ သရကုတ္တိံ ဝါ၊ န ရညော သဒိသ မာစရေ။
အညံ ကရေယျ အာကပ္ပံ၊ သ ရာဇဝသတိံ ဝသေ။ ။
‘ကီဠေ ရာဇာ အမစ္စေဟိ၊ ဘရိယာဟိ ပရိဝါရိတော။
နာမစ္စော ရာဇဘရိယာသု၊ ဘာဝံ ကုဗ္ဗေထ ပဏ္ဍိတော။ ။
‘အနုဒ္ဓတော အစပလော၊ နိပကော သံဝုတိန္ဒြိယော။
မနောပဏိဓိသမ္ပန္နော၊ သ ရာဇဝသတိံ ဝသေ။ ။
‘နာဿ ဘရိယာဟိ ကီဠေယျ၊ န မန္တေယျ ရဟော ဂတော။
နာဿ ကောသာ ဓနံ ဂဏှေ၊ သ ရာဇဝသတိံ ဝသေ။ ။
‘န နိဒ္ဒံ ဗဟု မညေယျ၊ န မဒါယ သုရံ ပိဝေ။
နာဿ ဒါယေ မိဂေ ဟညေ၊ သ ရာဇဝသတိံ ဝသေ။ ။
‘နာဿ ပီဌံ န ပလ္လင်္ကံ၊ န ကောစ္ဆံ န နာဝံ ရထံ။
သမ္မတောမှီတိ အာရုဟေ၊ သ ရာဇဝသတိံ ဝသေ။ ။
‘နာတိဒူရေ ဘဇေ ရညော၊ နာစ္စာသန္နေ ဝိစက္ခဏော။
သမ္မုခဉ္စဿ တိဋ္ဌေယျ၊ သန္ဒိဿန္တော သဘတ္တုနော။ ။
‘န မေ ရာဇာ သခါ ဟောတိ၊ န ရာဇာ ဟောတိ မေထုနော။
ခိပ္ပံ ကုဇ္ဈန္တိ ရာဇာနော၊ သုကေနာက္ခိဝ ဃဋ္ဋိတံ။ ။
‘န ပူဇိတော မညမာနော၊ မေဓာဝီ ပဏ္ဍိတော နရော။
ဖရုသံ ပတိမန္တေယျ၊ ရာဇာနံ ပရိသံ ဂတံ။ ။
‘လဒ္ဓဒွါရော လဘေ ဒွါရံ၊ နေဝ ရာဇူသု ဝိဿသေ။
အဂ္ဂီဝ သံယတော တိဋ္ဌေ၊ သ ရာဇဝသတိံ ဝသေ။ ။
‘သပုတ္တံ ဝါ ဘာတရံ ဝါ၊ သံ ပဂ္ဂဏှာတိ ခတ္တိယော။
ဂါမေဟိ နိဂမေဟိ ဝါ၊ ရဋ္ဌေဟိ ဇနပဒေဟိ ဝါ။
တုဏှီဘူတော ဥပေက္ခေယျ၊ န ဘဏေ ဆေကပါပကံ။ ။
‘ဟတ္ထာရောဟေ အနီကဋ္ဌေ၊ ရထိကေ ပတ္တိ ကာရကေ။
တေသံ ကမ္မာဝဒါနေန၊ ရာဇာ ဝဍ္ဎေတိ ဝေတနံ။
န တေသံ အန္တရာ ဂစ္ဆေ၊ သ ရာဇဝသတိံ ဝသေ။ ။
‘စာပေါဝူနုဒရော ဓီရော၊ ဝံသောဝါပိ ပကမ္ပယေ။
ပဋိလောမံ န ဝတ္တေယျ၊ သ ရာဇဝသတိံ ဝသေ။ ။

'စာပေါဂူနုဒရော အသာ၊ မဇ္ဈောဝသာ အဓိဂုတာ။
အပ္ပါသိ နိပကော သူရော၊ သ ရာဇဝသတိံ ဝသေ။ ။
'နဖာဋ္ဌံ လ္လတ္တိံ ဂစ္ဆေယျ၊ သမ္မတ္တံ တေဇသေခ်ယံ။
ကာသံ သာသံ ဒရံ ဗာလျံ၊ ခီဏမေဓော နိဂစ္ဆတိ။ ။
'နာတိဝေလံ ပဘာသေယျ၊ န တုဏှီ သဗ္ဗဒါ သိယာ။
အဝိကိဏ္ဏံ မိတံ ဝါစံ၊ ပတ္တေ ကာလေ ဥဒီရယေ။ ။
'အကောဓနော အသဃဋ္ဋော၊ သစ္စော သဏှော အပေသုဏော။
သမ္ဖံ ဂိရံ န ဘာသေယျ၊ သ ရာဇဝသတိံ ဝသေ။ ။
'မာတာပေတ္တိဘရော အသ၊ ကုလေ ဇေဋ္ဌာပစာယိနော။
သဏှော သခိလသမ္ဘာသော၊ သ ရာဇဝသတိံ ဝသေ။ ။
'ဝိနီတော သိပ္ပဝါ ဒန္တော၊ ကတတ္တော နိယတော မုဒု။
အပ္ပမတ္တော သုစိ ဒက္ခော၊ သ ရာဇဝသတိံ ဝသေ။ ။
'နိဝါ တဝုတ္တိ ဝုမေသု၊ သပ္ပတိဿော သဂါရဝေါ။
ဟိရိဩတ္တပ္ပသမ္ပန္နော၊ သ ရာဇဝသတိံ ဝသေ။ ။
'အာရကာ ပရိဝဇ္ဇေယျ၊ သဥ္စိတုံ ပဟိတံ ဇနံ။
ဘတ္တာရမေဝ ဒိက္ခေယျ၊ န စ အညဿ ရာဇိနော။
သမဏေ ဗြာဟ္မဏေ စာပိ၊ သီလဝန္တေ ဗဟုဿုတေ။
သက္ကစ္စံ ပယိရုပါသေယျ၊ သ ရာဇဝသတိံ ဝသေ။ ။
'သမဏေ ဗြာဟ္မဏေစာပိ၊ သီလဝန္တေ ဗဟုဿုတေ။
သက္ကစ္စံ အနုဝါသေယျ၊ သ ရာဇဝသတိံ ဝသေ။ ။
'သမဏေ ဗြာဟ္မဏေ စာပိ၊ သီလဝန္တေ ဗဟုဿုတေ။
တပ္ပေယျ အန္နပါနေန၊ သ ရာဇဝသတိံ ဝသေ။ ။
'သမဏေ ဗြာဟ္မဏေစာပိ၊ သီလဝန္တေ ဗဟုဿုတေ။
အာသဇ္ဇ ပညေ သေဝေထ၊ အာကင်္ခံ ဝုဒ္ဓိမတ္တနော။
ဒိန္နပုဗ္ဗံ နဟာပေယျ၊ ဒါနံ သမဏဗြာဟ္မဏေ။
န စ ကိဉ္စိ နိဝါရေယျ၊ ဒါနကာလေ ဝဏိဗ္ဗကေ။ ။
'ပညဝါ ဗုဒ္ဓိသမ္ပန္နော၊ ဝိဓာန ဝိဓိ ကောဝိဒေါ။
ကာလညူ သမယညူ စ၊ သ ရာဇဝသတိံ ဝသေ။ ။
'ဥဋ္ဌာတာ ကမ္မဓေယျေသု၊ အပ္ပမတ္တော ဝိစက္ခဏော။
သုသံဝိဟိတ ကမ္မန္တော၊ သ ရာဇဝသတိံ ဝသေ။ ။
'ခလံ သာလံ ပသုံ ခေတ္တံ၊ ဂန္တွာဝဿ အဘိက္ခဏံ။
မိတံ ဓညံ နိဓာပေယျ၊ မိတဉ္စ ပါစယေ ဃရေ။ ။
'ပုတ္တံ ဝါ ဘာတရံ ဝါ သံ၊ သီလေသု အသမာဟိတံ။

အနဂ္ဂိဝါ ဟိ တေ ဗာလာ၊ ယထာ ပေတာ တထေဝ တေ။
စောဋ္ဌမ္ဗ နေသံ ပိဏ္ဍာဋ္ဌ၊ အာသနာနံ ပဒါပယေ။ ။
'ဒါသ ကမ္မကရေ ပေါသေ၊ သီလေသု သုသမာဟိတေ။
ဒက္ခေ ဥဋ္ဌာနသမ္ပန္နေ၊ အဓိပစ္စမှိ ဌာပယေ။ ။
'သီလဝါ စ အလောဘော စ၊ အနုရက္ခော စ ရာဇိနော။
အာဝိ ရဟော ဟိတော တဿ၊ သ ရာဇဝသတိံ ဝသေ။ ။
'ဆန္ဒညူ ရာဇိနော စဿ၊ စိတ္တဋ္ဌော စဿ ရာဇိနော။
အသင်္က သက ဝတ္တိဿ၊ သ ရာဇဝသတိံ ဝသေ။ ။
'အစ္ဆာဒယေ နပ္ပာပယေ၊ ဓောဝေ ပါဒေ အဓောသိရံ။
အာဟတောပိ နကုပ္ပေယျ၊ သ ရာဇဝသတိံ ဝသေ။ ။
'ကုမ္ဘံမ္ပဉ္စလိံ ကရိယာ၊ စာတဉ္စာပိ ပဒက္ခိဏံ။
ကိမေဝ သဗ္ဗကာမာနံ၊ ဒါတာနံ ဓီရမုတ္တမံ။ ။
'ယော ဒေတိ သယနံ ဝတ္ထံ၊ ယာနံ အာဝသထံ ဃရံ။
ပဇ္ဇုန္နောရိဝ ဘူတာနံ၊ ဘောဂေဟိ အဘိဝဿတိ။ ။
'ဧသ ယျော ရာဇဝသတိ၊ ဝတ္တမာနော ယထာ နရော။
အာရာဓယတိ ရာဇာနံ၊ ပူဇံ လဘတိ ဘတ္တုသု။ ။'ဟူသော ၄၆ ဂါထာတို့ကို ရွတ်၏။ အဓိပ္ပာယ်ကား-

"သားများတို့။ မင်းခယောက်ျားတို့သည် မင်းပေးစည်းစိမ် အချီးအမြှောက်ကို အလိုရှိမူ ယခု ငါဟောလတ္တံ့သော 'ရာဇဝသတိ'တရားကို မှတ်သားနာခံ၍ ကျင့်ကြကုန်လော့။

"ချစ်သားတို့။ အရှင် အစိုးရမင်းတို့ အချီးအမြှောက် ဘုန်းလာဘ် မခံရရာသော မင်းခယောက်ျားကား ၄ ယောက်တည်း။ ၄ ယောက် ဟူသည်ကား ကျေးဇူးပညာ မထင်ရှားသောသူ, မရဲရင့်သောသူ, အလွန်မလိမ္မာသောသူ, သတိမေ့လျော့သောသူ ဤသူတို့သည် မင်း၏အချီးအမြှောက်ကို တစ်ရံတစ်ဆစ်မျှ မခံရရာ။ ထို့ကြောင့် မင်းခယောက်ျားဟူသည်ကား ကျေးဇူးပညာ သိတတ် ခြင်း, ရဲရင့်ခြင်း, ပညာရှိခြင်း, မမေ့မလျော့ခြင်း ဤ ၄ ပါးနှင့် ပြည့်စုံစေရာ၏။

"ချစ်သားတို့။ မင်းခယောက်ျားတို့၌ အရှင်အစိုးရမင်းတို့ အကျွမ်းတဝင် ပြုအံ့သည်အကြောင်းကား ၃ ပါးတည်း။ ၃ ပါးဟူသည်ကား အကျင့်သီလနှင့် ပြည့်စုံခြင်းလည်း တစ်ပါး, ပညာ အဆင်အခြင်နှင့် ပြည့်စုံခြင်းလည်း တစ်ပါး, သောစေယျဟု ဆိုအပ်သော နှလုံး၏ ဖြောင့်မတ်စင်ကြယ်ခြင်းလည်း တစ်ပါး၊ ဤ ၃ ပါးတည်း။ ထို ၃ ပါးနှင့် ပြည့်စုံကြောင်းကို မင်း သိသည်ဖြစ်အံ့။ ထိုသူကို မိမိအရှင် အစိုးရမင်းသည် အကျွမ်းဝင်ခြင်းကိုလည်း ပြု၏။ လျှို့ဝှက်အပ်သော စကားကိုပင်လည်း တိုင်ပင်ပြောဆို၏။

"တစ်စုံတစ်ခု မင်းမှုမင်းရေးတို့၌ စေခန့်သော်လည်းကောင်း, ခပ်သိမ်းကုန်သော မင်းမှုမင်းရေး စီရင်စုစီရင်ရေးတို့၌လည်းကောင်း, လေးတူချိန်အပ်သော ချိန်သည် ငြိမ်ငြိမ်သက်သက် တစ်ဘက်မညွတ် တည့်မတ်စွာ တည်သကဲ့သို့ ဆန္ဒာဂတိ အစရှိသော အဂတိတို့သို့လိုက်သဖြင့် မဖြောင့်မမှန် မပြုရာ။ ထိုသို့ မဖြောင့်မမှန် မပြု၊ အမှုနှင့်လျော်စွာ ဖြောင့်မှန်အောင်ချိန်သကဲ့သို့ ကျင့်တတ်သောသူသည် မင်း၌ ခစား၍ နေရာ၏။ မင်း၌ ခစားသဖြင့်လည်း စည်းစိမ်ချမ်းသာကို ရရာ၏။

"အရှင် အစိုးရမင်းသည် တစ်ံတစ်ခု မင်းရေးမင်းမှုတို့၌ စေခိုင်းသော်လည်းကောင်း၊ ခပ်သိမ်းသောမင်း၏ အမှုကိစ္စတို့၌ လည်းကောင်း ညဉ့်, နေ့, မျက်မှောက်, မျက်ကွယ်ဟူ၍ အထူးမရှိ ယုံမှတ်တိုင်း ဖြောင့်မှန်စွာ အမှု ကုန်အောင် ဆောင်ရာ၏။ ထိုသို့ ပညာရှိသော မင်းခယောက်ျားသည် မင်း၌ ခစား၍ နေရာ၏။

"ချစ်သားတို့။ အရှင် အစိုးရမင်းသည် အကြင်ခရီးကို ကောင်းစွာသုတ်သင် တန်ဆာဆင်အပ်၏။ ဝိမင်းသည် 'သုတ်သင် တန်ဆာဆင်အပ်သောခရီးဖြင့် သွားလော့'ဟု မင်းသည် တိုက်တွန်းငြားသော်လည်း သွားရာ။ ထိုသို့သဘောရှိသော သူသည် မင်း၌ ခစားရာ၏။

"ချစ်သားတို့။ ကာမဂုဏ်စည်းစိမ်ကို မင်းနှင့်ထပ်တူ တစ်ရံတစ်ဆစ်မျှ မခံစားရာ။ ခပ်သိမ်းသော ာမဂုဏ်စည်းစိမ်တို့၌ မင်းအောက် ယုတ်၍သာလျှင် ခံစားရာ၏။ မင်းတို့ဝတ်ဆင်သော အဝတ်ပုဆိုးနှင့်တူသော ဆိုးကိုလည်း မဝတ်ရာ။ မင်းပန်သည် ပန်းနှင့်တူသောပန်းကိုလည်း မပန်ရာ။ မင်းလိမ်းသည့် နံ့သာနှင့် ၊သော နံ့သာကိုလည်း မလိမ်းရာ။ မင်း၏အသွင်ကိုလည်း မဆောင်ရာ။ မင်းအသံနှင့် တူသောအသံကိုလည်း ပြုရာ။ မင်း ဆင်သည်မှတစ်ပါး လျော့ညံ့၍သာ ပြုဆင်ရာ၏။ ထိုသို့သဘောရှိသော သူသည် မင်း၌ ားရာ၏။ မင်းနှင့်အတူပြုလျှင် မင်းတို့မည်သည် အမျက်ထွက်တတ်သည်။

"ချစ်သားတို့။ မင်းသည် မှူးမတ်, မိဖုရား, မောင်းမတို့နှင့် တင့်တယ်စွာစံပယ်သောအခါ မိဖုရား, ာင်းမတို့ကို အကျွမ်းတဝင် ကြည့်ရှု ပြောဆို ပြုံးရယ်ခြင်းကို မပြုရာ။ 'အနုဒ္ဓတ' ဟု ဆိုအပ်သော ပျံ့လွင့် းမောခြင်း မရှိရာ။ 'အစပလ' ဟုဆိုအပ်သော တန်ဆာဆင်ခြင်း စသည်တို့၌ မလျှပ်ပေါ် မပေါ်လွင်ရာ။ ၊က' ဟုဆိုအပ်သော အရေးအခွင့်ကို အသင့်တွေးခေါ် မြော်မြင်ခြင်း၊ 'သံဝုတိန္ဒြိယ' ဟုဆိုအပ်သော ၏ ခြေ,လက်,အင်္ဂါ စသည်ကို မကြည့်မရှု စက္ခုစသော ဣန္ဒြေကို စောင့်ရှောက်ခြင်း၊ ဤသို့ အနုဒ္ဓတ, ပလ, နိပက, သံဝုတိန္ဒြိယဟု ဆိုအပ်သော တည်ကြည် နှစ်လိုဖွယ်သောစိတ်နှင့် ပြည့်စုံစေရာ၏။ ထိုသို့ ဘာရှိသော သူသည် မင်း၌ ခစားရာ၏။

"မိဖုရား,မောင်းမတို့နှင့် ကစားမြူးထူးခြင်း၊ ဆိတ်ကွယ်ရာအရပ်၌ ပြောဆိုခြင်းတို့ကို မပြုရာ။ မင်း၏ ာဥစ္စာကို မပေးဘဲ မယူမသုံးရာ။ များစွာအိပ်ခြင်းကိုလည်း မပြုရာ။ ယစ်မျိုး, သေအရက်ကိုလည်း ာက်ရာ။ မင်းသည် သိမ်မွေ့ပြုစုအပ်သော ဆိတ်, ဝက် စသော သတ္တဝါတို့ကိုလည်း မသတ်မပုတ်ရာ။ ၏အိပ်ရာနေရာ သလွန်ညောင်စောင်း, ပလ္လင်, မင်းစီးလှေ, ရထားထက်သို့ ခွင့်ပေးသည့်အမှုကို ဆောင်ရာ ဟူ၍ မတက်မစီးရာ။

"ခစားသည်ရှိသော် မင်းနှင့် မဝေးလွန်း, မနီးလွန်း၊ ပကတိစကားဖြင့် ကြားလောက်သော က်နှာအရပ်၌ မင်းမြင်အောင် ခစားရာ၏။ မင်းသည် ငါ၏အဆွေခင်ပွန်း ဖြစ်သည်, ငယ်သူငယ်ချင်းဖြစ်၍ မ်းတဝင် မပြုရာ။ မင်းတို့မည်သည် 'သုကေနာက္ခိဝယင္ဆိတ'ဟူသော ပါဠိနှင့်အညီ မျက်စိကို စပါးမွေး ကဲ့သို့ ပကတိသဘောကို စွန့်၍ အလျင်တဆော အမျက်ထွက်တတ်၏။

"မင်းသည် 'ငါ့ကို ရိုသေလေးမြတ်စွာ ပြုသည်, ငါ၏အဆုံးအမ၌ တည်သည်'ဟူ၍ ပရိသတ်တို့၏ ပ်၌ မင်း မနှစ်သက်သောစကားကို မင်းအား မဆိုရာ။ ဤသို့ သဘောရှိသောသူသည် မင်း၌ ခစားရာ၏။

"အကြင် မင်းခယောက်ျားသည် တံခါးကို အခွင့်ရသူဟူ၍ ခွင့်မတောင်းဘဲ မဝင်ရာ။ မင်းတို့မည်သည်ကို ဦ့ မပြတ် နလုံးထားရာ၏။

"မင်းသည် သားကို လည်းကောင်း၊ ညီကို လည်းကောင်း၊ ကျွန်ကို လည်းကောင်း၊ ရွာ,နိဂုံး,ဇနပုဒ်,မြို့ အစရှိသည်တို့တွင် တစ်စုံတစ်ခုသော အရာအထူးသဖြင့် ဤသူအား ဤအရာကို ပေးအပ်ဟု မင်းခယောက်ျားတို့နှင့် ပြောဆိုသောအခါ ထိုသူ၏ဂုဏ်ကျေးဇူးကို လည်းကောင်း, ထိုသူ၏ ဂုဏ်ကျေးဇူးမဲ့စကားကို လည်းကောင်း မဆိုရာ။ ဤသို့ သဘောရှိသောသူသည် မင်း၌ ခစားရာ၏။

"မင်းသည် ဆင်စီး, မြင်းစီး, ရထားစီး အမှုလုပ်သူရဲတို့အား အမှုထမ်းရည်နှင့်လျော်စွာ ထိုသူတို့၏ ဂုဏ်ကိုပြ၍ မျိုးရိက္ခာ အစရှိသည့် ဆုလာဘ်ပေးချသောအခါ မပေးချရအောင် မဖျက်မဆီးအပ်။ မြား၏ တည်ရာ လေးကဲ့သို့ လောဘရမ္မက် မကြီးသောအားဖြင့် ဝမ်းငယ်ရာ၏။

"ဝါးပင်သည် လေခတ်လျှင် ယိမ်းသကဲ့သို့ မင်းဆိုလျှင် ကြောက်ရွံ့တုန်လှုပ်ခြင်းကို ပြုရာ၏။ ငါးသည် လျှာမရှိ၍ စကားမဆိုနိုင်သကဲ့သို့ မင်းခယောက်ျား တို့သည် စကားနည်းရာ၏။ မင်းနှင့်ဆန့်ကျင်သော အကျင့်ကို မကျင့်ရာ။ ဘောဇဉ်, ခဲဖွယ် စသည်တို့၌လည်း ကိုယ်၏ အတိုင်းအရှည်ကို သိရာ၏။ ထိုသို့ သဘောရှိသော သူသည် မင်း၌ ခစားရာ၏။

"ကိလေသာ၏အစွမ်းအားဖြင့် မိန်းမတို့ကို အဖန်များစွာ မသွားလာအပ်။ အဖန်များစွာ မိန်းမသွား ကြူးသောသူသည် မိမိ၏တန်ခိုး ကုန်ခြင်း, ချောင်းဆိုးခြင်း, ကုတ်ဟီးနာစွဲခြင်း; ကိုယ်၏ပူပန်ခြင်း, အားကုန် ခြင်း, ပညာအဆင်အခြင် ယုတ်လျော့ခြင်းသို့ ရောက်ရာ၏။ ထို့ကြောင့် မိန်းမ၌ အသွားမကြူးအပ်။

"မင်းထံ ခစားသည်ရှိသော် အတိုင်းအရှည်ထက် အလွန်စကားကို မပြောမဆိုရာ။ အခါခပ်သိမ်းလည်း ဆိတ်ဆိတ်မနေအပ်။ မိမိ ပြောဆိုခွင့်ရောက်လျှင် ဖရိုဖရဲမရှိ သန့်ရှင်းပြတ်သားစွာ ကိုယ်နှင့် အတိုင်းအရှည်စကားကို ပြောဆိုရာ၏။

"အမျက် ထွက်လည်း မထွက်ရာ၊ ပြုစုချုပ်ချယ်ခြင်းကိုလည်း မပြုရာ၊ ချောပစ်ကုန်းတိုက် စကားကိုလည်း မဆိုရာ၊ အကျိုးမရှိသော စကားကို မဆိုရာ၊ မှန်သောစကားကိုသာ ပြေပြစ် သာယာနာပျော်ဖွယ် ပြောဆိုရာ၏။

"မိခင်, ဖခင်တို့ကိုလည်း အရိုအသေ လုပ်ကျွေး မွေးမြူရာ၏။ ဆွေကြီးမျိုးကြီး ရှိသေလောက်သော သူတို့ကိုလည်း အရိုအသေ ပြုရာ၏။ အရှက်အကြောက်နှင့်လည်း ပြည့်စုံစေရာ၏။ ထိုသို့ သဘောရှိသော သူသည် မင်း၌ ခစားရာ၏။

"အကြင် မင်းခယောက်ျားသည် အကျင့်သီလနှင့်လည်း ပြည့်စုံစေရာ၏။ အမျိုးတို့၌ သင်အပ်သော အတတ်ပညာနှင့်လည်း ပြည့်စုံစေရာ၏။ စက္ခု အစရှိသော ဣန္ဒြေ ၆ ပါးကို ဆုံးမခြင်းနှင့်လည်း ပြည့်စုံစေရာ၏။ ပြုအပ်သော အမှုကိုလည်း ပြီးစေရာ၏။

"စည်းစိမ်ချမ်းသာ အခြွေအရံကိုမှီ၍ မပေါ့မလွှင့်ရာ မာန်မာန[၆၉]လည်း မရှိစေရာ၊ ဆောင်အပ်သောအမှုကို မမေ့မလျော့စေရာ၊ သန့်ရှင်းစင်ကြယ်စွာ နှလုံးထားရာ၏။

"လုံ့လထကြွခြင်း၌ လိမ္မာရာ၏။ အသက်အရွယ်ကြီးသော သူတို့၌ နှိမ့်ချခြင်း, အရိုအသေ အလေးအမြတ် ပြုခြင်းနှင့် ပြည့်စုံရာ၏။ ရဲရင့်ခြင်းနှင့်လည်း ပြည့်စုံရာ၏။ ဆရာကောင်းနှင့်လည်း ဆည်းကပ်ပေါင်းဖော်ရာ၏။

"လျှို့ဝှက်အပ်သောစကားကို သိစိမ့်သောငှာ စေလိုက်အပ်သော မင်းတစ်ပါးတို့၏တမန်နှင့် စကားပြောဟောရသော်လည်း အရှင်၏ မျက်နှာကိုသာ ကြည့်ရာ၏။ အရှင်မှတစ်ပါးသောသူတို့အား မမေးရာ, မကြည့်ရာ။ ထိုသို့သဘောရှိသောသူသည် မင်း၌ ခစားရာ၏။

"ချစ်သားတို့။ အကျင့်သီလ,အကြားအမြင် သုတနှင့်ပြည့်စုံသော ရဟန်း, ပုဏ္ဏားတို့ကို အရိအသေ မှီဝဲ ဆည်းကပ်ရာ၏။ ထိုသို့ သီလ,သုတနှင့်ပြည့်စုံသော ရဟန်းတို့၏အထံ၌ ဥပုသ်နေ့တို့၌ ဥပုသ်သုံးလျက် မိမိ ကိုယ်ကို ကောင်းစွာကျင့်ရာ၏။ ထို သီလ, သုတနှင့် ပြည့်စုံသော ရဟန်း, ပုဏ္ဏားတို့အား ဆွမ်း အစရှိသော ပစ္စည်းတို့ဖြင့် ရောင့်ရဲစေရာ၏။ ထို သီလ, အကြားအမြင်သုတနှင့် ပြည့်စုံသော ရဟန်း, ပုဏ္ဏားတို့အားအကျိုးစီးပွား ရှိအံ့သော အမေးပြဿနာတို့ကို မေးမြန်းရာ၏။ ထိုသို့ သဘောရှိသော ပညာရှိသည် မင်း၌ ခစားရာ၏။

"ရဟန်း, ပုဏ္ဏားတို့၌ ပေးလှူမြဲသော ဝတ်တို့ကို မဖျက်ရာ။ ဖုန်းတောင်းယာစကာ[၅၀]တို့ကို မြင်သည်ရှိသော် တစိုးတစိမျှ မမြစ်တားအပ်။

"အဆင်အခြင်ပညာ, မချို့တဲ့သောပညာနှင့်လည်း ပြည့်စုံရာ၏။ အထူးထူးအပြားပြား များစွာသော ကျွန်အမှုလုပ်တို့ကို ဝေဖန်စီရင် ထုံးဖွဲ့ခြင်း၌လည်း လိမ္မာရာ၏။

"ဤအခါကား အလှူပေးအံ့သောအခါ၊ ဤအခါကား ကျောင်း, ဘုရား သွားအံ့သောအခါ၊ ဤအခါကား ဥပုသ်သီလဆောက်တည်အံ့သောအခါ ဟူ၍လည်း လျောက်ပတ်သောကာလကို သိရာ၏။ အိမ်ထောင်မှု၌လည်း ဤအခါကား ဤအမှုကို ပြုရာ၏ဟု သမယ[၅၁]ကိုလည်း သိရာ၏။

"မိမိဆောင်အပ်သော အမှု၌ လုံ့လထကြွကြောင်းနှင့် ပြည့်စုံရာ၏။ ဆောင်အပ်သော အမှုကို အပြစ် ရှု၍မထင်အောင် ဆောင်ရွက်စီရင်ရာ၏။ ထိုသို့သဘောရှိသော သူသည် မင်း၌ ခစားရာ၏။

"ချစ်သားတို့။ အကြင် မင်းခယောကျ်ားသည် ကောက်နယ်တလင်းသို့ လည်းကောင်း, စပါးစုရာသို့ လည်းကောင်း, နွားခြံ စသည်တို့ကိုလည်းကောင်း, လယ်ယာသို့လည်းကောင်း မပြတ်သွား၍ ကြည့်ရှုရာ၏။ စပါးကို ချင့်တွက်၍ ကျီသို့ သွင်းရာ၏။ အိမ်၌သုံးသော်လည်း ချင့်တွက်မှတ်သား၍ သုံးရာ၏။ အိမ်၌ တစ်အိုးတည်းစားလူကို ချင့်တွက်၍ 'ဤမျှသောလူကို ဤမျှချက်လျှင် လောက်၏'ဟု ဆင်ခြင်လျက် အကျန်လည်း မများ လူအားလုံးလည်း သုံးဆောင်လောက်အောင် ချက်ရာ၏။

"လောက၌ လူတို့သည် မိမိတို့၏ သားကိုလည်းကောင်း, ညီကိုလည်းကောင်း, မိမိကိုယ်နှင့်အတူတူ ယုံမှတ်ရာ၏ဟု ဆိုကုန်၏။ ထိုသို့ ဆိုသော်လည်း အမှု၌ ကျိုးမနွံ ကျင့်ရန်တရားကိုမမြင် အဆင်အခြင်မရှိ အတိဗာလဖြစ်သော သား, ညီ, ကျွန်တို့ကို အမှုမျိုး၌ မျက်နှာမလွှဲရာ။ ထိုအမှု၌ မလိမ္မာ အရာကိုမချင့် အခွင့်ကိုမသိသော သား, ညီ, ကျွန်တို့ကိုယုံမှတ်၍ အမှုကို အပ်နှင်းလွှဲဖယ်မိအံ့။ သချိုင်း၌ သူသေကောင်ကို အမှုဆောင်ထားသကဲ့သို့ စီးပွားလစ်ဟင်း ယုတ်လျော့ရာသည်။ ထိုသို့ ဥစ္စာစီးပွား ယုတ်လျော့သဖြင့် ဆင်းရဲခြင်းသို့ရောက်သော သူအား မင်း၌ခစားခြင်းငှာ မစွမ်းနိုင်ရာ။ ထို မလိမ္မာ အကျင့်သီလမရှိသော သား, ညီ, ကျွန်တို့အား သေသူကိုပေးသော ကုတ်ဟီးထမင်းကဲ့သို့ ပြာစစ်ပုဆိုးကဲ့သို့သော အဝတ်အစားတို့ကိုသာ ပေးရာ၏။ အမှုတို့၌ အဆင်အခြင် ပညာ, ကျင့်ရာသော သီလ, အာစာရ လုံ့လထကြွခြင်းနှင့် ပြည့်စုံသော သား, ညီ, ကျွန် အမှုလုပ်တို့ကိုသာ အမှုကို အပ်နှင်းလွှဲဖယ်ရာ၏။

"ချစ်သားတို့။ အကြင် မင်းခယောကျ်ားသည် မင်း၏အထံ၌ အကျင့်သီလနှင့်လည်း ပြည့်စုံစေရာ၏။ ရမ္မက်လောဘ မကြီးရာ၊ မင်းအား ချစ်မြတ်နိုးရာ၏။ မျက်မှောက်မျက်ကွယ်မဆို မင်း၏အစီးအပွားကိုသာ ဆောင်ရာ၏။ မင်း၏အလိုကိုလည်း သိရာ၏။ "မင်း၏အလိုသို့လည်း လိုက်ရာ၏။ မင်းအလိုနှင့် မဆန့်ကျင်သော အသက်မွေးခြင်းလည်း ရှိရာ၏။

"မင်းသည် ရေချိုးသောအခါ, နံ့သာလိမ်းသောအခါ, ခြေဆေးသောအခါ မင်း၏မျက်နှာကို မကြည့်ရာ။ မျက်နှာအောက်ချ၍ နေရာ၏။

"မင်း အမျက်ထွက်သော်လည်း အမျက်မထွက်ရာ။ ထိုသို့သဘောရှိသော သူသည် မင်း၌ခစားရာ၏။

"ချစ်သားတို့။ လူတို့သည် ရေပြည့်သောအိုးကို မြင်၍လည်းကောင်း၊ ပိန်ညင်းငှက် အစရှိသော ငှက်များကို မြင်၍လည်းကောင်း၊ ထိုငှက်တို့သည် စီးပွားကို မပေးတတ်ဘဲလျက် လက်အုပ်ချီခြင်းကို ပြုမိတုံသေး၏ ရှင်။ ခပ်သိမ်းသောအလိုကို ပေးတတ်သော, မြတ်လှစွာသော အသက်သခင်အရှင်မင်းကို အဘယ်ကြောင့် လက်အုပ်ချီ၍ ရှိမခိုးဘဲ နေထိုက်အံ့နည်း။ ရှိခိုးအပ်သည်သာ ဖြစ်၏။ အရှင်မင်းကို နှစ်သက်စေအပ်၏။

"ဤသို့ ဆိုအပ်ခဲ့ပြီးသောစကားအစဉ်ဖြင့် မင်းခယောကျ်ားတို့ကျင့်ရာသော ရာဇဝသတီ အမည်ရှိသော ငါ၏အဆုံးအမ အနုသာသနကို ကောင်းစွာမှတ်သား၍ကျင့်သော မင်းခယောကျ်ားသည် မင်းအား နှစ်သက်ခြင်းကို ဖြစ်စေသဖြင့် မင်းပေးစည်းစိမ် အရာအထူးကို ရရာ၏။

"ဤသို့ ဝိဓုရသုခမိန်သည် သားသမီး, အခြွေအရံ, ပရိသတ်မင်းမှူးမတ်တို့အား ဘုရား၏ တင့်တယ်ခြင်းဖြင့် ရာဇဝသတီ အမည်ရှိသော ဩဝါဒကို ဟောပြမိန့်ညွှန် သွန်သင်ပေ၏။

## ၈။ ဘုရားလောင်းကို ပုဏ္ဏက ဆောင်ယူခန်း

ထိုသို့ သား, မယား, အခြွေအရံတို့အား ဆုံးမစဉ်ပင်လျှင် ၃ ရက်မြောက်သောနေ့သို့ ရောက်ခဲ့၏။ ထိုသို့ ၃ ရက်မြောက်သည်ကိုသိ၍ ဝိဓုရသုခမိန်သည် နံနက်ကပင်လျှင် ရေချိုးပြီးသော် မြိန်မြတ်သော ဘောဇဉ်တို့ကိုစားပြီး၍၊ 'အရှင်မင်းကြီးကို ပန်ကြားပြီးမှသာလျှင် ကစ္စည်းလုလင်နှင့် အတူလိုက်အံ့'ဟု ဆွေမျိုးအပေါင်း ခြံရံလျက် နန်းတော်သို့ဝင်ပြီးသော် မင်းကြီးအား ရှိခိုးဖူးမြော်လျက် လက်အုပ်မြောက်ချီ၍–

'အယံ မံ မာဏဝေါ နေတိ၊ ဂန္တု ကာမော ယထာ မတိ။

ဉာတီ နတ္ထံ ပဝက္ခာမိ၊ တံ သုဏောဟိ အရိန္ဒမ။ ။

'ပုတ္တေ စ မေ ဥဒိက္ခေသိ၊ ယဉ္စ မ ညံ ဃရေ ဓနံ။

ယထာ ပစ္ဆာ နဟာယေထ၊ ဉာတိသံဃေ မယိ ဂတေ။

'ယထေဝ ခလတိ ဘူမျံ၊ ဘူမျာ ယေဝ ပတိဋ္ဌတိ။

ဧဝေတံ ခလိတံ မယှံ၊ ဧတံ ပဿာမိ အစ္စယံ။ ။'ဟူသော ၃ ဂါထာတို့ကို ဆို၏။ အဓိပ္ပာယ်ကား–

"အလွန် ကြီးမြတ်တော်မူလှသော ဘုန်းတော်ဖြင့် ရန်သူတကာတို့၏ ပျပ်ဝပ်ကျိုးနွံ ကျွန်တော်ခံရာ မင်းတကာတို့၏သခင် ဖြစ်တော်မူသော အရှင်မင်းကြီး။ ယခုနေ့ပင် ကစ္စည်းလုလင် ခေါ်၍သွားရာ အကျွန်ုပ် လိုက်ရပါမည်။ အကျွန်ုပ်သား, မယားတို့၏ အကျိုးဌာ အရှင်မင်းကြီးကို လျှောက်ကြားပါအံ့။ နာယူတော် မူပါလော့။ တရားသဘင်၌ လုလင်နှင့် အရှင်မင်းကြီးတို့ပြဿနာကို ဖြေဆိုသည်ကာလ အကျွန်ုပ်ကို 'သင်နှင့်

အရှင်မင်းကြီး အဘယ်သို့ တော်စပ်သနည်း'ဟု လုလင်မေးသောအခါ အကျွန်ုပ်သည် အရှင်မင်းကြီးမျက်နှာကို မထောက်မကြည့်မူ၍ မှန်သောစကားကိုသာငဲ့လျက် 'ငါကား မင်းကြီး၏ ကျွန်ပေတည်း'ဟု ဆိုမိ၏။ အရှင်မင်းကြီးအား ပြစ်မှားမိသောအပြစ်ကို ဆင်ခြင်လျှင် ထို ဆိုမိသောအပြစ်ကိုသာ အကျွန်ုပ် မြင်၏။ ဤမှတစ်ပါး အရှင်မင်းကြီးအား ပြစ်မှားမိသောအပြစ်မည်သည် အကျွန်ုပ်၌ မရှိ။

"အကြင်ယောကျ်ားသည် မြေ၌ ပင်လျှင် ချော်၍လဲ၏။ ထို ချော်သောမြေသည်ပင်လျှင် ထိုယောကျ်ား၏ တည်ရာဖြစ်သကဲ့သို့ ထို့အတူ အကျွန်ုပ်သည်လည်း ထိုသို့သောစကားဖြင့် အရှင်မင်းကြီးအား ပြစ်မှားမိ၏။ ထို ပြစ်မှားမိသော အကျွန်ုပ်အား အရှင်မင်းကြီးသာလျှင် ကိုးကွယ်ရာ မှီခိုရာဖြစ်၏။ ထိုသို့ဖြစ်သောကြောင့် ပြစ်မှားမိသော အကျွန်ုပ်၏ အပြစ်ကို သည်းခံတော်မူသဖြင့် အမျက်တော်မရှိမူ၍ အကျွန်ုပ်သည် ကစ္စည်းလုလင်နှင့် ပါရလေသော် ကျန်ရစ်သော အကျွန်ုပ်၏သားမယားတို့ကို အမျက်ယူတော်မမူဘဲ အကျွန်ုပ်အိမ်၌ ၁၀၁ ပါးသော မင်းတို့သည် တရားကို ပူဇော်သဖြင့် ပေးသအပ်သော အိမ်ထောင်စည်းစိမ်ဥစ္စာ အခြွေအရံတို့သည် များစွာရှိကုန်၏။ ထိုစည်းစိမ် ဥစ္စာတို့ကိုလည်း သူတစ်ပါးတို့ မဖျက်ဆီးရဘဲ အကျွန်ုပ်ရှိစဉ်ကဲ့သို့ အကျွန်ုပ်၏ သားမယား အိမ်ထောင်ခမ်းနား တို့ကို ကြည့်ရှုစောင်မ ပြုစုတော်မူပါလော့"ဟု လျှောက်၏။

ထိုစကားကို ကြားလျှင် မင်းကြီးသည်–

'န သက္ကာ ဂန္တုံ မတိ မယှံ ဟောတိ၊ ဃာတေတွာ ဆာဒေဿာမိ ကူဋ ကာတိယာနံ။

ကူဋေဝ ဟောတိ ကူတိ မယှံ ရုစ္စတိ၊ မာ တွံ အဂမာ ဥတ္တမ ဘူရိပည။ ။'ဟူသော ဂါထာဖြင့် ဆို၏။ အဓိပ္ပာယ်ကား–

"မြေကြီးအထုကဲ့သို့ ပညာကြီးသော သုခမိန်။ ယခု သင်သည် ကစ္စည်းလုလင်နှင့် လိုက်ရမည်ဆိုသော စကားကို ငါ မနှစ်သက်။ ဥပါယ်တံမျဉ်ဖြင့် သင်သည် မလိုက်ရအောင် ငါကြံအံ့။ အဘယ်သို့ ကြံမည်နည်းဟူမူ ကစ္စည်းလုလင်ကို ဤနန်းတော်သို့ အမှတ်မဲ့ခေါ်ပြီးလျှင် သူတစ်ပါးတို့မသိရအောင် သတ်၍ ဖျောက်ဖျက်မည် ငါကြံ၏။ ငါ့ထံမှခွာ၍ သင်သည် အဘယ်ကြောင့် သွားရအံ့နည်း"ဟု ဆို၏။

ထိုစကားကိုကြားလျှင် ဘုရားလောင်း သုခမိန်သည်–

'မာဟေ ဝါဓမ္မေသု မနံ ပဏိဒဟိ၊ အတ္ထေ စ ဓမ္မေ စ ယုတ္တော ဘဝဿု။

မိရတ္ထုံ ကမ္မံ အကုသလံ အနရိယံ၊ ယံ ကတွာ ပစ္ဆာ နိရယံ ဝဇေယျ။

'နေ ဝေသ ဓမ္မော န ပုနေတိ ကိစ္စံ၊ အရိယော ဟိ ဒါသဿ ဇနိန္ဒိဿရော။

ဃာတေတုံ ဈာပေတုံ အထောပိ ဟန္တုံ၊ န စ မယှံ ကောဓတ္ထိ ဝဇာမိစဟံ။ ။'ဟူသော ၂ ဂါထာတို့ကို လျှောက်၏။ အဓိပ္ပာယ်ကား–

"အရှင်မင်းကြီး။ ယခု အကြံတော်သည် အကျွန်ုပ်ကို သနားစုံမက်တော်မူသည်နှင့်အညီ ကြံတော်မူသည် ဖြစ်သော်လည်း သူတော်ကောင်းတို့၏ အကျင့်အလေ့ မဟုတ်။ အစီးအပွားမရှိ ထိုသို့သော နှလုံးတော်ကိုဖျောက်၍ ကုသိုလ်ပွားအံ့သည်ကိုသာ နှလုံးထားတော်မူပါလော့။ ခပ်သိမ်းသောသတ္တဝါတို့သည် မအို မသေ မနေရချေ။ ထိုသို့ သူ့အသက်ကိုသတ်ခြင်း မကောင်းမှုကို ပြု၍ သေရလေသော် ငရဲ၌ ကြီးစွာသောဆင်းရဲကို ခံရလတ္တံ့။ ထို့ကြောင့် သူ့ကိုသတ်ခြင်း မကောင်းမှုသည်ကား စက်ဆုပ်ရွံရှာဖွယ်သာ ဖြစ်၏။ သူတော်ကောင်းတို့သဘော မဟုတ်။ သတ်တော်မမူပါလင့်။ ကစ္စည်းလုလင်အား အရှင်မင်းကြီးသည် အကျွန်ုပ်၏အရှင်ဖြစ်၍ ပေးတော်မူပါ သည်ကို အရှင်မင်းကြီး၌ တစ်ရံတစ်ဆစ်မျှ အကျွန်ုပ် အမျက်မထွက်။ ကစ္စည်းလုလင်အားလည်း ပေးတော်မူသည့်

နေ့မှ ယခုတိုင် စိုးစဉ်းမျှ အမျက်မထွက်။ အကျွန်ုပ်ကို ထိုလုလင်သည် ဖုတ်လိုဖုတ်, ကင်လိုကင်, သတ်လိုသတ်, အလိုရှိတိုင်းပြုဆောင်လည်း အရှင်နှင့် ကျွန်ဖြစ်၍ ခံထိုက်ပေသည်ဖြစ်၍၊ လုလင်နှင့်အတူ လိုက်ရပါအံ့"ဟု ဆိုပြီးလျှင် ဝိဓုရသုခမိန်သည် မင်းကြီးကိုရှိခိုး၍ မိဖုရား, ကိုယ်လုပ်မောင်းမ, သားတော်သမီးတော်, မှူးမတ် ပရိသတ်တို့အား ဆုံးမဩဝါဒပေးပြီးလျှင် နန်းတော်မှ ထွက်ခဲ့၏။

ထို မင်း, မိဖုရား, မောင်းမ အစရှိသော သူတို့သည် မိမိကိုယ်၏အဖြစ်ဖြင့် မဆောက်တည်နိုင်ကုန်သည် ဖြစ်၍ ဆံပင်ဖားလျား ရင်သားခတ်တီး ရှိုက်ကြီးရှိုက်ငင် ပူပင်မဆည် မျက်ရည်စက်ယို ငိုမြည်တမ်းလျက် နန်းတော်မှထွက်ခဲ့၍ လိုက်ကြကုန်၏။ ပြည်သူပြည်သား ယောကျာ်းမိန်းမ အပေါင်းတို့သည်လည်း 'ငါတို့အဖသဖွယ်ဖြစ်သော အမတ်ကြီးသုခမိန်သည် ယခု ကစ္စည်းလုလင်နှင့် လိုက်လိမ့်သတတ်။ သွား၍ ဖူးမြင်ကြကုန်အံ့'ဟု ဘုရားလောင်းထံ မျက်ရည်စက်ယို ငိုမြည်တမ်းလျက် လာကြကုန်၏။

ထို ပြည်သူ ပြည်သားတို့ကို ဘုရားလောင်း မြင်လျှင် "သင်တို့ မစိုးရိမ်ကြလင့်။ ကံ, စိတ်, ဥတု, အာဟာရ ပြုပြင်၍ဖြစ်သော ခပ်သိမ်းသော သင်္ခါရတရားတို့သည် အမြဲ မရှိကုန်။ ကိုယ်ခန္ဓာ, စည်းစိမ်ဥစ္စာ ဟူသမျှသည် ဖောက်ပြန်ပျက်စီးခြင်းလျှင် အဆုံးရှိ၏။ ထို ခန္ဓာ ၅ ပါး စည်းစိမ်ချမ်းသာတို့၏ အမြဲမရှိ၊ ပျက်စီး ဖောက်ပြန်တတ်သောသဘောကို ပညာဖြင့်ဆင်ခြင်ကြ၍ အလှူပေးခြင်း, သီလဆောက်တည်ခြင်း အစရှိသော ကုသိုလ်ကောင်းမှုကိုသာ မမေ့မလျော့ အားထုတ်ကြကုန်လော့"ဟု ဆုံးမပေးပြီးလျှင် မိမိတို့အိမ်သို့ ပြန်စေ၍ ဘုရားလောင်းသည် မိမိအိမ်သို့ ရှေးရှုသွားလေ၏။

ထိုအခါ ဓမ္မပါလ သတို့သားသည် ညီအပေါင်းခြံရံလျက် ခမည်းတော်ကို ဆီးကြိုအံ့ ဟုလာလတ်သော် အိမ်တံခါးဝ၌ ဆိုင်မိလေ၏။ ဘုရားလောင်းသည် သားတော်ကိုမြင်လျှင် ကြင်နာသောစိတ်ဖြင့် မပိတ်မဆည်းနိုင်သည်နှင့် မျက်ရည်စက်ယို သားကိုပိုက်ချီလျက် အိမ်တွင်းသို့ ဝင်လေ၏။

[ဝိဓုရသုခမိန်အား သား ၁၀၀၀, သမီး ၁၀၀၀, မယား ၁၀၀၀, ကိုယ်လုပ်အစေအပါး မိန်းမ ၇၀၀ ရှိ၏။ ထိုမှတစ်ပါး ကျွန်မိန်းမ, ကျွန်ယောကျာ်း, အမှုလုပ်အခြွေအရံ, အဆွေခင်ပွန်း, ဆွေမျိုးသားချင်းတို့ လည်း များစွာ ရှိကုန်၏။]

ထို သား, သမီး, မယားကြီး, မယားငယ် အစရှိသော အိမ်သူအိမ်သားတစ်စုတို့သည် ယုဂန္ဓိုရ်[၁၄] တောင်ခြေက လေမုန်တိုင်းသိမ်းခတ်၍ ယိမ်းညွတ်သော အင်ကြင်းပင်ပျိုတောကဲ့သို့ သောသော ရုတ်ရုတ်[၁၅] လက်အုပ်မြှောက်ချီ တညီတညွတ်တည်းလဲလျက် "အသက်သခင် အရှင်မင်းကြီး။ အကျွန်ုပ်တို့ကိုပစ်၍ အဘယ်ကြောင့် သွားတော်မူမည် ကြံဘိသနည်း"ဟု သည်းစွာ ငိုကြွေးကြကုန်၏။

ဘုရားလောင်း သုခမိန်သည် ထိုအလုံးစုံသော သားမယား အစရှိသောသူတို့ကို နှစ်သိမ့်စေပြီး၍ အိမ်၌ ပြုရန်ဆောင်ရန် ကိစ္စတို့ကို ဆောင်ပြီးသော် အတွင်းသူ အပြင်သား လူအများကိုလည်း တရားနှင့်အညီ ဆုံးမပေးလျက် သားမယားတို့အားလည်း သူတစ်ပါးတို့၌ မြီချသော ဥစ္စာ, မြှုပ်ထားအပ်သော ဥစ္စာတို့ကို စာရင်းပေးအပ် မှာထားခဲ့ပြီးလျှင် ပုဏ္ဏကထံသို့ သွား၍ 'အဝသိတုဝံ'အစရှိသောဂါထာဖြင့် ဆို၏။ အဓိပ္ပာယ်ကား-

"ကစ္စည်းလုလင်။ သင်သည် ငါ၏အိမ်၌ ငါ့ကို သနားသောအားဖြင့် အလိုသို့လိုက်၍ ၂ ရက်, ၃ ရက် ငံ့ပေ၏။ ငါသည်လည်း သား, မယား အစရှိသော ခပ်သိမ်းကုန်သောသူတို့အား ဆုံးမပေးခြင်း, မှာထားအပ်သမျှသော ကိစ္စတို့ကို မှာထားခြင်း, အိမ်၌ဆောင်ရသော အမှုတို့ကိုဆောင်ခြင်း ကိစ္စအလုံးစုံသည် ယခုပြီးပြီ။ သင်သည် အလိုရှိတိုင်း ပြုလော့။ ငါသည် သင်၏အလိုသို့ လိုက်အံ့"ဟု ဆို၏။

ပုဏ္ဏကသည် ထိုစကားကိုကြား၍ 'သစေဟိကတ္တေ' အစရှိသော ဂါထာကို ဆို၏။ အဓိပ္ပာယ်ကား–

ပုဏ္ဏကသည် ဝမ်းမြောက်ဝမ်းသာ "အို၊ အမတ်။ သင် ဆောင်အပ်သောကိစ္စပြီးလျှင် ယခု လာလှည့် သွားကုန်အံ့။ သွားရမည့်ခရီး ဝေး၏"ဟုဆို၍ ဘုံ ၇ ဆင့်မြောက်သော ပြာသာဒ်မှ အောက်သို့မဆင်းဘဲ အထက်သို့သာ သွားလိုသောစိတ် ရှိသည်ဖြစ်၍ 'အဆမ္ဘိတေဝ ဂဏှာဟိ' အစရှိသော ဂါထာကို ဆို၏။ အဓိပ္ပာယ်ကား–

"အမတ်။ သင်သည် မကြောက်မရွံ့ မလန့်မထိတ်မူ၍ ငါမြင်းမြီးကို မြဲစွာဆွဲလော့။ သင်သည် ယခု လူ့ပြည်ကို မြင်ရခြင်းကား အဆုံးဖြစ်သော မြင်ရခြင်းတည်း"ဟု ဆို၏။

ထိုစကားကို ကြားလျှင် ဘုရားလောင်းသည်–

'သောဟံ ကိဿာ နဘာယိဿံ၊ ယဿ မေ နတ္ထိ ဒုက္ကဋံ။

ကာယေန ဝါစာ မနသာ၊ ယေန ဂစ္ဆေယျ ဒုဂ္ဂတိံ။ ။'ဟူသော ဂါထာဖြင့် ဆို၏။ အဓိပ္ပာယ်ကား–

"ကစ္စည်းလုလင်။ ငါ၌ ကိုယ်,စကား,စိတ်ဖြင့် လွန်ကျူးအပ်သော အပါယ်လားကြောင်း မကောင်းမှုသည် မရှိ။ ထိုသို့ မကောင်းမှုမရှိသော ငါ့အား အဘယ်ကြောင့် စိတ်၏ တုန်လှုပ်ထိတ်လန့် ကြောက်ရွံ့ခြင်း ဖြစ်အံ့နည်း"ဟု 'မကြောက်နှင့်'ဟုဆိုသော ပုဏ္ဏက၏စကားကြောင့် ဤသို့သောစကားကို ဘုရားလောင်း ဆိုတော်မူ၏။ ဤသို့ ဘုရားလောင်းသည် ခြင်္သေ့သံကဲ့သို့ ရဲရင့်လှစွာသောစကားကို ဆို၍ ခြင်္သေ့မင်းကဲ့သို့ ရွံ့ရှာခြင်းကင်းလျက် ဝတ်လဲတော်ပုဆိုးကို 'ဤ ယခု ဝတ်အပ်သောပုဆိုးသည် ငါအလိုရှိသမျှ ကာလပတ်လုံး မကျွတ်စေသတည်း'ဟု ဓိဋ္ဌာန်^{ဣ}တော်မူ၍ ဝတ်ပြီးလျှင် မြင်းမြီးထူးပေါ်သို့တက်ပြီးသော် လက် ၂ ဘက်ဖြင့် အမြီးကို မြဲစွာကိုင်၍၊ ခြေ ၂ ဘက်တို့ဖြင့် မြင်း၏ပေါင် ၂ ဘက်တို့၌ချိတ်ပြီးသော် "လုလင်။ ငါ မြင်းမြီးကို ကိုင်အပ်ပြီ။ သင် အလိုရှိရာ သွားလော့"ဟု ဆို၏။

ထိုခဏ၌ ပုဏ္ဏကသည် ဤသို့ ကြံ၏။

'ဤဝိဓိုရကို အရပ်ဝေးစွာဆောင်၍ အဘယ်အကျိုးရှိတော့ အံ့နည်း။ ဟိမဝန္တာတော၌ တောင်, သစ်ပင်, ချုံပိတ်ပေါင်းထူထောင်ရာ တောင်ကြား သစ်ပင်ကြားသို့ သွား၍ တောင်စောင်း, ကျောက်စောင်း, သစ်ခက်, ဆူးငြောင့်တို့ဖြင့် ခတ်မိစေသဖြင့် သေအောင်ပြု၍ နှလုံးသားကိုထုတ်ယူပြီးလျှင် အကောင်ကို ချောက်ကြား၌ ပစ်ချခဲ့ပြီးမှ နဂါးပြည်သို့ သွားအံ့ဟု'ကြံ၍ မနောမယ သိန္ဓောမြင်းပျံကို အမှတ်ပြုလျက် မိမိလိုရာ တောင် သစ်ပင် အလယ်သို့ ချဉ်း၍သာလျှင် စိုင်းနှင်လေ၏။

"ဘုရားလောင်း၏ အမျက်မထွက်ခြင်း မေတ္တာတော်, သီလတော်, သစ္စာတော်, အဆက်ဆက်သော ကုသိုလ်တော်, ပါရမီတော် အာနုဘော်အစွမ်းဖြင့် တောင်, ကမ်း, သစ်ပင်တို့သည် ဘုရားလောင်း၏ကိုယ်တော်မှ နံပါး ၂ ဘက်တို့၌ ၁ တောင်ခန့်လောက်မျှ ဖယ်လေကုန်၏။

ပုဏ္ဏကသည် 'ဝိဓုရ သေပြီလော'ဟု ပြန်၍ ကြည့်၏။ ရွှေကြေးမုံကဲ့သို့ ရှင်လန်းကြည်လင်စွာသော ဘုရားလောင်း၏ မျက်နှာတော်ကို မြင်လျှင် ဝိဓုရသည် ငါ ဤမျှလောက် ပြု၍မျှ မသေသေး'ဟု တစ်ဖန် ထို ဟိမဝန္တာတောင်အရပ်၌ပင်လျှင် သစ်ပင်တို့ကိုလည်းကောင်း, တောင်တို့ကိုလည်းကောင်း တိုးဝှေ့စေလျက် ၃ ကြိမ်မြောက် စိုင်းနှင်ပြန်လေ၏။ ဤသို့တိုးဝှေ့သော်လည်း တောင်, သစ်ပင်တို့သည် ရှေးအတူလျှင် ဖယ်လေကုန်၏။ ဘုရားလောင်းကိုယ်တော်ကား အလွန် ပင်ပန်းတော်မူ၏။ ပုဏ္ဏကသည် 'ဤမျှလောက်

ပြ၍မျှ ဝိဓုရ မသေသေး'ဟု ပြင်းစွာအမျက်ထွက်၍ ကောင်းကင်၌ သည်းထန်ပြင်းပြစွာလာသော လေအဟုန်သို့ စိုင်းနှင် ပြန်၏။ ထိုလေအဟုန်သည် ဘုရားလောင်း၏ အာနုဘော်တော်ကြောင့် ၂ ဖြာကွဲ၍ နေ၏။

ထို့နောက် 'လေသင်တုန်းခတ်၍ မှုန့်မှုန့်ညက်ညက် ကြေစေအံ့'ဟု အမျက်မာန်ဖြင့် နှိပ်စက်သည်ဖြစ်၍ ထိုလေသင်တုန်းသို့ ၇ ကြိမ်တိုင်အောင် နှင်ပြန်လေ၏။ လေသင်တုန်းသည်လည်း အသိန်းသော မိုးကြိုးတို့သည် တစ်ပြိုင်တည်းထစ်သကဲ့သို့ အသံကိုပြုလျက် ၂ ဖြာကွဲ၍ ဘုရားလောင်းအား သွားရာအခွင့်ကို ပေး၏။ ပုဏ္ဏကသည် ထိုသို့ မိမိပြု၍မျှ ဘုရားလောင်း၏ သေအံ့သောအန္တရာယ်ကို မမြင်လျှင် ကာဠာဂိရိတောင်သို့ ဆောင်ယူစိုင်းနှင်လေ၏။

[ဤကား ဘုရားလောင်းကို ပုဏ္ဏက ဆောင်ယူသည်ကို ဆိုသောစကားတည်း။]

ထို ပုဏ္ဏကသည် ဘုရားလောင်းကို ယူ၍သွားလေသော် ဘုရားလောင်း၏ သား, မယားတို့သည် မိမိတို့အိမ် ဘုံ ၇ ဆင့်မြောက်၌ "ပုဏ္ဏကနေရာသို့ ဘုရားလောင်းသွားလေသည် ကြာလှ၏"ဟု တက်၍ ကြည့်ကြလတ်သော် ဘုရားလောင်းကိုမမြင်လျှင် ဆံပင်ဖြည်လွှား ရင်သားဆိတ်ချက် ထိပ်ထက်လက်စုံ သက်လုံကျေးဗူး လူးလဲကြလျက် "အသက်သခင် တို့အရှင်ကို ကောင်းကင်သို့စူးစူး ဘီလူးသံဘက် နတ်ပျက် နတ်ဆိုးတို့သည် လူမျိုးအသွင် လုလင်ဆောင်၍ ယူခဲ့ပြီ"ဟု သည်းစွာသောအသံဖြင့် ငိုကြွေးကြကုန်၏။

ဆင်စီးသူရဲ, မြင်းစီးသူရဲ, ခြေသည်သူရဲ, ရထားစီးသူရဲ, မင်းမှူးမင်းမတ်, မင်းညီမင်းသား, ကျေးကုလား, ဇနပုဒ် နိဂုံးသား ပုဏ္ဏားမျိုး, သူကြွယ်မျိုးသား, မိန်းမယောကျ်ားအပေါင်းတို့သည် အညီအညွတ် ထိပ်ထက် လက်မြှောက် မျက်ရည်ပေါက်ဖြိုးစွာနှင့် လာလတ်ကြကုန်လျက် "ငါတို့သခင် သုခမိန်သည် အိမ်တော်ကိုပယ်စွန့်၍ ဘယ်အခွန့်ခရီးဖြင့် ကြွရာတော်မူလေလိမ့်လဲ မသိ"ဟု ငိုကြွေးမြည်တမ်းကြကုန်၏။ ထို ဘုရားလောင်း၏ သားတော်သမီးတော်, မယား, ကိုယ်လုပ်မိန်းမတို့သည် အိမ်၌ငိုကြွေးပြီးလျှင် မြို့သူမြို့သား များစွာသော လူတို့နှင့်တကွ မင်းကြီးနန်းတော် တံခါးဝသို့သွား၍ ငိုကြွေးကြကုန်၏။

မင်းကြီးသည် ပြင်းစွာငိုကြွေးသံကိုကြား၍ "အဘယ်ကြောင့် ငိုကြွေးကုန်သနည်း"ဟု မေးစေသော်၊ အရှင်မင်းကြီး။ ကစ္စည်းဟူသောလုလင်သည် လူစင်စစ် မဟုတ်ပါ။ ဘီလူးစင်စစ်တည်း။ လူယောင်ဆောင်၍ အရှင်မင်းကြီး၏ အမတ်ကြီးသုခမိန်ကို ကောင်းကင်ဖြင့် ဆောင်ခဲ့ပြီ။ ဝိဓုရသုခမိန်နှင့်ကင်း၍ အကျွန်ုပ်တို့ အသက်ရှင်ခြင်းသည် အဘယ်အကျိုး ရှိအံ့နည်း။ အရှင် ဝိဓုရသုခမိန်သည် ယနေ့မှ ၇ ရက်မြောက်၍ မရောက်လာလျှင် အထောင်မကသော လှည်းတို့ဖြင့် ထင်းကိုဆောင်၍ မီးပုံကြီးစွာပြုပြီးလျှင် ထိုမီးပုံတွင်းသို့ အကျွန်ုပ်တို့ဆင်း၍ သေကုန်အံ့။ ဝိဓုရသုခမိန်သည် အကျွန်ုပ်တို့အသက်နှင့် တူ၏။ ဝိဓုရ သုခမိန် မရှိသဖြင့် အသက်ရှင်၍ အဘယ်အကျိုး ရှိတော့အံ့နည်း"ဟု လျှောက်ကြားကြကုန်၏။

[မြတ်စွာဘုရားကိုယ်တော် ပရိနိဗ္ဗာန်[76] ပြုသည်ကိုမျှလည်း မီးထဲသို့ဆင်း၍ သေမည်ဟူ၍ မည်သူမျှ မဆို။ ဝိဓုရ ဘုရားလောင်းမှုကား ကောင်းစွာဆိုသောစကားဖြင့် အံ့သြဖွယ်ရှိစွာ့ဟု ပြည်သူတို့ မြတ်နိုးချစ်ခင် ကြင်နာလှသောကြောင့် ဆိုကြသတည်း။]

ထိုသို့ ပြည်သူ, ပြည်သား, သား, မယား စသော သူတို့၏စကားကိုကြားလျှင် မင်းကြီးသည် "သင်တို့ မစိုးရိမ် မကြောင့်ကြ မငိုကြွေးကြနှင့်။ ငါ့အမတ်ကြီး သုခမိန်သည် သာယာစွာသောစကားဖြင့် တရားဟောတတ်၏။ ထိုလုလင်ကို သာယာစွာသောတရားစကားဖြင့် ဖြားယောင်းဆုံးမ ဩဝါဒပေး၍ မိမိခြင်း

အလုပ်အကျွေးအသွင်ဖြင့် ဖြစ်စေပြီးလျှင် သင်တို့မျက်ရည်ကို ခန်းခြောက်စေသဖြင့် ရွှင်လန်းခြင်းကို ဖြစ်စေလျက် မကြာမြင့်မီလျှင် ဤအရပ်သို့ လာလတ္တံ့။ မစိုးရိမ် မငိုကြွေးကြနှင့်”ဟု နှစ်သိမ့်စေ၏။

ပြည်သူပြည်သားတို့သည်လည်း “အရှင်မင်းကြီး။ အမိန့်ရှိသည့်အတိုင်း သုခမိန်သည် အရှင်မင်းကြီးကို ပြောဆိုလျှောက်ထား၍ သွားသည် ဖြစ်မည်ထင်၏”ဟု မင်းကြီးစကားကို ယုံကြည်၍ မိမိတို့အိမ်သို့ ပြန်သွားကြလေကုန်၏။

ပုဏ္ဏကသည် ဘုရားလောင်းကိုဆောင်၍ ကာဠာဂိရိတောင်ထိပ်သို့ရောက်သော် ဤသို့ ကြံ၏။

‘ဤ ဝိဓုရကို ငါ မသတ်လျှင် နဂါးသမီး ဣရန္ဒတီကို ငါ မရရာ။ ငါ လုံ့လပြုကျိုးလည်း မရှိ၊ အကျိုးမဲ့ ဖြစ်ခဲ့ရာ၏။ ထို့ကြောင့် ဝိဓုရကိုသတ်၍ နှလုံးသားကိုထုတ်ယူပြီးသော် ဝိမလာဒေဝီအားပေးခဲ့ပြီးလျှင် ဣရန္ဒတီကို နတ်ပြည်သို့ ဆောင်ယူခဲ့အံ့’ဟုကြံပြီးမှ ဤသို့တစ်ဖန် ကြံပြန်၏။ ‘ထိုသို့ ငါ သတ်သော်လည်း လက်ဖြင့် သေအောင် မသတ်မူ၍ ကြောက်မက်ဖွယ်သော ဘီလူးရုပ်ဖန်ဆင်းသဖြင့် ခြောက်လှန့်၍ သေစေအံ့’ဟု ကြံ၏။

ထိုသို့ကြံပြီးလျှင် ဝိဓုရသုခမိန်ကို တောင်ထိပ်ပြင်၌ချထား၍ မိမိသည် ကြောက်မက်ဖွယ်သော ဘီလူးအသွင် ဖန်ဆင်းပြီးသော် ဝိဓုရသုခမိန်ကို ပက်လက်လဲစေ၍ နှုတ်ဖြင့်ကိုက်လျက် အထက်စွယ် အောက်စွယ်တို့၏အကြား၌ ထားပြီးလျှင် ဝါး၍စားမည်ကဲ့သို့ ပြု၏။ ထိုသို့ စားမည်ပြုကြောသော်လည်း ဘုရားလောင်းသည် ကြက်သီးမွေးညင်းမျှမထ၊ ကြောက်လန့်ခြင်း မရှိ။ ထိုဘီလူးအသွင်ဖြင့် ခြောက်လှန့်၍ မကြောက်လျှင် ခြင်္သေ့အသွင်ဖြင့် လည်းကောင်း, အမုန်ယစ်သော ဆင်၏အသွင်ဖြင့် လည်းကောင်း သွားအစွယ်တို့ကို ဖွင့်လှစ်ကျင်းပလျက် ကိုက်မည်ကဲ့သို့, ထိုးမည်ကဲ့သို့ ပြု၏။ ထိုသို့ ခြင်္သေ့အသွင်, ဆင်အသွင်ဖြင့်လည်း ကြောက်လန့်ခြင်း မရှိ။ ထို့နောက် တစ်ယောက်စီးလောက်သော လောင်းငယ်ပမာဏရှိသော ကြီးစွာသော မြွေ၏အသွင်ဖြင့် ဖန်ဆင်း၍ ပြင်းစွာရှူလျက် အမှတ်မဲ့သောအရပ်မှ လာပြီးလျှင် ဘုရားလောင်း ကိုယ်ကိုရစ်၍ ထိပ်ထက်၌ ပါးပျဉ်းဖြန့်မိုးလျက်နေ၏။

ထိုသို့ မြွေ၏အသွင်ဖန်ဆင်း၍ ခြောက်ငြားသော်လည်း ဘုရားလောင်းသည် ရွံ့ရှာမှုမရှိ။ ထို့နောက် ဘုရားလောင်းကို ‘တောင်ထိပ်ပြင်၌လဲစေ၍ မှုန်မှုန်ညက်ညက် ကြေစေအံ့’ဟု ကြံ၍ ပြင်းစွာသောလေကို လာစေ၏။ ထိုလေသည် ဘုရားလောင်းဆံဖျားကိုမျှ လှုပ်ခြင်းငှာ မတတ်နိုင်။ ထို့နောင် ဘုရားလောင်းကို ထိုတောင်ထိပ်၌ထား၍ အမုန်ယစ်သောဆင်သည် သင်ပေါင်းပင်ကို ဆွဲငင်တိုးဝှေ့သကဲ့သို့ ယူဇနာ ၆၀ မြင့်သော ကာဠာဂိရိတောင်ကို သိမ့်သိမ့်တုန်အောင် လှုပ်၍ခြောက်၏။ ထိုသို့ တစ်တောင်လုံး တုန်လှုပ်အောင် ခြောက်ငြားသော်လည်း ဘုရားလောင်းကို နေမြဲနေရာမှ ဆံခြည်တစ်လုံးမျှ ရွေ့စေခြင်းငှာ မတတ်နိုင်။

ထို့နောင် သည်းစွာသောအသံဖြင့် ‘ဝိဓုရ၏ နှလုံးကို ကွဲစေအံ့’ဟုကြံ၍ ကာဠာဂိရိတောင်အတွင်းသို့ မိမိတန်ခိုးဖြင့်ဝင်ပြီးလျှင် ထိုတောင်၏အတွင်းမြေထဲက တစ်တောင်လုံး ကွဲအံ့သကဲ့သို့ ပဲ့တင်ထပ်မျှ သည်းစွာသောအသံဖြင့် ဟစ်၏။ ဤသို့ဟစ်ငြားသော်လည်း ဘုရားလောင်း၏အာနုဘော်ကြောင့် ရွံ့ကာမျှကိုလည်း မဖြစ်စေနိုင်။

[အဘယ်ကြောင့် ဤမျှလောက် ခြောက်သည်ကိုပင် ဘုရားလောင်းသည် စိုးစဉ်းမျှ မကြောက်လန့်သနည်း ဟူမူကား ထိုပုဏ္ဏကသည် ဘီလူးအသွင်၊ ဆင်, ခြင်္သေ့, မြွေအသွင်၊ ပြင်းစွာသောလေဖြင့် တောင်ကိုလှုပ်ခြင်း၊ တောင်တွင်း၌ဝင်၍ ပြင်းစွာသောအသံဖြင့် ဟစ်ခြင်းတို့ကိုပြု၍ ခြောက်ငြားသော်လည်း ဤဘီလူးကား

ပြည်သူ လူအပေါင်းတို့အား တရားဟောမြဲ, အဆုံးအမ ပေးမြဲအတိုင်း ဒါနကထာ[၉၉], သီလကထာ[၃၀၀] စသည်တို့ဖြင့် အဆုံးအမပေးတော်မူ၍၊ အသက်၏အဆုံး၌ ကောင်းမှုကိုပြုသောသူတို့၏ လားရာ တာဝတိံသာနတ်ပြည်၌ ဖြစ်တော်မူလေ၏။ ဓနဉ္စယမင်းကြီး, မိဖုရားမှစ၍ ခပ်သိမ်းကုန်သော ပြည်သူပြည်သား အပေါင်းတို့သည်လည်း ဘုရားလောင်း အဆုံးအမ၌တည်၍ အလှူပေးခြင်း, နေ့တိုင်းမပြတ် ပဉ္စသီလ[၃၀၁]ကို ဆောက်တည်ခြင်း, ဥပုသ်နေ့၌ ဥပေါသထသီလ[၃၀၂]ကို ဆောက်တည်ခြင်း စသော ကုသိုလ်ကောင်းမှုကို ပြုကျင့်ကြကုန်သဖြင့် နတ်ပြည်သို့ လားကြကုန်၏။

## ၁၂။ ဇာတ်တော်ပေါင်းခန်း

ဤသို့ မြတ်စွာဘုရားသည် တရားဒေသနာတော်ကို အကျယ်ဟောတော်မူ၍ စကားဆက်ဝေးသဖြင့် ရှေးဝတ္ထုအကြောင်းရင်း ပျောက်မည် စိုးတော်မူသောကြောင့်

"ရဟန်းတို့။ ငါဘုရားသည် သဗ္ဗညုတ အထွတ်အထိပ် သို့ ရောက်တော်မူသောအခါ၌သာလျှင် မအံ့သြနိုင်သော ပညာတော်နှင့် ပြည့်စုံသည်မဟုတ်။ ရှေးဘဝ၌လည်း ငါဘုရားသည် ဤသို့ ဟောတော်မူအပ်သော ဒေသနာတော် လာသည့်အတိုင်း မနိုင်းယှဉ်အပ်သော ပညာတော် အကျိုးစီးပွားများခြင်း၏ အကြောင်းဖြစ်သော ဥပါယ်တံမျဉ်၌ လိမ္မာတော်မူ၏"ဟု ရှေးစကားရပ်ကို ဆက်တော် မူ၍ ဇာတ်တော်ကို ပေါင်းတော်မူသည်။

"ရဟန်းတို့။ ငါဘုရားသည် ဝိဓုရသုခမိန် ဖြစ်သောအခါ ဝိဓုရသုခမိန်၏ မယ်တော်, ခမည်းတော်တို့သည် ယခုအခါ မင်းမျိုးတို့၏အထွတ် သာကီဝင်မင်းမျိုး ငါ၏မယ်တော်, ခမည်းတော် ဖြစ်လာ၏။ ဝိဓုရသုခမိန်၏ မယားကြီး အနောဇာဒေဝီသည် ယခုအခါ ရာဟုလာမိခင် ဖြစ်လာ၏။ ဝရုဏနဂါးမင်းသည် ယခုအခါ ဥပတိဿရွာ၌ ဗြာဟ္မဏ မဟာသာလ[၃၀၃] ဖြစ်သော ရူပသာရီပုဏ္ဏေးမ၏သား ငါဘုရား၏ တပည့်ကြီး သာရိပုတ္တရာ ဖြစ်လာ၏။ ဂဠုန်မင်းသည် ယခုအခါ ကောလိတရွာ၌ ဗြာဟ္မဏ မဟာသာလ ဖြစ်သော မောဂ္ဂလိပုဏ္ဏေးမ၏သား ငါဘုရား၏ဒုတိယသာဝက မောဂ္ဂလာန် ဖြစ်လာ၏။ ထိုအခါ သိကြားမင်းသည် ယခုအခါ ကပိလဝတ်ပြည်၌ ငါဘုရား၏ဘထွေးတော် ဓောဓောဒနသား ငါဘုရား၏တပည့် အနုရုဒ္ဓါထေရ် ဖြစ်လာ၏။ ဓနဉ္စယကောရဗျမင်းကြီးသည်ကား ယခုအခါ ငါ၏ဘထွေးတော်သား ငါဘုရားနှင့်ဖွားဖက် တေဒဂ် ၅တန်[၃၀၄]ရ တရားဘဏ္ဍာစိုးဖြစ်သော အာနန္ဒာ ဖြစ်လာ၏။ ထိုအခါ ပုဏ္ဏက ဘီလူးစစ်သူကြီးသည် ယခုအခါ သာဝတ္ထိပြည် ကောသလမင်းကြီး၏ပုရောဟိတ် ဘတ္တဂ္ဂ ပုဏ္ဏား၏သား အင်္ဂုလိမာလထေရ် ဖြစ်လာ၏။ ထိုအခါ ပုဏ္ဏကစီးသော မနောမယသိန္ဓောမြင်းသည် ယခုအခါ ငါဘုရားနှင့်ဖွားဖက် တောထွက်တော်မူရာပါသော ကဏ္ဍကမြင်း ဖြစ်လာ၏။ နဂါးမင်းမိဖုရား ဝိမလာဒေဝီသည် ယခုအခါ ရာဇဂြိုဟ်ပြည်ကိုအစိုးရသော ဗိမ္ဗိသာရမင်းကြီး၏မိဖုရား ငါဘုရားထံ၌ ၄ တန်သောမင်္ဂဖိုလ်ကို မငြိုမငြင် ဘဝင်မခြား လျှင်လျှားစွာရသော အဂ္ဂသာဝိကာ ခေမာဘိက္ခုနီ ဖြစ်လာ၏။ နဂါးမင်း၏သမီး ဣရန္ဒတီသည် ယခုအခါ ငါဘုရား၏အရီးတော်သမီး ကိသာဂေါတမီ ဖြစ်လာ၏။ ထိုမှကြွင်းသော ဝိဓုရသုခမိန်၏ပရိသတ်တို့သည် ယခုအခါ ငါဘုရား၏ပရိသတ်

ဖြစ်လာ၏။ ထိုအခါ ၁၀၁ ပါးသော မင်းနှင့်တကွသော လူအပေါင်းတို့ကို ဆုံးမပဲ့ပြင် သွန်သင်ညွှန်ပြ တရားရေအေး တိုက်ကျွေးတတ်သော ဝိဓုရ သုခမိန်သည်ကား ယခုအခါ လူနတ်တို့၏ဆရာ သတ္တာ ၄ ပါး တရားတို့ကို သူတစ်ပါးတို့ မညွှန်ကြားဘဲ မိမိအလိုလို ကိုယ်တိုင်တော်သာလျှင် တစ်ပြိုင်နက် အရဟတ္တမဂ်ဉာဏ်[၁၀၅]ဖြင့် ဗောဓိမဏ္ဍိုင်[၁၀၆]၌ သိတော်မူပြီး၍ သဗ္ဗညုတဉာဏ်[၁၀၇]ကို ရတော်မူသော ငါဘုရား လျှင်တည်း”ဟု ဇာတ်တော်ကို ပေါင်းတော်မူ၏။

[ဤအရာ၌ မယ်တော်, ခမည်းတော်တို့သည် သာကီဝင်မင်းမျိုး ဖြစ်လာ၏ဟူသော် အဘယ်ကြောင့် သာကီဝင် မည်သနည်းဟူမူ သကျဝံသ–ဟု မာဂဓဘာသာ ဆိုသည်ကို မြန်မာတို့ဘာသာ၌ သ–ကို သာ– ပြု၍ ကျ–ကိုလည်း ကီ–ပြု၍ ဝံသ–ကိုလည်း ဝင်ပြု၍၊ သာကီဝင်–ဟု အမည်တွင်သတည်း။ ထိုသာကီဝင်သည် အဘယ်ကစ၍ ဖြစ်သနည်းဟူမူကား ကပိလဝတ်ပြည်ကို တည်ထောင်စဖြစ်သော ဥက္ကာမုခမင်း, ဟတ္ထိနိကမင်း စသော မင်းညီနောင် ၄ ပါးတို့တွင် ပိယာ, သုပိယာ, အာနန္ဒာ, ဝိဇိတာ, ဝိဇိတာသေနာ ဟူ၍ နှမတော် ၅ ယောက်တို့တွင် ပိယာ ဟူသော နှမတော်အကြီးကို အမိအရာထား၍ အမျိုးပျက်ပြားမည်စိုးသောကြောင့် အကြွင်း နှမတော် ၄ ပါးနှင့် အသီးအသီးစုံဖက်၍ ရွှေထီးရွှေနန်း စံမြန်းစံပယ်ကြရာတွင် စ၍ ဖြစ်သတည်း။ ထိုမင်းသမီးမောင်တော်, နှမတော်တို့ အသီးအသီး စုံဖက်ကာမျှပင်လျှင် သာကီဝင်မင်း ဟူသောအမည်ကို ရသလောဟူမူ ထို စုံဖက်ကာမျှ သာကီဝင် ဟူသောအမည်ကို မရသေး။ ကုသဝတီပြည်၌ ခမည်းတော် ဥက္ကာကရာဇ် မင်းကြီး ကြားတော်မူသောကြောင့် ‘သကျာ ဝတ ဘောကုမာရာ’ဟု ၃ ကြိမ် အံ့သြတော်မူသော် ဘုန်းကြီးသော မင်း၏ နှုတ်သြဇာတံဆိပ်ကိုစွဲ၍ ‘သာကီဝင်’ဟု ခေါ်ဝေါ်ကုန်သတည်း။ ထို့ကြောင့် ဘုံခန်း၌ ‘သကျာဝတ၊ ကုမာရဟု၊ သြဇာသကြည်၊ နှုတ်မွှန်ရည်ကြောင့်၊ မင်းစည်ညွှန့်ညှောက်၊ မင်းရိုးပေါက်၏’ဟု စပ်တော်မူသည်။ ဘော၊ အိုအမတ်တို့။ ကုမာရာ၊ ငါ၏သားတော် မင်းသားတို့သည်။ သကျာ ဝတ၊ တတ်နိုင်ပေစွ။ (ဤကား အနက်)။ ဘုံခန်းလင်္ကာ၌ ‘သြဇာသကြည်၊ နှုတ်မွှန်ရည်’ဆိုသည်ကား မင်းကြီးသည် ‘သကျာ ဝတ, သကျာဝတ’ ဟု ၃ ကြိမ်ဆိုသောစကားသည် အနက်မပြားသောကြောင့် အာမေဍိတ် ဖြစ်သတည်း။ ထိုအာမေဍိတ်စကားသည် မြွေကိုမြင်လျှင် မြွေ,မြွေဟု အထပ်ထပ်ဆိုသော အာမေဍိတ်ကဲ့သို့ ကြောက်လန့်၍ ဆိုသည်မဟုတ်၊ မကောင်းသော တပည့်သားသမီးကို ဆရာ, မိဘတို့သည် အမျက်ထွက်၍ အမိုက်, အမိုက်ဟုဆိုအပ်သော အာမေဍိတ်ကဲ့သို့ အမျက်ထွက်၍ ဆိုသည်လည်းမဟုတ်၊ ငါ့သားတော်တို့သည် အမျိုးကို အလွန်စောင့်ရှောက်ပေသည်ဟု ဝမ်းမြောက် လှသောကြောင့်သာ ကြည်ရွှင်လန်းသော နှုတ်မွှန်ရည်ဖြင့် ၁ ကြိမ်နှင့်မရပ်နိုင်၍ ၃ ကြိမ်တိုင်အောင် ‘သကျာ ဝတ ဘော ကုမာရာ’ဟု အံ့သြတော်မူသောစကားကို ဆိုလေသတည်း။

“ဤအန္တရကပ်၏အစ၌ မဟာသမ္မတမင်းသည် ငါတို့ ဘုရားလောင်းတည်း။ ထိုမဟာသမ္မတမင်းမှ သားတော်, မြေးတော်, မြစ်တော်မှ ဆင်းသက်၍ ကုသဝတီအမည်ရှိသော ရာဇဂြိုဟ်ပြည်၌ မင်းပြု၏။ မဟာသမ္မတ မင်းမှစ၍ ဥက္ကာကရာဇ် မင်းကြီးတိုင်အောင် မင်းဆက်ပေါင်း ၂ သိန်း ၅ သောင်း ၂ ထောင် ၅ ရာ ၅ ကျိပ် ၆ ပါးတည်း။

ဥက္ကာကရာဇ်မင်းကြီးတွင် ဟတ္ထာ, စိတ္တာ, ဇန္တု, ဇာလိနီ, ဝိသာခါဟု မိဖုရား ၅ ယောက်ရှိ၏။ ထို ၅ ယောက်တွင် ဟတ္ထာ အမည်ရှိသော မိဖုရားကြီး၌ ဥက္ကာမုခ စသော သားတော် ၄ ပါး, ပိတာ အစရှိသော

သမီးတော် ၅ ပါး ဖွားမြင်ပြီးသည့်နောက် ဟတ္ထာမိဖုရား လွန်၏။ နောက် ဇန္တုမိဖုရားတွင် ဇန္တုအမည်ရှိသော မင်းသားကိုဖွား၍ မိဖုရားသည် မိမိသားငယ်ကို အိမ်ရှေ့နှင်းစေလိုသောကြောင့် ဥက္ကာမုခ စသော သားတော်ကြီး ၄ ပါး၏အန္တရာယ်ကို စိုးရိမ်တော်မူသည်ဖြစ်၍ ဥက္ကာကရာဇ်မင်းကြီးသည် သားတော် ၄ ပါးကို "တခြားသင့်ရာအရပ်မှာ သွား၍နေဦး။ ငါမရှိမှ ထီးနန်းကို သိမ်းမြန်းလာလော့"ဟု နှင်တော်မူရာတွင် သမီးတော် ၅ ယောက်လည်း မောင်တော်များနှင့် အတူပင်လိုက်၍ တစ်ယူဇနာခန့်ကွာသော ဗိုလ်ထုပရိသတ်နှင့်တကွ သားတော်, သမီးတော်တို့သည် ထွက်သွား၍ တစ်ခုသော ကျွန်းပင်ပျိုတော၌ ရေကန်တစ်ခုကို မှီ၍နေသော ကပိလရှင်ရသေ့၏ သခ်မ်းကျောင်းရာ၌ မြို့နန်းတည်၍ စံကြကုန်၏။ နောက်၌ ဥက္ကာမုခမင်း၏ညီတော်သည် 'ဒေဝဒဟ'ဟု တစ်ပြည် တည်ထောင်ပြန်၏။ နုမတော်အကြီးကို အမိအရာထားသော ပိယာမင်းသမီးသည် နောက် ကုဋ္ဌနာစွဲ၍ တောအရပ်၌ လုံခြုံစွာ ဥမင်နှင့် ထား၏။ ဗာရာဏသီမင်းလည်း ကုဋ္ဌနာစွဲသောကြောင့် တောသို့ ထွက်လာခဲ့သည်နှင့် ကလောသီးကိုစား၍ ထိုအနာပျောက်ပြီးမှ ပိယာမင်းသမီးကိုတွေ့၍၊ ၎င်း ကလောသီးကို စားစေသဖြင့် အနာပျောက်လျှင် ထိုမင်းကြီး, မင်းသမီးတို့သည် ကလောပင့်ကိုအမှီပြု၍ မြို့တည်ထောင်ပြန်သောကြောင့် 'ကောလိယ'ဟု တစ်ပြည် တွင်ပြန်၏။

ဥက္ကာမုခမင်းမှသည် ဇေယျသိန်မင်းတိုင်အောင် မင်းဆက်ပေါင်း ၈ သောင်း ၂ ထောင်တည်း။ ကပိလဝတ်ပြည်၌ ဇေယျသိန်မင်းကြီး၏မိဖုရားကြီးတွင် သားတော် သီဟနု, သမီးတော် ယသောဓရာ ဟု ၂ယောက် မြင်၏။ ဒေဝဒဟမင်းကြီး၏မိဖုရားကြီးတွင် သားတော် အဉ္စန, သမီးတော် ဘဒ္ဒကဉ္စနာ ဟု ၂ယောက် မြင်၏။ သီဟနုမင်းသားနှင့် ဒေဝဒဟမင်းကြီးသမီးတော် ဘဒ္ဒကဉ္စနာ ထိမ်းမြားရာတွင် သုဒ္ဓေါဒန, ဓောတောဒန, သက္ကောဒန, သုက္ကောဒန, အမိတ္တောဒန ဟူ၍ သားတော် ၅ ယောက်၊ အမိတ္တာ, ပါလိတာ ဟု သမီးတော် ၂ ယောက်၊ ပေါင်း ၇ ယောက် မြင်၏။ ဒေဝဒဟမင်းကြီးသား အဉ္စနနှင့် ဇေယျသိန်မင်းကြီးသမီး ယသောဓရာကို ထိမ်းမြားရာတွင် ဒဏ္ဍပါဏိ, သုပ္ပဗုဒ္ဓဟု သား ၂ ယောက်၊ မဟာမာယာ, မဟာပဇာပတိဂေါတမီ ဟူ၍ သမီး ၂ယောက်၊ ပေါင်း ၄ ယောက် မြင်၏။ အဉ္စနမင်းကြီးသားတော် သုပ္ပဗုဒ္ဓမင်းသားနှင့် သီဟနုမင်းကြီးသမီးတော် အမိတ္တာကို ထိမ်းမြားရာတွင် ဒေဝဒတ္တ, ဗိမ္ဗာမင်းသမီး ၂ ယောက် မြင်၏။ သီဟနုမင်းသားတော် သုဒ္ဓေါဒနနှင့် အဉ္စန မင်းကြီးသမီးတော် မဟာမာယာ, ပဇာပဇာတိဂေါတမီ ညီအစ်မ ၂ ယောက် ထိမ်းမြားရာတွင် မဟာမာယာကား ဘုရားရှင် မယ်တော်တည်း။ မဟာပဇာပတိကား နန္ဒမင်းသား, ဇနပဒကလျာဏီ မင်းသမီး ၂ ယောက် မြင်၏။ ဤသို့ မဟာသမ္မတမင်းမှသည် ကိုယ်တော်မြတ်လက်ထက်တိုင်အောင် မပျက်သောကြောင့် ငါ၏ မယ်တော်, ခမည်းတော်တို့သည် မြတ်သောမင်းမျိုး၌ ဖြစ်ကုန်၏"ဟု ဇာတ်ကို ပေါင်းတော်မူသတည်း။

# နိဂုံး ပိုဒ်စုံရတု

အေးမျက်သီတာ။ ။ဂန္ဓမာတွင်၊ နံ့သာဆူဆူ၊ မွှေးအတူသား၊ မဥ္ဇူသက၊ ပင်ရကွဲဝယ်၊ အလှအဆန်း၊ ပွင့်သည့်ပန်းကို၊ လန်းလန်းသီရုံး၊ ဆွတ်ယူကုံး၍၊ သက်လုံးမြတ်လေး၊ ဆင်တော့ပေးသို့၊ ပျံ့အေးဂုဏ်အင်၊ သုံးလူ့ရှင်၏၊ သုံးခွင်ဒေသနာ၊ ပင်ရိပ်သာမှ၊ ဤစာဝိဓူ၊ ပွင့်ပဥ္စူကို အယူမခက်၊ အနက်ထင်ထင်၊ ဓိပ္ပာယ်ဆင်၍၊ မသင်ဘူးသား၊ သူတို့အားကို၊ နားလည်စိမ့်ငှာ၊ ထုတ်စီပါဟု၊ ရွာတွင်ရွာထူး၊ ရွာများမှူးဖြင့်၊ မင်းပူးမည်ရှိ၊ ရပ်သိရှိ၌၊ ကဝိတစ်ယောက်၊ 'တစ်'ခေါ်လောက်သား၊ မောင်ထောက်တွင်ခြင်း၊ မိတ်ဆွေရင်းလျှင်၊ ဝပ်စင်းရှိသေ၊ တောင်းပန်ထွေကြောင့်၊ ပေ ၉ ကြောင်းစာ[၃၂၈]၊ ၄ အင်္ဂါ[၃၂၉]ဖြင့်၊ သိသာစေမှု၊ ထုတ်ဖော်ပြုရှင့်၊ ဗဟုသုတ၊ ကုန်လောက်လှစွာ၊ ပညာဝါတို့၊ ဤရာဤ၌၊ ဤမထိုက်ဟု၊ အဆိုက်အသွား၊ စကားရှေ့နောက်၊ နှိုင်းညှိထောက်၍၊ ကျရောက်မြူသွင်၊ အပြစ်မြင်က၊ တင်၍နှုတ်သာ၊ ကဲ့ရဲ့ပါနှင့်၊ လျင်စွာလျှောက်ကူ၊ ပြင်တော်မူရှင့်၊ အယူဒွိဟ[၃၃၀]၊ မကျနမှု၊ မောဟဆို့ပတ်၊ ကုသိုလ်ဟိတ်ဖြင့်။ ။ဉာဏ်စိတ် ထောက်ကြပါစေသောဝ်။

မွှေးညက်ဆီမှာ။ ။ကျဂ္ဂမ်းဝါသို့၊ ရသာချိုအိမ့်။ နှလုံးဖိမ့်၍၊ နှစ်သိမ့်စေမှု၊ ဤဝတ္ထုကို၊ ပြု၍မငြိုး၊ ဤကုသိုလ်ကြောင့်၊ ထိုထိုနောင်ခါ၊ သံသရာ၌၊ ဝါန[၃၃၁]မကုန်၊ လည်ရတုံလည်း၊ လုံးစုံပညာ၊ အင် ၈ ဖြာနှင့်၊ ဝိသာရဒ၊ တတ်ကုန်င,လျက်၊ ဗုဒ္ဓအလောင်း၊ သူတော်ကောင်းတို့၊ ကျင့်ဟောင်းထုံးနည်း၊ နိသျည်းကို၊ ငါလည်း ဤတူ၊ ရပါမူလော့၊ လူမလိမ္မာ၊ လူမိစ္ဆာနှင့်၊ ကြုံလာတော်မိ၊ တွေ့ရဘိလည်း၊ ဒိဋ္ဌိပယ်နွှေး၊ စင်စွာဆေး၍၊ နည်းပေးဆရာ၊ မြောက်လိုပါ၏။ ကြမ်းစွာဒေါသ၊ ဂုဏ်မာနနှင့်၊ ပပလွှားလွှား၊ သူတို့အားလည်း၊ တရားသဖြင့်၊ တစ်ခွန်းရင့်ကာ၊ အသင့်နှလုံး၊ ယူကျုံးကြည်ညို၊ ညွတ်စေလို၏။ ထိုထိုခက်စွာ၊ ခွင့်ရေးရာ၌၊ ပညာနေဝန်း၊ ကဲ့သို့ထွန်း၍၊ ငြိစွန်းမထင်၊ နံ့သိမြင်လျက်၊ များဖြင်သတ္တ၊ ရှိသမျှကို၊ သုခတိုက်ကျွေး၊ ဖြည့်သိမ်းမွေး၍၊ ရန်ဘေးကင်းပြီး၊ လွတ်ရလို၍၊ ကြည်ညိုမေတ္တာ၊ သူတကာလည်း၊ ကြင်နာနှစ်သက်၊ အဆက်ဆက်လျှင်၊ တိုးတက် လျှံဖိတ်၊ ဉာဏ်နိမိတ်ဖြင့်။ ။ပဏ္ဍိတ် မြောက်ရပါစေသောဝ်။

လေးနက်ဤစာ။ ။ပြီးသည်မှာကား၊ အဇာတသတ်၊ မင်းမြတ်ပြုနောက်၊ ဤနှစ်ရောက်အောင်၊ လျှံတောက်သာသနာ၊ ဒွယာတြို၊ ဒွိနှင့်သတ္တ[၃၃၂]၊ သင်္ချာရ၏။ ဒီဃသက္ကရာဇ်၊ ဂေါဇာနှစ်ကား၊ ဇော်နှင့်ဇော၊ ဇယပဥ္စာ[၃၃၃]၊ ခုသင်္ချာ၌၊ မဟာအမရ[၃၃၄]၊ ရွှေပြည်မကို၊ နရထိပ်ပန်း[၃၃၅]၊ စိုးသိမ်းမြန်း၍၊ ရွှေနန်းထောက်စံ၊ ဘိသိက်ခံလျက်၊ ဘုန်းလျှံတောက်ပ၊ ထွန်းသစ်စတွင်၊ လ–ကား ဝါခေါင်၊ တောင်လေဆောင်၍၊ ကျွန်းသောင်မြစ်ဝှမ်း၊ ကမ်းပြည့်လျှမ်းလျက်၊ တင်းကြမ်းရေပြင်၊ ကိုင်းပင်ဖေါင်ပွင့်၊ ဖွေးဖွေးဆင့်၍၊ ကျူးရင့်ချိန်ဆုံး၊ ပန္နက်ဖုံး[၃၃၆]၍၊ ထစ်ချုန်းရိုက်မြည်၊ မိုးပွဲစည်လျက်၊ စိုပြည်မြေပြင်၊ ပန်းသစ်ပင်လည်း၊ ညွန့်ရှင်ဆိုင်းဆိုင်း၊ ရိပ်ညိုမှိုင်းနှင့်၊ ခက်ကျိုင်းလန်းလန်း၊ မြရည်သွန်းသို့၊ ထက်ဝန်းစုံညီ၊ သိဟ်ရာသီ၌၊ တိထိလဆုတ်၊ ခြောက်ရက်ဟုတ်သား၊ မည်ထုတ်ဝေဟာ၊ နေ့အင်္ဂါတည်း၊ အခါကောင်းမြတ်၊ မွန်းတိမ်းညွတ်တွင်၊ နက္ခတ်ပြီသြ၊ စန်းဥစ်ရရှင့်၊ ကာလဤ၌၊ အပြီကျိုက်သို့၊ သုံးတိုက်သတ္တ၊ ရှိသမျှလည်း၊ တောင့်တရာရာ၊ လွတ်ကာမဆိတ်၊ ကောင်းကျိုးစိတ်ဖြင့်။ ။ရန်ငြိတ် ပျောက်ကြပါစေသောဝ်။

**ဤတွင်ရွှေ့ ဝိဓုရဇာတ်တော်ကြီး ပြီးပြည့်စုံပြီ။**

# ဝိဓုရဇာတ်တော် ခက်ဆဲခ်များ

၁။ ကုရုတိုင်း=မကောင်းမှုကို ပိတ်ပင်တတ်သောမင်းတို့ စိုးပိုင်သောတိုင်းပြည်။
၂။ ဣန္ဒပတ္တနဂိုရ်=ဣန္ဒပတ္တနဂရ–သိကြားမင်း တောင်ဖြို့မြေညှိ၍ ထူထောင်အပ်သောမြို့။ (ဒေလီမြို့)
၃။ ဓနဥ္စယ ကောရဗျ=ကုရုတိုင်းကိုအစိုးရသော ဓနဥ္စယမည်သောမင်း။
၄။ ဝိဓုရသုခမိန်=အရာရာ၌ပြိုင်ဖက်ကင်းသော ပညာရှိအမတ်။
၅။ အဘိညာဉ်=အဘိညာဏ–ထူးသောအသိဉာဏ်။ (အဘိညာဉ် ၆ ပါး)
၆။ သမာပတ်=တည်ကြည်စွာဝင်စားခြင်း။ (သမားပတ် ၈ ပါး။)
၇။ ဣရိယာပုထ်=ဣရိယာပထ–ကိုယ်အမူ၏ဖြစ်ကြောင်း။ (သွားခြင်း,ရပ်ခြင်း,ထိုင်ခြင်း,လျောင်းခြင်း)
၈။ ပဋိညာဉ်=ပဋိညာတ–ဝန်ခံခြင်း။
၉။ ဈာန်=ဈာန–ကပ်၍ရှုခြင်း။ (နီဝရဏတရားတို့ကို ရှို့မြိုက်ခြင်း။)
၁၀။ သီလ=ကိုယ်,နှုတ်စောင့်ထိန်းခြင်း။
၁၁။ ဉပုသ်=ဉပေါသထ–စောင့်သုံးခြင်း။
၁၂။ အန္တရာယ်=အန္တရာယ–အကြားအကြား၌ ကျရောက်တတ်သောဘေးရန်။
၁၃။ ခန္တီဝါဒီ=သည်းခံခြင်းသည် မြတ်၏ဟု အယူရှိသောရှင်ရသေ့။
၁၄။ ဣန္ဒြေ=ဣန္ဒြိယ–အုပ်စိုးသော ဣန္ဒြေ ၆ ပါး။
၁၅။ တဏှာ=နှစ်သက်ခြင်း လောဘရမ္မက်။
၁၆။ မေထုန်=တပ်မက်ခြင်းတူသော ဖို,မ တို့၏အမှု။
၁၇။ ပရိညာဉ်=ပိုင်းခြား၍သိခြင်း။ (ပရိညာဉ် ၃ ပါး။)
၁၈။ ကာမဝိတက်=ကာမဂုဏ်ကို ကြံစည်သော လောဘနှင့် ယှဉ်သောဝိတက်။
၁၉။ ဗျာပါဒဝိတက်=သူတစ်ပါးတို့ သေကြေပျက်စီးဖို့ရန် ကြံစည်သောဒေါသနှင့် ယှဉ်သောဝိတက်။
၂၀။ ဝိဟိံသာဝိတက်=သူတစ်ပါး သေကြေအောင်မဟုတ်ဘဲ ညှဉ်းဆဲနှိပ်စက်လိုသော ဒေါသနှင့်ယှဉ်သော ဝိတက်။
၂၁။ ပဋိသန္ထာရ=အစေ့အစပ်စကား။
၂၂။ ဝဇိရစိန်=လျှင်မြန်စွာ သွားတတ်သော သိကြားမင်း၏လက်နက်။
၂၃။ ကာမဂုဏ်=လိုချင်တပ်မက်ဖွယ် အာရုံအစု။ (ကာမဂုဏ် ၅ ပါး)
၂၄။ စိုးစဉ်း=အနည်းငယ်။
၂၅။ ဆန္ဒ,ဘယ,အဂတိ=ချစ်ခြင်း, ကြောက်ခြင်းတို့ကြောင့် မလိုက်စားအပ်သည့်အရာ။
၂၆။ ရတနာ=မြတ်နိုးခြင်းကို ဖြစ်စေတတ်သော။ (လောကီရတနာ ၇ ပါး, လောကုတ္တရာရတနာ ၃ ပါး)
၂၇။ ဇမ္ဗူဒီပါကျွန်း=ဇမ္ဗူသပြေပင်ပေါက်သောကျွန်း။ (တောင်ကျွန်း)
၂၈။ ဉပါယ်တမျဉ်=ရန်အောင်ကြောင်း ဉပါယ် ၄ ပါး။ (သစ္စ,ဓမ္မ,ဓိတိ,စာဂ)
၂၉။ အဘယ်=ပါဠိဘာသာ၌ ဘဒ္ဒေ–ဟုခေါ်၏။ (ချစ်သူဇနီးအား ခေါ်သောစကား ဖြစ်၏)
၃၀။ ဣရန္ဒတီ=နှစ်သက်ဖွယ်သောစကားဖြင့် မိဘတို့၏နှလုံးကို ရွှင်စေတတ်သော သတို့သမီး။
၃၁။ ကြာပဒုမာ=ရေ၌ပေါက်ရောက်တတ်၍ ရွက်ချပ် ၁၀၀ ရှိသောပန်း။
၃၂။ ကိလေသာ=သတ္တဝါတို့၏စိတ်အစဉ်ကို ညစ်နွမ်းစေတတ်သော။ (ကိလေသာ ၁၀ ပါး)
၃၃။ ဟိမဝန္တာ=ဆီးနှင်းထူပြောသောအရပ်။ (ဟိမဝန္တာတောင်, ဟိမဝန္တာတော)
၃၄။ ဂန္ဓဗ္ဗ=ကခြင်း,သီခြင်း,စသည်ဖြင့် မြူးထူးပျော်ပါးတတ်သော နတ်မျိုး။
၃၅။ ကိန္နရာ=လူနှင့် အသွင်တူသော ငှက်တစ်မျိုး။
၃၆။ ပုဏ္ဏက=မိဘတို့၏စိတ်နှလုံး ပြည့်ဝစေတတ်သောသူ။
၃၇။ မနောမယသိန္ဓောမြင်း=စိတ်အလိုအတိုင်း လျှင်မြန်စွာပြေးသွားနိုင်သော နတ်မြင်းပျံ။
၃၈။ ဆေးဒန်း မြင်းသိလာကျောက်=စိတ်အလိုကို ပြည့်စေတတ်သော ကျောက်ဆေးဒန်း။
၃၉။ အထီးကျန်=ဆွေမျိုးမိဘ သေဆုံးပျက်စီး၍ တစ်ယောက်တည်းကျန်သော သူဆင်းရဲ။

၄၀။ အသဿတိုရ်=အဿတရ-မြင်းမြတ်, မြင်းကောင်း။
၄၁။ အဋ္ဌာက္ခာယီ=အကျိုးစီးပွား ဖြစ်ထွန်းရန် ညွှန်ပြပြောဆိုတတ်သော မိတ်ဆွေကောင်း။
၄၂။ ဘုတ်ပြိတ်=မြေဘုတ်ဘီလူး ပြိတ္တာ။
၄၃။ ဝေပုလ္လတောင်=အထူးထူးသောရတနာတို့ဖြင့် ပြန့်ပြောခြင်းရှိသောတောင်။
၄၄။ စကြာမင်း=စက္ကဝတ္တိရာဇာ-စကြရတနာတို့ကို လည်စေတတ်သောမင်း။
၄၅။ မနောဟာရ ပတ္တမြား=နှလုံးဖြင့် ကြံကာမျှသော သူတို့၏အလိုကို ဆောင်စွမ်းနိုင်သော ပတ္တမြား။
၄၆။ ကုမ္ဘဏ်=ကုမ္ဘဏ္ဍာ-နတ်ဘီလူး။
၄၇။ သူရဲခို=စစ်သည်သူရဲများ ပုန်းခိုရာနေရာ။
၄၈။ မော်ကွန်းတိုင်=ထူးထွေသောအကြောင်းတစ်ခုခုကို ရေးမှတ်ထားသောတိုင်။
၄၉။ ကျူး=ရန်သူမဝင်နိုင်ရန် နန်းတော်ပတ်ဝန်းကျင်၌ တူး၍ထားသော ကျူးခြောက်, ညွန်ကျူး, ရေကျူး။
၅၀။ စာတုမဟာရာဇ်=စာတုမဟာရာဇိတ-လောကကိုစောင့်ကုန်သော နတ်မင်းကြီး ၄ ပါးတို့ စိုးအုပ်သောနတ်ဘုံ။
၅၁။ တာဝတိံသာ=မာဃလုလင်နှင့်တကွ ကုသိုလ်ကောင်းမှုပြုဖက်ဖြစ်သော ၃ ကျိပ် ၃ ယောက်သော သူတို့၏ဖြစ်ရာ ဒုတိယဆင့် နတ်ဘုံ။
၅၂။ ယာမာ=ဆင်းရဲခြင်းမှ ဖဲကြဉ်ရာဖြစ်သော နတ်တို့၏နေရာ ဖြစ်သောဘုံ။
၅၃။ တုသိတာ=ပြန့်ပြောသောကျက်သရေနှင့် ပြည့်စုံခြင်းသို့ရောက်သဖြင့် အမြဲနှစ်သက်ရာဖြစ်သော နတ်ဘုံ။
၅၄။ နိမ္မာနရတိ=အလိုရှိအပ်ကုန်သော စည်းစိမ်တို့ကို ကိုယ်တိုင်ဖန်ဆင်း၍ မွေ့လျော်တတ်သော နတ်တို့၏နေရာဖြစ်သော ဘုံ။
၅၅။ ပရနိမ္မိတဝသဝတ္တီ=သူတစ်ပါးဖန်ဆင်းသောအာရုံ၌ မိမိအလိုကို ဖြစ်စေသောဘုံ (ဝါ) စိတ်တိုင်းကျဖန်ဆင်းသော နတ်သမီး ရှိသောဘုံ။
၅၆။ ဇမ္ဗူရာဇ်ရွှေစင်=ဇမ္ဗူသပြေပင် အကိုင်းကျရာမြစ်အတွင်းမှ ဖြစ်လာသောရွှေစင်။
၅၇။ အာနုဘော်=အာနုဘာဝ-အရာဌာနအားလျော်စွာဖြစ်ခြင်း တန်ခိုးစွမ်းရည်သတ္တိ။
၅၈။ သုံ့ရကျွန်=သုံ့ပန်း-စစ်မြေပြင်မှ အနိုင်အထက် ညှဉ်းဆဲကလူပြု၍ ရရှိသောကျွန်။
၅၉။ လောကာယတိကကျမ်း=ပညာရှိတို့၏စိတ်နှလုံးကို တုန်လှုပ်စေ၍ လောကကို ချဲ့ထွင်တတ်သောကျမ်း။
၆၀။ သင်္ဂဟတရား=ချီးမြှောက်ခြင်း သင်္ဂဟတရား ၄ ပါး။
၆၁။ ပြဿနာ=အမေးပုစ္ဆာ။
၆၂။ ပူဇော်သက္ကာရ=ပူဇ-ပူဇော်ခြင်း, လေးမြတ်ခြင်း, ရိုသေခြင်း၊ သက္ကာရ-မြတ်နိုးခြင်း။
၆၃။ ကောဋ္ဌပြာသာဒ်=ကြိုးကြာရုပ် အမှတ်ရှိသော ပြာသာဒ်။
၆၄။ မယူရပြာသာဒ်=ဥဒေါင်းရုပ် အမှတ်ရှိသော ပြာသာဒ်။
၆၅။ ပိယကေတ=နှစ်သက်ဖွယ်ရာကို ဆောင်တတ်သော ပြာသာဒ်။
၆၆။ ဦးချိုရင်ခတ်=ဦးခေါင်းချိုပင့်ခါ ရင်လက်ခတ်တီး ငိုကြွေးခြင်း။
၆၇။ တေဘူမက သင်္ခါတရား=ဘုံ ၃ ပါး၌ဖြစ်၍ ကံ,စိတ်,ဥတု,အာဟာရ အကြောင်းတရား ၄ ပါးတို့ ပြုပြင်အပ်သော ရုပ်တရား, နာမ်တရား။
၆၈။ ရာဇဝသတီ=မင်းခယောက်ျားတို့ လိုက်နာရန်ဥပဒေ။
၆၉။ မာန်မာန=ထောင်လွှားမော်ကြွားခြင်း။
၇၀။ ဖုန်းတောင်းယာစကာ=သူတောင်းစား။
၇၁။ သမယ=အချိန်အခါ။
၇၂။ သြဝါဒ=အဆုံးအမစကား။
၇၃။ ယုဂန္ဓိုရ်=ယုဂန္ဓရ-နေ,လ ၂ ပါးစုံကို ဆောင်တတ်သောတောင်။
၇၄။ သောသောရုတ်ရုတ်=အုတ်အုတ်ကျက်ကျက် ညံညံစီစီ။
၇၅။ မိဋ္ဌာန်=အဓိဋ္ဌာန-ဆောက်တည်ခြင်း။
၇၆။ ပရိနိဗ္ဗာန်=ပရိနိဗ္ဗာန-ခန္ဓာအကြွင်းအကျန်မရှိ ချုပ်ငြိမ်းမှု။
၇၇။ သံဝဋ္ဋဋ္ဌာယီကပ်=ပျက်ပြီးသည့်နောက် ပျက်သည့်အတိုင်း တည်နေသောကမ္ဘာ။
၇၈။ ဝေဟပ္ပိုလ်=ဝေဟပ္ဖလ-ဈာန်၏အစွမ်းကြောင့် ကြီးကျယ်ပြန့်ပြောသော အကျိုးရှိသော ရူပစတုတ္ထဈာန်ဘုံ။

၇၉။ ကုရုရာဇ်=ကုရုရာဇ-ကုရုတိုင်းကို အစိုးရသောမင်း။
၈၀။ ခညွတ်တောင်းပန်=ဦးညွတ်၍ လေးစားစွာတောင်းပန်သည်။
၈၁။ အနိဋ္ဌိယဗန္ဓ ဥတုဇရုပ်=အသက်ရှိဝတ္ထုနှင့် မဆိုင်ဘဲ အပြင်ဘက် အပူ,အအေး,ဥတုကြောင့် ဖြစ်သောရုပ်။
၈၂။ သယောက်လင်စောင်=လင်ငယ်။
၈၃။ နှင်း၍=ပိုင်ပိုင်နိုင်နိုင်အပ်နှံ၍။
၈၄။ ကြည်းရေပန်းစုံ=ကုန်းပန်း, ရေပန်းအစုံ။
၈၅။ ကုသိုလ်ကံ=ကုသလကမ္မ-ကောင်းမှုကံ။
၈၆။ ဒါန=စွန့်ကြဲခြင်း,ပေးကမ်းခြင်း,လှူဒါန်းခြင်း။
၈၇။ ညောင်စောင်း=ခုတင်။
၈၈။ နလုံးသည်းပွတ်=အသည်းနှလုံး။
၈၉။ ချင်ခြင်း=တောင့်တခြင်း အလိုအာသာ။
၉၀။ ကုရုရဋ္ဌ=ကုရုရဋ္ဌ-ကုရုတိုင်း။
၉၁။ စတုပေါသထိကပြဿနာ=ဥပုသ်စောင့်ပုံ ၄ မျိုးနှင့်ဆိုင်သော အမေးပုစ္ဆာ။
၉၂။ အနူးအညွတ်=ကျေကျေနပ်နပ်။
၉၃။ ပြကတေ့=ပကတိ-နဂိုအတိုင်း။
၉၄။ သားပြွမ်းထမင်း=အသားနှင့်ရော၍ ချက်အပ်သော ဒန်ပေါက်ထမင်း။
၉၅။ သေသောက်ကြူး=အရက်သမား။
၉၆။ သေတင်းကုပ်=အရက်ဆိုင် (ဘုံဆိုင်)
၉၇။ ပဏ္ဏာကာရ=လက်ဆောင်။
၉၈။ ဗုဒ္ဓကိစ္စ=ဘုရားဖြစ်မှုနှင့် ဆိုင်သောလုပ်ငန်း။
၉၉။ ဒါနကထာ=ပေးလှူခြင်းနှင့် စပ်သောစကား။
၁၀၀။ သီလကထာ=သီလစောင့်ထိန်းခြင်းနှင့် စပ်သောစကား။
၁၀၁။ ပဉ္စသီလ=၅ ပါးသီလ။
၁၀၂။ ဥပေါသထသီလ=၈ ပါးသီလ။
၁၀၃။ ဗြာဟ္မဏ မဟာသာလ=မြေမြှုပ်ငွေ ကုဋေ ၈၀, တစ်နေ့ဝင်ငွေ တစ်လှည်း, သုံးငွေ လှည်းဝက်မျှ ကြွယ်ဝချမ်းသာသော ပုဏ္ဏားမျိုး။
၁၀၄။ တေဒဂ် ၅ တန်=တေဒဂ်-ဆိုင်ရာဌာနတွင် အတော်ဆုံးအကောင်းဆုံး ဂုဏ်ထူးဘွဲ့ထူး (တေဒဂ် ၅ တန်ကား- ၁။ သတိအကောင်းဆုံး၊ ၂။ မှတ်ဉာဏ်အကောင်းဆုံး၊ ၃။ ဝီရိယအကောင်းဆုံး၊ ၄။ လုပ်ကျွေးပြုစုမှု၌ အကောင်းဆုံး၊ ၅။ အကြားအမြင် အများဆုံး။)
၁၀၅။ အရဟတ္တမဂ်ဉာဏ်=ကိလေသာရန်သူကို အကြွင်းမဲ့ပယ်သတ်တတ်သော မဂ်ဉာဏ်။
၁၀၆။ ဗောဓိမဏ္ဍိုင်=သဗ္ဗညုတဉာဏ်တော်၏ကြည်လင်ရာ ဗောဓိပင်နှင့် ရွှေပလ္လင်။
၁၀၇။ သဗ္ဗညုတဉာဏ်=အလုံးစုံသော တရားအပေါင်းကို သိတတ်သောဉာဏ်။
၁၀၈။ ပေ ၉ ကြောင်းစာ=ပေတစ်ချပ်လျှင် ၉ ကြောင်း ရှိသောစာ။
၁၀၉။ ၄ အင်္ဂါ=တစ်အင်္ဂါလျှင် ၁၂ ချပ်၊ ၄ အင်္ဂါ ၄၈ ချပ်။
၁၁၀။ အယုဂ္ဂဒွိဟ=၂ လုံး ၂ ခွ ယုံမှားခြင်း။
၁၁၁။ ဝါန=ဘဝဟောင်းဘဝသစ် ချုပ်စပ်တတ်ခြင်း (တဏှာ)
၁၁၂။ ဒွယတြိ၊ ဒွိသတ္တ=ဒွယ ၂, တြိ ၃, ဒွိ ၂, သတ္တ ၇၊ ၎င်းသင်္ချာများကို ဆက်စပ်၍ ၂၃၂၇ ခု ဖြစ်၏။
၁၁၃။ ခေ်,ကေ,ဖယ,ပဉ္စ=ခေ် ၁, ကေ ၁, ဖယ ၄, ပဉ္စ ၅၊ ၎င်းသင်္ချာများကို ဆက်စပ်၍ ၁၁၄၅ ခု ဖြစ်၏။
၁၁၄။ မဟာအမရ=သေခြင်းမရှိရာ အမရပူရခေါ် (တောင်မြို့)
၁၁၅။ နရထိပ်ပန်း=လူတို့၏ဦးထိပ်တွင် ပန်ဆင်အပ်သော ပန်းသဖွယ်ဖြစ်သောမင်း။
၁၁၆။ ပဇ္ဇုန်-ပဇ္ဇုန္န=ခေါ် မိုးနတ်သား။

# ဝေဿန္တရာဇာတ်တော်ကြီး

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ**

**ပဏာမ**

'ဝေရံ အဝေရေန၊ ပဝေဇယန္တံ၊ သန္တံ အသန္တံ ဝုပသန္တကံပိ။
တတ္ထံ မမာလင်္ကာရံ ပဏာမျ၊ ရာသိဿ ပါဒါဒိ တနာမ ဝါစေ။ ။'[ဣန္ဒဝဇိရာ ဂါထာ။]

အဟံ၊ အကျွန်ုပ်သည်။ဝေရံ၊ ဒေဝဒတ်, စိဉ္စမာနဝိကာ အစရှိသော ယုတ်မာညစ်ဆိုး ရန်သူမျိုးကို။ အဝေရေန၊ ရန်တုံ့မမူ ကြည်ဖြူမြတ်လေး မွေးကြိုင်စွာသော မဟာကရုဏာ မေတ္တာတော်ဖြင့်။ဝါ-ဝေရံ၊ ၁၅၀၀ ကိလေသာတည်းဟူသော အတွင်းရန်ကို။ အဝေရေန၊ ကိလေသာမကပ်သော အရဟတ္တမဂ်ဉာဏ်ဖြင့်။ ပဝေဇယန္တံ၊ မကြွင်းမကျန် ပယ်လှန်နှိပ်ကွပ်လျက် သဗ္ဗညုတအထွတ် အရိယမဂ်ဉာဏ် ဝေဇယန်ရွှေနန်းသခင် ဘုရင်တကာတို့၏သေဌ်နင်း ရဟန်းမင်းဖြစ်တော်မူသော မြတ်စွာဘုရားကို လည်းကောင်း။ သန္တဥ္စ၊ ပရမတ္ထအားဖြင့် ထင်ရှားရှိသော ချီးမွမ်းအပ်မြတ်သော ၁၀ပါးသော တရားတော်မြတ်ကို လည်းကောင်း။ အသန္တံ ဝုပသန္တကံပိ၊ မသူတော်တရားကို ငြိမ်းစေသောအားဖြင့် သူတော်ကောင်းတရားနှင့်ပြည့်စုံသော ပရမတ္ထသံဃာ, သမ္မုတိသံဃာတော် အပေါင်းကို လည်းကောင်း။ တတ္ထံ-တံ ရတနာတ္တယံ၊ ထို ရတနာ ၃ ပါး တို့၏အပေါင်းကို။ ပဏာမာမိ၊ ရှိခိုးပါ၏။ မမ၊ ငါ၏။ အလင်္ကာရံ၊ တတ်လိမ္မာကြောင်း ကောင်းမြတ်လှစွာ ပညာသုတတည်းဟူသော တန်ဆာဆင်ခြင်းကို ပြုတတ်ထသော။ ဝါ-မမ၊ အကျွန်ုပ်ကို။ အလင်္ကာရံ၊ ဆုံးမပဲ့ပြင် သင်ကြားခြင်း နည်းဥပဒေသ သုတပညာဖြင့် တန်ဆာဆင်တော်မူတတ်သော။ ဝါ-မမာလင်္ကာရံ၊ မင်းပုဏ္ဏားအစရှိသော ပရိသတ် ၄ ပါးတို့၏ မြတ်နိုးကြည်ညိုဖွယ် စင်ကြယ်သောသီလစုရ ၂ ဖြာတည်းဟူသော တန်ဆာဖြင့် တင့်တယ်သော ဂုဏ်အသရေ ရှိတော်မူထသော။ ဂရုမ္ပိ၊ ဆရာ ကျေးဇူးရှင်ကိုလည်း။ ပဏာမာမိ၊ ရှိခိုးပါ၏။ ပဏာမျ၊ ရှိခိုးဦး၍။ အဿဝုတ္တဿ၊ ဤပဏာမဂါထာ၏။ ပါဒါဒိ၊ ၄ ပါဒအစ၌ တည်သော အက္ခရာ ၄ လုံးကို။ ရာသိသမ္ဗန္ဓကတ္တာ၊ အစဉ်အတိုင်း စပ်ယှဉ်၍။ တနာမံ-တေန အက္ခရေန လဒ္ဓနာမကံ၊ ထိုအက္ခရာ ၄ လုံးဖြင့် "ဝေဿန္တရာ"ဟု ရအပ်သောအမည်ရှိသော ဇာတ်တော်ကို။ မြန်မာဘာသာယ၊ မြန်မာတို့ဘာသာ သိသာမှတ်လွယ် ဓိပ္ပာယ်ထုတ်ဖွေ စကားပြေဖြင့်။ ဝါစေ-ဝါစေဿံ၊ ယာစကပုဂ္ဂိုလ်၏ အလိုနှင့်လျော်စွာ ဒေသနာရင်း မကြွင်းကုန်စင် ရေးစီရင်အံ့။

[ဤဂါထာ၌ ၄ ပါဒ၏ အက္ခရာ ၄ လုံးဟူသည်ကား ပထမပါဒ၌ ဝေ-ဟူသော အက္ခရာ, ဒုတိယ ပါဒ၌ သန်-ဟူသော အက္ခရာ, တတိယပါဒ၌ တ-ဟူသော အက္ခရာ , စတုတ္ထပါဒ၌ ရာ-ဟူသောအက္ခရာ၊ ဤ ၄ လုံးကို အစဉ်အတိုင်း ဝေဿန္တရာ ဟု ယှဉ်၍ ဤဇာတ်တော်၏အမည်ကိုယူပါ ဆိုလိုသည်။]

"ဟောင်သားရဲတို့သည်လည်း
ခွန်အားနှင့်ပြည့်စုံစွာသော သားရဲတို့ပေတည်း။
ငါ တို့သည်လည်း
မိမျိုးဘမျိုးမှ ထီးရိုးနန်းစဉ်မပျက်သော မင်းသမီးလျှင်တည်း။
ထိုသို့ မင်းချင်း သဘော တူသောအားဖြင့်
သင်တို့အား မောင်တော် မှတ်ပါ၏။
ငါ့အား နှမကဲ့သို့ မှတ်၍
ချစ်ခြင်းဖြင့် သွားရာလမ်းကို ပေးပါကုန်လော့"

"သင်၏ ဥစ္စာရတနာ များစွာတို့ကို
ကျိုးကျွတိုက်တာ မြေတွင်း သွင်းမြှုပ် သိမ်းထားငြားသော်လည်း
၅ ပါးရန်သူ မနှောင့်ယှက်စေကာမူ
တစ်သက်တာမျှ၍ အခိုက်အတန့်သာ တည်သည်ဖြစ်၍ မလုံခြုံသေး။
သီလဝန္တဖြစ်သော အလှူခံမြေနိုင်နိုင်၌
မယိုင်မပြို ကြည်ညိုခြင်း သဒ္ဓါတိုက်ကြီးဖွဲ့၍
ငဲ့ကွက်ပိတ်သို ဝန်တိုခြင်း မြူချေးညှိမတင်သော လွတ်လွတ်ပေးလှူခြင်းစေတနာဖြင့်
ရတနာအစစ် ဥစ္စာနစ်ကို ကျစ်လစ်သေချာစွာ မြှုပ်ထားလော့။
ဤလှူဒါန်းခြင်းဖြင့် ရွှေအိုးကိုသာ
သံသရာအဆက်ဆက် အရိပ်သဖွယ် ကိုယ်နှင့်ထက်ကြပ်လိုက်လျက်
သုံးဆောင်၍မကုန်နိုင်သော အနာဂါမိက ရွှေအိုး ဖြစ်သည်။
ဤရွှေအိုးထက် ခိုင်လုံသောရွှေအိုး မည်သည် မရှိ"



နံ့နက်မိုးသောက်လတ်သော် အလုံးစုံသော အမှုတို့ကို မိမိဆောင်ရွက်ခြင်းအတိုင်း ဆောင်ရွက်၍ သူငယ်ချယောက်တို့၏ နဖူး၊ ဦးခေါင်းတို့ကို နမ်းလျက်၊ "ချစ်သား၊ ချစ်သမီးတို့။ ငါသည် ယနေ့ညဥ့် အိပ်မက် မကောင်းမြင်သည်။ သင်တို့မမေ့လျော့ကြကုန်လင့်" ဟု သွန်သင်ပြီးလျှင် မင်းကြီးအားလည်း "အရှင်မင်းကြီး။ သူငယ်ချယောက်တို့ကို မမေ့မလျော့ ကြည့်ရှုတော်မူရစ်ပါ" ဟုဆို၍

"မောင်သားရဲတို့သည်လည်း
ခွန်အားနှင့်ပြည့်စုံစွာသော သားရဲတို့ပေတည်း။
ငါ တို့သည်လည်း
မိမျိုးဘမျိုးမှ ထီးရိုးနန်းစဉ်မပျက်သော မင်းသမီးလျှင်တည်း။
ထိုသို့ မင်းချင်း သဘောတူသောအားဖြင့်
သင်တို့အား မောင်တော် မှတ်ပါ၏။
ငါ့အား နှမကဲ့သို့ မှတ်၍
ချစ်ခြင်းဖြင့် သွားရာလမ်းကို ပေးပါကုန်လော့"

"သင်၏ ဥစ္စာရတနာ များစွာတို့ကို
ကျိကျတိုက်တာ မြေတွင်း သွင်းမြှုပ် သိမ်းထားငြားသော်လည်း
၅ ပါးရန်သူ မနှောင့်ယှက်စေကာမူ
တစ်သက်တာမျှ၍ အခိုက်အတန့်သာ တည်သည်ဖြစ်၍ မလုံခြုံသေး။
သီလဝန္တဖြစ်သော အလှူခံမြေနိုင်နိုင်၌
မယိုင်မပြို ကြည်ညိုခြင်း သဒ္ဓါတိုက်ကြီးဖွဲ့၍
ငဲ့ကွက်ပိတ်သို ဝန်တိုခြင်း မြူချေးညှိမတင်သော လွတ်လွတ်ပေးလှူခြင်းစေတနာဖြင့်
ရတနာအစစ် ဥစ္စာနစ်ကို ကျစ်လစ်သေချာစွာ မြှုပ်ထားလော့။
ဤလှူဒါန်းခြင်းဖြင့် ရွှေအိုးကိုသာ
သံသရာအဆက်ဆက် အရိပ်သဖွယ် ကိုယ်နှင့်ထက်ကြပ်လိုက်လျက်
သုံးဆောင်၍မကုန်နိုင်သော အနာဂါမိက ရွှေအိုး ဖြစ်သည်။
ဤရွှေအိုးထက် ခိုင်လုံသောရွှေအိုး မည်သည် မရှိ"



နံ့နက်မိုးသောက်လတ်သော် အလုံးစုံသော အမှုတို့ကို မိမိဆောင်ရွက်ခြင်းအတိုင်း ဆောင်ရွက်၍ သူငယ်ငယ်တို့၏ နဖူး, ဦးခေါင်းတို့ကို နမ်းလျက်၊ "ချစ်သား, ချစ်သမီးတို့။ ငါသည် ယနေ့ညဥ့် အိပ်မက် မကောင်းမြင်သည်။ သင်တို့မမေ့မလျော့ကြကုန်လင့်" ဟု သွန်သင်ပြီးလျှင် မင်းကြီးအားလည်း "အရှင်မင်းကြီး။ သူငယ်ငယ်တို့ကို မမေ့မလျော့ ကြည့်ရှုတော်မူရစ်ပါ" ဟုဆို၍

## နိဒါန်း

သဗ္ဗညုမြတ်စွာဘုရားသည် ကပိလဝတ်[၁]ပြည် နိဂြောဓာရုံ[၂]ကျောင်း၌ နေတော်မူသောအခါ ကြာတော၌ ရွာသောမိုးနှင့် တူသောမိုးကို အကြောင်းပြု၍ 'ဖုဿတီဝရ ဝဏ္ဏာဘေ' အစရှိသော ဂါထာ ၁၀၀၀ တို့ဖြင့် တန်ဆာဆင်အပ်သော ဤ'ဝေဿန္တရာ'ဇာတ်တော်ကို ဟောတော်မူ၏။

### နိဒါန်းအကျယ်ကား

မြတ်စွာဘုရားသည် ဗောဓိမဏ္ဍိုင်[၃]၌ သဗ္ဗညုတဉာဏ်[၄] အထွတ်အမြတ်သို့ ရောက်တော်မူသည်မှ သတ္တဋ္ဌာန[၅]၌ သတ္တသတ္တာဟ[၆]ကို လွန်ပြီးသော် ဝါဆိုလပြည့်နေ့၌ ဗာရာဏသီ[၇]ပြည် မိဂဒါဝုန်တောသို့ ကြွတော်မူ၍ ကောဏ္ဍည, ဝပ္ပ, ဘဒ္ဒိယ, မဟာနာမ်, အဿဇိ ဤပဉ္စဝဂ္ဂီ[၈] ရသေ့ ၅ ယောက်တို့အား ဓမ္မစက္ကသုတ္တန်[၁၀] ဒေသနာတော်မြတ်ကို ဟောတော်မူသဖြင့် မဂ်ဉာဏ်, ဖိုလ်ဉာဏ်၌တည်စေလျက် ဧဟိဘိက္ခု ဥပသမ္ပဒ[၁၁] ဖြစ်ပြီးသော် ပဉ္စဝဂ္ဂီ ရဟန်းတို့နှင့် မိဂဒါဝုန်တော၌ပင် ဝါကပ်တော်မူ၍ ဝါခေါင်လပြည့်ကျော်လျှင် ယသဝဂ္ဂီ, ဘဒ္ဒဝဂ္ဂီ တို့အား လည်းကောင်း, ဥရုဝေလ ကဿပအစရှိသော ရသေ့ညီနောင် ၃ ယောက်တို့နှင့် ၁၀၀၀ သော ရသေ့တို့အား လည်းကောင်း, ဧဟိဘိက္ခု ဥပသမ္ပဒအဖြစ်ဖြင့် မဂ်ဉာဏ်, ဖိုလ်ဉာဏ်၌ တည်စေပြီးသော်၊ ဥရုဝေလကဿပ အစရှိသော ရဟန္တာ[၁၂] ၁၀၀၀ ခြံရံလျက် ဗိမ္ဗိသာရမင်းကြီး[၁၃]အား ဘုရားမဖြစ်မီက ပဋိညာဉ်[၁၄] ရှိတော်မူသည်နှင့် လျော်ညီစွာ ရာဇဂြိုဟ်[၁၅]ပြည်သို့ကြွတော်မူ၍ ဝေဠုဝန်[၁၆]ကျောင်းတော်၌ ဆောင်းလရာသီကိုလွန်စေ၍ ဥပတိဿရွာသူကြီး ဝင်္ဂန္တပုဏ္ဏားဏ်သား ဥပတိဿပရိဗိုဇ်[၁၇], ကောလိတ ရွာသူကြီး၏သား ကောလိတပရိဗိုဇ် ဤ ပရိဗိုဇ်ရဟန်း အဆွေခင်ပွန်း ၂ ယောက်တို့သည် အမြိုက်တရားကို ရှာကြလေသော် ပဉ္စဝဂ္ဂီ ၅ ယောက် တို့တွင် အငယ်ဆုံးဖြစ်သော အဿဇိထေရ်၏တရားတော်ကို ကြားနာရ၍ သောတာပန်[၁၈]ဖြစ်ပြီးမှ မြတ်စွာဘုရားထံသို့ လာလတ်သဖြင့်၊ ဆောင်းလရာသီ တပို့တွဲလဆန်း ၁ ရက်နေ့တွင် ဧဟိဘိက္ခု ရဟန်းဖြစ်ကြ၍ ကောလိတထေရ်သည် လဆန်း ၇ ရက်နေ့, ဥပတိဿထေရ်သည် လပြည့်နေ့ ရဟန္တာဖြစ်ပြီးသော်၊ ဥပတိဿထေရ်ကို 'သာရိပုတ္တရာ' ဟူသော အမည်ဖြင့် လက်ယာရံ ပဌမအဂ္ဂသာဝကအရာ၌ ထားတော်မူ၏။ ကောလိတထေရ်ကို 'မောဂ္ဂလာန်' ဟူသော အမည်ဖြင့် လက်ဝဲရံ ဒုတိယအဂ္ဂသာဝကအရာ၌ ထားတော်မူ၏။ တစ်ပါးသော အမျိုးသားတို့သည်လည်း ရဟန်းပြုကြသဖြင့် ရာဇဂြိုဟ်ပြည်သား ရဟန္တာအပေါင်း ၁ သောင်းအရေအတွက် ရှိ၏။

ရာဇဂြိုဟ်ပြည်၌ ဘုရားရှိတော်မူကြောင်းကို ခမည်းတော် သုဒ္ဓေါဒန[၁၉]မင်းကြီးကြား၍ အမတ် ၉ ယောက်တို့ကို အခြံအရံ ၁၀၀၀ စီနှင့် မြတ်စွာဘုရားအား အပင့်အလျှောက် ၉ခေါက် ၉ကြိမ် စေလွှတ်သမျှ ပရိသတ်တို့လည်း ဧဟိဘိက္ခု ရဟန္တာချည်း ဖြစ်ကြကုန်၏။ နောက်ဆုံး ဖွားဖက်တော်[၂၀] ကာဠုဒါယီအမတ်ကြီးကို အခြံအရံ ၁၀၀၀ နှင့် စေလွှတ်ပြန်၏။ ထိုသူတို့လည်း ဧဟိဘိက္ခု ရဟန္တာချည်း ဖြစ်ကြသဖြင့် ကပိလဝတ်ပြည်သား ရဟန္တာပေါင်း ၁ သောင်း အရေအတွက် ရှိ၏။ ဤသို့ ရဟန္တာပေါင်း ၂ သောင်းအခြံအရံရှိပြီးသော်

မြတ်စွာဘုရားကို တပေါင်းလပြည့်နေ့၌ ကာဠုဒါယီထေရ်သည် ခမည်းတော်မင်းကြီး လျှောက်ထားပင့်ဖိတ်သည့်စကား နား၍ နာပျော်ဖွယ် ၆၀ သောဂါထာတို့ဖြင့် ပြည်တော်သို့ ကြွတော်မူပါမည့်အကြောင်းကို လျှောက်ထား တောင်းပန် သောကြောင့် ကာဠုဒါယီထေရ်လျှင် ခရီးလမ်းညွှန်ရှိသည်ဖြစ်၍ ၂ သောင်းအရေအတွက်ရှိသော ရဟန္တာ အပေါင်းခြံရံလျက် ယူဇနာ[၂၂] ၆၀ ကွာသော ကပိလဝတ်နေပြည်တော်သို့ ပကတိလူတို့၏ အသာအယာသွားခြင်းဖြင့် တစ်ရက်လျှင် တစ်ယူဇနာကျ ၂ လတိုင်တိုင်ကြွတော်မူ၍ ကဆုန်လပြည့်နေ့ ဆိုက်ရောက်တော်မူလေ၏။

[ရာဇဂြိုဟ်ပြည်နှင့် ကပိလဝတ်ပြည် ယူဇနာ ၆၀ ကွာကြောင်း ၂ လဖြင့် ဆိုက်ရောက်တော်မူကြောင်းကို ဤဇာတ်တော်တွင် မလာသော်လည်း စရိယာပိဋက အဋ္ဌကထာ၌ 'ကာဠုဒါယိတ္ထေရေန ရညော အဓိပ္ပါယေ အာရောစိတေ ဘဂဝါ ဝီသတိသဟဿခီဏာသဝပရိဝုတော ရာဇဂဟတော နိက္ခမိတွာ သဋ္ဌိယောဇနံ ကပိလဝတ္ထုံ ဒွိဟိမာသေဟိ သမ္ပာပုဏိ'ဟု လာသောကြောင့် သိရသတည်း။]

ကာဠုဒါယိတ္ထေရေန၊ ကာဠုဒါယီမထေရ်သည်။ ရညော၊ ခမည်းတော် သုဒ္ဓေါဒနမင်းကြီး၏။ အဓိပ္ပါယေ၊ အလိုကို။ အာရောစိတေ၊ ကြားလျှောက်အပ်သည်ရှိသော်။ ဘဂဝါ၊ မြတ်စွာဘုရားသည်။ ဝီသတိသဟဿခီဏာ သဝပရိဝုတော၊ ရဟန္တာအပေါင်း ၂ သောင်းခြံရံလျက်။ ရာဇဂဟတော၊ ရာဇဂြိုဟ်ပြည်မှ။ နိက္ခမိတွာ၊ ထွက်တော်မူ၍။ သဋ္ဌိယောဇနံ၊ ယူဇန ၆၀ ကွာသော။ ကပိလဝတ္ထုံ၊ ကပိလဝတ်ပြည်သို့။ ဒွိဟိမာသေဟိ၊ နှစ်လတို့ဖြင့်။ သမ္ပာပုဏိ၊ ရောက်တော်မူလေ၏။ ဤကား အနက်။ ကာဠုဒါယီထေရ်သည် ခမည်းတော်သုဒ္ဓေါဒနမင်းကြီး၏ အလိုကို ကြားလျှောက်အပ်သည်ရှိသော် မြတ်စွာဘုရားသည် ရဟန္တာအပေါင်း ၂ သောင်း ခြံရံလျက် ရာဇဂြိုဟ်ပြည်မှ ထွက်တော်မူ၍ ယူဇနာ ၆၀ ကွာသော ကပိလဝတ်ပြည်သို့ ၂ လဖြင့် ရောက်တော်မူ၏။ ။ စရိယာပိဋက အဋ္ဌကထာအလို။]

ထိုအခါ သာကီဝင်[၂၃]မင်းတို့သည်လည်း "ငါတို့၏အဆွေအမျိုး၏ အထွတ်အညွန့်ဖြစ်သော သိဒ္ဓတ်[၂၄]သတို့သားကို ဖူးမြင်ရကုန်အံ့"ဟု အညီအညွတ်စည်းဝေး၍ ကျောင်းနေရာကိုစူးစမ်းကြည့်ရှုကြသော် နိဂြောဓအမည်ရှိသော သာကီဝင်မင်းသား၏ဥယျာဉ်သည် နှလုံးမွေ့လျော်ဖွယ်ရှိ၏။ ထို နိဂြောဓဥယျာဉ်၌ ကျောင်းနေရာပြင်ဆင်အံ့သောငှာ လျောက်ပတ်၏' ဟု တိုင်ပင်ညီညွတ်ကြသဖြင့် ထိုဥယျာဉ်၌ ကျောင်းနေရာ အလုံးစုံကို သုတ်သင်ခင်းကျင်း စီရင်ပြီးလျှင် ပန်း, နံ့သာ စသည်တို့ကို လက်စွဲကုန်လျက် ခရီးဦးကြိုဆိုအံ့သောငှာ မြို့သူမြို့သားတို့၏ သားငယ်, သမီးငယ်တို့ကို အဝတ်တန်ဆာဆင်စေ၍ ရှေးဦးစွာ ကြိုဆိုစေ၏။ထို သတို့သားငယ်,သမီးငယ်တို့၏နောက် သာကီဝင်မင်းသား, မင်းသမီးတို့ကိုလည်း ကြိုဆိုစေ၏။ ထို မင်းသား, မင်းသမီး တို့၏ အကြား နောက်ကွယ်ရာကနေလျက် သာကီဝင်မင်း,မိဖုရားတို့သည် ပန်းနံ့သာစသည်တို့ဖြင့် ပူဇော်၍ မြတ်စွာဘုရားကို နိဂြောဓာရုံကျောင်းသို့ ပင့်ဆောင်ကြလေ၏။

ထိုအခါ မြတ်စွာဘုရားသည် ရဟန္တာ ၂ သောင်းခြံရံလျက် ကြယ်အပေါင်းတို့ဖြင့်ခြံရံအပ်သော လပြည့်ဝန်း၏တင့်တယ်ခြင်းကဲ့သို့ တင့်တယ်သော အရောင်အသရေတော်ဖြင့် နိဂြောဓာရုံကျောင်းတော်တွင် ခင်းအပ်သော မြတ်သောဘုရားနေရာ၌ နေတော်မူ၏။

ထိုအခါ သာကီဝင်မင်းတို့သည် မဟာသမ္မတ[၂၅]မင်းမှဆင်းသက်၍ မပြတ်သော မင်းရိုးအမျိုးမာန်ဖြင့် ယစ်သည်[၂၆]ဖြစ်၍ အလွန် ခက်ထန်ကုန်၏။ထိုအခါ မြတ်စွာဘုရား၏ခမည်းတော်, ဘထွေးတော်,မိထွေးတော်, ဦးရီးတော်, အရီးတော်,အစ်ကို,ဘိုးဘွား တော်စပ်သည့် သာကီဝင်မင်း,မိဖုရားတို့သည့် 'ဤသိဒ္ဓတ်သတို့သားကား

ငါတို့အောက် အသက်အရွယ် ငယ်သေး၏။ ငါတို့၏ သားတည်း။ ငါတို့၏ တူတည်း။ငါတို့၏ ညီတည်း။ ငါတို့၏ မြေးတည်း'ဟု အကြံရှိ၍၊ "မင်းသားငယ်, မင်းသမီးငယ်တို့ကို သင်တို့ ရှိခိုးကြကုန်။ ငါတို့ကား သင်တို့၏နောက်၌ နေကုန်အံ့"ဟု ဆိုကြကုန်၏။

ထို သာကီဝင် မင်းသား, မင်းသမီးအပေါင်းတို့သည် မိမိတို့၏ ဝယဝုဒ္ဓိ[၂၆]ဂုဏ်ကို ကိုး၍ ရှိခိုးခညွှတ်ခြင်း မရှိကြောင်းကိုသိမြင်တော်မူလျှင်၊ 'ငါ၏ဆွေတော်မျိုးတော်တို့သည် ငါ့ကိုရှိမခိုးဘဲ နေကြကုန်၏။ ယခု ငါ့ကို ရှိခိုးစေအံ့'ဟု ကြံတော်မူ၍၊ အဘိညာဉ်[၂၇]၏အခြေဖြစ်သော စတုတ္ထစျာန်[၂၈]ကို ဝင်စားပြီးလျှင် ထိုစျာန်ကို အခြေပြုသောအားဖြင့် ထတော်မူပြီးမှ ကောင်းကင်သို့ကြွတော်မူ၍ သာကီဝင်မင်းတို့ဦးခေါင်းပေါ်၌ ခြေစက်တော် ဖဝါးအစုံမှ မြူမှုန်မြေမှုန်တို့ကို ကျလျှောစေတော်မူ၍ မအံ့ဩနိုင်သော ယမိုက်ပြာဋိဟာ[၂၉]ကို ပြတော်မူ၏။

[ထို ဆွေတော်မျိုးတော်တို့ပွဲ၌ ပြအပ်သောယမိုက်ပြာဋိဟာသည် သာဝတ္ထိပြည်၌ ကဏ္ဍ အမည်ရှိသော ဥယျာဉ်စောင့်သည် စိုက်ပျိုးအပ်သောသရက်ပင် ဖြစ်သောကြောင့် 'ကဏ္ဍမ္ဗ' အမည်ကိုရသော သရက်ပင်ကြီးကို အမှီပြု၍ တိတ္ထိတက္ကတွန်းတို့၏မိစ္ဆာတံခွန်ကို ပယ်နှိမ့်ချိုးဖြတ်ခြင်းငှာ ပြတော်မူအပ်သော ယမိုက်ပြာဋိဟာနှင့် အတူတူတည်း။]

ထိုသို့သောပြာဋိဟာကို ခမည်းတော် သုဒ္ဓေါဒနမင်းကြီးမြင်လျှင် ရွှင်ပျသောနှလုံးဖြင့် ယူကျုံးမရ ခညွှတ်မြတ်နိုး ရှိခိုးလို၍ ကြည်ညိုလှစွာ ဆရာရှေ့မှောက် တပည့်လျှောက်သကဲ့သို့ လျှောက်သည်ကား

"နှစ်လို့မဆုံး ဘုန်းတော်နှင့်ပြည့်စုံတော်မူသော တရားမင်း အရှင်ဘုရား။ ဖွားတော်မူသည့်နေ့၌ အကျွန်ုပ်ကိုးကွယ်သော ကာဠဒေဝီလရှင်ရသေ့ နန်းတော်သို့ ကြွလာသောကြောင့် ရှင်ရသေ့အား ရှိခိုးစိမ့်သောငှာ အရှင်ဘုရားကို ဦးဖြင့် ရှင်ရသေ့သို့ညွှတ်စေပါသော်လည်း ဦးညွှတ်မခံ ခြေတော်ဆန့်၍ စျာန်ရသော ရှင်ရသေ့ထိပ်ပေါ်၌ ခြေတော်တည်သည်ကို မြင်ရစဉ်ကပင်လျှင် အရှင်ဘုရား၏ခြေတော်စုံကို ကြာငုံလက်အုပ်ဖြင့်[၃၀] အကျွန်ုပ် ရှိခိုးရ၏။ ထိုသို့ရှိခိုးခြင်းသည် ရှေးဦးစွာသော ရှိခိုးခြင်းတည်း။

"ထို့နောင် လယ်ထွန်မင်္ဂလာ ပြုသောအခါ၌လည်း သပြေပင်ရိပ်တွင် ကျက်သရေရှိသောအိပ်ရာ၌ အရှင်ဘုရားကို သိပ်ထားမြှူးပျော်စေ၏။ ထိုအခါ နေဝန်းသည် လှည့်လည်၍သွားလျက် ခက်လက်ညွှန့်ဝေ သပြေပင်ရိပ်မလည်ဘဲ နေခြည်မထိုးရအောင် မိုးမြတိုင်းမိုးကာ၍ နေသည်ကို မြင်ရပြန်၍လည်း တစ်ဖန် တစ်ကြိမ် ဦးနှိမ်မြတ်နိုး ရှိခိုးရ၏။ ထိုသို့ရှိခိုးခြင်းသည် ၂ ကြိမ်မြောက်သော အကျွန်ုပ်၏ ရှိခိုးခြင်းတည်း။"

"ဤယခုလည်း ရှု၍ထင်ထင် မမြင်စဖူး အထူးထူးအဆန်းဆန်း ချီးမွမ်း၍မကုန်နိုင်သော ယမိုက်ပြာဋိဟာကို မြင်ပြန်ရသဖြင့်လည်း ဆင့်လောင်း၍ယုံကြည်လျက် အစုံသောခြေတော်မြတ်ကို ဦးညွှတ်မြတ်နိုး ရှိခိုးပူဇော်ပါ၏။ ဤရှိခိုးခြင်းသည် ၃ကြိမ်မြောက်သော အကျွန်ုပ်၏ ရှိခိုးခြင်းတည်း"ဟုလျှောက်၍ရှိခိုး၏။

ခမည်းတော်မင်းကြီး ရှိခိုးသည်ရှိသော် တစ်စုံတစ်ယောက်သောသူမျှ ရှိမခိုးဘဲနေခြင်းငှာ မဝံ့ကုန်၍ အလုံးစုံသောဆွေတော်မျိုးတော်တို့သည် ပူဇော်မြတ်နိုး ရှိခိုးညွှတ်ပျောင်းလျက် ကောင်းစွာဆုံးမအပ်ပြီးသော တပည့်သာဝကကဲ့သို့ချည်း ဖြစ်ကြကုန်၏။

ဤသို့ မြတ်စွာဘုရားသည် ဆွေတော်မျိုးတော်တို့၏မာန်စွယ်[၃၁]ကို နုတ်ပယ်ဖြတ်ချိုး ရှိခိုးစေပြီးလျှင် ကောင်းကင်မှသက်တော်မူ၍ ခင်းအပ်သော မြတ်သောဘုရားနေရာတော်၌ ထိုင်နေတော်မူ၏။

အလုံးစုံသော သာကီဝင်အပေါင်းတို့သည် ညွှတ်ပျောင်းသောစိတ်ဖြင့် အဆိပ်အတောက်ကင်းလျက် ငြိမ်သက်တည်ကြည်ကြပြီးသည့်အဆုံး၌ ကောင်းကင်အလုံး ထစ်ချုန်းမြည်ကြိုး[၃၂]၍ မိုးတိမ်အထပ်ထပ်တက်

လတ်သဖြင့် ရွက်ချပ်ရွက်လွှာပဒုမ္မာကြာတောဥ္ ရှာသောမိုးပေါက်ကဲ့သို့ ဖြိုးမောက်ချမ်းအေး ကြေးနီအဆင်းနှင့် တူသော ရေအလျဉ်စီးလျက် မိုကြီးသည်းထန်စွာ ရွာ၏။

ထိုမိုးသည် စွတ်လိုသောသူသာ စွတ်၏။ မစွတ်လိုသောသူ၏ကိုယ်၌ တစ်ပေါက်မျှ မကျ။ ထိုအခြင်းအရာကိုမြင်၍ ခပ်သိမ်းကုန်သောပရိသတ်တို့သည် ရင်သပ်ရှုမော အံ့ဩကုန်လျက် အဆက်ဆက်ကာလက ကြားမျှမကြားစဖူး ထူးထူးခြားခြား ဘုရားသခင့်အာနုဘော်တော်ကြောင့် ဆွေတော်မျိုးတော်အစည်းအဝေး၌ နီတွေးသောအရောင်အဝါဖြင့် ကြာတော၌ရွာသော မိုးကဲ့သို့ အချို့ကားစွတ် အချို့လွတ်နှင့် မြတ်လှသောမိုးကြီး သည်းစွာရွာ၏။ "အလွန်အံ့ဩဖွယ် ရှိစွတကား"ဟု စကားဖြစ်ကြကုန်၏။

မြတ်စွာဘုရားသည် ထိုပရိသတ်တို့ အံ့ဩသောစကားကိုကြားတော်မူ၍၊

"ရဟန်းတို့။ ယခုသာလျှင် ဆွေတော်မျိုးတော်တို့အစည်းအဝေး၌ မိုးကြီးသည် ကြာတော၌ရွာသကဲ့သို့ အံ့ဩဖွယ်ကိုဖြစ်စေလျက် ရွာသည် မဟုတ်။ ငါဘုရားသည် ရှေးပါရမီကို ဖြည့်သောအခါ၌လည်း ဆွေမျိုး အစည်းအဝေး၌ ပေါက္ခရမိုး[၃၃]သည် ရွာဖူး၏"ဟု မိန့်တော်မူ၍ ဖလသမာပတ်[၃၄]ဝင်စားသောအားဖြင့် ဆိတ်ဆိတ် နေတော်မူ၏။

ထိုအခါ ရဟန်းတို့သည် "ရှေး၌ ရွာဖူးကြောင်းကို ဟောတော်မူပါ"ဟု လျှောက်တောင်းပန်လတ်သော်၊ မြတ်စွာဘုရားသည် တပည့် သားတော်တို့ မေးလျှောက်တောင်းပန်သည့်စကားနှင့်တန်ရုံ ပေါက္ခရမိုးရွာခြင်းကိုသာ မဟောမူ၍၊ အသီးကိုမေးလျှင် အပင်နှင့်တကွ ညွှန်ပြဘိသကဲ့သို့ ဝေနေယျ[၃၅]တို့၏အလိုကို သိတော်မူလှသော အားဖြင့် ကရားမှထွက်သော ရေအလျဉ်ကဲ့သို့ စကားစဉ်မပြတ် အတ္ထုပ္ပတ္တိ[၃၆] မကြွင်းမကျန် ဤ'ဝေဿန္တရာ ဇာတ်တော်'ကို ဆောင်၍ဟောတော်မူ၏။

# ဓဝသန္တ ရာဇဝင်တော်ကြီး ဝတ္ထု

## ၁။ ဖုဿတီမိဖုရား ဆုတောင်းခန်း

ရှေးလွန်လေပြီးသောအခါ သိဝိတိုင်း[၃၇]စေတုတ္တရာပြည် [၃၈]၌ သိဝိရာဇ်မင်းကြီး မင်းပြု၏။ထို သိဝိရာဇ်မင်းကြီး၏သားတော်ကား သိဉ္စည်း[၃၉]အမည်ရှိ၏။ ထို သိဉ္စည်းမင်းသားသည် အရွယ်သို့ရောက်လတ်သော် မဒ္ဒရာဇ်မင်း၏သမီး ဖုဿတီ အမည်ရှိသောမင်းသမီးကို ဆောင်ယူစေ၍ ထိမ်းမြားလက်ထပ်ပြုပြီးလျှင် ခမည်းတော် သိဝိရာဇ်မင်းကြီးသည် သားတော်သိဉ္စည်းမင်းသားအား ထီးနန်းကို အပ်နှင်း၏။ သိဉ္စည်းမင်းသည်လည်း ဖုဿတီမင်းသမီးအား မိဖုရားကြီးအရာကို ပေး၏။

ထို ဖုဿတီမိဖုရား၏ ရှေး၌ဆုတောင်းသော အစဉ်အတ္တုပ္ပတ္တိကား ဤကမ္ဘာမှ ပြန်၍ရေသည်ရှိသော် ၉၁ ကမ္ဘာထက်၌ ဝိပဿီ အမည်ရှိသော မြတ်စွာဘုရားသည် ပွင့်တော်မူ၏။ ထို ဝိပဿီမြတ်စွာဘုရားသည် ဗန္ဓုမတီ အမည်ရှိသော ပြည်ကိုမှီ၍ ဘေးမဲ့ပေးရာဖြစ်သော မိဂဒါဝုန်ဥယျာဉ်၌ နေတော်မူသောအခါ ဗန္ဓုမတီပြည်ကို အစိုးရသော ဗန္ဓုမတီမင်းအား တစ်ပါးတစ်နိုင်ငံမင်းက အဖိုးများစွာထိုက်သော စန္ဒကူးနံ့သာနှစ်နှင့် အဖိုးများစွာ ထိုက်သော ရွှေပန်းကုံးကို ဆက်သလာ၏။

ဗန္ဓုမတီမင်း၌ကား သမီးတော်၂ ယောက်ရှိ၍ ထိုလက်ဆောင်ကို သမီးတော်တို့အား ပေးလိုသဖြင့် စန္ဒကူးနံ့သာနှစ်ကို သမီးတော်အကြီးအား ပေး၏။ ရွှေပန်းကုံးကို သမီးတော် အငယ်အား ပေး၏။

ထို မင်းသမီး ၂ ယောက်တို့သည်လည်း 'ဤစန္ဒကူးနှစ် ရွှေပန်းကုံးတို့ကို ငါတို့ မလိမ်းမဆင်လိုပြီ။ မြတ်စွာဘုရားကိုသာ ပူဇော်အံ့'ဟု ကြံပြီးသော်၊ ခမည်းတော်မင်းကြီးအား အကြောင်းကိုလျှောက်ထား၍၊ "ကောင်းပြီ။ ပူဇော်ကြတော့"ဟု မင်းကြီးဆိုလျှင် သမီးတော်အကြီးသည် စန္ဒကူးနံ့သာနှစ်ကို အထုံအမှုန့်ပြုပြီးမှ ရွှေပန်းကလပ်ပေါ်၌ အပြည့်ထည့်၍၊ သမီးတော်အငယ်လည်း ရွှေပန်းကုံးကို ရင်လွှမ်းတန်ဆာပြုပြီးမှ ရွှေပန်းကလပ်ပေါ်၌တင်၍ ဆောင်ယူစေလျက်၊ မင်းသမီး ၂ ယောက်တို့သည် မိဂဒါဝုန်ဥယျာဉ်သို့ သွားကြသဖြင့်၊ မင်းသမီးအကြီးသည် အချို့သောနံ့သာမှုန့်ဖြင့် မြတ်စွာဘုရားအားပူဇော်၍ အချို့သောနံ့သာမှုန့်ဖြင့် ဂန္ဓကုဋိ[၄၀]တိုက်ကို ကြဲဖြန့်ထုံစေပြီးသော် ဤသို့ ဆုတောင်း၏။

"ဘုန်းတော်ကြီးလှသော အရှင်ဘုရားအား ဤသို့သော နံ့သာအမွှေးအထုံဖြင့် အကျွန်ုပ်ပူဇော်ရသော ကောင်းမှုကြောင့် နောင်လာလတ္တံ့သောကာလ၌ အရှင်ဘုရားကဲ့သို့ လူ ၃ ပါးတို့၏ဆရာဖြစ်သော မြတ်စွာဘုရား၏ မယ်တော် ဖြစ်ရပါလို၏"ဟု ဆုတောင်း၏။

မင်းသမီးအငယ်သည်ကား ရင်လွှမ်းတန်ဆာဖြင့် မြတ်စွာဘုရားအား ပူဇော်၍

"ဘုန်းတော်ကြီးလှသော မြတ်စွာဘုရားအား ဤရင်လွှမ်းတန်ဆာဖြင့် ပူဇော်ရသောကောင်းမှုကြောင့် အကျွန်ုပ်သည် အကြင်မျှလောက်သော ကာလပတ်လုံး နိဗ္ဗာန်ကို မရသေး။ ထိုနိဗ္ဗာန်ကို မရသေးသမျှကာလပတ်လုံး အကျွန်ုပ်၏ကိုယ်၌ ဤရင်လွှမ်းတန်ဆာသည် မပြတ်ဖြစ်ပါစေသတည်း"ဟု ဆုတောင်း၏။

မြတ်စွာဘုရားသည်လည်း မင်းသမီးညီအစ်မတို့အား တရားအနုမောဒနာ[၅၁] ပြုတော်မူ၏။

ထို မင်းသမီး ၂ ယောက်တို့သည် အသက်အတိုင်းနေ၍ စုတေကြသော် နတ်ပြည်၌ ဖြစ်ကြကုန်၏။ ထိုမင်းသမီး ၂ ယောက်တို့တွင် မင်းသမီးကြီးသည် ထိုဘဝမှစ၍ အပါယ် ၄ ပါးသို့ မလားရ။ နတ်ပြည်မှသည် လူ့ပြည်သို့, လူ့ပြည်မှသည် နတ်ပြည်သို့ စုန်ဆန်လူးလာ ကျင်လည်၍ ၉၁ ကမ္ဘာအဆုံးဖြစ်သော ဤဘဒ္ဒကမ္ဘာထက်၌ ငါတို့မြတ်စွာဘုရားမယ်တော် မဟာမာယာဒေဝီ ဖြစ်လာ၏။ ညီမငယ်သည်ကား ထို့အတူလည်းကောင်း နတ်ပြည်လူ့ပြည်တို့၌ကျင်လည်၍ ဤဘဒ္ဒကမ္ဘာထက်၌ ကဿပမြတ်စွာဘုရား ပွင့်တော်မူသောအခါ ကိကီ အမည်ရှိသောမင်းကြီး၏ သမီး ဖြစ်၏။

ထိုမင်းသမီးသည် ပန်းချီစုတ်ရေး ဆေးခြယ်ဘိသကဲ့သို့ နှစ်လို့ဖွယ်သော ရင်လွှမ်းတန်ဆာဖြင့် တန်ဆာဆင်လျက်ဖွားသောကြောင့် ဥရစ္ဆဒါ[၅၂]မင်းသမီး ဟု အမည့်မှည့်၏။ ထို ဥရစ္ဆဒါမင်းသမီးသည် ၁၆ နှစ် မြောက်သောအခါ မြတ်စွာဘုရား၏ ဆွမ်းအနုမောဒနာ တရားကို နာရ၍ သောတာပတ္တိဖိုလ်၌ တည်လေ၏။ နောက်တစ်ကြိမ် ခမည်းတော် ကိကီမင်းကြီး ဆွမ်းလှူ၍ မြတ်စွာဘုရား ဆွမ်းအနုမောဒနာပြုသောအခါ ကိကီမင်းကြီးလည်း သောတာပတ္တိဖိုလ်၌ တည်၏။ ဥရစ္ဆဒါ မင်းသမီးလည်း လူဝတ်နှင့်ပင်လျှင် မဂ် ၃ တန် ဘဝင်မခြား လျင်လျားစွာ ရဟန္တာမ ဖြစ်ပြီးမှ ရဟန်းပြု၍ ဘဝအဆုံးသို့ ရောက်၏။

ကိကီမင်းကြီး၌ ဥရစ္ဆဒါမင်းသမီးမှတစ်ပါး သမီးတော် ၇ ယောက် ရှိ၏။ ထို သမီးတော်တို့၏ အမည်ကား သမဏီ,သမဏဂုတ္တာ,ဘိက္ခုနီ,ဘိက္ခုဒါယိကာ,ဓမ္မာ,သုဓမ္မာ,သင်္ဃဒါသီ၊ ဤ ၇ ယောက်တည်း။ ထို မင်းသမီး ၇ ယောက်တို့သည် ငါတို့ ရှင်ဂေါတမ မြတ်စွာဘုရား ပွင့်တော်မူသောအခါ၌ ခေမာ, ဥပ္ပလဝဏ်, ပဋာစာရီ, မိထွေးတော် ဂေါတမီ, ဓမ္မဒိန္နာ,မဟာမာယာ,ဝိသာခါ ဟု အစဉ်အတိုင်း ဖြစ်လာ၏။

ထို ၇ ယောက်တို့တွင် မဟာမာယာအလောင်းကား သုဓမ္မာ မင်းသမီးတည်း။ ထို သုဓမ္မာမင်းသမီးသည် ဒါန, သီလ အစရှိသော ကုသိုလ်ကောင်းမှုတို့ကိုပြု၍ လူ့ပြည်, နတ်ပြည်ကျင်လည်ပြန်သည်ရှိသော် မဒ္ဒရာဇ် မင်း၏မိဖုရားကြီးဝမ်း၌ ပဋိသန္ဓေနေ၍၊ စန္ဒကူးနှစ်ရည်ဖြင့် သွန်းဘိသကဲ့သို့ မွှေးကြိုင်လှသောကိုယ်ဖြင့် ဖွားသောကြောင့် 'ဖုဿတီ' ဟူသောအမည်ဖြင့် ဖြစ်လာ၏။ ထို ဖုဿတီမိဖုရားသည် မဒ္ဒရာဇ်မင်း၏သမီး မဖြစ်မီဘဝက သိကြားမင်း၏မိဖုရား ဖြစ်၏။ ထို သိကြားမင်း၏မိဖုရား ဖြစ်သောအခါ အသက်အတိုင်းနေ၍ စုတေခါနီးကာလ၌ နိမိတ် ၅ ပါး[၅၃]ထင်လတ်သော် သိကြားမင်းသည် မိဖုရား အသက်ကုန်မည့် အကြောင်းကို သိလျှင် အခြံအရံများစွာနှင့် ထိုမိဖုရားကို နန္ဒဝန်[၅၄]ဥယျာဉ်သို့ဆောင်၍ တန်ဆာဆင်အပ်သော အိပ်ရာအပြင်၌ လျောင်းစေလျက်၊ မိမိသည် မိဖုရားကြီး၏နံပါး၌ထိုင်၍ ဤသို့ ဆို၏။

"အဘယ် ဖုဿတီ မိဖုရား။ သင့်အား ၁၀ ပါးသောဆုကို ငါပေးအံ့"ဟု ဆို၍ ဂါထာ ၁၀၀၀ တို့ဖြင့် တန်ဆာဆင်အပ်သော ဤဝေဿန္တရာဇာတ်၌ ရှေးဦးစွာဖြစ်သော 'ဖုဿတီ ဝရဝဏ္ဏာဘေ' အစရှိသော ဂါထာကို သိကြားမင်း ဆို၏။ အဓိပ္ပာယ်ကား-

"လုံးရပ်သဏ္ဍာန် ကိုယ်ဟန်ကြော့ရှင်း အဆင်းနှင့်ပြည့်စုံစွာ ကြန်အင်္ဂါအပေါင်းတို့တွင် ပျောင်းပျော့ကျစ်လျစ် ပြေပြစ်ညှံ့နု ဥရုလက္ခဏာဖြင့် ငါ၏ချစ်မငြီးဖြစ်သော အဘယ် ဖုဿတီ။ ၁၀ ပါးသောဆုကို သင့်အား ငါပေးအံ့။ သင်နှစ်သက်ရာ ရေတွက်၍ ၁၀ ပါးပြည့်အောင် ယူလော့"ဟုဆို၏။

ထိုဖုဿတီဒေဝီ သိကြားမင်းမိဖုရားသည် မိမိ စုတေအံ့သည်ကို မသိ။ ဇိန်းမောမေ့လျော့သည်ဖြစ်၍ သိကြားမင်းအား 'နမောတေ'အစရှိသောဂါထာဖြင့် ပြန်လျှောက်၏။ အဓိပ္ပာယ်ကား-

"နတ်တကာတို့၏အရှင်ဖြစ်သော သိကြားမင်း။ အရှင်မင်းကြီးအား **အကျွန်ုပ်** ရှိခိုးပါ၏။ အကျွန်ုပ်သည် အရှင်မင်းကြီး၏ခြေတော်ရင်း၌ အဘယ်မည်သောမကောင်းမှုကို **ပြုမိလေသည်မသိ။** ပြင်းစွာလေခတ်၍ တုန်လှုပ်သောသစ်ပင်ကဲ့သို့ **အလွန်နှလုံးမွေ့လျော်ဖွယ်ရှိသော နတ်ပြည်စည်းစိမ်၌ မမွေ့လျော် မပျော်ပါးနိုင်။** အကျွန်ုပ်၏စိတ်သည် တုန်လှုပ်ခဲ့၏တကား"ဟု ဆို၏။

သိကြားမင်းသည် မိဖုရား၏ သတိလွတ်သောအဖြစ်ကိုသိ၍ စုတေအံ့သည်ကို သိစိမ့်သောငှာ ၂ ဂါထာဖြင့် ဆို၏။ အဓိပ္ပာယ်ကား-

"အဘယ်ဖုဿတီ။ သင်သည် ငါနှင့် စံပျော်သည့်ကာလပတ်လုံး တစ်စုံတစ်ခု သင်ပြုသော မကောင်းမှုမည်သည် မရှိ။ သင်၌ ငါအမျက်ထွက်ရန်အခွင့် တစိုးတစိမျှ မရှိ။ အပြစ်မရှိသောသင့်အား ငါ မချစ်မကြင်နာသည်လည်း **မဟုတ်။** ငါသည် အလွန် မြတ်နိုးချစ်ခင်ကြင်နာ စုံမက်ပါသော်လည်း သင်၏ ကောင်းမှုကု**န်ချေပြီဖြစ်သော**ကြောင့်၊ 'နောင်တမလွန်သို့ လားရလေသော်လည်း ကောင်းသောအကျိုး ဖြစ်စေသတည်း'ဟု ငါအောက်မေ့၍ **သင့်အားမြတ်နိုးသဖြင့် ၁၀ ပါးသောဆုကို** ငါ ပေးသတည်း။ သင်သည် ယခု စုတေခြင်းတရားအနီးသို့ **ရောက်ချေပြီ။** ငါနှင့် ယခုပင်လျှင် ကွေကွင်းရအံ့သည် မချွတ်ပြီ။ ထိုသို့ဖြစ်၍ သင်သည် ငါပေးအပ်သော ဆု ၁၀ ပါးကိုသာ ယူလော့"ဟုဆို၏။

သိကြားမင်းစကားကို ကြားလျှင် ဖုဿတီမိဖုရားသည် 'ငါကား ယခု သေအံ့သည် မချွတ်ရာ'ဟုသိပြီး၍၊ 'ဤနတ်ပြည်မှ စုတေသော် အဘယ်မှာဖြစ်ရလျှင် ကောင်းအံ့နည်း'ဟု ကြည့်လတ်ပြီးမှ သိဝိရာဇ်မင်းကြီး၏ နန်းတော်ကို မြင်လေ၏။ ထိုသို့မြင်ပြီးသောနောက်မှ ၁၀ ပါးသောဆုကို ဤသို့ တောင်း၏။

"နတ်တကာတို့ကို အစိုးရတော်မူသော မင်းကြီး။ အရှင်မင်းကြီးသည် အကျွန်ုပ်အား အကယ်၍ဆု ၁၀ ပါးကို ပေးတုံအံ့-

"အကျွန်ုပ်သည် ဤကိုယ်အဖြစ်မှ စုတေလျှင် သိဝိရာဇ်မင်းကြီး၏ နန်းတော်ကို အစိုးရသော မိဖုရားကြီး ဖြစ်လို၏။

"၁ နှစ်မြောက်သော သမင်မငယ်၏မျက်စိနှင့်တူသော ညိုသောမျက်စိ ရှိသည်လည်း ဖြစ်လို၏။

"ညိုသောမျက်မှောင်တံ ရှိသည်လည်း ဖြစ်လို၏။

"အမည်အားဖြင့် ဖုဿတီဒေဝီ ဟူ၍ပင် အမည်ရှိလို၏။

"တန်ဆာဆင်အပ်သော ဦးခေါင်းကို လည်းကောင်း, မျက်စိအစုံကို လည်းကောင်း, နှလုံးသည်းပွတ်ကို လည်းကောင်း, ထီးဖြူကို လည်းကောင်း၊ သားသမီးကို လည်းကောင်း အလိုရှိသော ယာစကာတို့သည် တောင်းလာခဲ့လာသည်ရှိသော်၊ ထိုယာစကာတို့ကို အလိုရှိတိုင်း ပေးလှူစွန့်ကြဲတတ်သည်ဖြစ်၍ ဝန်တိုပိတ်ပင် စဉ်းလဲခြင်းမရှိ၊ မင်းတစ်ပါးတို့ ပူဇော်ထိုက်သော ကျော်စောခြင်းနှင့်ပြည့်စုံသော သားကောင်းရတနာကိုလည်း ရလို၏။

"ကိုယ်ဝန်ဆောင်လေသော်လည်း အကျွန်ုပ်၏ဝမ်းသည် မယမ်းမစုန့်[၁]ပုံ့ပုံ့မထင် လေးအတတ်၌ ကျွမ်းကျင်လိမ္မာသော လေးသမားသည် ကောင်းစွာသင်အပ်သော လေးပျဉ်းကဲ့သို့ ညီညွတ်စွာ ပြကတေ့အတိုင်း ရှိစေလို၏။

"သားများစွာပင် ဖွားမြင်သော်လည်း အကျွန်ုပ်၏သားမြတ်အစုံသည် မတွဲမကျ အရွယ်ရောက်ဦးစ အတိုင်း တည်စေသတည်း။

"အရွယ်လွန်သည်တိုင်အောင်လည်း ဆံပင်မဖြူ ငယ်မူငယ်သွေးအတိုင်း တည်စေသတည်း။

"အကျွန်ုပ်ကိုယ်အဆင်းသည်လည်း ချေးညှိမတင် စင်ကြယ်သောကိုယ် ရှိသည်လည်း ဖြစ်လို၏။

"မင်းပြစ်မင်းမျက်သင့်၍ သေခြင်းအနီးသို့ရောက်ပြီးသောသူကိုလည်း အကျွန်ုပ်၏ အစွမ်းဖြင့် နုတ်ယူကယ်ဆောင် နိုင်လို၏။

"ဤ ဆိုအပ်ခဲ့ပြီးသော ဆု ၁၀ ပါးနှင့် ပြည့်စုံစွာ 'စားလှည့်ကုန်, သောက်လှည့်ကုန်' အစရှိသော ၁၀ ပါးသော အသံတို့ဖြင့် တစ်ရံမလပ် လျှောက်ပတ်တင့်တယ်စွာ စေတုတ္တရာပြည်ကြီး၏အရှင် မြတ်လှသော သိဝိရာဇ်မင်းကြီး၏နန်းတော်၌ မိဖုရားကြီး ဖြစ်ရလို၏"ဟု သိကြားမင်းအား ၁၀ ပါးသောဆုကို တောင်း၏။

[ဤ ဆု ၁၀ ပါးတွင် နောက်ဆုံးဖြစ်သောဆုဖြင့် 'စိုးနိုင်သော်လည်း ပိုင်ခဲသည်' ဆိုသော စကားဟောင်းနှင့် လျော်စွာ နန်းမတောင်ညာဖြစ်၍ စိုးပိုင်နိုင်သောအရာ ရှိသည်နှင့်အညီ စိုးပိုင်ရမည့်အကြောင်းကို တောင်းသတည်း။ ထို့ကြောင့် 'ဣမိနာ အတ္တနော ဣဿရိယ ဘာဝံ ဒီပေတိ' ဟု အဋ္ဌကထာဆရာ မိန့်အပ်၏။]

ဤ ဆု ၁၀ ပါးတို့ကို သိကြားမင်းမိဖုရားတောင်းလျှင် သိကြားမင်းသည် "ငါ၏နှလုံးကို ကျူးဘိသကဲ့သို့ နှစ်လို့ရှုဖွယ် တင့်တယ်မျိုးမကတင့်တယ်လှသော အဘယ်ဖုဿတီ။ သင်သည် ငါ့အား ၁၀ ပါးသောဆုကို ယခုတောင်း၏။ ထို တောင်းတိုင်းသော ဆု ၁၀ ပါးသည် သင်အား မချွတ် သိဝိရာဇ်မင်း၏နိုင်ငံ၌ ပြည့်စုံလိမ့်သတည်း"ဟုဆုပေးလျက်၊ မြတ်လေးကြည်ဖြူ ချစ်ခင်သူတို့နှင့် အတူမကွေ နေချင်သော်လည်း သံသရာဝဲ[၅၆]မှ မလွဲသာဖြစ်သည်ကို ဖြေဆည်မြော်တွေး၍ နောင်အရေး ဖုဿတီ၌ကောင်းမည်ကို မြင်သောကြောင့် နတ်ဘုရင်သည် မရွှင်စိတ်ဖျောက်၍ ဝမ်းမြောက်ဝမ်းသာဖြစ်သတည်း။

## ၂။ ဟိမဝန္တာ ချီးမွမ်းခန်း

ထို ဖုဿတီမိဖုရားသည် ၁၀ ပါးသောဆုကိုတောင်းယူ၍ နတ်ပြည်မှစုတေခဲ့လေလျှင် ထူးမြတ်သော အသွေးအသားဖြင့် ယောကျ်ားတကာမူးယစ်အောင် ချစ်ဖွယ်သောမိန်းမရတနာပေါ်ထွန်းရာ မဒ္ဒရာဇ်ပြည် မဒ္ဒရာဇ်မင်း၏မိဖုရားကြီးဝမ်း၌ ဖြစ်လေ၏။ ထို မင်းသမီး ဖွားဦးစကပင်လျှင် စန္ဒကူးနံ့သာမှုန့်တို့ဖြင့် တစ်ကိုယ်လုံးလိမ်းကျံသကဲ့သို့ မွှေးကြိုင်စွာဖွားသောကြောင့် အမည်မှည့်အံ့သောနေ့၌ 'ဖုဿတီ'ဟု နတ်ပြည်က အမည်ကိုပင် မှည့်ပြန်၏။ ထို ဖုဿတီမင်းသမီးသည် ၁၆ နှစ်ရောက်လတ်သော် တစ်ယောက်မတူ ဇမ္ဗူရာဇ်ရွှေစင်ကဲ့သို့ ရှုချင်ဖွယ်သော အဆင်းအရည် ရှိ၏။

ထိုအခါ သိဝိတိုင်း စေတုတ္တရာပြည်ကိုအစိုးရသော သိဝိရာဇ်မင်းကြီး၌ 'သိဉ္စည်း'အမည်ရှိသော သားတော်သည် ထီးနန်းနင်းချိန် အရွယ်ရောက်သည်ဖြစ်၍ သိဉ္စည်းမင်းသားနှင့်ထိုက်တန်သော မင်းသမီးကို ရွေးချယ်လျှင် 'မဒ္ဒရာဇ်မင်း၏သမီးတော် ဖုဿတီသည် ထိုက်လျောက်၏'ဟု များစွာသော ထိမ်းမြားခမ်းမင်္ဂလာဖြင့် ဆောင်ယူစေပြီးသော်၊ ထိမ်းမြားမင်္ဂလာပြု၍ သိဉ္စည်းမင်းသားအား ထီးနန်းကိုဆောင်နှင်းသဖြင့် ဖုဿတီ

မင်းသမီးအားလည်း ၁ သောင်း ၆ ထောင်သော ကိုယ်လုပ်မောင်းမအပေါင်းခြံရံလျက် နန်းမတောင်ညာတင်ထား၍ မိဖုရားကြီးအရာကို ပေး၏။

ထိုမင်း ၂ ပါးတို့သည် သံသရာအဆက်ဆက်က မပျက်သောမေတ္တာဖြင့် မဂ္ဂာအတူ ဆုယူဆုတောင်းကောင်းမှုပြုဖော်ဖြစ်ကြ၍ ရေတွေ့သောကြာကဲ့သို့ ဝမ်းသာရွှင်လန်းလျက် ရွှေနန်းရှင်သိဋ္ဌည်းမင်းသည် ဖုဿတီဒေဝီ မိဖုရားကြီးအား အလွန်နှစ်လို့ မြတ်နိုးကြင်နာလေ၏။ ထိုအခါ သိကြားမင်းသည် 'ငါ၏မိဖုရား ဖုဿတီသည် မည်သည့်အရပ်မှာ ဖြစ်လေသနည်း'ဟု ဆင်ခြင်လတ်သော်၊ သိဝိတိုင်း သိဋ္ဌည်းမင်း၏မိဖုရားကြီး ဖြစ်ပြီးသည်ကို မြင်၍၊ 'ဖုဿတီဒေဝီအား ၉ ပါးသောဆုသည် ယခု ပြည့်စုံပြီ။ သားဆုတစ်ပါးသာ မပြည့်စုံသေး။ ဖုဿတီဒေဝီအား သားဆုကို ပေးအံ့'ဟုကြံ၏။

ထိုအခါ ငါတို့ဘုရားလောင်းသည် တာဝတိံသာနတ်ပြည်၌ နတ်သား ဖြစ်သတည်း။ ထိုဘုရားလောင်းနတ်သားသည် အသက်ကုန်သဖြင့် စုတေ့ခါနီးဖြစ်၍ သိကြားမင်းသည် ဖုဿတီဒေဝီအား သားကောင်း ထိုက်တန်ရာကို ရှာကြည့်လတ်လျှင် ဘုရားလောင်းနတ်သားကို မြင်ပြီးသော်၊ ထိုနတ်သား၏ အသက်ကုန်ကြောင်းကို သိ၍ ထိုနတ်သားထံသွားပြီးလျှင် "အချင်းနတ်သား။ သင်သည် လူ့ပြည်သို့လားခြင်းငှာ ထိုက်၏။ လူ့ပြည်တွင် သိဝိရာဇ်မင်း၏မိဖုရားကြီး ဖုဿတီဒေဝီ၏ဝမ်း၌ ပဋိသန္ဓေယူလော့"ဟု တိုက်တွန်း၏။ ဘုရားလောင်းနတ်သားမှတစ်ပါး စုတေ့ခါနီးဖြစ်ကုန်သော နတ်သားအရေအတွက် ၆ သောင်းတို့အားလည်း "ဘုရားလောင်း၏ အပေါင်းအဖော် အခြံအရံဖြစ်စေခြင်းငှာ အမတ်တို့အိမ်၌ ဖြစ်လေကုန်လော့"ဟု တိုက်တွန်း ဝန်ခံစေပြီးသော်၊ မိမိနေရာသို့ သွားလေ၏။

ဘုရားလောင်းနတ်သားသည် နတ်ပြည်မှစုတေ့ခဲ့ပြီးသော် ဖုဿတီမိဖုရားကြီးဝမ်း၌ ပဋိသန္ဓေ နေလေ၏။ ကြွင်းသော နတ်သား ၆ သောင်း တို့လည်း စုတေ့ကုန်သဖြင့်၊ အမတ် ၆သောင်း တို့အိမ်၌ အသီးအသီးဖြစ်လေကုန်၏။ ဘုရားလောင်းပဋိသန္ဓေနေလျှင် ဖုဿတီမိဖုရားသည် အလှူပေးခြင်း၌ ပြင်းစွာနှစ်လိုလျက် မြို့တံခါး ၄ မျက်နှာ၊ မြို့လယ်၊ နန်းတော်တံခါး၀၊ ဤ ၆ ဌာနတို့၌ အလှူဇရပ် ၆ ဆောင်ဆောက်၍ နေ့တိုင်း နေ့တိုင်း ၆ သိန်း ၆ သိန်းသော ဥစ္စာတို့ကို စွန့်ကြဲလှူဒါန်းချင်သော အလိုရှိသဖြင့်၊ မိမိအလိုရှိတိုင်း မင်းကြီးအား လျှောက်ကြား၍ ၊ သိဋ္ဌည်းမင်းကြီး ကြားသိလျှင် "အကြောင်း အသို့ဖြစ်မည်နည်း"ဟု လက္ခဏာဖတ်ပုဏ္ဏားတို့ကို ခေါ်၍မေး၏။

ပုဏ္ဏားတို့လည်း "အရှင်မင်းကြီး။ ရှင်မိဖုရားကြီးဝမ်း၌ ပေးလှူစွန့်ကြဲခြင်းဖြင့် မွေ့လျော်သောသူ ပဋိသန္ဓေယူသည် ဖြစ်မည်။ ထို ရှင်မိဖုရားကြီးဝမ်း ပဋိသန္ဓေနေသောသူသည် ပေးလှူစွန့်ကြဲခြင်းဖြင့် မရောင့်ရဲနိုင်သည် ဖြစ်လတ္တံ့."ဟု နိမိတ်[၅၇]ဖတ်ကြားလျှောက်ထားကြကုန်၏။

ပုဏ္ဏားတို့မကားကိုကြားလျှင် သိဋ္ဌည်းမင်းသည် အလွန် နှစ်သက်ဝမ်းမြောက်သည်ဖြစ်၍ မိဖုရားကြီး အလိုရှိတိုင်း အလှူဇရပ် ၆ ဆောင် ဆောက်စေပြီးသော် နေ့တိုင်းနေ့တိုင်း ၆ သိန်း၊ ၆ သိန်းသော အလှူဥစ္စာတို့ကို ဖြစ်စေ၏။ ဘုရားလောင်း ပဋိသန္ဓေနေသည့်နေ့မှစ၍ သိဋ္ဌည်းမင်းကြီးအား အခွန်အတုတ် ပဏ္ဏာကာရ လက်ဆောင်တို့သည် အတိုင်းအရှည်မရှိ ပြန့်ပွားတိုးတက်ကုန်၏။ ဘုရားလောင်းအာနုဘော်ကြောင့် ဇမ္ဗူဒိပ်[၅၈]ကျွန်းအပြင်၌နေကုန်သော ထီးဆောင်းမင်းအပေါင်းသည် ပဏ္ဏာလက်ဆောင်များစွာ ဆက်သလာကုန်၏။

ဖုဿတီမိဖုရားကြီးသည် များစွာသော မောင်းမ၊ကိုယ်လုပ်၊အခြံအရံတို့ဖြင့် ကိုယ်ဝန်ဆောင်လျက် ၁၀ လ ပြည့်လတ်သော် "မြို့ကိုလှည့်လည်၍ ရှုလိုသည်"ဟု မင်းကြီးအား လျှောက်ကြား၏။ မင်းကြီးလည်း

စေတုတ္တရာပြည်အလုံးကို တန်ဆာဆင်စေ၍ မိဖုရားကြီးနှင့်တကွ မြင်းရထားစီးလျက် မြတ်သောမင်း၏ လှည့်လည်ခြင်းဖြင့် လှည့်လည်လတ်သော်၊ လှည်းကုန်သည်တို့၏ ရောင်းဝယ်ဖောက်ကား သွားလာရာဖြစ်သော ခရီးလှည်းလမ်းအလယ်သို့ ရောက်သောအခါ၌ ဖုဿတီမိဖုရားကြီးသည် သားဖွားချင်၍ မူလကမ္မဓလေ့[၄၉] လှုပ်ခိုက်သဖြင့် ဝမ်းမှ မအီမသာ ကျင်နာခြင်းဖြစ်၍ ထိုအကြောင်းကို မင်းကြီးအားကြားလျှောက်လျှင် မင်းကြီးလည်း ထိုခရီးလမ်းမအလယ်၌ပင် သားဖွားမင်္ဂလာ တဲနန်းဆောက်လုပ်စီရင်စေ၍ မိဖုရားကြီးသည် ထိုတဲနန်းတော်၌ သားတော်ကို ဖွားမြင်လေ၏။

ဘုရားလောင်းသည် မယ်တော်ဝမ်းမှ မြေးသမ်းမရှိ မငြိမတင် စင်ကြယ်သန့်ရှင်းစွာ မျက်စိတော်ကိုဖွင့်လျက် ဖွားတော်မူ၏။ မယ်တော်ဝမ်းမှ ဖွားမိလျှင်ပင် လက်တော်ကိုဆန့်တန်းလျက် "မယ်တော် အကျွန်ုပ် အလှူပေးအံ့။ ဥစ္စာတစ်စိုးတစိ[၅၀]မျှရှိပါ၏လော"ဟုဆို၏။ ထိုအခါ မယ်တော်သည် "ချစ်သား။ အလိုရှိတိုင်း အလှူပေးလော့"ဟု ဆန့်သောလက်အနီး၌ အသပြာ ၁၀၀၀ ထုပ်ကိုထား၏။

[၄ သင်္ချေနှင့် ကမ္ဘာ ၁ သိန်း ကာလပတ်လုံး သဗ္ဗညုတဉာဏ်အလို့ငှာ ကိုယ်,နှုတ်,နှလုံးဖြင့် ပါရမီ ၁၀ ပါးကိုဖြည့်လျက် ဘဝများစွာ ကျင်လည်တော်မူရသော ဘုရားလောင်းသည် ဤဝေဿန္တရာဇာတ်တော်, ဥမင်္ဂဇာတ်တော်, အဆုံးစွန်သောကိုယ်တော် ဤ ၃ ဖြာသောဘဝ၌သာလျှင် ဖွားဦးစက စကားပြောဟော တော်မူ၏။]

ဘုရားလောင်းကိုဖွားမြင်ပြီးသော် မင်းကြီးသည် နန်းတော်သို့ ဝင်လေ၏။ ဤသို့ ဘုရားလောင်းသည် ကုန်သည်တို့သွားရာ ခရီးအစွန်း၌ ဖွားသောကြောင့် အမည်မည့်အံ့သောနေ့၌ ဘုရားလောင်းအား 'ဝေဿန္တရာ' ဟူသောအမည်ကို မှည့်ကုန်၏။

[ဤ'ဝေဿန္တရာ'ဟူသော အမည်သည် အမိမျိုးမှဖြစ်သော အမည်, အဖအမျိုးမှာ ဖြစ်သော အမည်, အကြောင်းမရှိဘဲ သာမညပညတ်အပ်သော ရုဠှီအမည် မဟုတ်။ ကုန်သည်တို့သွားရာခရီးကို လွန်မြောက်ခြင်း တည်းဟူသော အကြောင်းကိုစွဲ၍ဖြစ်သော နေမိတ္တိက အနွတ္ထ အမည်တည်း။ ထို့ကြောင့် ဘဒ္ဒလက္ခဏာ၌ လိမ္မာကုန်သောဆရာမြတ်တို့သည် 'ဝေဿံ တရတီတိ ဝေဿန္တရော၊ ရာဇာ'ဟု ဝိဂြိုဟ်ပြုတော်မူကုန်၏။ ယော ရာဇာ၊ အကြင်မင်းသည်။။ ဝေဿံ၊ ကုန်သည်တို့သွားရာခရီးကို။ တရတိ၊ ဖွားသောအားဖြင့် လွန်မြောက်တတ်၏။ ဣတိ၊ ထိုသို့ ကုန်သည်တို့သွားရာခရီးကို လွန်မြောက်တတ်သောသတ္တိကြောင့် ။ သော ရာဇာ၊ ထိုမင်းသည်။ ဝေဿန္တရော၊ ဝေဿန္တရာမည်၏။]

ထို ဝေဿန္တရာမင်းကို ဖွားမြင်သည့်နေ့၌ပင်လျှင် ကောင်းကင်သို့သွားတတ်သော ဥပေါသထဆင်မသည် ဆင်၏ကြန်အင်လက္ခဏာ မင်္ဂလာအပေါင်း အကောင်းဟူသမျှစုံလင်စွာ ငွေစင်ပြားဖြင့်ဖုံးသကဲ့သို့ ကိုယ်လုံးဖြူသော ဆင်ပေါက်ကိုဆောင်ယူခဲ့၍ မင်္ဂလာရှိသောဆင်တင်းကုပ်၌ ထားပြီးလျှင် မိမိနေရာဟိမဝန္တာ[၅၁] ဆင်မ ပြန်သွားလေ၏။ ထိုဆင်ဖြူပေါက်ငယ်အား ဘုရားလောင်း၏ ကောင်းမြတ်သောအထောက်အပံ့ ဖြစ်လာသောကြောင့် 'ပစ္စယ'ဟူသောအမည်ကို ပေး၏။

သိဝိဋ္ဌည်းမင်းကြီးသည် သားတော်ဝေဿန္တရာမင်းသားအား ယုယထိန်းသိမ်းစိမ့်သောငှာ နို့ထိန်း ရွေးချယ်သည်ကား အလွန်မြင့်သော မိန်းမ, အလွန်နိမ့်သော မိန်းမ, အလွန်ဖြူသော မိန်းမ, အလွန်ညိုသော

မိန်းမ, နှာခေါင်းရှည်သော မိန်းမ, နှာတံပိစပ်ရှိသော မိန်းမ, ကုတ်ဟီးချောင်းဆိုးနာ စသည်စွဲသော မိန်းမ, သားမြတ်ရှည်လွန်းသော မိန်းမ, သားမြတ်တိုလွန်းသော မိန်းမ ဤသို့ဆိုအပ်ခဲ့ပြီးသော အပြစ်မကင်းသော မိန်းမတို့ကိုပယ်၍ နုနယ်ကျစ်လစ် အပြစ်ကင်းလွတ်သဖြင့် ကောင်းမြတ်ချိုမြိန်သောနို့ရည်နှင့် ပြည့်စုံလျက် ညံ့သက်သာယာစွာ မွေးမြူထိန်းယနိုင်သောအမျိုးသမီး ၂ ရာ ၄ ကျိပ် တို့ကို ရွေးချယ်ကောက်ယူ၍ နို့ထိန်းထား၏။

[ပါဠိတော်၌ 'စတုသဋ္ဌိဓာတိယော' ဟုရှိသည်။ စတုသဒ္ဒါသည် ၄ ခုကို ဟော၏။ သဋ္ဌိသင်္ချာသဒ္ဒါသည် ၆၀ ကို ဟော၏။ ထို သင်္ချာသဒ္ဒါကို မိသက သင်္ချာနည်းအားဖြင့် ၆ ကျိပ် ၄ ယောက်ဟု ပေါင်းနှော၍ မယူအပ်။ တစ်နေ့နှင့် တစ်ညဉ့်လျှင် နာရီ ၆၀ တစ်နာရီလျှင် ၄ ယောက်ထိန်းသဖြင့် တစ်နေ့နှင့် တစ်ညဉ့် အဖို့တွင် ၄ ယောက်စီအလှည့်ပေါင်း ၆၀ ဖြစ်သောကြောင့် ဂုဏသင်္ချာနည်းအားဖြင့် ၆၀ ကို ၄ ခုနှင့်မြှောက်၍ ၂ ရာ ၄ ကျိပ် ဟု ယူအပ်၏။ တစ်နာရီကို ၄ ယောက်ထိန်းသည်တွင် တစ်ယောက်ကား ရေချိုးခြင်းဖြင့် ထိန်း၏။ တစ်ယောက်ကား နံ့သာလိမ်းခြင်း, တန်ဆာဆင်ခြင်းဖြင့် ထိန်း၏။ တစ်ယောက်ကား ယပ်လေခတ်ခြင်း, သတို့သားငယ်ကို ရွှင်မြူးစေခြင်းဖြင့် ထိန်း၏။ တစ်ယောက်ကား ချီပိုးခြင်း, နို့တိုက်ခြင်းဖြင့် ထိန်း၏။]

အမတ် ၆ သောင်းတို့၏အိမ်၌လည်း တစ်ယောက်စီ ဖွားမြင်ကြကုန်၏။ ထို အမတ်တို့၏သား ဖွားဖက်တော် ၆ သောင်း အရေအတွက်ရှိသော သူငယ်တို့အားလည်း မိမိတို့နှင့်တန်သော အဝတ်တန်ဆာ နို့ထိန်းအစောင့်ရှောက်ကို ပေးစေ၏။ ဝေဿန္တရာမင်းသားသည် ၆ သောင်းသော ဖွားဖက်တော်တို့နှင့်တကွ များစွာသောအခြံအရံနှင့် တင့်တယ်စွာဖြစ်၏။ သိဥ္စည်းမင်းကြီးသည် သားတော် ဝေဿန္တရာမင်းသားအား အဖိုး ၁ သိန်းထိုက်သော သတို့သားတို့ဆင်ရန်တန်ဆာကို ကောင်းစွာစီရင်စေ၍ ပေး၏။

ဝေဿန္တရာမင်းသားသည် ၄ နှစ်, ၅ နှစ် မြောက်သောအခါ ထို အဖိုး ၁ သိန်းထိုက်သော လည်ရွဲတန်ဆာကိုချွတ်၍ အထိန်းတို့အား ပေး၏။ အထိန်းတော်တို့သည် မင်းသားပေးသည်ကို မယူမနေဝံ့။ ခမည်းတော်ကို ကြောက်၍လည်း ပိုင်ပိုင် မယူဝံ့သဖြင့် မိမိတို့လက်သို့ရောက်ပြီးမှ "အရှင့်သားအား အကျွန်ုပ်တို့ ဆက်ပြန်ပါအံ့"ဟု ပြန်၍ ပေးဆက်၏။ ထိုသို့ အထိန်းတော်တို့ ပြန်၍ဆက်သော်လည်း မင်းသား မယူလိုသောကြောင့် အကြောင်းကို မင်းကြီးအား ကြားလျှောက်ကုန်၏။

မင်းကြီးကြားလျှင် "သင်တို့အား ငါ့သားတော်ပေးသည်မှန်မူ 'သူငယ် မလိမ္မာပေးသည်ဖြစ်၍ မပေးပိုင်သောကြောင့် မယူပိုင်ချေ'ဟု နှလုံးမရှိကြနှင့်။ ငါ့သားတော်၏ပေးခြင်းသည် ငါပေးသည်နှင့်အတူ ကောင်းသောပေးခြင်းပင် ဖြစ်စေ"ဟုဆို၏ တစ်ဖန် အသစ်ဖြစ်သော လည်ရွဲတန်ဆာကို မင်းသားအားပေး၍ ဆင်ပြန်စေ၏။ ဝေဿန္တရာမင်းသားသည်လည်း ထိုလည်ရွဲတန်ဆာကို တစ်ဖန် အထိန်းတော်တို့အား ပေးပြန်၏။ ဤသို့ သူငယ်အဖြစ်ကပင်လျှင် ဘုရားလောင်းသည် အထိန်းတော်တို့အား ၉ ကြိမ်တိုင်အောင် ပေး၏။

၈ နှစ်မြောက်သောအခါ၌ မြတ်သောရွှေနန်းပြာသာဒ်ထက်၌ ကျက်သရေရှိသောစက်မွေ့ရာ ပေါ်တွင်နေလျက် ဤသို့ အကြံဖြစ်၏။

'ငါသည် ယခု အပဖြစ်သောအလှူကိုသာ လှူရ၏။ ထိုအပဖြစ်သောအလှူဖြင့် ငါ၏စိတ်ကို နှစ်သက်စေခြင်းငှာ မတတ်နိုင်သေး။ အတွင်းအလှူကို လှူရသော်ကား ငါ၏စိတ်သည် နှစ်သက်ခြင်းဖြစ်အံ့။ တစ်စုံတစ်ယောက်သောသူသည် ငါ၏နှလုံးသားကို တောင်းလာအံ့။ ငါသည် ရင်ကိုခွဲ၍ ထိုသူအား ပေးအံ့သတည်း။ ငါ၏မျက်စိအစုံကို အကယ်၍ တောင်းအံ့။ အစုံသောမျက်စိကို ထုတ်၍ ပေးအံ့။ အကယ်၍ ကိုယ်၏အသား

တောင်းအံ့။ ဓားငယ်ဖြင့် အသားကိုလှီးဖြတ်၍ ပေးအံ့။ တစ်စုံတစ်ယောက်သော သူသည် ငါ့ကို ကျွန်ပြုလုပ်လိုသည်ဟု ဆိုအံ့။ ထိုသူအား 'ကျွန်ရလုပ်လော့'ဟု ဆို၍ ကျွန်၏ အဖြစ်ဖြင့် ငါ့ကို ထိုသူအား ပေးအံ့'ဟု အကြံဖြစ်၏။

ဤသို့ အကြံဖြစ်လတ်သော် ဘုရားလောင်း၏ပါရမီတော်ကြောင့် ၂ သိန်း ၄ သောင်း အထုရှိသော ဤမဟာပထဝီမြေကြီးသည် အမုန်ယစ်သောဆင်ပေါက်ကဲ့သို့ သည်းစွာသောအသံကိုပြုလျက် တုန်လှုပ်၏။ ၈ သောင်း ၄ ထောင် အမြင့်ဆောင်သော မြင်းမိုရ်တောင်မင်းသည်လည်း မီးအုံးသောကြိမ်ညွန့်ကဲ့သို့ ပျောင်းညွတ်ခွေပျော့လျက် စေတုတ္တရာပြည်သို့ ရှေးရှုတည်လေ၏။မြေလှုပ်သောအသံဖြင့် ကောင်းကင်ယံအလုံး ထစ်ချုန်းရိုက်ကြိုးလျက် မိုးကြီးသည်းထန်စွာ ရွာ၏။ မိုးအခါမဟုတ်ဘဲ တိမ်ပုပ်တိမ်ထပ်ကြားမှ လျှပ်စစ်နွယ်တို့သည်လည်း အသွယ်သွယ်ယှက်သန်းလျက် တက်ကုန်၏။ မဟာသမုဒ္ဒရာသည်လည်း လှိုင်းတံပိုးထသဖြင့် ချောက်ချား၏။ သိကြားမင်းသည်လည်း ရွှင်လန်းခြင်းမကရွှင်လန်းလျက် လက်ပန်းပေါက်ခတ်၏။ ၁၅ ရှာ ဗြဟ္မာအပေါင်းတို့သည်လည်း ကောင်းချီးပေးကြကုန်၏။လူ့ပြည်မှသည် အကနိဋ္ဌဘုံတိုင်အောင် အုတ်အုတ်ကျက်ကျက် တစ်ခဲနက်သောအသံ ဖြစ်၏။ [ဤကား ရှေးဦးစွာသော မြေလှုပ်ခြင်းတည်း။]

ဘုရားလောင်းသည် ၁၆ နှစ်မြောက်လတ်သော် ၁၈ ပါးသောအတတ်တို့ကို အပြီးသို့ရောက်စေ၏။ ခမည်းတော်သိဥ္စည်းမင်းသည် အတတ်မျိုးအပေါင်းတတ်ပြီးလျှင် ၁၆ နှစ်အရွယ်ရောက်သော သားတော်မင်းသားအား ထီးနန်းနှင်းလိုသည်ဖြစ်၍၊ ဘုရားလောင်းမယ်တော် ဖုဿတီဒေဝီမိဖုရားနှင့် တိုင်ပင်ကြလျက် ဖုဿတီဒေဝီမိဖုရားကြီးမောင်တော် မဒ္ဒရာဇ်မင်း၏သမီးတော်သည် အရည်အဆင်းဖြင့် မင်းယောကျ်ားတို့ စိတ်ကို ယိုဖိတ်ညွတ်နူး မူးယစ်အောင်လှသောကြောင့် 'မဒ္ဒီမင်းသမီး' ဟု အမည်တွင်၏။ ထိုဘုရားလောင်း ဦးရီးတော်သမီး မဒ္ဒီမင်းသမီးကို ကြီးစွာသော မင်းခမ်းမင်းနားဖြင့် စေတုတ္တရာပြည်သို့ဆောင်ယူစေ၍ သားတော် ဝေဿန္တရာမင်းသားနှင့် ထိမ်းမြားမင်္ဂလာဆောင်ပြီးလျှင်၊ ခမည်းတော် သိဥ္စည်းမင်းသည် သားတော်မင်းသားအား ထီးနန်းနှင့်တကွ တစ်ပြည်လုံးကိုနှင်း၍ မင်း၏အဖြစ်ကို အဘိသိက်မြှောက်သွန်း၏။ မဒ္ဒီမင်းသမီးအားလည်း ၁ သောင်း ၆ ထောင်သော မောင်းမအပေါင်းခြံရံလျက် မိဖုရားကြီးအရာ၌ ထား၏။

ဝေဿန္တရာမင်းကြီးသည် ရွှေထီးရွှေနန်း သိမ်းမြန်းစိုးစံ ဘိသိက်ခံသည်မှစ၍ နေ့တိုင်းနေ့တိုင်း ၆ သိန်း, ၆ သိန်းသောဥစ္စာတို့ကို ထုတ်စွန့်လျက် ကြီးစွာသောအလှူကို ဖြစ်စေ၏။

အခါတစ်ပါး မဒ္ဒီဒေဝီမိဖုရားကြီးသည် ကိုယ်ဝန်ဆောင်၍ ၁၀ လမြောက်လတ်သော် သားတော်ကို ဖွားမြင်၏။ ထိုသတို့သားကို ရွှေကွန်ရက်ဖြင့် ခံကုန်၏။ ထို ရွှေကွန်ရက်ဖြင့်ခံသောကြောင့် အမည်မှည့်အံ့သောနေ့၌ 'ဇာလီ'မင်းသားဟု အမည်မှည့်၏။ ဇာလီမင်းသား ခြေဖြင့်သွားနိုင်သောအခါ သမီးငယ်တော်ကို ဖွားမြင်ပြန်၏။ ထိုသမီးတော်ကို သစ်နက်ရေပုဆိုးဖြင့် ခံကုန်၏။ ထို သစ်နက်ရေဖြင့်ခံသောကြောင့် အမည်မှည့်အံ့သောနေ့၌ 'ကဏှာဇိန်'ဟု အမည်မှည့်ကုန်၏။

ဘုရားလောင်းသည် ၁ လလျှင် ၆ ကြိမ်, ၆ ကြိမ် ဆင်ဖြူတော်ပစ္စယကိုစီးလျက် အလှူဇရပ် ၆ ဆောင်တို့ကို လှည့်လည်ကြည့်ရှုတော်မူ၏။

ထိုအခါ ကလိင်္ဂရာဇ်ပြည်၌ မိုးခေါင်သည်ဖြစ်၍ မွတ်သိပ်ခြင်း ဒုဗ္ဘိက္ခန္တရကပ်ဘေးဖြစ်၍ လူတို့သည် မိမိတို့ အသက်ကိုရှင်စေခြင်းငှာ တစ်ဦးကိုတစ်ဦး အနိုင်အထက် လုယက်ဖျက်ဆီးကြသဖြင့် ခိုးသားဓားပြ ထူထပ်ကုန်၏။

တောအရပ်က ပြန်ရောက်လာ၍ ညဥ့်မိုးချုပ်မှသာလျှင် အကျွန်ုပ်တို့ သားအမိတစ်စုသည် အညီအညွတ် သစ်သီးသစ်မြစ်တို့ကို စားရကုန်၏။ နေ့အခါ၌မူကား မစားရကုန်။ အကျွန်ုပ်တို့မိခင်သည်လည်း သစ်သီး,သစ်မြစ် ဆောင်ယူရာမိုးရဖန်များသဖြင့် ပင်ပန်းသည်ဖြစ်၍ ကြုံသောကိုယ် ရှိ၏။ ဖျော့တော့^၁^သောအဆင်း ရှိ၏။ ချမ်းသာလှစွာသော မင်းသမီးဖြစ်လျက် နေပူတဲလှပ်တို့ခတ်ခြင်းကြောင့် လက်ဖြင့်ဆုပ်နယ်အပ်သော ကြာညိုပွင့်ကဲ့သို့ ညှိုးသမ်းသောကိုယ် ရှိ၏။ သစ်, ကျား, ခြသေ့်, ဝံ, အောင်း,ကြံ့, ပြောင် အစရှိသော သားရဲတို့ဖြင့် ပြွမ်းလျက် တောနက်ကြီးထဲ၌ ချုံအောက် သစ်ပင်သစ်ခက်ကြားတို့၌ လျှိုသွားရသဖြင့် သစ်ခက် ချုံနွယ်ငြိ၍ မိခင်၏ဆံပင်တို့သည်လည်း ကျွတ်ပြတ်ခြင်းကြောင့် နည်းပါးကုန်၏။ ရင်, လက်ရုံး, လက်ကတီး, လည်ကုပ်, မျက်နှာတို့၌လည်း မြေမှုန့်အလိမ်းလိမ်းကပ်ကုန်၏။ ဆံကျစ်ထုံးလျက် သစ်နက်ရေကိုဝတ်၍ မြေ၌သာလျှင် အိပ်ရ၏။ ဤသို့ ငြိုငြင်ဆင်းရဲလှစွာ အစာရှာ၍ မွေးကျွေးပေသောမိခင်အား အကျွန်ုပ် ရှိခိုးပါ၏"ဟုလျှောက်၏။

ထိုဇာလီမင်းသားသည် မိခင်၏ ဆင်းရဲသောအဖြစ်ကို ကြားပြီးလျှင်၊ မယ်တော်,ခမည်းတော်တို့ကို မြို့သို့ ခေါ်ပါမည့်အကြောင်းကို တိုက်တွန်းတောင်းပန်လိုသည်ဖြစ်၍ ဤသို့ လျှောက်ပြန်၏။

"ဘိုးတော်မင်းကြီး။ ဤလူ့ပြည်၌ လူတို့သည် မိမိတို့၏ရင်၌ဖြစ်သော သားသမီးတို့ကို ချစ်မြတ်နိုး ကြကုန်၏။ ဘိုးတော်မင်းကြီးကား သားသမီးတို့ကို မချစ်မခင်ယောင်တကား"ဟု ဆို၏။

ထိုစကားကိုကြားလျှင် သိဗ္ဗည်းမင်းကြီးသည် နောင်တနလုံး ယူကျုံးမရရှိ၍ ပြုမိသောအပြစ်ကို မြေးတော် ဇာလီမင်းသားအား ဤသို့ဆို၏။

"ငါ၏ချစ်မြေး ဇာလီ။ ငါ၏ရင်သွေး,ငါမြေးတော်တို့၏ဖခင်ဖြစ်သော ဝေဿန္တရာကို အပြစ်မရှိဘဲလျက် သိဝိရာဇ်ပြည်သူတို့ စကားကို လိုက်နာ၍ ပြည်မှ နှင်ထုတ်မိချေ၏။ ထိုသို့နှင်ထုတ်ခြင်းသည် အကြောင်းအရာ မသင့်သည်သာ ဖြစ်ပေ၏။ ပြည်သူတို့စကားကြောင့် ငါ၌ လည်းကောင်း, ငါ့သားတော်၌ လည်းကောင်း များစွာသော စီးပွားချမ်းသာတို့သည် ယုတ်လျော့ပျက်စီးခြင်းသို့ ရောက်ချေပြီ။ ချစ်မြေးဇာလီ။ သားတော်ကို နှင်ထုတ်ခြင်း၌ အပြစ်ကို ဘိုးတော် မြင်အပ်ပြီ။ ဤပြည်တော်၌ အလုံးစုံသော မင်း၏စည်းစိမ်ကို သင်တို့ဖခင်အား ငါပေးအံ့။ သင်တို့ဖခင်သည် ရှေးကအတိုင်း မင်းအဖြစ်ဖြင့် ပြည်သူပြည်သားလူအပေါင်းတို့ကို ဆုံးမစေလော့"ဟုဆိုတော်မူ၏။ ထိုစကားကိုကြားလျှင် ဇာလီမင်းသားသည်

"ဘိုးတော်မင်းကြီး။ အကျွန်ုပ်တို့ခေါ်ကာမျှဖြင့် သိဝိရာဇ်တိုင်းကြီးသခင်ဖြစ်သော အကျွန်ုပ်တို့ ခမည်းတော်သည် ဤအရပ်သို့ ကြွတော်မမူရာ။ ဘိုးတော်မင်းကြီး ကိုယ်တိုင် သွား၍ ညှိုးနွမ်းပြီးသောသစ်ပင်ကို သည်းထန်စွာသောမိုးသည် လန်းလန်းရွှင်အောင် ရွာသွန်းဘိသကဲ့သို့ သားတော်မင်းကြီးကို များစွာသော မင်းစည်းစိမ်ဖြင့် အဘိသိက်သွန်းတော်မူပါလော့"ဟု လျှောက်၏။ ထိုအခါ သိဗ္ဗည်းမင်းကြီးသည် စစ်သူကြီး အမတ်ကိုခေါ်၍ ဤသို့ ဆို၏။

"အမတ်စစ်သူကြီး။ ယခု သားတော်ဝေဿန္တရာကို မင်းစည်းစိမ်ဖြင့် အဘိသိက်သွန်းအံ့သောငှာ ဝင်္ကပါတောင်သို့သွားအံ့။ ဆင်, မြင်း, ရထား, ခြေသည်သူရဲ, ပုရောဟိတ်ပုဏ္ဏားမှစ၍ အလုံးစုံသော စစ်အင်္ဂါကို လည်းကောင်း၊ မင်းလမ်းခရီးကို လည်းကောင်း တင့်တယ်လျောက်ပတ်အောင် စီရင်။

"ငါ၏သားတော်နှင့် ဖွားဖက်ဖြစ်သော အမတ် ၆ သောင်းတို့ကိုလည်း အထူးထူးသော စစ်ဝတ် စစ်တန်ဆာတို့ကိုဝတ်ဆင်လျက် ငါ၏ထံသို့ စည်းဝေးကြစေ။

"ထိုမှတစ်ပါးသော သူရဲတို့ကိုလည်း မိမိတို့နှင့်ထိုက်တန်ရာ အချို့သောသူရဲကို အဆင်းညိုသောပုဆိုး, အင်္ကျီ,မိန်ချပ်တန်ဆာတို့ကို ဝတ်ဆင်စေ။ အချို့ကို အရွှေ,အချို့ကို အနီ, အချို့ကိုအဖြူ ဝတ်ဆင်စေ။

"နီစွာသော သင်းကျစ်,နဖူးစည်း, ဦးရစ်ခေါင်းပေါင်း ပေါင်းစေလျက် အထူးထူးသောတန်ဆာတို့ဖြင့် တန်ဆာဆင်၍၊ ဟိမဝန္တာဝယ် အထူးထူးသော သစ်ပင်တို့ဖြင့် ဖုံးလွှမ်းလျက် နတ်ဘီလူးတို့၏နေရာဖြစ်သော ဂန္ဓမာဒနအမည်ရှိသောတောင်သည် အထူးထူးသော နတ်ဆေးအမွှေးအထုံပင်တို့ဖြင့် အရပ် ၈ မျက်နှာ၌ နေ့ညဥ့်ပတ်လုံး တောက်ပလျက်လျှင်သကဲ့သို့ အလုံးစုံသော မှူးမတ်,စစ်သည်သူရဲတို့ဖြင့် စည်းဝေးသည်ဖြစ်၍၊ ငါ၏နေပြည်တော်သည် အရပ် ၈ မျက်နှာ၌ တောက်ပလျက် လျှင်သည်ဖြစ်စေ။

"ထိုမှတစ်ပါး ရွှေကြိုး,ရွှေကဆင်လျက် မာတင်္ဂမျိုးဖြစ်သော ငါ၏ဆင်တော် ၁ သောင်း ၄ ထောင် တို့ကိုလည်း လုံမ, ချွန်းတောင်းလက်စွဲလျက် ဆင်စီးသူရဲနှင့်တကွ စည်းဝေးစေ။

"ထိုမှတစ်ပါးလည်း အာဇာနည် သိန္ဓောမျိုး[၂၄]ဖြစ်၍ လေ၏လျင်ခြင်းကဲ့သို့ လျင်ခြင်းရှိသော ၁ သောင်း ၄ ထောင် ကုန်သော မြင်းတို့ကို မြား,လေး လက်နက်စွဲလျက် မြင်းစီးသူရဲနှင့်ဟကွ အညီအညွတ် ယခုစည်းဝေးစေ။

"ထိုမှတစ်ပါးလည်း သံဖြင့်ကွပ်အပ်သည်ဖြစ်၍ ကောင်းစွာအကွပ်ရှိလျက် လက်ရုံး,နံရံ စသည်တို့၌ ရွှေ,ငွေစသည်တို့ဖြင့် ဆန်းကြယ်လှစွာသော ၁ သောင်း ၄ ထောင် ကုန်သောရထားတို့ကို ရထားဦး၌ တံခွန်အောင်လံစိုက်၍၊ ရထားတို့၌ ဒိုင်း,လွှား,ကာချပ် စွဲကုန်သော သူရဲ၊ တစ်ချောင်းသောသားမြီးဖျားကို မြင်လောက်ရာကနေ၍ ထိအောင်ပစ်ခြင်းငှာစွမ်းနိုင်သော ဝါဠဝေဓိ[၂၅]လေးသည်ကျော်တို့ကို လည်းကောင်း စီရင်စေလျက် ယခု စည်းဝေးစေ"ဟု အလုံးစုံသောစစ်အင်္ဂါတို့ကို စီရင်စေ၏။ ထိုမှတစ်ပါးလည်း သိဂ္ဂည်းမင်းကြီးသည် စေတုတ္တရာပြည်မှ ဝင်္ကပါတောင်သို့တိုင်အောင် အခွန့်ယူဇနာ ၆၀ ကွာသော ခရီးကို အကျယ် ၈ ဥသဘမျှ[၂၆] လောက် သုတ်သင်ညီညွတ် ရှင်းလင်းခင်းကျင်း ဆင်ယင်စိမ့်သောငှာ ဤသို့ အမတ်တို့ကို ဆိုတော်မူပြန်၏။

"အမတ်တို့။ အကြင်ခရီးဖြင့် ငါ့သားဝေဿန္တရာမင်းသည် လာလတ္တံ့။ ထို သားတော်လာရာဖြစ်သော ခရီးကို အကျယ် ၈ ဥသဘ အတိုင်းအရှည်မျှ သစ်ပင်,ချုံနွယ်တို့ကို ရှင်းလင်းသုတ်သင်၍ မညီညွတ်သော မြေတို့ကိုလည်း ညီညွတ်အောင်ညှိပြီးလျှင် ဆိုင်ရာဆိုင်ရာ မြို့,ရွာ,နိဂုံးဇနပုဒ်သားတို့ကို သဲဖြူခင်းခြင်း, ပန်းပေါက်ပေါက်နံ့သာပျောင်းတို့ဖြင့် ကြဲဖြန့်ခြင်း, ရာဇမတ် လက်ရန်းကာခြင်း၊ ငှက်ပျောပင်, ကြံပင်စိုက်ခြင်း၊ ပုဆိုးဖြူ စိုက်လွှားခြင်း၊ အထူးထူးအပြားပြား များစွာသော ပန်းဆိုင်း,ရတနာဆိုင်းဆွဲခြင်း အစရှိသော ခရီး၌ ပြုရာဆောင်ရာ စသည်တို့ကို မကျန်မကြွင်းရအောင် စီရင်ခင်းကျင်း၍ တန်ဆာဆင်စေ။

"ငါ၏သားတော် လာလတ္တံ့သောခရီးအနား မြို့တံခါးတို့၌လည်း သေအိုး,အရက်အိုး အရေအတွက် ၁၀၀ စီ တည်ထားစေ။

"ထမင်း,အဖျော်,ငါး,အမဲဟင်းလျာ,မုန့်ပေါင်း,မုန့်လက်ကောက် အစရှိသော အလုံးစုံသော ခဲဖွယ်ဘောဇဉ် ဟူသမျှတို့ကို ခရီး ၂ မြှောင်၌ ဈေးဆိုင်တည်ထား ရောင်းဝယ်စားသောက်ကြစေ။

"ပင်ပန်းစိုးရိမ်ခြင်း ပြင်းစွာရှိသော်လည်း မြင်ရကြားရသဖြင့် စိုးရိမ်ခပ်သိမ်း ငြိမ်းစေခြင်းငှာစွမ်းနိုင်သော ပွဲသဘင်များသည် လည်းကောင်း၊ ထိုမှတစ်ပါးလည်း မျက်လှည့်သည်, ကျွမ်းသမား, တိုင်တက်, ကွင်းလျှိုး ကြိုးတန်းလျှောက်, သီချင်းဆို၍ ကတတ်သောသူ, လက်ခုပ်တီး,အိုးစည်တီး,သဘင်သည်တို့ကိုလည်း အလုံးစုံသော တူရိယာ[၂၇]ဘဏ္ဍာမျိုးတို့ဖြင့် တီးမှုတ်ကခုန် မြူးထူးရွှင်လန်းစေ။

"ရတု,ရကန်,သာချင်း,အဲအံ,တေးတျာ အသာအယာသီတတ်ကုန်သော သူတို့ကိုလည်း သီစေ။

"ပလွေ့, ခရုသင်း, ဒုံမင်း, ပတ်သာ တီးမှုတ်တတ်ကုန်သောသူတို့ကိုလည်း တီးမှုတ်စေ။

"စည်ကြီး, မုရိုးစည်,ထက်စည်,နှဲ,ခရာ,သံလွင်, ပတ်သာတို့ဖြင့် တေးတျာခံ၍ တီးမှုတ်စေ။ စောင်းငြင်းကြိုး ၃ချောင်းမှတ်လျက် ဂေါဠပဟုဆိုအပ်သော မိကျောင်းစောင်း, စည်းဆုပ်, ပတ်တလား, ပတ်သာတို့ဖြင့် တေးတျာအလိုက် အသံညီစွာ သာယာချိုအေးသော တီးမှုတ်မျိုးတို့ကိုလည်း တီးမှုတ်စေ"

ဤသို့ သိဠည်းမင်းကြီးသည် ခရီးကို တန်ဆာဆင်စေ၏။

ဇူဇကာပုဏ္ဏားသည်ကား မိမိသည် တစ်ကြိမ်တစ်ခါမျှ မတွေ့မကြုံဖူးသောစည်းစိမ်ကြီးကို တွေ့ကြုံခံစားရသဖြင့် အာဟာရအတိုင်းအရှည်ကိုမသိ မွန်မြတ်သောဘောဇဉ်အာဟာရ၌ မရောင့်ရဲနိုင်သည်ဖြစ်၍ လွန်စွာစားခြင်းကြောင့် အစာမကြေနိုင် စားပိုးနှင့်၍ သေလေ၏။

သိဠည်းမင်းကြီးသည် ထိုဇူဇကာပုဏ္ဏားအား ဖုတ်ကြည်းသင်္ဂြိုဟ်ခြင်းကို ပြုပြီးလျှင်၊ "ဤပြည်အတွင်း၌ ဇူဇကာပုဏ္ဏား၏ ဆွေမျိုးပေါက်ဖော် တော်စပ်သသူရှိလျှင် ပုဏ္ဏား၏ဥစ္စာစည်းစိမ်တို့ကို သိမ်းယူလှည့်ကုန်"ဟု စေတုတ္တရာပြည်အလုံးကို စည်လည်စေ၏။ တစ်စုံတစ်ယောက်မျှ ဇူဇကာပုဏ္ဏား၏အဆွေအမျိုးတော်စပ်သသူ မပေါ်မရှိခဲ့လျှင် အရှင်မရှိသောဥစ္စာလည်း မင်းဘဏ္ဍာထိုက်သည် ဖြစ်သောကြောင့် မင်းကြီး သိမ်းယူတော်မူပြန်၏။

သိဠည်းမင်းကြီးသည် အလုံးစုံသော စစ်အင်္ဂါတို့ကို လည်းကောင်း, ခရီးကို လည်းကောင်း စီရင်စေပြီးသော် ဇာလီမင်းသားတို့ရောက်သည့်နေ့မှ ၇ရက်မြောက်သောနေ့၌ ၁၂ ခေါဘိဏီ အတိုင်းအရှည်ရှိသော စစ်သည်ဗိုလ်ပါ, များစွာသော မှူးမတ်အခြံအရံဖြင့် ဇာလီမင်းသားလျှင် ခရီးလမ်းညွှန်ရှိသည်ဖြစ်၍ စေတုတ္တရာပြည်မှ ဝင်္ကပါတောင်သို့ ထွက်လေ၏။

ထိုအခါ ကလိင်္ဂရာဇ်တိုင်းသည် ဆင်ဖြူရောက်သည်မှစ၍ မိုးကောင်းသည် ဖြစ်သောကြောင့် ဝေဿန္တရာမင်းကြီး၏ဆင်ဖြူတော်ပစ္စယကို သိဠည်းမင်းကြီးအား ကလိင်္ဂရာဇ်မင်းက ပို့ဆက်လာစေသည်ဖြစ်၍ စေတုတ္တရာပြည်၌ ရှိနှင့်သတည်း။

သိဠည်းမင်းကြီးသည် 'ဝင်္ကပါတောင်သို့ ထွက်တော်မူမည်' ဟုဆင်ဖြူတော်ပစ္စယကို ကကြိုးတန်ဆာဆင်လျှင်၊ ဆင်ဖြူတော်ပစ္စယသည် 'ယခု အရှင်သခင်ဖြစ်သော ဝေဿန္တရာမင်းကြီးကို ဖူးမြင်ရအံ့တကား'ဟု အလွန်ဝမ်းမြောက်ခြင်းရှိသည်ဖြစ်၍၊ ကြိုးကြာသံနှင့် တူသောအသံဖြင့် ပြင်းစွာမြည်၏။

သိဠည်းမင်းကြီး ထွက်တော်မူသည်ရှိသော် အလုံးစုံသော ဆင်အာဇာနည်, အဿတိုရ်မြင်း[၁၂၈] အပေါင်းတို့၏ မြည်သောအသံ, ရထားသံတို့ဖြင့် ပဲ့တင်ထပ်လျက် အထက်ကောင်းကင်ပြင်အလုံးစုံသည် မြူဖြင့် ဖုံးလွှမ်းသည်သာ ဖြစ်လေ၏။

သိဠည်းမင်းကြီးသည် များစွာသောစစ်သည်ဗိုလ်ပါ ခြံရံလျက် ခရီးအစဉ် အတိုင်းသွားလေသော် တောင်,မြောင်,ချောက်ကြားတို့မှစီးသော မြစ်တို့မှလည်းကောင်း၊ အထူးထူးသော ကြည်းပန်,းရေပန်း, အထူးထူးသော သစ်သီးပင် ပန်းပင်တို့ဖြင့်လည်းကောင်း တန်ဆာဆင်အပ်လျက် သစ်ပင်ဖျား မြစ်နားအိုင်နားတို့၌ အထူးထူးအပြားပြား များလှစွာသောငှက်တို့သည် မောင်နှံမကွာ တစ်ပင်ပျံကူး တစ်ပင်မြူး၍ ကျူးရင့်တွန်မြည် လည်ချင်းယှက်တင် လွန်းကြင်ငှက်တို့ဖြင့် နှလုံးညွှတ်နူးဖွယ်ရှိသော ဟိမဝန္တာသို့ဝင်သွားသဖြင့် စေတုတ္တရာပြည်မှ ယူဇနာ ၆၀ ကွာသောဝင်္ကပါတောင် ဝေဿန္တရာမင်း၏ ကျောင်းသင်္ခမ်းအနီးသို့ ရောက်လေ၏။

## ၁၂။ ဆစ္စတွင်္ယခန်း[၂၉]

သိဋ္ဌည်းမင်းကြီးသည် များစွာသော စစ်သည်ဗိုလ်ပါနှင့်တကွ မုစလိန္ဒအိုင်နားသို့ရောက်လေသော် ဇာလီမင်းသားသည် ထိုအိုင်အနီး၌ သစ်တပ်တဲစခန်းချ၍ ၁ သောင်း ၄ ထောင်ကုန်သောရထားတို့ကို လာခဲ့သော ခရီးလမ်းမသို့ ရှေးရှုထား၏။ သစ်, ကျား, ခြင်္သေ့ စသောသားရဲတို့သွားလေသည့် ခရီးလမ်းဆုံ စသည်တို့၌လည်း ဆင်, မြင်းအစရှိသော စစ်အင်္ဂါတို့ကို အစောင့်အရှောက်ထား၏။ ထို အလုံးစုံသော ၁၂ ခေါဘိဏီရှိသော စစ်သည်ဗိုလ်ပါ,ဆင်, မြင်း, ရထားတို့၏အသံသည် ဟိမဝန္တာတောင်အလုံး ပဲ့တင်ထပ်မျှ အုတ်အုတ်ကျက်ကျက် ဖြစ်၏။

ထိုအခါ ဘုရားလောင်းဝေဿန္တရာသည် ထိုအသံကိုကြားလေသော် 'အကြောင်းအသို့နည်း။ ငါ၏ ရန်သူတို့သည် ခမည်းတော်သိဋ္ဌည်းမင်းကြီးကို သတ်ပြီးလျှင် ယခု ငါ့ကိုသတ်အံ့သောငှာ လာလေသည် မသိ' ဟု သေအံ့သောဘေးမှ ကြောက်သည်ဖြစ်၍ မဒ္ဒီဒေဝီကိုခေါ်ပြီးလျှင် တောင်ထက်သို့ ပြေးတက်ကြ၍၊ တောင်ထိပ်သို့ရောက်သောအခါ စစ်သည်အပေါင်းတို့ကို မျှော်ကြည့်လျက် မဒ္ဒီဒေဝီအား ဤသို့ညွှန်ပြ၏။

"မဒ္ဒီဒေဝီ။ သင် ကြည့်ပါလော့။ ဤတောအုပ်၌ ဆင်သံ, မြင်းသံ အစရှိသောအသံတို့သည် အုတ်အုတ် ကျက်ကျက် ဖြစ်ကုန်၏။ တံခွန်, အောင်လံများတို့သည်လည်း တလျှပ်လျှပ်လွင့်လျက် ထင်ကုန်၏။ အဘယ်မဒ္ဒီ။ သမင်,သား,ငါးတို့ကို မုဆိုးတံငါတို့သည် ပိုက်ကွန်ဖြင့်ဝန်းရံလျက် တွင်း,ချောက်,ထုံးအိုင်တို့၌ချပြီးလျှင် ဆူနိုးရာရာကိုရွေး၍ ထက်လှစွာသောလှံမဖြင့် ထိုးသတ်ဘိသကဲ့သို့ ငါတို့ကိုလည်း ဤစစ်သည်တို့သည် သတ်ယောင်တကား။ အဘယ်မဒ္ဒီ။ ကိုယ့်စစ်သည်ဖြစ်မည်,သူ့စစ်သည်ဖြစ်မည်ကို သင် ရှုပါလော့။ မင်းစည်းစိမ်ကို ရှုတ်ချ၍ ပြည်မှနှင်ထုတ်သဖြင့် ဆင်းရဲစွာသောအရပ်၌နေရသော ငါတို့ကို အဘယ့်ကြောင့် သတ်ညှဉ်းဆဲလို ဘိသနည်း"ဟု သေအံ့သောဘေးမှ ကြောက်သည်ဖြစ်၍ ငိုကြွေး၏။

မဒ္ဒီဒေဝီသည် ဘုရားလောင်း၏စကားကိုကြားလျှင် 'သူ့စစ်သည်လော, ငါတို့စစ်သည်လော'ဟု မျှော်ရှုလတ်သော်၊ 'ငါတို့စစ်သည်ပင် ဖြစ်ရာသည်'ဟု ဆင်ခြင်၍၊ မင်းကြီးအား ဤသို့ နှစ်သိမ့်စေ၏။

"အရှင်မင်းကြီး။ မြက်မှိုက်စသည်ဖြင့် ညှိအပ်သောမီးသည် အပြောကျယ်စွာသောမဟာသမုဒ္ဒရာကို ပူလောင်စိမ့်သောငှာ မတတ်နိုင်သကဲ့သို့ အရှင်မင်းကြီးကိုလည်း ရန်သူတို့သည် နှိပ်စက်ခြင်းငှာမတတ်နိုင်ရာ။ အကြောင်းသော်တစ်မူကား အရှင်မင်းကြီးအား သိကြားပေးခဲ့သော ဆု ၈ ပါးကို ဆင်ခြင်တော်မူလော့။ သိကြားမင်းသည် 'အရှင်မင်းကြီးအား ခမည်းတော်သိဋ္ဌည်းမင်းကြီးသည် မကြာမြင့်မီပင်လျှင် သင်မင်းကြီးကို မင်းစည်းစိမ်ဖြင့်နှင်း၍ ပြည်သို့ဆောင်ယူလာလတ္တံ့'ဟု ဆိုအပ်သည် မဟုတ်လော။ ထို သိကြားမင်း၏ စကားနှင့် ညီလျှင် ဤစစ်သည် အပေါင်းတို့ကြောင့် ယခု အကျွန်ုပ်တို့ ချမ်းသာရာရှိလာလတ္တံ့"ဟု နှစ်သိမ့်စေ၏။

ထိုစကားကိုကြားလျှင် ဝေဿန္တရာမင်းကြီးသည် အတန်ငယ်သက်သာရာရ၍ မဒ္ဒီဒေဝီနှင့်အတူပင်လျှင် တောင်မှဆင်းသက်ခဲ့သဖြင့် ကျောင်းသင်္ခမ်းတံခါးဝတွင် ခင်းအပ်သောကျောက်ဖျာအပြင်၌ ရွှေဆင်းတုကဲ့သို့ ငြိမ်သက်စွာလျှင် "ငါတို့ ရသေ့ရဟန်းမည်သည်ကို အဘယ်သို့ သူတစ်ပါး ပြစ်မှားအံ့နည်း"ဟု သတိဝီရိယကို ဖြစ်စေ၍ နေတော်မူ၏။ မဒ္ဒီဒေဝီသည်လည်း မိမိအိပ်ရာတိုက် တံခါးဝ၌ ငြိမ်သက်စွာနေ၏။

ထိုခဏ၌ သိဋ္ဌည်းမင်းကြီးသည် ဖုသတီဒေဝီမိဖုရားကြီးကို ခေါ်တော်မူ၍၊

"အဘယ်ဖုသတီ။ ငါတို့သည် တစ်ပြိုင်နက်သွားကြသည်ရှိသော် ငါတို့ကြောင့် ကြောက်လန့်စိုးရိမ်ခြင်း ဖြစ်ရာ၏။ ထို့ကြောင့် ငါသည် ရှေးဦးစွာ သားတော်အထံသို့သွားဦး၍ သားတော်အား ဝမ်းမြောက်ခြင်းကို ဖြစ်စေအံ့။သင်သည် အတန်ငယ်ကြာမှ အခြွေအရံနှင့်တကွ လာခဲ့လော့။ထို့နောက် အတန်ငယ်ကြာမှ မြေးတော်ဇာလီကို , ထို့နောက် အတန်ငယ်ကြာမှ မြေးတော်ကဏှာဇိနကို ဤသို့ တစ်ယောက်စီ အစဉ်အတိုင်း မိမိတို့အခြွေအရံနှင့် လာလတ်ကုန်လော့"ဟု ဆိုပြီးလျှင်၊ တစ်ပေါင်းတည်း သွားအံ့ဟု ပြင်ဆင်ပြီးသောအစီအရင်ကို ဖျက်၍ ရထားကို တစ်ဖန် သစ်တပ်တွင်းသို့ ပြန်စေသဖြင့် ဆင်, မြင်း, ဗိုလ်ပါ, များစွာသော စစ်သည်တို့ကိုလည်း အန္တရာယ်ကိုတားမြစ်စိမ့်သောငှာ အသီးသီး သင့်ရာတော်ရာထက်ဝန်းကျင်တို့၌ အစောင့်အရှောက်ထားခဲ့ပြီးမှ သိဥ္စည်းမင်းကြီးသည် ဘုရားလောင်း၏ဖွားဖက်တော် အမတ် ၆ သောင်း ခြံရံလျက် ဆင်ဖြူတော်ပစ္စယကိုစီး၍၊ သားတော်ဘုရားလောင်းအထံသို့ သွားတော်မူလေ၏။

အနီးသို့ရောက်လျှင် ဆင်ပေါ်မှဆင်း၍ မိမိအပေါ်ရုံအင်္ကျီကို လက်ကန်တော့စံပယ်တင်လျက် လက်အုပ်ချီ၍၊ အမတ် ၆ သောင်း အခြံအရံနှင့် သားတော်ဝေဿန္တရာမင်းကြီးကို အဘိသိက်သွန်းအံ့သောငှာ ကျောင်းသခ်မ်းသို့ ရှေးရှုသွားတော်မူလေသော်၊ မွေ့လျော်သောစိတ်,တည်ကြည်သောစိတ်နှလုံးဖြင့် ကျောက်ဖျာအပြင်၌ ငြိမ်သက်စွာသော ဝေဿန္တရာမင်းကြီးကို ရှုမြင်လေ၏။

ဝေဿန္တရာမင်းကြီးနှင့် မဒ္ဒီဒေဝီတို့သည်လည်း သား၏ချစ်ခြင်းဖြင့်လာလတ်သော ခမည်းတော်ကို မြင်လျှင် နေရာမှထ၍ ခရီးဦးကြိုဆိုကြလျက် ရှိခိုးဖူးမြော် ကြကုန်၏။ မဒ္ဒီဒေဝီသည် ယောက္ခမဖြစ်သော သိဥ္စည်းမင်းကြီး၏ခြေတော်ကို ဦးဖြင့်တိုက်လျက်

"အရှင်မင်းကြီး။ အကျွန်ုပ်ကား အရှင်မင်းကြီး၏ချွေးမဖြစ်သော မဒ္ဒီတည်း။ အရှင်မင်းကြီး၏ ခြေတော်အစုံကို ရှိခိုးပါ၏"ဟု ဆို၍ ရှိခိုး၏။

ထိုအခါ သိဥ္စည်းမင်းကြီးသည် သားတော်ဝေဿန္တရာကို လည်းကောင်း၊ ချွေးမတော်မဒ္ဒီကို လည်းကောင်း၊ ဤ ၂ ယောက်သော သားတော်,ချွေးမတော်တို့ကိုဖက်၍ ရင်ခွင်ပေါ်၌အိပ်စေပြီးသော် နဖူး,ဦးခေါင်းတို့ကို နမ်း၍၊ နူးညံ့လှစွာသောမင်းကြီးလက်ဖြင့် သားတော်,ချွေးမတော်တို့၏ကျောကို သုံးသပ်လျက် ၃ ယောက်သော မင်းတို့သည် ငိုကြွေးကြကုန်၏။

ပူပန်ခြင်းငြိမ်းပြီးသော် သိဥ္စည်းမင်းကြီးသည် သား,ချွေးမတို့နှင့် ပဋိသန္ထာရစကားကို ဤသို့ ပြောဟော၏။

"ချစ်သား,ချစ်သမီးတို့။ အသို့နည်း။ အနာမရှိ ကျန်းမာပါ၏လော။ အစာရှာမှီးခြင်း၌ မငြိုငြင်သဖြင့် မျှလောက်ပါ၏လော။သစ်သီး,သစ်မြစ် ပေါများပါ၏လော။ ခြင်,မှက်,ကင်း,သန်း နည်းပါ၏လော။ သားရဲဖြင့် ပြွမ်းသော ဤတောအရပ်၌ စိုးရိမ်ခြင်း ငြိမ်းပါ၏လော"ဟု မေးမြန်းပြောဆို၏။ ထိုစကားကို ကြားလျှင် ဝေဿန္တရာမင်းကြီးသည် ဤသို့ ဆို၏။

"ခမည်းတော် မင်းကြီး။ အကျွန်ုပ်တို့ အသက်မွေးရခြင်းသည် တော်တော်ငြားငြား ရသမျှသော တောသစ်သီး, တောသစ်မြစ်တို့ဖြင့် အသက်မွေးရခြင်းကြောင့် ယုတ်မာညစ်နွမ်း ဆင်းရဲငြိုငြင်စွာဖြစ်၏။ သားရဲတို့ဖြင့်ပြွမ်းသော ဤတောအရပ်၌ သစ်, ကျား, ခြင်္သေ့, ဝံ, အောင်း, ကြံ့, ဆင် အစရှိသော သားရဲဘေးအန္တရာယ်ကြောင့် စိတ်နှလုံးမငြိမ် စိုးရိမ်မလပ် မပြတ်သောလုံ့လဖြင့် နေရ၏။ ခမည်းတော်မင်းကြီး။ ဤသို့ ရသမျှသောသစ်သီး,သစ်မြစ်တို့ဖြင့် ငြိုငြင်စွာ အသက်မွေးရသော်လည်း အဝတ်အစားမပြည့်စုံ မကုံလုံသော သူဆင်းရဲသည် မိမိကိုယ်ကို ဆုံးမသကဲ့သို့ လည်းကောင်း၊ ရထားထိန်းသည် မြင်းကို ဆုံးမသကဲ့သို့ လည်းကောင်း၊

အဝတ်အစား၌ တောင့်တခြင်းမရှိ ရသမျှဖြင့်သာရောင့်ရဲလျက် ကိုယ်,စိတ်ကို ကောင်းစွာဆုံးမသဖြင့် သည်းခံရ၏။

"သားရဲဘေးကြောင့် နေ့,ညဥ့်မပြတ် စိုးရိမ်ခြင်းဖြင့်နှိပ်စက်အပ်သော အကျွန်ုပ်တို့အား မိခင်,ဖခင်တို့နှင့် ကွေကွင်းရခြင်းဆင်းရဲသည် နေ့,ညဥ့်မပြတ် ထပ်လောင်းအပ်သည်ဖြစ်၍ ကြံလိုဖျော့တော့ လျော့ပါးသော ကိုယ်လက် ရှိ၏။ တောကြီးထဲ၌ ဆင်းရဲစွာနေရသော အကျွန်ုပ်တို့အား အဘယ်မှာလျှင် ကိုယ်၏ချမ်းသာခြင်း, စိတ်၏ချမ်းသာခြင်းကို ရပါအံ့နည်း"ဟုဆိုပြီးလျှင် ဝေဿန္တရာမင်းကြီးသည် မိမိသားတော်,သမီးတော်တို့၏ အကြောင်းကို ဤသို့မေးမြန်း၏။

"ခမည်းတော်မင်းကြီး။ ခမည်းတော်၏အမွေအနှစ် သိဝိရာဇ်ပြည်စည်းစိမ်ကို ဆက်ခံခြင်းငှာထိုက်သော ဇာလီ,ကဏှာဇိန် မောင်နှမ ၂ ယောက်တို့ကို အလွန်ကြမ်းကြုတ်စွာသော ပုဏ္ဏားအား ရှူလိုက်သဖြင့် မိဘတို့အား ရှိသေမြတ်နိုး အကျိုးစီးပွားကိုဆောင်တတ်သော ထို ဇာလီ,ကဏှာဇိန်တို့သည် ကြမ်းကြုတ်စွာသောပုဏ္ဏား၏အလိုသို့ လိုက်ရလေ၏။ ထိုပုဏ္ဏားသည် နွားကိုကဲ့သို့ ရိုက်ပုတ်ညှဉ်းဆဲလျက် ဆောင်ယူသွားလေ၏။ ဇာလီ, ကဏှာဇိန် တို့သည် ငယ်နုသောကိုယ်,စိတ် ရှိသည်ဖြစ်၍ မလိမ္မာသေးကုန်။

"ထိုပုဏ္ဏားသည် 'ဤမည်သောအရပ်သို့ ဆောင်ယူသွားသည်' ဟု ကြားသိတော်မူပါလျှင် အကျွန်ုပ်အား ကြားတော်မူပါလော့။ ခမည်းတော်မင်းကြီး။ ဆေးအတတ်၌ လိမ္မာစွာသောဆေးသမားသည် မြွေခဲသောသူအား ဆေးမန္တရားဖြင့် လျင်စွာ အဆိပ်ကိုကျစေသကဲ့သို့ သူငယ်တို့၏အကြောင်းကို ကြားသိတော်မူပါလျှင် အရှင်မင်းကြီးသည် သားသမီးကြောင့် စိုးရိမ်ပူဆွေးခြင်းနှိပ်စက်အပ်သော အကျွန်ုပ်အား စိတ်နှလုံးငြိမ်းချမ်းအောင် လျင်စွာကုတော်မူပါလော့"ဟု ဆို၏။ သိဥ္စည်းမင်းကြီးသည်လည်း

"ချစ်သားဝေဿန္တရာ။ ဇာလီ, ကဏှာဇိန် မောင်နှမ ၂ ယောက်တို့ကို ပုဏ္ဏားအား ဥစ္စာပေး၍ ငါ ရွေးအပ်ပြီ။ သင်တို့ မစိုးရိမ်ကြလင့်။ သက်သာရာ ရလော့"ဟု ဆို၏။

ထိုစကားကိုကြားလျှင် ဘုရားလောင်းသည် ရအပ်ပြီးသော သက်သာရာရှိသည်ဖြစ်၍ ခမည်းတော်အား ဤသို့ ပဋိသန္ထာရစကားဖြင့် ပြောဟော၏။

"ခမည်းတော်မင်းကြီး။ အနာမရှိ ကျန်းမာတော်မူပါ၏လော။ အကျွန်ုပ်၏ မိခင်သည် သား၏ချစ်ခြင်းဖြင့် နှိပ်စက်၍ ငိုကြွေးခြင်းကြောင့် မျက်စိကျိန်းစပ်ခြင်း ဖြစ်ရာ၏။ မိခင်အား မျက်စိမကျိန်းမစပ် ပကတိ ရှိပါ၏လော"ဟု မေးလျှောက်၏။သိဥ္စည်းမင်းကြီးသည်

"ချစ်သားဝေဿန္တရာ။ ငါ့အား အနာဆင်းရဲ မရှိ ကျန်းမာ၏။သင်၏မိခင်သည်လည်း မျက်စိ မကျိန်းမစပ် ပကတိရှိ၏"ဟုဆို၏။ ဘုရားလောင်းသည်

"ခမည်းတော်မင်းကြီး။ ဆင်,မြင်း,ရထား,ခြေသည်သူရဲ, စစ်သည်ဗိုလ်ပါ, မှူးတော် မတ်တော်,ပြည်သူ ပြည်သားတို့သည် အနာဆင်းရဲမရှိ ချမ်းသာပါကုန်၏လော။ ပြည်ရွာတိုင်းကားတို့သည်လည်း မိုးကောင်းသည် ဖြစ်၍ ဝပြောစည်ပင်ပါ၏လော"ဟု မေး၏။ သိဥ္စည်းမင်းကြီးသည်

"ချစ်သားဝေဿန္တရာ။ အလုံးစုံသောသူတို့သည်လည်း အနာဆင်းရဲမရှိ ချမ်းသာ၏။တိုင်းကား ပြည်ရွာလည်း မိုးကောင်းသည်ဖြစ်၍ ခိုးသူ,ဓားပြ,ရန်မီးရန်စစ်မရှိ ငြိမ်းချမ်းသာယာ စည်ပင်ဝပြော၏"ဟုဆို၏။

ဤသို့ သားတော်,ခမည်းတော် စကားပြောလျက်နေစဉ်ပင်လျှင် ဘုရားလောင်းမယ်တော် ဖုသတီ ဒေဝီသည် 'ယခု ငါ့သားတော်သည် ခမည်းတော်ကို ဖူးမြင်ရသဖြင့် စိုးရိမ်ခြင်းကင်း၍ ကိုယ်,စိတ် ချမ်းငြိမ်းခြင်း

ဖြစ်လောက်ပြီ’ ဟု များစွာသော မောင်းမကိုယ်လုပ် အခြွေအရံနှင့်တကွ ဖိနပ်မျှမစီးဘဲ ခြေကျင်သာ ဝေဿန္တရာမင်းအထံသို့ သွားလေ၏။

ဝေဿန္တရာမင်းသည်လည်း များစွာအခြွေအရံနှင့် မယ်တော်ဖုသတီဒေဝီ ဝင်္ကပါတောင်တံခါးဝသို့ ရောက်လာသည်ကိုမြင်လျှင် နေရာမှထ၍ ခရီးဦးကြိုဆိုခြင်း, နေရာခင်းကျင်းခြင်းကိစ္စကိုပြီးစေသဖြင့် ရှိခိုးလျက်နေ၏။ မဒ္ဒီဒေဝီသည်လည်း ဖုသတီမိဖုရား၏ခြေရင်း၌ ညွတ်၍

“အရှင်မ။ အကျွန်ုပ်ကား အရှင်မ၏ချွေးမဖြစ်သော မဒ္ဒီတည်း။ အကျွန်ုပ်မဒ္ဒီသည် အရှင်မခြေတော်အစုံကို ရှိခိုးပါ၏”ဟု ဆို၍ ရှိခိုး၏။

ဤသို့ ဖုသတီမိဖုရားအား မဒ္ဒီဒေဝီ ရှိခိုးလျက်နေစဉ်ပင်လျှင် ဇာလီမင်းသားသည် မင်းသား,မင်းမြေး, မှူးသား,မတ်သား များစွာသော သတို့သားလုလင်ပျို အခြံအရံနှင့်တကွ လာလတ်၏။ ထို့နောက် ကဏှာဇိန်သည်လည်း များစွာသော သတို့သမီးငယ်အပေါင်း ခြံရံလျက်လာလတ်၏။

မဒ္ဒီဒေဝီသည်လည်း သား,သမီးတို့ လာလတ်သောလမ်းကို မျှော်ကြည့်လျက်နေ၏။ ထိုအခါ ဆင်းရဲမရှိ ချမ်းသာစွာလာသော သား,သမီးတို့ကို မဒ္ဒီဒေဝီမြင်လျှင် မိမိကိုယ်အဖြစ်ဖြင့် ဆောက်တည်ခြင်းငှာ မတတ်နိုင်သည် ဖြစ်၍ ဘီလူးဝင်၍ တုန်လှုပ်သောနတ်ဝင်မကဲ့သို့ ပြင်းစွာတုန်လှုပ်လျက် သားမြတ်အစုံမှ နို့ရည်တို့သည်လည်း ယိုစီးကုန်၏။ ဇာလီ,ကဏှာဇိန်တို့သည်လည်း အမိနှင့်ကင်းသောနွားငယ်သည် အမိကိုမြင်လျှင် အမိထံသို့ မြည်တမ်းလျက်ပြေးသကဲ့သို့ မဒ္ဒီဒေဝီကိုမြင်လျှင် သည်းစွာ ငိုကြွေးမြည်တမ်းလျက် မဒ္ဒီဒေဝီအထံသို့ ပြေးကြကုန်၏။

မဒ္ဒီဒေဝီသည်လည်း သည်းစွာသောအသံဖြင့် ငိုကြွေးလျက် ပြင်းစွာတုန်လှုပ်သောကိုယ်ဖြင့် မိန်းမော၍၊ မြေ၌ အလျားလိုက်လဲလေ၏။ ဇာလီ,ကဏှာဇိန် မင်းသား,မင်းသမီးတို့သည်လည်း သည်းစွာငိုကြွေးလျက် လာလတ်သဖြင့် မိန်းမောသည်ဖြစ်၍ အမိဖြစ်သောမဒ္ဒီဒေဝီအပေါ်၌ပင်လျှင် လဲလေ၏။ ထိုလဲရာ၌ မဒ္ဒီဒေဝီ၏သားမြတ်အစုံတို့မှ ထွက်ယိုသောနို့ရည်အလျဉ်သည် မင်းသား,မင်းသမီးတို့၏ခံတွင်းသို့သာ ဝင်ကုန်၏။ ဤသို့ အမိနို့ရည်ဝင်သောကြောင့်သာလျှင် နှလုံးစွာသော မင်းသား,မင်းသမီးတို့ အသက်ရှည်သတည်း။ အမိနို့ရည် မဝင်သည်ရှိသော် မင်းသား,မင်းသမီးတို့သည် ထိုမိန်းမောစဉ် နှလုံးခြောက်ကပ်၍ပင် သေရာ၏။

မိဖုရား သားသမီးတို့မိန်းမော၍ မြေ၌လဲသည်ကိုမြင်လျှင် ဘုရားလောင်းဝေဿန္တရာမင်းသည် ပူဆွေးခြင်းကို ဖြေဆည်အံ့သောငှာ မတတ်နိုင်သည်ဖြစ်၍ မိန်းမောလျက် ထို မိမိထိုင်ရာကပင်လျှင် မြေ၌ လဲလေ၏။ သိဇ္ဇည်းမင်းကြီး ဖုသတီဒေဝီတို့သည်လည်း သား,ချွေးမ,မြေးတို့၏အမူအရာကို မြင်လျှင် မိမိတို့ ကိုယ်အဖြစ်ဖြင့် တည်ခြင်းငှာ မတတ်နိုင်သည်ဖြစ်၍၊ ထို မိမိတို့ ထိုင်ရာကပင်လျှင် မြေ၌မိန်းမောလျက် လဲလေကုန်၏။ ဘုရားလောင်းနှင့် ဖွားဖက်တော်ဖြစ်ကုန်သော အမတ် ၆ သောင်း တို့သည်လည်း ထိုမင်း ၆ ပါး တို့၏ အမူအရာကို မြင်လျှင် အလွန်သနားစုံမက်ခြင်းဖြင့် တစ်ယောက်သောသူမျှ ချုပ်တည်းခြင်းငှာ မတတ်နိုင်သည်ဖြစ်၍ ကျောင်းသခ်မ်းအလုံး ကမ္ဘာပျက်လေခတ်၍ ညွတ်လဲသောအင်ကြင်းပင်ပျိုတောကဲ့သို့ သောသောရုတ်ရုတ် လက်အုပ်ထိပ်တင် ဆံပင်ကြဲဖြေ မြေ၌လူးလဲလျက် ငိုကြွေးကြကုန်၏။

ထိုအခါ တောင်ကမ်းပါးတို့သည် ပြင်းစွာမြည်ကုန်၏။ မဟာပထဝီမြေကြီးသည်လည်း အိုးထိန်းစက်ကဲ့သို့ ပြင်းစွာတုန်လှုပ်၏။ မဟာသမုဒ္ဒရာသည်လည်း ချောက်ချား၏။ မြင်းမိုရ်တောင်သည်လည်း မီးအုံးသော ကြိမ်ညွန့်ကဲ့သို့ ဝင်္ကပါတောင်သို့ ပျောင်းညွှတ်၏။ နတ်ပြည် ၆ ထပ်တိုင်အောင်လည်း တစ်ပြိုင်နက် အုတ်အုတ်ကျက်ကျက်သောအသံ ဖြစ်၏။ [ဤကား ၇ ကြိမ်မြောက်သော မြေလှုပ်ခြင်းတည်း။]

ထိုအခါ သိကြားမင်းသည် 'ဤ ဆွေတော်မျိုးတော် မင်း ၆ ပါးတို့သည် မိန်းမောလျက် မြေ၌ လဲကုန်၏။ ထို မင်း ၆ ပါးတွင် တစ်ယောက်ယောက်သောသူမျှ ထ၍ ရေစင်သွန်းခြင်းငှာ မတတ်နိုင်ရာ။ ယခု ငါသည် ဤမင်း ၆ ပါးတို့အား ကြာတော၌ရွာသောမိုးနှင့် တူစွာ 'ပေါက္ခရဝဿ အမည်ရှိသောမိုးကို ရွာစေအံ့'ဟုကြံ၍ ဆွေတော်မျိုးတော် မင်း ၆ ပါးတို့၏အစည်းအဝေးတွင် ကြာတော၌ရွာသော မိုးနှင့်တူသောကြောင့် ပေါက္ခရဝဿအမည်ရှိသောမိုးကို သိကြားမင်း ရွာစေ၏။

ထို ပေါက္ခရဝဿ မိုးရွာသောအခါ စွတ်လိုသောသူတို့သည်လည်း စွတ်ကုန်၏။ မစွတ်လိုသော သူ၏ကိုယ်၌ မိုးရေတစ်ပေါက်မျှ မကျ။ မင်း ၆ ပါးတို့သည်လည်း သက်သာရာကို ရကုန်၏။

လူများအပေါင်းတို့သည်လည်း ထိုမိုးကိုမြင်လျှင် 'အံ့ဖွယ်သရဲ မဖြစ်ဘူးမြဲ ဤဆွေတော်မျိုးတော်တို့ အစည်းအဝေးတွင် ကြာတော၌ရွာသောမိုးကဲ့သို့ အချို့ကားစွတ်, အချို့ကား လွတ်သည်ဖြစ်၍၊ ပေါက္ခရဝဿ အမည်ရှိသောမိုးသည် ရွာ၏။ မဟာပထဝီမြေကြီးသည်လည်း ပြင်းစွာတုန်လှုပ်၏။ ကြက်သီးမွေးညင်းထခမန်း အံ့ဖွယ်သရဲ ရှိစွာ့တကား'ဟု အံ့ဩကြကုန်၏။ လက်စုံထိပ်ထား၍ သနားဖွယ်သောအသံဖြင့် ငိုကြွေးခြင်းကို ပြုကြလျက် "အရှင်မင်းကြီး။ သားတော်ဝေဿန္တရာမင်းကို လည်းကောင်း, ချွေးမတော်မဒ္ဒီဒေဝီကို လည်းကောင်း စေတုတ္တရာပြည်သို့ဆောင်၍ ပြည်စည်းစိမ်နှင့်တကွ ထီးဖြူနှင်းလျက် မင်းပြိုင်ပြုတော်မူပါလော့"ဟု လျှောက်ထား တောင်းပန် ကြကုန်၏။

[ပေါက္ခရဝဿ ဟူသည်ကား-ပေါက္ခရဝနေ ပတိတံ ဝဿံ ပေါက္ခရဝဿံ ဟု မဒ္ဓေလောပ တပ္ပုရိသ်သမာသ် ပြုပြီးလျှင် ပေါက္ခရဝဿေန သဒိသံ ပေါက္ခရဝဿံ ဟု ဥပမာတဒ္ဓိတ် ပြုအပ်၏။ ဝိဂြိုဟ်အနက်ကား-ပေါက္ခရဝနေ၊ ကြာတော၌။ ပတိတံ၊ ရွာသော။ ဝဿံ၊ မိုးတည်း။ ပေါက္ခရဝဿံ၊ ကြာတော၌ ရွာသောမိုး။ ပေါက္ခရဝဿေန၊ ကြာတော၌ ရွာသောမိုးနှင့်။ သဒိသံ၊ တူသည်တည်း။ ပေါက္ခရဝဿံ၊ ကြာတော၌ ရွာသောမိုးနှင့်တူသောမိုး။ အဘယ်သို့ တူသနည်းဟူမူကား။ ပဒုမ ပတ္တတော ဥဒကံ ဝိယ နိဝတ္တိတ္ဝာ ဂစ္ဆတိဟူသော အဋ္ဌကထာပါဌ်နှင့်အညီ မိုးသည် ကြာတော၌ရွာသည်ရှိသော် ကြာရွက်ပေါ်၌ ကျသော မိုးပေါက်သည် ကြာရွက်မှ လျှောကျ၍ တစ်ပါးသော အရပ်တို့၌ စွတ်သကဲ့သို့ ဤမင်း ၆ ပါး အစည်းအဝေး၌လည်း မစွတ်လိုသောသူတို့၌ တစ်ပေါက်မျှ မကျ,မရွာသောကြောင့် ပေါက္ခရဝဿ-ဟု ဆိုသတည်း။)

## ၁၃။ ပြည်တော်သို့ ပြန်ခန်း

မင်း ၆ ပါးတို့သည် သက်သာရာကိုရပြီးသော် မှူးမတ်,ပရိသတ်အပေါင်းတို့ တောင်းပန်ကြသော စကားကိုကြား၍ ဘုရားလောင်းသည် အဖဖြစ်သောသိဋ္ဌည်းမင်းကြီးအား ဤသို့ဆို၏။

"ခမည်းတော်မင်းကြီး။ မင်းကျင့်တရားနှင့်ညီစွာ မင်းပြုသောအကျွန်ုပ်ကို ခမည်းတော်မင်းကြီးသည် လည်းကောင်း၊ မှူးတော်မတ်တော်, ပြည်သားပြည်သူတို့သည် လည်းကောင်း ပြည်မှ နှင်ထုတ်သည်ဖြစ်၍ ဤတောအရပ်၌ အကျွန်ုပ်နေရ၏"ဟု ဆို၏။ ထိုအခါ သိဋ္ဌည်းမင်းကြီးသည်

"ချစ်သား။ ငါသည် သိဝိရာဇ်ပြည်သူတို့စကားကို လိုက်နာ၍ အပြစ်မရှိသောငါ့သားကို ပြည်မှ နှင်ထုတ်မိချေသဖြင့် ခမည်းတော်သည် မကောင်းသောအမှုကို ပြုမှားချေ၏"ဟု မိမိအပြစ်ကိုပြပြီးလျှင် ဤသို့ တောင်းပန်၏။

"ချစ်သား။ အကျိုးစီးပွားကိုဆောင်လေ့ရှိသော သားသမီးတို့သည် မိဘဆွေမျိုးတို့၌ တစ်စုံတစ်ခုသော အကြောင်းကြောင့် ဆင်းရဲဖြစ်သည်ရှိသော် မိမိအသက်ကိုပင်လည်း စွန့်၍ မိဘတို့ဆင်းရဲကို ဖျောက်ရာ၏။ ငါတို့သည်လည်း အပြစ်မရှိသောသားကို နှင်ထုတ်မိသောကြောင့် နောင်တတစ်ဖန် ပြင်းစွာပူဆွေးခြင်းဆင်းရဲသည် ဖြစ်၏။ ထိုဆင်းရဲကို ပျောက်စေခြင်းငှာ ခမည်းတော်ပြုမိသောအပြစ်ကို နှလုံးမမူဘဲသည်းခံသဖြင့် ခမည်းတော်၏ စကားကို လိုက်နာပါလော့။ ယခု ချစ်သားသည် ရသေ့၏အသွင်ကိုပယ်၍ မင်း၏အသွင်ဖြင့် ထီးနန်းစိုးစံ အံ့သောငှာ ပြည်တော်သို့ ပြန်ပါဦးလော့"ဟု တောင်းပန်၏။

ဘုရားလောင်းသည် မင်း၏အဖြစ်ကို အလိုရှိသော်လည်း ပညာရှိတို့သဘောသည် ဆင်းရဲတွေ့လည်း ပြင်းစွာမတုန်လှုပ်၊ ချမ်းသာတွေ့လည်း ဝမ်းမြောက်ခြင်းကို ပြင်သို့မထုတ်၊ သိမ်းအုပ်ချုပ်တည်းလျက် ဝမ်းမြောက် ဝမ်းသာ အလျင်တဆောမပြုဦးဘဲ ခမည်းတော်မှစ၍ ပြည်သားပြည်သူအပေါင်းတို့သည် နောက်နောင်ကိုလည်း မိမိအား အလေးအမြတ်ပြုစေခြင်းငှာ ခမည်းတော်နှင်ထုတ်သော အခြင်းအရာကိုပြ၍ နှလုံးနာယောင်စကားဖြင့် ပြောဆိုတော်မူ၏။ ခမည်းတော်က မိမိပြုမိသော အပြစ်အတိုင်းပြလျက် တောင်းပန်သောအခါမှသာလျှင် ဘုရားလောင်းသည် "ခမည်းတော်မင်းကြီး။ ထိုသို့တပြီးကား ကောင်းပြီ။ ပြည်သို့ ပြန်ပါအံ့"ဟု ဝန်ခံတော်မူ၏။

ထိုအခါ ဘုရားလောင်း၏ဝန်ခံခြင်းကိုသိ၍ ဖွားဖက်တော်အမတ် ၆ သောင်းတို့သည်

"အရှင်မင်းကြီး။ ယခုကား ရေချိုးတော်မူချိန် တန်ပြီ။ မြူချေးတို့ကို ဆေးကြောတော်မူပါလော့"ဟု ဆို၏။ ဘုရားလောင်းသည်

"အမတ်တို့။ အတန်ငယ် ငံ့လင့်ဦး"ဟု ဆို၍ ကျောင်းသင်္ခမ်းတွင်းသို့ဝင်ပြီးလျှင် ရသေ့ဝတ်သင်္ကန်းကို ချွတ်လဲ၍ သင့်ရာသိုမှီးထားပြီးမှ ခရုသင်းပွတ်သစ် အဆင်းကဲ့သို့ ဖြူစင်စွာအဆင်းရှိသော ကာသိကရာဇ်တိုင်းဖြစ် ပုဆိုးကိုဝတ်လျက် မင်း၏အသွင်ကိုယူပြီးသော် ကျောင်းသင်္ခမ်းတွင်းမှထွက်ခဲ့၍၊ 'ဤအရပ်၌နေသော ငါသည် ရဟန်းတရားကိုလည်း ပွားရ၏။ မြတ်သောပါရမီအထွတ်ဖြစ်သာ သား,မယားအလှူကိုလည်း မြေကြီးကို တုန်လှုပ်စေလျက် လှူရပေ၏'ဟု မိမိနေသောကျောင်းသင်္ခမ်း၌ ကျေးဇူးရှိသောအဖြစ်ကိုပြု၍ ကျောင်းသင်္ခမ်းကို လက်ယာရစ် ၃ ကြိမ်လှည့်လျက် ၅ ပါးသောရှိခိုးခြင်းဖြင့် ရှိခိုး၍နေ၏။

ထိုအခါ ဘုရားလောင်းအား မှူးတော်မတ်တော်တို့သည် ရေချိုးစေပြီးလျှင် ဆတ္တာသည်တို့ကိုလည်း ဆံမုတ်ဆိတ်ကို သုတ်သင်ပြင်ဆင်စေ၍ ခပ်သိမ်းသော မင်းဝတ်တန်ဆာတို့ဖြင့် သိကြားမင်းကဲ့သို့ တင့်တယ်စွာ တန်ဆာဆင်ပြီးသော် တိုင်းပြည်ထီးနန်း ခပ်သိမ်းသောမင်းမြှောက်တန်ဆာ ၅ ပါးတို့ဖြင့် ဘုရားလောင်းကို အဘိသိက်သွန်းကုန်၏။မှူးတော်မတ်တော်အပေါင်းတို့သည်လည်း

"ငါတို့အရှင်မင်းကြီးသည် ပြည်စည်းစိမ်ဖြင့် အထွတ်အမြတ်သို့ ရောက်တော်မူပြီးသည်ဖြစ်၍ မဒ္ဒီဒေဝီ အရှင်မိဖုရားကြီး, ဇာလီအရှင့်သားတော်, ကဏှာဇိန် အရှင့်သမီးတော်, ဆွေတော်, မျိုးတော်တို့နှင့်တကွ အသက်ထက်ဆုံး ဘုန်းတော်တောက်ထွန်းလျက် ကျွန်းအပြင်၌နေကုန်သော ထီးဆောင်းမင်းတကာတို့၏ ညွတ်ခကြောက်ရွံ့ ကျွန်တော်မျိုးခံရာ ဖြစ်စေသတည်း။ သူတကာတို့၏ ချမ်းသာစီးပွားကို ဆောင်တော်မူ နိုင်စေသတည်း"ဟု နှုတ်မင်္ဂလာ ပတ္ထနာအောင်ထီးဖြင့် ကောင်းချီးပေးကြကုန်၏။

ထိုအခါ ဘုရားလောင်းအား များစွာသော စစ်သည်ဗိုလ်ပါ မှူးမတ်ပရိသတ် အခြံအရံတို့ဖြင့် တင့်တယ်စွာဖြစ်၏။ တစ်ယောက်သောသူမျှ မကျိုးမန္တသောသူ မည်သည် မရှိ။ 'ဩလောကိတော လောကိတဗ္ဗာနေ ကမ္ပိ'ဟူသည်နှင့်အညီ မယ်တော်,ခမည်းတော်တို့မှတစ်ပါး ဘုရားလောင်းကို မျက်နှာရှေးရှုဆိုင်၍ ကြည့်ခြင်းငှာ မဝံ့ကုန်။ ခပ်သိမ်းကုန်သောသူတို့သည် ထိပ်ထက်လက်စုံချသော မျက်နှာရှိကုန်လျက် ငြိမ်သက်တည်ကြည်စွာ နေကြကုန်၏။ ခပ်သိမ်းသော စည်,စောင်း, ငြင်း,နှဲ, ပလွေ, စည်းဆုပ်, စည်ပုတ်, ပတ်သာ, တယော, ဒုံမင်း, ခရုသင်း အစရှိသော တူရိယာဘဏ္ဍာတို့ကိုလည်း တစ်ပြိုင်နက်တီးမှုတ်စေကုန်သဖြင့် မဟာသမုဒ္ဒရာအဝှမ်း၌ မိုးကြိုးထစ်သကဲ့သို့ ဖြစ်ကုန်၏။

ဘုရားလောင်း ဖွားတော်မူသည့်နေ့၌ ဘုန်းတော်ကြောင့်ရောက်လာသော ဆင်ဖြူတော်ပစ္စယကိုလည်း ခပ်သိမ်းလုံးစုံ ဆင်မြဲသောတန်ဆာတို့ဖြင့် တန်ဆာဆင်ပြီးသော် ဝေဿန္တရာမင်းကြီး၏အနီးသို့ ကပ်စေကုန်၏။ မဒ္ဒီဒေဝီကိုလည်း အလုံးစုံသောမင်းသမီး, ကိုယ်လုပ်မောင်းမအပေါင်းတို့သည် ရသေ့အသွင်ကိုပယ်၍ ရေချိုးပြီးသော် ခပ်သိမ်းလုံးစုံ မိဖုရားကြီးတို့ဆင်မြဲသော အဝတ်တန်ဆာတို့ကို ဝတ်ဆင်စေပြီးလျှင် မိဖုရားကြီးအသွင်ကို ယူစေ၍၊

"ပြည်သူတကာတို့၏အထွတ်ဖြစ်သော အရှင်မ။ ဝေဿန္တရာမင်းကြီးသည် သားတော်,သမီးတော် တို့နှင့်တကွ အရှင်မကို နှစ်သက်မြတ်နိုးတော်မူသဖြင့် အသက်ထက်ဆုံး စောင့်ရှောက်တော်မူစေသတည်း။ သားတော် ဇာလီ, သမီးတော်ကဏှာဇိန် တို့သည်လည်း အသက်ထက်ဆုံး အရှင်မကို စောင့်ရှောက်တော်မူ စေသတည်း။ သိဉ္စည်းမင်းကြီးသည်လည်း အရှင်မကို မြတ်နိုးစုံမက်တော်မူသဖြင့် အသက်ထက်ဆုံး စောင်မတော်မူစေသတည်း"ဟု နှုတ်မင်္ဂလာ ပတ္တနာအောင်ထီးဖြင့် ကောင်းချီးပေးကြကုန်၏။

မင်းကြီးဝေဿန္တရာသည် မင်းအဖြစ်ကို ရသည်ဖြစ်၍ လည်းကောင်း၊ ၇ လပတ်လုံး ဤတောအရပ်၌ အဝတ်အစားငြိုငြင်စွာ နေရ၍ ဆင်းရဲသောအဖြစ်ကို အောက်မေ့တော်မူသဖြင့် လည်းကောင်း အလွန် နှစ်သက်ဝမ်းမြောက်ခြင်း ရှိသည်ဖြစ်၍ ရွှေနွယ်ကြိုးဖြင့်ဖွဲ့အပ်သော အာနန္ဒိယ အမည်ရှိသောစည်ကို ဝင်္ကပါတောင်ထက်ဝန်းကျင်၌ လည်စေ၍၊ အသီးသီး ကြီးစွာသောပွဲသဘင်ကိုလည်း ခံစေ၏။

မဒ္ဒီဒေဝီသည်လည်း မိဖုရားကြီးစည်းစိမ်ကို ရပြန်သဖြင့် လည်းကောင်း၊ ရှေး၌ မိမိ ၇ လပတ်လုံး ဆင်းရဲသောအဖြစ်ကို အောက်မေ့တော်မူသဖြင့် လည်းကောင်း၊ သားသမီးတို့နှင့်အတူတကွ ပေါင်းဖော်ရပြန်သဖြင့် လည်းကောင်း၊ အလွန်နှစ်သက်ခြင်း ရှိသည်ဖြစ်၍ သားတော် ဇာလီမင်းသားအား ဤသို့ဆို၏။

"ချစ်သား ဇာလီ။ သင်တို့မောင်နှမ ၂ ယောက်ကို ပုဏ္ဏား ဆောင်ယူသွားသည့်နေ့မှစ၍ မိခင်သည် တစ်ထပ်မျှသာစား၍ မြေ၌သာ အိပ်ရ၏။ ထိုသို့ဆင်းရဲခြင်းသည်ကား ချစ်သားတို့နှင့် ကွေကွင်းရသဖြင့် ဖြစ်သော ဆင်းရဲတည်း။ယခုမူကား ချစ်သား,ချစ်သမီးတို့နှင့် အတူတကွပေါင်းဖော်ရပြန်၍ အဝတ်အစားပြည့်စုံ ကြွယ်ဝခြင်းသို့ရောက်ပြီ။ သင်တို့မိခင်သည် အလွန်ဆင်းရဲသော်လည်း သားသမီးတို့မျက်နှာကို မြင်ရသဖြင့် ရွှင်လန်းဝမ်းမြောက်ခြင်း မေတ္တာသည် ဖြစ်၏။ သင်တို့ဖခင်သည်လည်း သားသမီးတို့ကိုမြင်ရသဖြင့် အလွန် ဝမ်းမြောက်ခြင်း မေတ္တာသည် ဖြစ်၏။ ထိုသို့ဖြစ်သော ငါတို့၏မေတ္တာတရားသည် သင်ချစ်သားတို့ကို ထီးကဲ့သို့ မပြတ်လိုက်၍မိုးကာ စောင့်ရှောက် မစသည် ဖြစ်စေသတည်း။ သင်တို့၏ဘိုးတော်မင်းကြီးသည်လည်း သင်တို့ကို အတိုင်းထက်အလွန် စောင့်ရှောက် မစသည် ဖြစ်စေသတည်း"ဟုဆို၏။

ဖုဿတီဒေဝီသည်လည်း ချွေးမဖြစ်သော မဒ္ဒီဒေဝီအား ဆင်သောတန်ဆာတို့ကို ဤသို့ ပို့စေ၏။

"ဝါချည်, ပိုးချည်တို့ဖြင့်ပြီးသော ခေါမတိုင်း, ကောဋုမ္ဗရာဇ်တိုင်း,ကာသိတိုင်းဖြစ် ဤအဝတ်တို့ကို ချွေးမ မဒ္ဒီ ဝတ်သည်ရှိသော် အလွန်တင့်တယ်၏။ဤအဝတ်တို့ကို ချွေးမ မဒ္ဒီအား ပို့ချေ။ သင်္ဘောသီးကဲ့သို့ သဏ္ဌာန်ရှိလျက် ရွှေဖြင့်ပြီးသော လည်ရွဲတန်ဆာ, ရတနာ ၁၀ ပါးတို့ဖြင့်ပြီးသော လည်၌ဆင်သော တန်ဆာ, ပတ္တမြားဖြင့်စီအပ်သော ခါးကြိုးတန်ဆာ, နဖူးပြင်၌ဆင်အပ်သော ကျောက်စီ ရွှေပန်းကုံးတန်ဆာ, ပတ္တမြားတို့ဖြင့် စီအပ်သည်ဖြစ်၍ အစိမ်း,အရွှေ,အနီ,အပြာ အစရှိသော အထူးထူးအပြားပြား ဆန်းကြယ်စွာသော ရင်လွှမ်းတန်ဆာ, ပတ္တမြားမျိုးတို့ဖြင့်စီအပ်သော ခြေနင်းတန်ဆာ ဤတန်ဆာတို့ကို ဆင်သည်ရှိသော် ချွေးမ မဒ္ဒီသည် နန္ဒဝန်ဥယျာဉ်၌ ထွက်သော နတ်သမီးကဲ့သို့ တင့်တယ်၏။

"ငါ့ချွေးမ။ မဒ္ဒီအား အထူးထူးသော နံ့သာရေတို့ဖြင့် ရေချိုးပြီးသော်၊ ဖြူစင်စွာသော ကာသိကရာဇ် တိုင်းဖြစ် အဝတ်တို့ကိုဝတ်လျက်၊ ထို အလုံးစုံသော အဝတ်တန်ဆာတို့ကိုဆင်လျှင် ဆေးမဆိုးဘဲ ကျီးအာသီးမှည့် ကဲ့သို့ နီစွာသောနှုတ်ခမ်း, ခြေသည်း, လက်သည်းဖြင့် ရှုချင်စဖွယ် တာဝတိံသာနတ်ပြည်ဝယ် စိတ္တလတာဥယျာဉ်၌ လေခတ်၍ ပျော့ပျောင်းသော ရွှေဂုက်ပျောပင်ကဲ့သို့ ပျောင်းနွဲ့သောကိုယ်ဖြင့် အလွန် တင့်တယ်၏။ ဤတန်ဆာကို ငါ့ချွေးမ မဒ္ဒီအား ပို့ချေလော့။ ထိုတန်ဆာတို့ကို ဆင်သည်ရှိသော် ဟိမဝန္တာ၌ မာနုသိနီ အမည်ရှိသောငှက်မသည် ဆန်းကြယ်သောအတောင်ဖြင့် ကောင်းကင်သို့ အတောင်ကိုဖြန့်၍ ပျံသည်ရှိသော် အလွန်တင့်တယ်သကဲ့သို့ ငါ့ချွေးမ မဒ္ဒီသည်လည်း အလွန်ရှုချင်ဖွယ် တင့်တယ်သည် ဖြစ်လတ္တံ့."ဟု ဆို၍ ပို့စေ၏။

မှူးတော် မတ်တော်တို့သည်လည်း မဒ္ဒီမိဖုရားကြီးအား မကြီးလွန်းမမြင့်လွန်းသော ဆင်ပြောင်ပေါက်ငယ် တစ်စီးကို အလုံးစုံသော ရွှေကြိုး,ရွှေကရတနာတို့ဖြင့်ဆင်၍ အနီး၌ ထားပေ၏။

ထိုအခါ ဝေဿန္တရာမင်းကြီးသည် ရွှေအိမ်ဖြင့်စွပ်အပ်သော လက်စွဲတော်သန်လျက်ကို လက်ယာပခုံးဖြင့် လွယ်လျက် ဆင်ဖြူတော်သို့တက်စီး၍၊ မဒ္ဒီဒေဝီသည်လည်း ရတနာဆင်ပြောင်ပေါ်၌တက်စီး၍ များစွာသော မှူးမတ်, ခြွေရံ, ပရိသတ်တို့နှင့်တကွ သိဝိဋ္ဌည်းမင်းကြီးစခန်းချရာဖြစ်သော သစ်တပ်မြို့သို့ သွားလေ၏။

မင်းကြီးဝေဿန္တရာ ထွက်သွားလေသည်ရှိသော် ထိုဟိမဝန္တာ၌နေကုန်သော ငှက်အပေါင်းတို့သည် မင်းကြီးနေရာသို့ အညီအညွတ် စည်းဝေးလာကုန်၏။ ထိုငှက်အပေါင်းတို့သည် "ငါတို့အား မင်းကြီးဝေဿန္တရာ ရှိသည်ရှိသော် အချင်းချင်း မညှဉ်းဆဲမှု၍ ရက်ကြောက်ခြင်းတို့သည် ဖြစ်ကုန်၏။ ကိုယ်,စိတ်ကို စောင့်ရှောက်ခြင်း တို့သည်လည်း ဖြစ်ကုန်၏။ ယခု မင်းကြီး သွားသည်ရှိသော် ငါတို့အား ရက်ကြောက်ခြင်း စောင့်ရှောက်ခြင်း တရားတို့သည် ပျက်စီးအံ့တကား"ဟု ငိုကြွေးသောအသံဖြင့် မြည်ကြကုန်၏။

ထိုသစ်တပ်မြို့၌ သိဝိဋ္ဌည်းမင်းကြီးသည် တစ်လပတ်လုံး တောင်ထိပ်သဘင်ကစားခြင်းတို့ဖြင့် သဘင်ကြီးစွာခံ၍ ၁၂ ခေါဘိဏီရှိသော စစ်သည်ဗိုလ်ပါနှင့်တကွ နေ၏။ ထိုတောအရပ်၌ တစ်လပတ်လုံး များစွာသော ပရိသတ်နှင့်တကွ နေတုံသော်လည်း မင်းကြီးဝေဿန္တရာ၏ ဘုန်းတန်ခိုးကြောင့် တစ်ယောက်သော သူကိုမျှ သားရဲငှက်ရဲတို့သည် မညှဉ်းဆဲကုန်။ အလုံးစုံသောပရိသတ်တို့သည် အနာဆင်းရဲမရှိ ချမ်းသာကုန်၏။

တစ်လမျှလောက်ရှိသောအခါ သိဝိဋ္ဌည်းမင်းကြီးသည် စစ်သူကြီးအမတ်ကိုခေါ်၍

"အမတ်စစ်သူကြီး။ ယခုတောအရပ်၌နေသည် ငါတို့ ကြာမြင့်ပြီ။ နေပြည်တော်သို့ ပြန်ကုန်အံ့။ သင်သည် ယခု ငါ့သား၏သွားရာခရီးကို တန်ဆာဆင်အပ်ပြီလော"ဟုမေး၏။ အမတ်စစ်သူကြီးသည်လည်း

"အရှင်မင်းကြီး။ ကြွတော်မူရာ ခရီးလမ်းအလုံးစုံကို တန်ဆာဆင်၍ ပြီးပါပြီ။ ယခုကား နေပြည်တော်သို့ ဝင်ချိန်တန်ပြီ"ဟု လျှောက်၏။

"ထိုသို့ တပြီးကား ကောင်းပြီ"ဟု သားတော်ဝေဿန္တရာမင်းကြီးအား အကြောင်းကိုကြားပြီးလျှင် အလုံးစုံသော ပရိသတ်တို့အား စည်လည်စေ၏။

ပရိသတ်တို့သည်လည်း မိမိတို့အဆောင်အရွက် လက်နက်တို့ကို ပြင်ဆင်ပြီးသော် စစ်သူကြီးအမတ်သည် အမုန်ယစ်သောဆင်ပြောင်နှင့် တစ်ယောက်တည်းသောအရပ်၌ ရင်ဆိုင်တွေ့ကြုံသော်လည်း ပြန်လည်၍မပြေးဘဲ ရဲရင့်ခြင်းနှင့်ပြည့်စုံသော သိဝန်း၊ စိန်တောင်၊ မောက်တို၊ မောက်လူဆောင်း၊ ဒိုင်း၊ လှွား၊ မြားလေး လက်နက်စွဲသော သူရဲသူခက်တို့ကိုရွေ့ထား၍ မင်းကြီး၊ မင်း မိဖုရား၊ သားတော်၊ သမီးတော်တို့စီးသော ဆင်တော်များကို ဆင်၊ မြင်း၊ရထား၊ ခြေသည် စစ်သည်ဗိုလ်ပါ များစွာသောသူရဲသူခက်တို့ဖြင့် ထက်ဝန်းကျင်ရံစေ၏။

ထိုသို့ အလုံးစုံခင်းကျင်းစီရင်ပြီးသော် မင်းကြီးဝေဿန္တရာသည် ၁၂ ခေါဘိဏီရှိသော ဗိုလ်ပါအပေါင်း ခြံရံလျက် ဝင်္ကပါတောင်မှ စေတုတ္တရာပြည်တိုင်အောင် ယူဇနာ ၆၀ အကျယ် ၈ ဥသဘရှိသော လမ်းဖြင့် ကဆုန်လပြည့်နေ့၌ ဝိသာခါနက္ခတ်သဘင် ထွက်သောခရီးကဲ့သို့ အထူးထူးအဆန်းဆန်း ပန်း၊ပေါက်ပေါက်၊ ထီး၊ တံခွန်၊ ရေချမ်းအိုးစင်၊ ဈေးစဉ်ဆိုင်တန်းတို့ဖြင့် စစ်သူကြီးအမတ်သည် စီရင်အပ်သောမင်းလမ်းခရီးသို့ တစ်နေ့လျှင် တစ်ယူဇနာကျသွား၍၊ ၂ လရှိမှ စေတုတ္တရာနေပြည်တော်သို့ ရောက်တော်မူလေ၏။

ဝေဿန္တရာမင်းကြီးသည် စေတုတ္တရာပြည်သို့ရောက်၍ ရွှေပြည်ထီးနန်း သိမ်းမြန်းစိုးစံတော်မူပြီးလျှင် စေတုတ္တရာပြည်အလုံးကို စည်လည်စေ၍ ထောင်တန်းနှောင်အိမ်၌ မင်းဒဏ်ဖြင့် ခံရသောသူတို့ကိုလည်း လွှတ်စေ၍ အယုတ်သဖြင့် ခွေး၊ ကြောင်ကိုမျှ မဖမ်းမဆီး မညှဉ်းဆဲရ။ အလုံးစုံသောပြည်သူ၊ နိဂုံးဇနပုဒ်သူ လူအပေါင်း တို့သည်လည်း အလွန်ဝမ်းမြောက်ခြင်း ရှိသည်ဖြစ်၍ ဝတ်လုံအင်္ကျီ၊ ဦးရစ်ခေါင်းပေါင်း ပစ်လွှားကြလျက် ပွဲသဘင် ပြုကြကုန်၏။

ဘုရားလောင်းဝေဿန္တရာမင်းကြီးသည် ရောက်လာသည့်နေ့ ညဉ့်ဦးကပင် 'ငါရောက်သည်ဟုကြားလျှင် ဖုန်းတောင်းယာစကာ အလှူခံတို့သည် နက်ဖြန်မိုးသောက်လျှင် ရောက်လာလတ္တံ့။ ထို ရောက်လာသော ယာစကာတို့အား အဘယ်မည်သောဥစ္စာတို့ကို ပေးလှူစွန့်ကြဲရအံ့နည်း'ဟု ကြံတော်မူ၏။ ထိုသို့ ဘုရားလောင်း ကြံတော်မူသည်ရှိသော် သိကြားမင်း၏ ပဏ္ဍုကမ္ဗလာ[၁၈]ကျောက်ဖျာသည် ခက်တရော်ရှိသောအခြင်းအရာကို ပြ၍၊ သိကြားမင်းသည် 'အကြောင်းအသို့နည်း'ဟု ကြည့်ရှုဆင်ခြင်လတ်သော် 'ဘုရားလောင်းအလှူဝတ္ထုကို ကြံသတည်း'ဟု သိ၍၊ မင်းကြီး၏နန်းတော် မြို့တံခါးအတွင်း၌ အပြည့်အနက် ခါးနစ်အောင် ရတနာ ၇ ပါးဟု ဆိုအပ်သော မိုးကိုရွာစေ၏။ နန်းတော်မှကြွင်းသော ပြည်အလုံးကိုလည်း ပုဆစ်ဒူးနစ်အောင် ရတနာ ၇ ပါးမိုးကို ထိုဘုရားလောင်းကြံသော ညဉ့်မိုးသောက်ထဉ့်ပင် ရွာစေ၏။

ဘုရားလောင်းဝေဿန္တရာမင်းကြီးသည် ထိုညဉ့် မိုးသောက်၍ နေအရုဏ်တက်သောအခါ ထိုသို့ ပြည်သူပြည်သားတို့အား "မိမိအိမ် ခြံပွတ်အတွင်း၌ရွာသော ရတနာ ၇ ပါးတို့ကို မိမိတို့ အိမ်ရှင်တို့က အသီးသီးဆိုင်ရာ ယူကြစေ"ဟု အခွင့်ပေးတော်မူ၏။ ထိုပြည်သူတို့၏ အိမ်ဥပစာ ခြံပွတ်စသည်တို့မှ အလွတ် ခရီးလမ်း၊ မြို့တံတိုင်း စသည်တို့၌ရွာသော ရတနာ ၇ပါးတို့ကို လည်းကောင်း၊ နန်းတော်၏အတွင်း၌ ရွာသော ရတနာ ၇ ပါးတို့ကို လည်းကောင်း မင်းကြီးသိမ်းယူ၍ တပေါင်းတစ်စုတည်း ကျိုကြ ရွှေတိုက်၌

သွင်းထားတော်မူ၏။ ဤသို့ ရတနာမိုးရွာသည်ဖြစ်၍ ပြည်သူပြည်သားတို့သည်လည်း အလွန်ဝပြောကုန်၏။ မင်းကြီး ဝေဿန္တရာ သည်လည်း အသက်ထက်ဆုံး ရတနာ ၇ ပါးတို့ဖြင့် ၆ ဆောင်သော အလှူဇရပ်တို့၌ နေ့တိုင်းနေ့တိုင်း ကြီးစွာသောအလှူကို ပေးပြီး၍ အသက်အဆုံး၌ ကောင်းမှုကိုပြုသောသူတို့၏ စံပျော်ရာဖြစ်သော တုသိတာ နတ်ပြည်၌ ဖြစ်တော်မူလေ၏။

## ၁၄။ ဇာတ်တော်ပေါင်းခန်း

ဤသို့မြတ်စွာဘုရားသည် ဂါထာ ၁၀၀၀ တို့ဖြင့် တန်ဆာဆင်အပ်သော ဤ မဟာဝေဿန္တရာ ဇာတ်တော်ကို ဆောင်၍ဟောတော်မူပြီးလျှင် တရားဆက်ဝေး၍ စကားပြတ်မည်စိုးတော်မူသောကြောင့်

“ဤတရားသဘင်၌ စည်းဝေးကုန်သော တရားနာပရိသတ်အပေါင်းတို့။ ငါဘုရားသည် ယခုသာလျှင် ဆွေတော် မျိုးတော်တို့အစည်းအဝေး၌ ပေါက္ခရဝဿ အမည်ရှိသောမိုးကို ရွာစေသည် မဟုတ်။ ရှေး ဝေဿန္တရာမင်း ဖြစ်တော်မူသောအခါ၌လည်း ဆွေတော်မျိုးတော်တို့အစည်းအဝေး၌ ယခုကဲ့သို့ပင် ပေါက္ခရဝဿမည်သော မိုးကို ရွာစေပြီ”ဟု မိန့်တော်မူပြီး၍ ဇာတ်တော်ကို ပေါင်းတော်မူ၏။

“ရဟန်းတို့။ ငါ ဝေဿန္တရာမင်း ဖြစ်တော်မူသောအခါ ဇူဇကာပုဏ္ဏားသည် ယခု ဘုရားဖြစ်တော်မူအခါ ငါ၏ဦးရီးတော် ဒေဝဒဟ[၃၃၂]မင်းကြီးသား ဒေဝဒတ် ဖြစ်လာ၏။

“ဇူဇကာပုဏ္ဏား၏မယား အမိတ္တာပုံသည် ယခုအခါ စိဉ္စမာဏဝိကာ အမည်ရှိသော သတို့သမီး ဖြစ်လာ၏။

“ထိုအခါ ဟိမဝန္တာတောဝ၌ စောင့်ရှောက်၍နေရသော စေတမုဆိုးသည် ယခုအခါ ငါဘုရားနှင့် ဖွားဖက် တောထွက်ရာပါသော ဆန္နအမတ် ဖြစ်လာ၏။

“ထိုအခါ ဟိမဝန္တာ၌နေသော အစ္စုတရှင်ရသေ့သည် ယခုအခါ ဥပတိဿရွာသူကြီး၏သား ငါဘုရား၏ လက်ယာရံ အဂ္ဂသာဝက[၃၃၃]ဖြစ်သော သာရိပုတ္တရာ ဖြစ်လာ၏။

“ထိုအခါ သိကြားမင်းသည် ယခုအခါ ငါဘုရား၏ဘထွေးတော်သား အနုရုဒ္ဓါမင်းသား ဖြစ်လာ၏။

“ထိုအခါ ငါ၏ခမည်းတော် သိဥ္စည်းမင်းကြီးသည် ယခုအခါ ငါဘုရား၏ခမည်းတော် သုဒ္ဓေါဒနမင်းကြီး ဖြစ်လာ၏။

“ထိုအခါ ငါ၏မယ်တော် ဖုဿတီဒေဝီသည် ရှေး ၉၁ ကမ္ဘာထက်က ဝိပဿီမြတ်စွာဘုရား၏ ခြေတော်ရင်း၌ တောင်းအပ်သောပတ္ထနာနှင့်အညီ ယခုအခါ ငါဘုရား၏မယ်တော် မဟာမာယာ ဖြစ်လာ၏။

“ထိုအခါ ငါ၏မြောက်သားတော် မိဖုရားကြီးမဒ္ဒီဒေဝီသည် ယခုအခါ ငါ၏ဦးရီးတော်, ဒေဝဒဟ မင်းကြီး၏သမီးတော် ဤလူ့ပြည်၌ တစ်စုံတစ်ယောက်သော လူ့သမီးတို့နှင့်မနှိုင်းယှဉ်ရာ နတ်သမီးတမျှလှပသော အဆင်းအရေ ကြန်အင်လက္ခဏာ ရွှေရတနာရွှေစင်စုကဲ့သို့ ရှိသောကြောင့် ဗိမ္ဗာဒေဝီ[၃၃၄]ဟု အမည်မှည့်ပြီးမြောက်မှ နောက်တစ်ဖန် ဖွားတော်၏အမည်ဖြင့် ယသောဓရာ[၃၃၅]ဒေဝီဟု ထင်ရှားသော ငါ၏ မြောက်သားမိဖုရားကြီး ရာဟုလာမိခင် ဖြစ်လာ၏။

"ထိုအခါ ဇာလီမင်းသားသည် ယခုအခါ ရာဟုလာမင်းသား ဖြစ်လာ၏။

"ထိုအခါ ကဏှာဇိန်သည် ယခုအခါ ငါဘုရား၏လက်ဝဲရံ အဂ္ဂသာဝိကာဆုနှင့်ပြည့်စုံသော သူဌေးသမီး ဥပ္ပလဝဏ် ဖြစ်လာ၏။

"ထိုအခါ ကြွင်းသော ဝေဿန္တရာမင်းကြီး၏ပရိသတ်သည် ယခုအခါ ငါဘုရား၏ပရိသတ် ဖြစ်လာ၏။

"ထိုအခါ ဝေဿန္တရာမင်းကြီးသည် ယခုအခါ ဥဋ္ဋယျာ၏ တရား ၅ ပါးတို့ကို အလိုလို ကိုယ်တော်တိုင် သာလျှင် အကြွင်းမဲ့သိတော်မူသည်ဖြစ်၍ သဗ္ဗညုတဉာဏ်အထွတ်သို့ ရောက်ပြီးသော ငါဘုရား ဖြစ်တော်မူ၏"ဟု ဇာတ်တော်ကို ပေါင်းတော်မူ၏။

[မင်းကြီးဝေဿန္တရာသည် တစ်ဘဝတည်းသော ကိုယ်တော်၏အဖြစ်၌ပင်လျှင် အလှူ၏တန်ခိုးကြောင့် ၂ သိန်း ၄ သောင်း အထုရှိသောမြေကြီးသည် စိတ်ဝိညာဉ်ရှိသောသတ္တဝါကဲ့သို့ ၇ ကြိမ်တိုင်အောင် တုန်လှုပ်၏။

[ဤဇာတ်တော်၌လာသော မြေလှုပ်ခြင်း ၇ ကြိမ်ကား–

- ဖွားတော်မူ၍ ၈ နှစ်မြောက် နှလုံးသည်းပွတ်, မျက်စိ, ခြေ, လက် စသောအဇ္ဈတ္တအလှူကို ကြံသောအခါ မြေတစ်ကြိမ်လှုပ်၏။
- ထို့နောက် ဆင်ဖြူတော်ကို လှူသောအခါ တစ်ကြိမ်။
- ထို့နောက် ပြည်မှနှင်ထုတ်၍ ထွက်အံ့သောနေ့၌ ၇၀၀, ၇ လီစုဖြစ်သော အလှူကြီးကိုပေးသောအခါ တစ်ကြိမ်။
- ထို့နောက် ဝင်္ကပါတောင်သို့အထွက် ပြည်တော်သို့ ပြန်လည်၍ရှုကြည့်တော်မူသောအခါ တစ်ကြိမ်။
- ထို့နောက် သားတော်, သမီးတော်တို့ကိုလှူသောအခါ တစ်ကြိမ်။
- ထို့နောက် မဒ္ဒီဒေဝီကို လှူသောအခါ တစ်ကြိမ်။
- ထို့နောက် မင်း ၆ ပါး ဝင်္ကပါတောင်၌ စည်းဝေးသောအခါ တစ်ကြိမ်။

ဤသို့ ၇ ကြိမ်မြေလှုပ်ခြင်းစသော အံ့ဖွယ်သရဲတို့သည် ဖြစ်ကုန်၏ဟု လာ၏။

စရိယာပိဋက အဋ္ဌကထာ၌ကား–'အဋ္ဌဝဿိကကာလေ ဟဒယ မံသာဒီနံ ပိယာစကာနံ ဒဒေယျန္တိ ဒါနဇ္ဈာသ ယုပ္ပါဒေ, မင်္ဂလဟတ္ထိ ဒါနေ ပဗ္ဗာဇနကာလေ ပဝတ္တိတ မဟာဒါနေ,ပုတ္တဒါနေ,ဘရိယာဒါနေ, ဝင်္ကပဗ္ဗတေ ဉာတိသမာဂမေ နဂရပဝိဋ္ဌဒိဝသေ ရတနဝဿကာလေတိ ဣမေသု ဌာနေသု သတ္တဝါရံ အကမ္ပိတ္ထဝေ' ဟု လာ၏။

အဋ္ဌဝဿိကကာလေ၊ ၈ နှစ်ရှိသော အခါ၌ ။ ဟဒယမံသာဒီနံပိ၊ နှလုံးသား အစရှိသည် တို့ကိုလည်း။ ယာစကာနံ၊ အလိုရှိသော ယာစကာတို့အား။ ဒဒေယျံ၊ ထုတ်၍ ပေးအံ့။ ဣတိ၊ ဤသို့။ ဒါနဇ္ဈာသယုပ္ပါဒေစ၊ အတွင်းအလှူပေးလိုသောအကြံ ဖြစ်စဉ်ခဏ၌ လည်းကောင်း။ မင်္ဂလဟတ္ထိဒါနေစ၊ မင်္ဂလာဆင်ဖြူတော်ကို လှူတော်မူသော ခဏ၌ လည်းကောင်း။ ပဗ္ဗာဇနကာလေ၊ ပြည်မှ နှင်ထုတ်အံ့သောအခါ၌။ ပဝတ္တိတ မဟာဒါနေစ၊ ဖြစ်စေအပ်သော ၇၀၀ အပေါင်း အလှူကြီးပေးသောခဏ၌ လည်းကောင်း။ ပုတ္တဒါနေစ၊ သားသမီးတို့ကို လှူသောခဏ၌ လည်းကောင်း။ ဘရိယာဒါနေစ၊ မဒ္ဒီဒေဝီကို လှူသောခဏ၌ လည်းကောင်း။ဝင်္ကပဗ္ဗတေ၊ ဝင်္ကပါတောင်၌။ ဉာတိသမာဂမေစ၊ ဆွေတော်မျိုးတော် မင်း ၆ပါး အစည်းအဝေး၌ လည်းကောင်း။ နဂရ ပဝိဋ္ဌဒိဝသေ၊ စေတုတ္တရာပြည်တော်သို့ ဝင်သောနေ့၌။ ရတနဝဿကာလေစ၊ ရတနာမိုးရွာသော ခဏ၌

လည်းကောင်း။ ဣတိ ဣမေသု ဌာနေသု၊ ဤ ၇ ရပ်တို့၌။ သတ္တဝါရံ၊ တစ်ကြိမ်စီအားဖြင့် ပေါင်း ၇ ခါ။ မဟာပထဝီ၊ မြေကြီးသည်။ အကမ္ပိတ္ထဝေ၊ တုန်လှုပ်ပြီးသည် သာလျှင်တည်း။

[ဤ စရိယာပိဋကအဋ္ဌကထာ၌ 'ပြည်တော်သို့ဝင်သည့်နေ့ ရတနာမိုးရွာသောအခါ လှုပ်သည်'ဟု ဆို၏။ ဝင်္ကပါတောင်သို့အထွက် မြို့တော်ကို ပြန်လည်၍ရှုသောအခါ လှုပ်ကြောင်းကို မဆို။ ဤ ဝေဿန္တရာဇာတ်နိပါတ် ပါဠိတော်၌ကား မြို့တော်ကို ပြန်လည်၍ရှုတော်မူသောအခါ လှုပ်ကြောင်းကို လာ၏။ ရတနာမိုးရွာသောအခါ လှုပ်ကြောင်းကို မဆို။ ထို့ကြောင့် စရိယာ ပိဋကအဋ္ဌကထာ စကားသည် နိပါတ်ပါဠိတော်နှင့် ဤအရာ၌ မညီလွန်း။ စရိယာပိဋက ပါဠိတော်၌မူကား 'သာ မဟာပထဝီ မမ ဒါန ပုညာနုဘာဝ ဟေတု သတ္တက္ခတ္တုံ အကမ္ပိတ္ထ' ဟူ၍သာ ဟောတော်မူ၏။

[သာ မဟာပထဝီ၊ ထိုမြေကြီးသည်။ မမ ၊ငါ၏။ ဒါန ပုညာနုဘာဝ ဟေတု။အလှူပေးခြင်း၏ ကောင်းမှု အာနုဘော်တည်းဟူသောအကြောင်းကြောင့်။ သတ္တက္ခတ္တုံ၊ ၇ ကြိမ်။ အကမ္ပိတ္ထ၊ တုန်လှုပ်ပြီ။] ဤကား အနက်။

## နိဝုံးပိုဒ်စုံ

တိုင်းကားဦးသျှောင်။ ။မြန်ရန်အောင်တွင်၊ ဘုန်းခေါင်မှန်ကူ၊ ချတော်မူသား၊ နှစ်ဆူပါဒ၊ စေတိယဟု၊ တစ်ရာ့ရှစ်စုံ၊ စက်တော်စုံကို၊ အမွှံရောရော၊ မန်းသီတာဖြင့်၊ လက်ယာရစ်ဆိုက်၊ သုံးကြိမ်ခိုက်၍၊ ခွေဝိုက်လည်ကာ၊ ရှေ့မျက်နှာသို့၊ လယ်ယာမြေကောင်း၊ ရေရှင်လောင်းလျက်၊ ဆည်မြောင်းကန်တည်၊ လုပ်စိမ့်ရည်သို့၊ မြရည် လန်းလန်း၊ ရစ်ခွေသန်းသား၊ မန်းမြစ်ဂင်္ဂါ၊ ရေသီတာနှင့်၊ ရောမြစ်ဆုံ၊ သန်လျက်ခုံတွင်၊ လုံးစုံကျေးဇူး၊ သာပျံ့ပျူးလျက်၊ မင်းပူးမည်သာ၊ ဂုဏ်ထူးရွာဒ္ဒ၊ ဂုဏာဓာရ၊ လောကသမ္မုတိ၊ ရထိုက်ဘိသား၊ ဘူရိပညာ၊ ထိုဆရာလျှင်၊ လေးဖြာသီလ၊ ဖြူစင်ပလျက်၊ ပန္နရသီ၊ တိထိပြည့်၍၊ ဖြစ်မည်နေ့တွင်၊ ဘုန်းဟော့ထွတ်စံ၊ ကြယ်ပေါင်းရံလျက် ၊ ရောင်လျှံပထွန်း၊ လပြည့်ဝန်းနှင့်၊ နှုန်းတန်း ပုံသွယ်၊ သံဃာလယ်၌၊ ပြန့်ကြွယ်နည်းနာ၊ အဖြာဖြာနှင့်။ ဋီကာကစ္စည်း၊ ဉာသ်နည်းနေတ္တိ၊ ပါဠိအဋ္ဌကထာ၊ ညဝါလက်သုံး၊ ကျမ်းရိုးထုံးကို၊ ပန်းကုံးအသွင်၊ လှကြောင်းဆင်၍၊ စာသင်ဝန်းလျား၊ တပည့်များအား၊ တရားနက်လေး၊ နည်းနာကျွေး၏၊ ရှည်ဝေးနောင်လာ၊ သာသနာ၌၊ ပညာမေးယှက်၊ အသိခက်၍၊ အနက်မရဲ၊ ဆိုဝံ့ခဲလည်း၊ တံကဲမလိမ့်၊ မှီရစ်စိမ့်ဟု၊ နှစ်သိမ့်စေမှု၊ ကျမ်းဂန်ပြုရှင့်၊ သုတဗုဒ္ဓိ၊ ကျေးဇူးသိသား၊ ပရိပဋိ၊ ပဋိအစဉ်၊ ပတ်ရစ်ယှဉ်လျက်၊ နှစ်စဉ်တရား၊ ဖြည့်သောအားဖြင့်၊ အများတကာ၊ ဝေးနီးလာ၍၊ ပဒေသာပင်၊ မှတ်ကြထင်သည်။ ။ စာသင်အောင်ပွဲ ခံမစဲ။

ပိုင်းခြားထုတ်ဆောင်။ ။ကျေးဇူးရောင်ဖြင့်၊ မြန်ဆောင်ကြေညာ၊ ထင်ရှားစွာသား၊ ဆရာ ထေရ်ကျော်၊ တို့ထိပ်ပေါ်လျှင်၊ မွေ့လျော်ဌာန၊ ဉာဏ်ဂါမဒ္ဒ၊ ကာလအရှည်၊ ကောင်းကျိုးစည်သော်၊ ပြည်ကြီးထိပ်ချာ၊ ကေရာက၊ ငါလည်းညွှတ်ခိုက်၊ ကိုးကွယ်တိုက်ဟု၊ ဦးထိုက်ရှိဝန်၊ လျှောက်တောင်းပန်၍၊ ဝေယန်ဘုံသွင်၊ သိကြားဆင်သို့၊ ရွှေစင်ပြည့်မွမ်း၊ ကျောင်းသခ်မ်းကို၊ချမ်းမြေ့ရွှင်လန်း၊ ရေစက်သွန်း၍၊ ရဟန်းသံဃာ၊ တစ်ထောင်မှာလည်း၊ များစွာကုံလုံ၊ လှူဝတ်စုံနှင့်၊ စိတ်ယုံကြည်ဖြူ၊ လှူတော်မူ၏၊ ဇမ္ဗူထိပ်ပန်း၊ ရွှေပြည်နန်း၏၊ တောင်သန်းခတ်ဆိုင်း၊ မြောက်ရပ်ခိုင်းသား၊ စစ်ကိုင်းမြို့ဝယ်၊ ဘုန်းသစ်ကြွယ်လျက်၊ အံ့ဖွယ်ထွေပြား၊ ကျေးဇူးအားဖြင့်၊ ဘုရားတစ်ဆူ၊ မှတ်ကြမူရှင့်၊ ရှင်လူတကာ၊ သဒ္ဒါဆပွား၊ ထိုဘုရား၏၊ တရားရင်နို့၊ စို့ကြကုန်ရှောင်း၊ တပည့်ပေါင်းတွင်၊ ကောင်းရာငင်ငင်၊ ရွေးစုဝင်သား၊ မျက်ရှင်ဆန်ကျိုး၊ ငယ်လုနိုးလည်း၊ အဖိုးဖြတ်သော်၊ ဂုဏ်ညွန့်ပေါ်သို့၊ တစ် ခေါ်စလောက်၊ ရမြောက်နည်းနာ၊ အမည်မှာမူ၊ ဉာဏ်ဝါဒိပ္ပတိ၊ ဖွားဖွယ်ရှိလျက်၊ ဉာတိကာရဏ၊ ဟိတ်ဖြင့်ပြသော်၊ သရ ရှစ်လုံး၊ အဆုံးကိုလျှင်၊ အစတင်၍၊ ဘ-တွင် အာနှင့်၊ သ-နောက်ဆင့်၍၊ နံသင့်မိတ်ပါ၊ အက္ခရာနှင့် ဆရာမြတ်လှ၊ဘွဲ့မည်ရ၍၊ ဝဏ္ဏာရှယ်လောက်၊ ရောက်သားဉာဏ်ခါ၊ ပညဝါလျှင်၊ ဉာဏ်စာဝေဿန်၊ ဇာတ်တော်မှန်ကို၊ ဉာဏ်မြင်အနု၊ သူတို့ရှုအောင်၊ ဝတ္ထုသက်သေ၊ စကားပြေဖြင့်၊ အနေကျစွာ၊ ရေးစီပါဟု၊ မေတ္တာကျွမ်းဟောင်း၊ ငယ်ကပေါင်းသား၊ မျိုးကောင်းမင်းရောက်၊ ဂုဏ်ရည်သောက်လျက်၊ မောင်ထောက်မည်ရ၊ ထိုသူကတည့်၊ ညွှတ်ခ၍လျှင်၊ ရေးစီရင်သည်။ ။နာတင်ဆောင်စွဲ ကြံမခဲ။

ဂိုဏ်းထား ပုဒ်နောင်။ ။သဒ္ဒါဆောင်၍၊ ၅ ထောင်သာသနာ၊ တည်စိမ့်ငှာဟု၊ ဤစာထုတ်လှစ်၊ ပြီးသည်နှစ်ကား၊ ကြွင်းရစ်သာသနာ၊ ဒွါရာတြိ၊ ဒွိနှင့် သတ္တ၊ ရေသော်ရ၏၊ ဒီဃသက္ကရာ၊ နှစ်ကောဇာမူ၊ ထောင်ရာပယ်ထား၊ ၄၅–တည့်၊ လ,ကား တပေါင်း၊ ရွှက်ရင့်ပြောင်း၍၊ ဆောင်းကျန်ရတု၊ နွေသို့လုသား၊ ရွှက်နုဖူးဆင်၊ ပန်းသစ်ပင်နှင့်၊ မင်းလွင်မှုန်ကာ၊ လေဝန်းလာလျက်၊ သာနုမန္တ၊ သူရဋ္ဌလျှင်၊ ကုမ္ဘရာသီ၊ ယှဉ်သွားမို၍၊ တိထိမပျက်၊ ဆန်း ၉ ရက်တွင်၊ လင်္ကား မိဿ၊ စန္ဒရဗြိဿ၊ အနေကောင်းမြတ်၊ သင့်ရာမှတ်သို့၊ ဓာတ်လက် စန်းအုပ်၊ သိဒ္ဓိစုတ်လည်း၊ ကောင်းဟုတ်မင်္ဂလာ၊ ထိုအခါ၌၊ ဤဇာတကာ၊ နိဋ္ဌိတံတိုင်၊ အပြီးပိုင်၏။ ဂုဏ်လှိုင် ဉာဏ်ဝါ၊ သူတော်စွာတို့၊ ဤစာအလို၊ ကျွန်ုပ်ဆိုအံ့၊ အသိအထား၊ စကားဝါကျ၊ ဒေါသ ခြောက်စု၊ ရှစ်ခု အပြစ်၊ မြင်သည်ဖြစ်မူ၊ ကျစ်လျစ်စေကြောင်း၊ သာ၍ကောင်းအောင်၊ လောင်းနုတ်စီရင်၊ ဆင်ခြင်မိမိ၊ ရှေ့နောက်ညှိလျက်၊ ကျိုးရှိစိမ့်ငှာ၊ ပြင်လိုက်ပါလော့၊ နည်းနာစုံစေ့၊ မလောက်လေ့၍၊ ရှေ့နောက်မမိ၊ ယုံမှားရှိမူ၊ တတ်သိယောင်သွင်၊ မပြင်ဆင်ရာ၊ တောင်းပန်ပါ၏၊ ၁၀ ဖြာသဒ္ဒ၊ ဆိုမကျ၍ ၊ အတ္ထပြတ်ပြတ်၊ မယူတတ်သော်၊ ဥပဒ်တစ်ခု၊ ရန်သူပြုလျက်၊ ဂုဏာဂိဒ္ဓိ၊ ရှိသွားလက္ခဏာ၊ ဒုဋ္ဌနာ၏၊ အရာရောက်ဖွယ်၊ကဲ့ရဲ့လွယ်နှင့်၊ မျိုးနွယ်ဆွေဝါး၊ သူမြတ်များတို့၊ ဘုရားအလောင်း၊ ကျင့်ပေါင်းထုံးရှု၊ ကောင်းရာတူ၍ ၊ ကောင်းမှုမညှိုး၊ ကောင်းစွာပျိုးကာ၊ ကောင်းမျိုးရအင်၊ ရန်နုတ်ထွင်သည်။ ။မာတင်ပြောင်ရဲ စံမလွဲ။ [နိဂုံး ၃ ပိုဒ် လင်္ကာဆိုလိုက်သည်။]

ဤဇာတက။ ။ ထုတ်စီရသား။ ပုညဆင့်လောင်း၊ ဆုပန်တောင်းအံ့၊ ကောင်းမြတ်သီတင်း၊ သိဋ္ဌည်းမင်းလျှင်၊ ရင်တွင်းသည်းချာ၊ ဘုန်းဖြင့်လာသား၊ ရတနာမျက်မှန်၊ မင်းဝေဿန်အား၊ မျက်မာန်မငြို၊ မထားသိုဘဲ၊ မလိုပြည်သူ၊ ကြွက်ကြွက်ဆူကြောင့်၊ ပူဆာနှလုံး၊ မရွှင်ပြုံးနှင့်၊ ချစ်ထုံးပြတ်ယောင်၊ ဝင်္ကတောင်သို့၊ ရှောင်စေပြီးနောက်၊ မြေးတော်ရောက်သော်၊ ဝမ်းမြောက်သောအား၊ ကိုယ်တိုင်သွား၍၊ တရားဓမ္မရာဇ်၊ ဖြစ်စိမ့်သောကြောင်း၊ခွင့်လမ်းတောင်းလျက်၊ သွန်းလောင်းဘိသိက်၊ နိမိတ်ဆောင်ခြင်း၊ ထီးနန်းနှင်းသို့၊ ခပင်းလူတွင်၊ မွေးဖခင်တို့၊ သားတွင်မှုသစ်၊ ရကာလစ်၍၊ အပြစ်တစိ၊ မျက်ဝင်မိသည်၊ နောက်ပြီးတစ်ဖန်၊ ဆုံးမသွန်လျက်၊ အလွန်ချစ်ခြင်း၊ ဘ,ရာ[327]နှင်း၍။ ။အရင်းပေးကြပါစေသောဝ်။

သီတာမက။ ။ချမ်းကြည်လှသား၊ ဝင်္ကတောင်မှာ၊ ဘုရားလျာလျှင်၊ မြင်ခါမျက်လို၊ ပုဏ္ဏားအိုအား၊ ကုသိုလ်မင်္ဂလာ၊ ပြုသောအခါ၌၊ ကဏှာ, ဇာလီ၊ ရှုအိ နုထွား၊ မင်း ၂ ပါးလျှင်၊ ပုဏ္ဏားအမိုက်၊ ဒေါသရိုက်အား၊ ထိုက်ပါဘဲပင်၊ ရင်သွေးစင်ကို၊ ဖခင်ဘုရား၊ လှူဖြစ်အားဟု၊ စိတ်ထားမကွက်၊ မနှောင့်ယှက်သည်၊ ကိုယ်သက်မမှတ်၊ သားကျင့်ဝတ်နှင့်၊ မလွတ်ရအောင်၊ ကျေးဇူးဆောင်သို့၊ လှူ့ဘောင်မျိုးနွယ်၊ မိဘဝယ်လည်း၊ ထိုနှယ်ထုံးမှီး၊ လိမ္မာပြီးသား၊ သမီးသားကောင်း၊ သူအပေါင်းတို့ ၊ ညွတ်ပျောင်းကျိုးနွံ၊ လက်အောက်ခံ၍၊ နှုတ်လုံ့ မထိုး၊ ချစ်မြတ်နိုးလျက်၊ ကျင့်ရိုးဝတ်ကုန်၊ အင်္ဂါစုံနှင့်၊ ကြည်ယုံဆပွား၊ မိဘအားကို၊ ခံ့ညားမလပ်၊ ကျေးဇူးဆပ်၍ စောင့်ကြပ်မယွင်း၊ လုပ်ကျွေးခြင်းဖြင့်။ ။အတွင်း အေးကြပါစေသောဝ်။

ညီညာတမျှ။ ။ရွှေနှင့်မြသို့၊ သိင်္ဂမဒ္ဒီ၊ မဟောသိဟု၊ ဒေဝီထွတ်တင်၊ နန်းမရှင်လျှင်၊ ကြင်နာဆွတ်ဆွတ်၊ မင်းများနတ်ကို၊ ရှိညွတ်ချစ်ကြည်၊ ဤလူ့ပြည်တွင်၊ ဤသည်မင်းဖျား၊ ဤတစ်ပါးသာ၊ ယောကျ်ားဤပြင်၊ မရှိထင်လျက်၊ အရှင်ကောင်းထံ၊ ကျွန်ကောင်းနွံသို့၊ နှုတ်လှံမစိုက်၊ စရိုက်အခွင့်၊ သိလိုကျင့်၏၊ ထိုနှင့်ပုံတူ၊ မျိုးအိမ်သူတို့၊ လှူဒ္ဒထင်ရှား၊ မယားမျိုးကို၊ ထုတ်၍ဆိုသော်၊ လင်ကိုလျက်ပင်၊ ကျွန်လျှင်မှတ်တတ်၊ သူသတ်နှင့်တူ၊ ခိုးသူအလား၊ ဤသုံးပါးကား၊ မယားယုတ်ဆိုး၊ ဘီလူးမျိုးတည့်၊ မြတ်နိုးစွာဘိ၊ သွန်သင်ချိမှု၊ အမိတမျှ၊ ရှက်ကြောက်ရမှု၊ နှမအသွင်၊ ချစ်ခင်မှန်းမှန်း၊ ပြုဟန်သွန်းမှု၊ ခင်ပွန်းပမာ၊ ကြင်နာသဖြင့်၊ သိလိုကျင့်မှု၊

ကျွန်နှင့်အလား၊ ဤလေးပါးလျှင်၊ မယားကောင်းတို့၊ ကျင့်ရာမြို့ရှင့်၊ ထိုသို့ဖြင့်အား၊ ခုနစ်ပါးတွင်၊ ယောကျ်ားတစ်ဦး၊ ပြင်တွင်မြူးလည်း၊အထူးမပြောင်း၊ စိတ်တစ်ချောင်းတည်း၊ ကောင်းစွာလင်ကို၊ ရှိသေသဖြင့်၊ ကျွန်သို့ကျင့်၍၊ ရေနှင့်ကြာတူ၊ ကြည်ဖြူကြင်နာ၊ ရှင်လန်းစွာလျှင်၊ တစ်ရာသက်တွင်း၊ မေတ္တာနှင်း၍။ သတင်းမွှေးကြပါစေသောဝ်။

ဝေသန်မင်းခေါင်။ ။မင်းများနောင်လျှင်၊ တောင်ညာဒေဝီ၊ မယ်မဒ္ဒီအား၊ မထိမဲ့မြင်၊ မကြင်သောယောင်၊ ခွာရှောင်လွှန်ကြူး၊ မကျင့်ဘူးဘဲ၊ အထူးသဖြင့်၊ ကိုယ်တူကျင့်၍၊ ဘုန်းပွင့်သည်းရင်း၊ နန်းလုံးနှင်းသို့၊ ခပင်းလူများ၊ အမျိုးသားကို၊ မယားကောင်းဝယ်၊ ဝတ်ငါးသွယ်ဖြင့်၊ ချစ်ဖွယ်လေးမြတ်၊ ကိုယ်တူမှတ်လျက်၊ ညွှတ်ညွှတ်ကြည်ကြည်၊ ချစ်ကြိုးချည်၏၊ မည်မည်ဝါးဝါး၊ မပြုကြားဘဲ၊ ခမ်းနားအိမ်ထောင်၊ နှင်းအပ်လှောင်လျက်၊ စောင်စောင်မမ၊ ဩဝါဒဖြင့်၊ နေ့ညသွန်သင်၊ သက်လုံးကြင်ရှင့်၊ လင်နှင့်မယား၊ ဤနှစ်ပါးတွင်၊ လင်ကားမေယ၊ ဒါရလယ်မြေ၊ ပုံနှုန်းချေ၏။ မိုးမြေနှစ်ပါး၊ ကောင်းတုံငြားမှ၊ စပါးနှံသီး၊ ဩဇာဖြိုးသို့၊ ထုံးနီးပုံမှီ၊ နှစ်ဦးညီလျက်၊ ထိုဤလယ်ယာ၊ ဥစ္စာပစ္စည်း၊ ဆည်းပူးတိုင်ပင်၊ သတင်းရှင်၍။ ။ ချစ်ခင်ပေါင်းကြပါစေသောဝ်။

လေပြန်သွင်းဆောင်။ ။မွှေးပျံ့လှောင်လျက်၊ မင်းခေါင်ရင်ဆီ၊ မင်းဇာလီနှင့်၊ သီဂီသဖွယ်၊ နမငယ်အား၊ အနွယ်မယွင်း၊ အုပ်ချုပ်ခြင်းဖြင့်၊ ဆင်းရဲရန်မီး၊ ကာဟန့်ဆီးသို့၊ မောင်ကြီး အစ်ကို၊ ဆိုသမျှလူ၊ ဤထုံးယူလျက်၊ မိတူဖရင်း၊ ဖော်သားချင်း၌၊ မကင်းနေ့ည၊ ခါနိစ္စလျှင်၊ စောင်မသဖြင့်၊ ထိုနှယ်ကျင့်ရှင့်၊ ထိုနှင့်တမျှ၊ ငယ်သူကလည်း၊ မိဘအလား၊ မြင့်ရာထားလျက်၊ စကားမလှန်၊ နိုပ်ကြွခံ၍၊ ကျိုးနွံမေတ္တာ၊ ရိုသေရာ၏၊ ကဏှာမင်းသမီး၊ လုဇနီးလျှင်၊ မောင်ကြီးမင်းအား၊ ရွံ့ခံ့ညားသို့၊ သားချင်းသွေးရည်၊မျိုးဟူသည်ကို၊ ကြည်ကြည်ညိုညို၊ အစ်ကိုနှင့် ညီ၊ ပြီပြီကိုဆောင်၊ မောင်နှင့်နမ၊ ရှက်ရစောင့်စည်း၊ တစ်စုတည်းဖြင့်၊ လူလည်းချစ်ခင်၊ နတ်လည်းကြင်၍ ။ ။ ပြစ်စင် ကောင်းကြပါစေသောဝ်။

ရွှေမှန်ဝင်းပြောင်။ ။မြတ်နန်းဆောင်သို့၊ ကောက်တောင်ကသာ၊ဇူဇကာသည်၊ ကဏှာ, ဇာလီ၊ ရှင့်ရင်ဆီကို၊ သီဂီလက်နွဲ့၊ နွယ်ကြိုးဖွဲ့၍၊ ဆောင်ခဲ့ရောက်သော်၊ မြေးနှစ်ဖော်ကို၊ ဘိုးတော်သိဠည်း၊ ဖခမည်းလျှင်၊ အသည်းအအူ၊ လှိုက်ဆူပြတ်ပြတ်၊ ကြွေမတတ်နှင့်၊ မြတ်မြတ်လေးလေး၊ ခြင်းရာမေး၏၊ ရွှေပေးပြီးငြား၊ ရင်ခွင်ထားသို့၊ အများတကာ၊ သူတော်စွာတို့၊ ဆွေညာတကွ၊ ဆင်းရဲရ၍၊ ထိုမှဤသို့၊ ရောက်လာမြို့သော်၊ ငါတို့အပြင်၊ ဤသူတွင်၌၊ ခိုဝင်ရသူ၊ မရှိဟူ၍၊ ကြည်ဖြူသဖြင့်၊ ပေးထောက်ပင့်လျက်၊ ကိုယ်နှင့်နှုတ်ပါ၊ ထိုက်ရာပြုစု၊ သင်္ဂြိုဟ်မှုဖြင့်၊ ကြီးသူ့စကား၊ ငယ်သူ့နား၌ ၊ ပျားရည်အသွင်၊ ချို၍ဝင်သည်။ ။ဖြစ်လျှင် ဖျောင်းဖျပါစေသောဝ်။

စေတုတ္တရာ။ ။နေပြည်သာမှ ၊ ဟေမာဝင်၊ တောင်သို့ ကြွသော်၊ စေတတိုင်းမည်၊ ဦးရီးပြည်သို့၊ ရောက်သည့်နေ့ချင်း၊ စေတမင်းတို့၊ ခပင်းရှိသေ၊ မြို့လုံးကြွေမျှ၊ မိတ်ဆွေမှတ်မှတ်၊ ညှဲသည်ဝတ်ကို၊ မလွှတ်ရအောင်၊ ကျေးဇူးဆောင်သို့၊ လူ့သောင်ဤ၌၊ ထိုစရိုက်ဖြင့်၊ အလိုက်သိစွာ၊ နှုတ်ဗျူဟာဖြင့်၊ မေတ္တာရည်ဖျန်း၊ ဆွေခင်ပွန်း၌၊ လန်းလန်းရှင်အောင်၊ ကျေးဇူးဆောင်က၊ နောင်ခွင့်ရောက်သော်၊ အရာပေါ်လိမ့်၊ အော်အော် အမ်းအမ်း၊ ပြုနိုင်စွမ်းလျက်၊ စိတ်ဝမ်းပြည့်စွာ၊ မိတ်သဟာသည်။ ။သစ္စာ လေးကြပါစေသောဝ်။

ခြေသုတ်ပမာ။ ။ နန်းတောင်ညာနှင့်၊ ပြည်သာထိုမှ၊ ခွာခဲ့ကြသော်၊ တောဝရောက်ငြား၊ မုဆိုးသားလျှင်၊ ဤကားအရှင်၊ ငါ့ထိပ်တင်ဟု၊ ချစ်ခင်သောအား၊ လမ်းညွှန်ကြားလျက်၊ သားညှင်းကျုပ်တင်၊ အကင်အကျက်၊

ပျားရည်ဆက်၍၊ နှစ်သက်လေးမြတ်၊ ကျွန်တို့ဝတ်ကို၊ မလွတ်ရှင်ဖြိုး၊ လုပ်ကျွေးကျိုးဖြင့်၊ အဖိုးမဆုံး၊ မင်းသုံးတန်ဆာ၊ ရတနာလျှံရွှင်၊ ဦးသျှောင်ကျင်ကို၊ အရှင်ကြည်နူး၊ ပေးလေဖူးသို့၊ အထူးပါပ၊ ဝိပါကကြောင့်၊ ဒါသဒါသီ၊ သူ့အိမ်မှီတို့၊ မထီမလေး၊ အဝေးမျက်ကွယ်၊ ခိုင်းပယ်မပြီး၊ လုပ်သီးမဝင်၊ အိမ်ရှင်မဟူ၊ မဖြူနှလုံး၊ မစွဲသုံးဘဲ၊ ရေးထုံးအသင့်၊ ရှိသေကျင့်က၊ အရှင့်စိတ်ဝမ်း၊ နှစ်သက်မွမ်းလိမ့်၊ အစွမ်းရှိတိုင်း၊ မရိုင်းမာန်စောင်း၊ ကောင်းစွာကျင့်ငြား၊ ကျွန်တို့အားလည်း၊ သနားချစ်ခင်၊ သားနှယ်ကြင်လျက်၊ အရှင်ပြုရေး၊ ဝတ်စားပေး၍၊ သိမ်မွေ့ပျံ့ပျူး၊ ပျော်ကြောင်းကြူးလော့၊ နှစ်ဦးခွင့်ရာ၊ သိလိမ္မာ၍။ ။ပြစ်ရှာ ဝေးကြပါစေသောဝ်။

ရွှေနှုတ်သံမာ။ ။ ချိုလှစွာဖြင့်၊ အာဏာကျော်သည်း၊ မင်းသိဋ္ဌည်းလျှင်၊ ရန်လှည်းနှိပ်နင်း၊ ငါသည်မင်း၏ ၊ ရင်တွင်းသည်းဖျား၊ မြေးတော်များကို၊ ပုဏ္ဏားယုတ်ဆိုး၊ ဘယ်ရန်ငြိုးကြောင့်၊ ကြိုး,လွန်,တုတ်,ဓား၊ ရိုက်ပုတ်ထားဟု၊ နဂါးတို့မာန်၊ ဆိပ်မြောင်အန်သို့၊ ပြင်းထန်အမျက်၊ မထွက်ကုန်ဘဲ၊ မင်းမာန်ရဲ၍၊ ဝမ်းထဲမငြိုု၊ မထားသိုတည့်၊ ထိုပုဏ္ဏားအား၊ မေတ္တာပွားသို့ ၊အများလူဝယ်၊ အင်ကိုးသွယ်ဖြင့်၊ တွယ်တာရန်ငြိုး၊ ဒေါသမျိုးကို၊ မပျိုးညနေ့၊ အောက်မေ့မမူ၊ နှလုံးဖြူလျက်၊ ထိုသူငါ့မှာ၊ ဘယ်သောခါက၊ ကောင်းစွာကျေးဇူး၊ တင်ပေဖူးဟု၊ ညွှတ်နူးမြော်တွေး၊ ကောင်းရာရွေးလျက်၊ လေးမြတ်ကြင်နာ၊ ထုံးနည်းစာ၍ ။ ။ မေတ္တာ ရှေးကြပါစေသောဝ်။

တပေါသုတိ။ ။ ယောနိဖြင့်အား၊ သုံးသွယ်ပြားသား၊ ပုဏ္ဏားတို့တွင်၊ ဂုဏ်ရည်ရွှင်လျက်၊ ဗေဒင်မတတ်၊ ကျင့်ဝတ်မရှိ၊ ဇာတိဗြဟ္မဏ၊ ဤမျှညီလျက်၊ ကြောင်းတစ်ချက်ဖြင့်၊ ဇာတ်ပျက်ပုဏ္ဏား၊ ထင်မှားမိစ္ဆာ၊ ဇူဇကာသည်၊ တဏှာရှေ့သွား၊ မိုက်သောအားဖြင့်၊ မယားမိတ္တာ၊ သွန်သင်ရာကို၊ လိုက်နာမိ၍၊ ဆွေမတွေ့တည့်၊ သေငွေ့မစဲ၊ ဆင်းရဲမကွာ၊ သူ့ပြည်ရွာမှာ၊ ခန္ဓာပြတ်ကြွေ၊ ဆုံးဖူးချေဟု၊ သက်သေပုံယူ၊ ခပ်သိမ်းသူတို့၊ ငယ်မူငယ်ရာ၊ ငယ်ရွယ်ခါက ပညာကျေးဇူး၊ သင်ဆည်းပူးလျက်၊ နှစ်ဦးကြင်ဖော်၊ ရံခါသော်လျှင်၊ တော်မှန်နှလုံး၊ ချစ်ရိုးထုံးဖြင့်၊ စိတ်သုံး အသင့်၊ ကိုယ်ကိုကျင့်၍၊ မြင်းရှေ့ရထား၊ မသွားရဟန်၊ လုံ့လအန်ဖြင့်။ ။ လမ်းမှန် ကြိုးကြပါစေသောဝ်။

သဘောဒုသိ။ ။တူကြဘိသား၊ အမိတ္တာပန၊ ပုဏ္ဏေးမလျှင်၊ ငယ်က ချစ်ခင်၊ မိမိလင်ကို၊ ကြင်နာဝမ်းထဲ၊ မမုန်းဘဲနှင့်၊ အမြဲကိုလိုင်၍၊ နိုင်ချင်စိတ်ကြောင့်၊ ကျိုးဟိတ်မမြင်၊ လင်ကိုစင်လျက်၊ ကျွန်သွင်တရှိ၊ ပြုချေမိ၍၊ ဒုန္နိဝိဋ္ဌဝယ်၊ ပျိုသက်ရွယ်က၊ ငယ်လင်လည်းဆုံး၊စည်းစိမ်သုံးလျက်၊ ပြုန်းရှုံးပျက်စီး၊ ဆွေမနီးဘဲ၊ အထီးကျန်လေ၊ ဆင်းရဲချေဟု၊ ဥပဒေရ၊ ကြင်မိန်းမတို့၊ ဂဟပတဂ္ဂိ၊ မည်ဘိပုံစံ၊ မီးထောက်လျှံကို၊ နှံ့စေပြီးသော့၊ သေလေတော့ဟု၊ ပေါ့လျော့နင်းသွား၊ ဝင်ရောက်မှားသော်၊ ပူသားမီးပုံ၊ သက်သေရုံသာ၊ စွမ်းနိုင်ရာ၏၊ ပမာထိုထက်၊ လျှံတက်ရှိန်စော်၊ လင်ကိုသော်ကား၊ ကော်ရော်ရှိသေ၊ မပြုချေမူ၊ သက်သေထိုဟန်၊ ပစ္စုပ္ပန်လည်း၊ ပူပန်ဆင်းရဲ၊ မလွဲဖြစ်တတ်၊ ခန္ဓာပြတ်လည်း၊ ဥပဒ်နှိပ်နင်း၊ ငရဲမင်းကား၊ အတင်းကလူ၊ ဖြတ်သတ်ယူလိမ့်၊ မပူမဆာ၊ ချမ်းသာရကြောင်း၊ မိန်းမကောင်းတို့၊ နောက်နှောင်းသုဂတိ၊ ရကျိုးရှိအောင်၊ မိမိအရှင်၊ ချစ်သည့်လင်ကို၊ ထိပ်တွင်ပန်းဟန်၊ ကိုးကွယ်ပန်၍။ ။ ကြမ်းမာန် ချိုးကြပါစေသောဝ်။

မနောစုတိ။ ။ သေလုဘိသား၊ ဒုဗ္ဘိမိတ္တ၊ ဇူဇကာသည်၊ ဝက်တောင်မှာ၊ ဘုရားလျာလျှင်၊ ဒါယကာစစ်၊ ဖြစ်သည်ကေန်၊ ခင်ပွန်းမှန်လျက်၊ ဒဏ်ကြီးရောက်မူ၊ ကိုယ်ကိုပြုသို့၊ ဇမ္ဗူ့သခင်၊ ရွှေနန်းရှင်၏၊ ရှေ့တွင်မျက်မှောက်၊ သားနှစ်ယောက်ကို၊ ထောက်ထားမတန်၊ ကျွန်နှင့်နှုန်းတမ်း၊ နှုတ်သံကြမ်းဖြင့်၊ အရမ်းဘဲဆို၊ ဒုဿီရေရွှတ်၊ လှုင်တံခတ်လျက်၊ နွယ်ပတ်တုပ်နှောင်၊ ယူခဲ့ဆောင်သော်၊ ရှောင်ရှားလွတ်ရာ၊ မိမိရွာသို့၊ သွားပါလိုလျက်၊ ကြမ္မာနှက်၍၊ မျက်စိယွင်းလည်၊ စေတုတ်ပြည်သို့၊ ရောက်သည်ခဏ၊ စည်းစိမ်ရလည်း၊

ခိုင်လှလုံးကြီး၊ ငှက်ပျောဖီးလျှင်၊ ချင်းအပင်ကို၊ သတ်ချင်၏သို့၊ သူမိုက်တို့ဌါ၊ နှစ်လို့မပြည့်၊ ကိုယ်၏စည်းစိမ်၊ ကိုယ်ကိုနှိမ်သော်၊ အိမ်သူမိတ္တာ၊ တူမပါဘဲ၊ ချမ်းသာမမြင်၊ သေဇောင်၌၊ ဘဝင်မခြား၊ အပါယ်လား၏။ တရားစဉ်လာ၊ ဤသို့စာ၍၊ သူ့မှာကျေးဇူး၊ အထူးသိတတ်၊ ခင်ပွန်းဝတ်ကို၊ မပြတ်အောက်မေ့၊ ဓလေ့ကောင်းမွန်၊ မြတ်ရာညွှန်၍။ ။ ကျမ်းဂန် ကိုးကြပါစေသော်။

နီညိုမစွဲ။ ။ ခြောက်ပြစ်ဖဲသာ၊ ပုလဲဖြူထွား၊ ပတ္တမြားသို့၊ လေးပါးပဘာ၊ သင်္ဂဟနှင့်၊ ဂုဏာခြောက်တည်၊ ဆယ်မည်ဓမ္မ၊ စသည်မလွတ်၊ မင်းကျင့်ဝတ်ဖြင့်၊ လွှံ့ပတ်ဓမ္မူ၊ ထီးဖြူရာဇင်း၊ အမင်းမင်းကို၊ နှိပ်နင်းအာဏာ၊ ဗောဓိလျာလျှင်၊ ရတနာမိုး၊ မြို့လုံဖြိုးမျှ၊ နတ်စိုးသက္ကာ၊ ရွာစေရ၍၊ ဒုက္ခဟန့်တား၊ တိုင်းသူများကို၊ သနားမြတ်လေး၊ သားနယ်မွေးသား၊ ထိုရှေးမင်းကောင်း၊ ဘုရားလောင်းနှင့်၊ အကြောင်းတူစွာ၊ ဤအခါ၌၊ ရာဇာများနတ်၊ ထိုမင်းမြတ်လည်း၊ မလွတ်တရား၊ ကျင့်ဆယ်ပါးနှင့်၊ ပြည်သားပြည်သူ၊ ရှင်လူတကာ၊ ချမ်းသာငြိမ်းအေး၊ သုခကျွေးလျက်၊ ရန်ဘေးပြတ်ကျိုး၊ ဘုန်းတော်ဖြိုး၍၊ မိုးလည်းကောင်းထွေ၊ ရေလည်းခါညီ၊ မြေဆီသြဇာ၊ တက်လာတုံရှောင်း၊ သီးနှံကောင်းလျက်၊ တောင်းဘဲညားညား၊ ပေးသူများ၍၊ တိုင်းကားပြည်ရွာ၊ ဝပြောသာလျှင်၊ မဟာသမယ၊ ဗုဒ္ဓသာသနာ၊ ပွင့်လင်းစွာဖြင့်၊ သဒ္ဓါ၊သီလ၊ စသည် ခုနစ်ဖြာ၊ သူတကာအား၊ ရတနာမိုး၊ ရွာသွန်းဖြိုး၍။ ။သောင်းစိုး မြန့်လယ်တင့်စေသော်။

မှီခို့တကဲ။ ။ လက်သုံးစွဲ၍ အမြဲမှတ်သား၊ မျိုးလေးပါးတို့၊ သားနှင့်မိဘ နှမနှင့် မောင်၊ ညီနောင်မြေဘိုး၊ ဆွေမျိုးကျွမ်းဝင်၊ ကျေးဇူးရှင်နှင့် ကိုယ်တွင်ခစား၊ ဤသို့အားဖြင့်၊ ခြောက်ပါးမင်းတို့၊ ကျင့်လေမြို့သား၊ မချို့ကမ္ဘည်း၊ ရှေးထုံးနည်းကို၊ အသည်းစွဲချင့်၊ မှတ်ယူကျင့်၍၊ ဆွေနှင့် မျိုးစု၊ ချစ်မှုမကွဲ၊ ဆင်းရဲမတွေ့၊ လောက်လွှေ့စည်းစိမ်၊ ရိပ်ငြိမ်သာယာ၊ တိုးတက်စွာဖြင့် မဟာအဏ္ဏဝ၊ သံသာရမှ၊ တုက္ခ စုပေါင်း၊ လမ်းရကြောင်းလျှင်၊ ကောင်းသားကုသိုလ်၊ ဆယ်ဖြာကိုသာ၊ လိုအင်မညှိုး၊ နေ့တိုင်းဖြိုး၍။ ။ကောင်းကျိုးပန်းနယ်ပွင့်စေသော်။

ဤသို့အမြဲ။ ။ မှတ်စွဲကြငှာ၊ ချစ်မေတ္တာဖြင့် ဤစာစီရင်၊ ငါတုံလျှင်လည်း၊ များဖြင့်ထိုသို့ ၊ဆိုခဲ့မြို့သား၊ မချို့ဂုဏ်ရည်၊ ပြည့်စုံတည်လျက်၊ ဤသည်ဘဝ၊ ပစ္စက္ခဌါ၊ ဆန္ဒရှိလျောက်၊ကြံတိုင်းမြောက်၍ ပေါက်ရောက်သတင်း၊ ကျေးဇူးချင်းလျက်၊ ဘေးကင်းရန်ကွာ၊ မိစ္ဆာမထောင့်၊ ကြောင့်ကြမကြိမ်၊ စိုးရိမ်ကင်းလွတ်၊ ဥပဒ်မတွယ်၊ အန္တရာယ်ငြိမ်း၊ မတိမ်းမစောင်း၊ လူပေါင်းချစ်ခင်၊ မြင်လျှင်နှစ်သက်၊ နှုတ်ထွက်စကား၊ မှားသည်မရှိ၊ ကတိမဖိတ်၊ ကိုယ်စိတ်နှစ်ပါး၊ စီးပွားချမ်းသာ၊ တစ်ရာသက်လုံး၊ ဆုံးအောင်ကုသိုလ်၊ ပြုနိုင်လို၏၊ ထိုမှနောင်ဝယ်ကြီးငယ်ဘဝ၊ ကျင့်လည်ရလည်း၊ ဤကပြည့်ဟောင်း၊ ကျေးဇူးပေါင်းနှင့်၊ ထပ်လောင်းအသစ်၊ ဆင့်ကာဖြစ်၍၊ ဉစ်ကြေးစင်စွာ၊ ပု-ဒိ-အာ-ကို၊ လွယ်ကာမပြို၊ ရပါလိုဟု၊ ထိုပြည့်ရှင်များ၊ မင်း ခြောက်ပါးတို့ အားကျအန်ကိုး၊ ဆက်တိုင်းကြိုး၍။ ။လောင်းမျိုး ခန့်ရှယ်ရင့်စေသော်။

**နိဂုံး ပိုဒ်စုံရတု ပြီး၏။**

# ဝေဿန္တရာဇာတ်တော် ခက်ဆစ်များ

၁။ ကပိလဝတ်=ကပိလမည်သော ရသေ့၏နေရာ၌ တည်သောမြို့။
၂။ နိဂြောဓာရုံ=နိဂြောဓသာကီဝင် မင်းသား၏နေရာ၌ ဆောက်လုပ်သောကျောင်းတော်။
၃။ ဗောဓိမဏ္ဍိုင်=သဗ္ဗညုတဉာဏ်တော်၏ ကြည်လင်ရာ။
၄။ သဗ္ဗညုတဉာဏ်=အလုံးစုံသော တရားအပေါင်းကို သိတတ်သောဉာဏ်။
၅။ သတ္တဋ္ဌာန=ပလ္လင်,အနိမိသ,စင်္ကမ,ရတနာဃရ,အဇပါလ,မုစလိန္ဒ,ရာဇာယတန ၇-ဌာန။
၆။ သတ္တသတ္တာဟ=၇ ရက် ၇ လီ။
၇။ ဗာရာဏသီ=မျောက်ဦးခေါင်းနှင့်တူသောမြို့။
၈။ မိဂဒါဝုန်=သားသမင်တို့ကို ဘေးမဲ့ပေးရာဖြစ်သောဥယျာဉ်တော်။
၉။ ပဥ္စဝဂ္ဂီ=၅ ယောက်အစုအပေါင်း။
၁၀။ ဓမ္မစက္ကသုတ္တန်=တရားစက်ကို လည်စေသောသုတ်။
၁၁။ ဧဟိဘိက္ခု ဥပသမ္ပဒ=ဧဟိဘိက္ခုဟု ခေါ်တော်မူလျှင် ပရိက္ခရာ ၈ ပါးအစုံနှင့်ဖြစ်လာသော ရဟန်း။
၁၂။ ရဟန္တာ=ကိလေသာရန်ကို ပယ်တတ်သောပုဂ္ဂိုလ်။
၁၃။ ဗိမ္ဗိသာရမင်း=ရွှေနှစ်နှင့်တူသောမင်း။
၁၄။ ပဋိညာဉ်=ဝန်ခံချက်။
၁၅။ ရာဇဂြိုဟ်=မင်းတို့သိမ်းယူသောမြို့။
၁၆။ ဝေဠုဝန်=ဝါးတောဥယျာဉ်၌ဆောက်လုပ်သောကျောင်းတော်။
၁၇။ ပရိယိုမ်=သာသနာ၏ပြင်ပ၌ တရားအကျင့်ကိုကျင့်သော ရဟန်းတစ်မျိုး။
၁၈။ သောတာပန်=နိဗ္ဗာန်တည်းဟူသောအယဉ်သို့ ပထမဆိုက်ရောက်သောပုဂ္ဂိုလ်။
၁၉။ သုဒ္ဓေါဒန=သန့်ရှင်းစင်ကြယ်သော ထမင်းရှိသောမင်း။
၂၀။ ဖွားဖက်တော်=ဘုရားနှင့် တစ်ချိန်တည်းဖွားသော။
၂၁။ ယူဇနာ=၄ ဂါဝုတ်ကို ၁ ယူဇနာ ခေါ်သည်။
၂၂။ သာကီဝင်=အမျိုးကိုစောင့်ရှောက်ခြင်း၌ စွမ်းနိုင်သောသူတို့၏ အဆက်အနွယ်။
၂၃။ သိဒ္ဓတ်=မင်းသားဖွားသောနေ့၌ အလုံးစုံသော အကြံအစည်ပြီးမြောက်သောကြောင့် သိဒ္ဓတ် ဟုတွင်သည်။
၂၄။ မဟာသမ္မတ=လူအများ သမုတ်တင်မြှောက်ထားသော မင်း။
၂၅။ ယစ်သည်=တွေဝေခြင်း,မေ့လျော့ခြင်း။
၂၆။ ဝယဝုဒ္ဓိ=အရွယ်အားဖြင့် ကြီးသောသူ။
၂၇။ အဘိညာဉ်=အထူးသိသောဉာဏ်။
၂၈။ စတုတ္ထဈာန်=၄ ကြိမ်မြောက်ဖြစ်သောဈာန်။
၂၉။ ယမိုက်ပြာဋိဟာ=ရေ,မီး အစုံအစုံထွက်သော တန်ခိုး။
၃၀။ ကြာငုံလက်အုပ်ဖြင့်=ကြာဖူးကြာငုံနှင့် တူသောလက်အုပ်ဖြင့်။
၃၁။ မာန်စွယ်-ထောင်လွှားတတ်ကြသော မာန်စွယ်။
၃၂။ ထင်ချုန်းမြည်ကြီး=ကြောက်မက်ဖွယ် မြည်ဟိန်းထစ်ကြိုးခြင်း။
၃၃။ ပေါက္ခရမိုး=ကြာတော၌ ရွာသောမိုး။
၃၄။ ဖလသမာပတ်=ဖိုလ်ဝင်စားခြင်း။
၃၅။ ဝေနေယျ=ဆုံးမထိုက်သောသတ္တဝါ။
၃၆။ အဋ္ဌုပ္ပတ္တိ=အကြောင်းအရာ အဖြစ်အပျက်။
၃၇။ သိဝိတိုင်း=ခပ်သိမ်းသောသူတို့၏ မှီခိုရာဖြစ်သောတိုင်း။

၃၈။ စေတုတ္တရာ=စေတီယတိုင်း၌ မြတ်သောမြို့။
၃၉။ သိဋ္ဌည်းမင်း=ကောင်းစွာပစ္စည်းအစုအပုံပြုတတ်သောမင်း။
၄၀။ ဂန္ဓကုဋိ=မွှေးကြိုင်သော ဘုရားနေရာတော် တိုက်ခန်း။
၄၁။ အနုမောဒနာ=အဖန်တလဲလဲ ဝမ်းမြောက်ခြင်း။
၄၂။ ဥရစ္ဆဒါ=ရင်လွှမ်းတန်ဆာရှိသော မင်းသမီး။
၄၃။ နိမိတ် ၅ ပါး=သ-နတ်ပန်းညှိုးခြင်း,၂-အဝတ်ညစ်နွမ်းခြင်း,၃-လက်ကတီးကြားမှ ချွေးယိုခြင်း,၄-ကိုယ်အဆင်းပျက်ခြင်း, ၅-နတ်ပြည်၌ မမွေ့မလျော်ခြင်း။
၄၄။ နန္ဒဝန်=နန္ဒန-နှစ်လိုဖွယ်သော၊ ဝန-ဥယျာဉ်၊နှစ်လိုဖွယ်ရှိသော နတ်ဥယျာဉ်တော်။
၄၅။ မရမ်းမစုန့်=မပူ, မပိန်ဘဲ။
၄၆။ သံသရာဝဲ=အဖန်တလဲလဲကျင်လည်ရသော ဝဋ်တရား။
၄၇။ နိမိတ်=ဖြစ်မည့်အကြောင်းအရာ။
၄၈။ ဇမ္ဗူဒိပ်=ဇမ္ဗူ့သပြေပင်ပေါ်ထွန်းရာ တောင်ကျွန်း။
၄၉။ ကမ္မဇလေ=ကံကြောင့်ဖြစ်သောလေ။
၅၀။ တစိုးတစိ=အနည်းငယ်။
၅၁။ ဒုဗ္ဘိက္ခန္တရကပ်=ငတ်မွတ်ခေါင်းပါး၍ သေကျေပျက်စီးသော ကပ်ကာလ။
၅၂။ ယာစကာ=သူတောင်းစား။
၅၃။ အဏုမြူ=သိမ်မွေ့သေးသိမ်သောမြူမှုန့်။
၅၄။ ၁၀ ဖြာသောမွေ=‘လှူ,ကျင့်,စွန့်,ကြံမညှည်းဆဲနှင့်၊ ဖြောင့်စွဲနူးညံ့၊ မဆန့်ကင်းပ၊ မြေမျှသည်းခံ၊ ငြိုးခြံ-အသင့်၊ ဤ ၁၀ ဆင့်၊ မင်းကျင့်တရားမှတ်’ဟု ဆိုသည့်အတိုင်းသိလေ။
၅၅။ သင်္ဂဟ ၄ မည်=‘အခွန်ဆယ်ဘို့၊ တစ်ဖို့ခွဲယူ၊မှူထမ်းသူကို၊ ကြည်ဖြူပေးကမ်း၊ ငြိမ်းချမ်းသာယာ၊ ပြောကာစကား၊ တိုးပွားကင်းပ၊ ချေးငှားက၊ ၄ ဝချီးမြောက်နည်း’ဟု ဆိုသည့်အတိုင်းမှတ်လေ။
၅၆။ နာယကဂုဏ်၆ပါး=‘ထကြွ,နိုးကြား၊ သနား,သည်းခံ၊ ဝေဖန်,ကြည့်ရှု၊ ကြောင်း ၆ ခု၊ ကြီးသူ့ကျင့်ရာတရားတည်း’ဟု ဆိုသည့် အတိုင်းသိလေ။
၅၇။ ရာဇဒဏ်=မင်းပြစ်မင်းဒဏ်။
၅၈။ အင်္ဂသမဥစ္စာ=ကိုယ်အင်္ဂါနှင့်တူသော ဥစ္စာ။ [ရွှေ,ငွေ,ပုလဲ,ကြောင်မျက်ရွဲစသည်။]
၅၉။ ဇင်္ဂမဥစ္စာ=ရွှေ့ကောင်းပြောင်းကောင်းသော ဥစ္စာ။
၆၀။ ထာဝရဥစ္စာ=အမြဲတည်သောဥစ္စာ။
၆၁။ ကောန္တိမာရ=ကြိုးကြာတို့ကိုသေစေတတ်သောမြစ်။
၆၂။ အာရဉ္ဇရ=လွန်စွာနှစ်သက်မွေ့လျော်စေတတ်သောတောင်။
၆၃။ ၅ ပါးရန်သူ=ရေ,မီး,မင်း,ခိုးသူ,မချစ်မနှစ်သက်လိုသူ။
၆၄။ သီလဝန္တ=အကျင့်သီလရှိသော သူတော်ကောင်း။
၆၅။ အနုဂါမိက=အတူပါ၍ သုံးစွဲမကုန်နိုင်သော ရွှေအိုး။
၆၆။ ခိဋ္ဌာဒသက=ပျော်ရွှင်မြူးထူးတတ်သော ၁၀ နှစ်ပိုင်း။
၆၇။ ဝင်္ကပါတောင်=ကွေ့ကောက်သောတောင်။
၆၈။ လောကဓံ=လောက၌တွေ့ကြုံတတ်သော လာဘ, အလာဘ၊ ယသ, အယသ၊ နိန္ဒာ,ပသံသာ၊ သုခ,ဒုက္ခဟူသော တရား ၈ ပါး။
၆၉။ ကာမဂုဏ်=အနှောင်အဖွဲ့ဖြစ်သော ကာမအာရုံ ၅ ပါး။
၇၀။ အဘိညာဉ်=သမာဓိနှင့် ယှဉ်သော အသိဉာဏ်ထူး။
၇၁။ ဈာန်=နီဝရဏ တရားတို့ကို ဖုတ်မြိုက်လောင်ကျွမ်းစေတတ်သောတရား။ တစ်နည်း-စူးစူးစိုက်စိုက်ကပ်၍ ရှုတတ်သောတရား

၇၂။ သမာပတ်=ကောင်းစွာဝင်စားမှု။
၇၃။ သောဒုမ္ဗရ=ကောင်းသော ရေသဖန်းပင်ရှိသောမြစ်။
၇၄။ အဘယ်=ချစ်သူဇနီးအား ခေါ်သောစကား ဖြစ်၏။
၇၅။ ဝနပ္ပဝေသနခန်း=တောဝင်သောအခန်း။
၇၆။ ရှေ့တူရူ=ရှေ့တည့်တည့်။
၇၇။ အနဋ္ဌ=အဖိုးမဖြတ်နိုင်သော။
၇၈။ ဂန္ဓမာဒန=ပန်းတို့ဖြင့် မူးယစ်စေတတ်သောတောင်။
၇၉။ ဝေပုလ္လ=အထူးထူးသောရတနာတို့ဖြင့် ပြန့်ပြောသောတောင်။
၈၀။ ကေတုမတီ=ရေတံခွန်ကဲ့သို့ နှစ်သက်ဖွယ်ရှိသောမြစ်။
၈၁။ မုစလိန္ဒာ=ကျည်းပင်ရောက်သောအိုင်။
၈၂။ ကေသရာဇာ=နီသောလည်ဆံရှိသော ခြင်္သေ့မင်း။
၈၃။ ရွှေဦးသျှောင်ကျင်= ရွှေဆံထိုးတစ်မျိုး။
၈၄။ သခ်မ်း=ကိုယ်,စိတ်ကိုဆုံးမရာ သူမြတ်တို့နေရာကျောင်း။
၈၅။ ဥဒါန်းကျူး=နှစ်သက်ခြင်းပီတိအဟုန်သည် ဖြစ်စေအပ်သောကြောင့် မျိုသိပ်၍မထားနိုင်ဘဲ ပြင်သို့လျှံထွက် ကျူးရင့်ဆိုမြွက်သောစကား။
၈၆။ စင်္ကြံ=အညောင်းအညာပြေအောင် သွားလာရန်ဆောက်လုပ်သော ရှည်သောကျောင်း။
၈၇။ တောင်ဝှမ်း=တောင်၏အောက်ချိုင့်အရပ်။
၈၈။ ဗြဟ္မစရိယသိက္ခာပုဒ်=မြတ်သောအကျင့်ကို ကျင့်သုံးကြောင်းသိက္ခာပုဒ်။
၈၉။ ဒုန္နိဝိဋ္ဌ=ဒုနိဝိဋ္ဌ–မကောင်းသောနေရာ။
၉၀။ ဇူဇကာ=ကစားမြူးထူးတတ်သောပုဏ္ဏား။
၉၁။ အမိတ္တာပုံ=ရန်သူကဲ့သို့ ပူပန်စေတတ်သော မိန်းမ။
၉၂။ ကလှ=ကျီစယ်ခြင်း။
၉၃။ စေးချုံ=တောချုံ။
၉၄။ ဗန္ဓသကုဏာ=နှောင်ဖွဲ့အပ်သောငှက်တို့ဖြင့် ပူဇော်အပ်သောနတ်။
၉၅။ စူဠဝန ဝဏ္ဏနာခန်း=တောငယ်ကို ချီးမွမ်းသောအခန်း။
၉၆။ ပဋိသန္ဓာရ=စေ့စပ်သောစကား။
၉၇။ ရိက္ခာ=လမ်း၌စားရန်အစာ။
၉၈။ အစ္စုတ=မသေမရွေ့,လျောခြင်း၊ငယ်စဉ်ကမိဘတို့ မင်္ဂလာအလို့ငှာ မှည့်သောအမည်။
၉၉။ မဟာဝနဝဏ္ဏနာခန်း=ကြီးသော တောကိုချီးမွမ်းသောအခန်း။
၁၀၀။ ဘာရဒွါဇ=ပုဏ္ဏားတို့တွင် ယုတ်နိမ့်သောအမျိုး။
၁၀၁။ ကုမာရပဗ္ဗခန်း=သူငယ်တို့၏ အဆစ်အပိုင်းကိုဆိုသောအခန်း။
၁၀၂။ လှင်ကန်=မောင်းနှင်ရာသုံး ကြိမ်တုတ်။
၁၀၃။ အိုးစရည်း=အိုးကြီး။
၁၀၄။ ရှိုင်းချိုင်း=မညီနိမ့်နင်းရှိသည်။
၁၀၅။ မြုံး=တင်ါသည်တို့ ငါးဖမ်းသောပစ္စည်း။
၁၀၆။ ခက်တရော်=သွေးကျ၍မာကြမ်းလာသည်။
၁၀၇။ မဒ္ဒိပဗ္ဗခန်း=မဒ္ဒီမိဖုရားနှင့်သက်ဆိုင်ရာစကားအဆစ်အပိုင်းကို ဆိုသောအခန်း။
၁၀၈။ အကနိဋ္ဌ=ဗြဟ္မာ့ဘုံတွင် အမြင့်ဆုံးအကြီးဆုံးဘုံ။
၁၀၉။ သုသာန်တစပြင်=သုကောင်ပစ်ရာသင်္ချိုင်း။

၁၁၀။ ဟတ္ထိလိင်္ဂသကုဏ=ဆင်နှင့်တူသောငှက်။
၁၁၁။ ဥပါယ်တံမျဉ်=နည်းပရိယာယ်အားဖြင့် ဖြားယောင်းခြင်း။
၁၁၂။ ပုဗ္ဗနိမိတ်=ရှေ့ပြေးအကြောင်းအာရုံ။
၁၁၃။ သက္ကပဗ္ဗခန်း=သိကြားမင်းနှင့်သက်ဆိုင်ရာ စကားအဆစ်အပိုင်းကို ဆိုသောအခန်း။
၁၁၄။ သမ္မောဒနီယကထာ=ဝမ်းမြောက်ဝမ်းသာ ပြောဆိုကြသောစကား။
၁၁၅။ သာရဏီယ=မပြတ်အောက်မေ့အပ်သောစကား။
၁၁၆။ မစ္ဆရိယ=ဝန်တိုစဉ်းလဲခြင်း။
၁၁၇။ နိရယဂတိ=ငရဲတည်းဟူသော လားရာဂတိ။
၁၁၈။ သဂ္ဂဂတိ=နတ်ပြည်တည်းဟူသော လားရာဂတိ။
၁၁၉။ ဒုစရိုက်=မကောင်းသောအကျင့်။
၁၂၀။ သုစရိုက်=ကောင်းသောအကျင့်။
၁၂၁။ စာရိတ္တ=အကျင့်။
၁၂၂။ မဟာရာဇ ပဗ္ဗခန်း=မင်းကြီးနှင့်သက်ဆိုင်ရာ စကားအဆစ်အပိုင်းကို ဆိုသောအခန်း။
၁၂၃။ ဖျော့တော့=ဖက်ရွက်ရော်ကဲ့သို့ အဆင်းရှိသည်။
၁၂၄။ အာဇာနည်သိန္ဓောမျိုး=သိန္ဓုတိုင်း၌ ဖြစ်သောမြင်းမျိုး။
၁၂၅။ ဝါဠဝေဓိ=သားမြီးဖျားကို မြင်လောက်ရာက ထိအောင်ပစ်နိုင်သောလေးသမား။
၁၂၆။ ၈ ဥသဘ=လက်အတောင်ပေါင်း-၁၁၂၀။
၁၂၇။ တူရိယာ=တီးမှုတ်ရန်ဝတ္ထု။
၁၂၈။ အသဿတိုရ်မြင်း=မြင်းသာမညတို့ထက် ပိုလွန်၍သွားခွမ်းနိုင်သော မြင်းထူးမြင်းမြတ် [အာဇာနည်မြင်းမနှင့်မြည်းဖို သင့်မြတ်၍ ပေါက်ဖွားသော မြင်းကို အဿတိုရ်မြင်းခေါ်သည်။]
၁၂၉။ ဆခတ္တိယခန်း=မင်း ၆ ပါးတို့နှင့် သက်ဆိုင်ရာစကားအဆစ်အပိုင်းကိုဆိုသောအခန်း။
၁၃၀။ ပဏ္ဍုကမ္ဗလာ=ဖျော့တော့သောအဆင်းရှိသော ကျောက်ဖျာ။
၁၃၁။ တုသိတာ=နှစ်သက်ဝမ်းမြောက်ခြင်းသို့ရောက်သော နတ်ပြည်။
၁၃၂။ ဒေဝဒဟ=နတ်ရေကန်ရှိသောမြို့။
၁၃၃။ အင်္ဂသာဝက=မြတ်သောတပည့်သာဝက။
၁၃၄။ ဗိမ္ဗာဒေဝီ=ရွှေအဆင်းရွှေရုပ်ကဲ့သို့ တင့်တယ်သောမိဖုရား။
၁၃၅။ ယသောဓရာ=အခြံအရံကိုဆောင်တတ်သော မိဖုရား။
၁၃၆။ ဥဒယျဓံ=သိအပ်သော တရား ၅ ပါး၊ [ဉေယျဓံတရား ၅ ပါးကား သင်္ခါရ,ဝိကာရ,လက္ခဏ,နိဗ္ဗာန်,ပညတ် ဤ ၅ ပါးတည်း။]
၁၃၇။ ဘရာ=အဘ၏အရိုက်အရာ။